# ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး

မဇ္ဈိမပဋိပဒါလမ်းမှန်တော်ကြီးမှ ခွဲထွက်ခဲ့ကြသော
ဗုဒ္ဓဝါဒ ဆင်တူယိုးမှားများ၊ သဗ္ဗတ္ထိဝါဒ၊ သုညဝါဒ၊ ဝိညာဏဝါဒ၊ ဈင်ဝါဒများ။

ဂိုဏ်းကွဲများ အယူဝါဒများကို စိစစ်ဝေဖန် ပယ်ဖျယ်၍ ထေရဝါဒ
ပင်မဗုဒ္ဓဘာသာ အစစ်အမှန်ကို တင်ပြထားသော ကထာဝတ္ထုအဖြေ။

တန္တရ မန္တရဂိုဏ်းဝင် တန်ခိုးရှင် သိဒ္ဓိပေါက် ဘုန်းကြီးများသည်
ဘာသာခြား တာ့ခ်အန္ဓယ်တို့နှင့် ရင်ဆိုင် ယှဉ်ပြိုင်ရသောအခါ
တန်ခိုးမပြနိုင်တော့ဘဲ မရှုမလှ အကျနာခဲ့ပုံ။

တစ်ခေတ်တစ်ခါက ဗုဒ္ဓဘာသာ ကိုးကွယ်ရမှ ခေတ်မီသည်ဟု
ယူဆ၍ သာသနာပြု ရဟန်းတော်များကို ပင့်ဖိတ်ကြိုဆို ချီးမြှောက်ခဲ့ကြပုံ။

အိန္ဒိယပြည် ဂင်္ဂါမြစ်ဝှမ်း၌ ပေါ်ထွန်းခဲ့သော ဗုဒ္ဓသာသနာတော်သည်
ဂျပန်နိုင်ငံနှင့် ရုရှားပြည် ဗော်လဂါမြစ်အထိ အာရှတိုက်တစ်ဝန်းလုံးကို
သက်နံ့ရောင်လွှမ်းခဲ့ပုံ။

နေမဝင်သော ဗုဒ္ဓနိုင်ငံတော်ကြီးသည် တဖြည်းဖြည်း ကျဉ်းမြောင်းလာ၍
ကမ္ဘာ့လူဦးရေ ၅ ပုံ ၄ ပုံ ၏ ကိုးကွယ်ခံဘဝမှ ၁၀ ပုံ ၁ ပုံမျှ၏
ကိုးကွယ်ခံဘဝသို့ လျှော့ကျရခြင်း၏ အကြောင်းရင်းကား အဘယ်နည်း။

လွန်ခဲ့သော ၂၅၀၀ ခရီး၏ အတွေ့အကြုံကို အခြေခံ၍
ရှေ့ဆက်လက်ချီတက်ရမည့် ခရီး၌ ဒါယကာနှင့် သာသနာ့ဝန်ဆောင်
ပုဂ္ဂိုလ်များ၏ တာဝန်ကား အဘယ်နည်း။



စာပေလောက စာအုပ်

# ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး

မောင်အုံ
မဟာဝိဇ္ဇာ (ဘုံဘော)

တပေလောကစာအုပ် အမှတ် ၄၁၆

# ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး

မောင်အုံ့ မဟာဝိဇ္ဇာ (ဘုံဘေ)

သကျသီဟ ဓမ္မာစရိယ ပါဠိပါရဂူ



တပေလောက စာအုပ်တိုက်
အမှတ် ၁၇၃၊ ၃၃ လမ်း၊ ရန်ကုန်မြို့။
[ ဖုန်း - ၀၁-၃၈၈၁၆၉ ]
e-mail : spltygn@mptmail.net.mm

စာအုပ်စာတမ်း စာနယ်ဇင်း ခွင့်ပြုအမှတ်
[ ၃၂၀၄၁၀၀၇၀၈ ]
စာအုပ်စာတမ်း မျက်နှာဖုံး ခွင့်ပြုအမှတ်
[ ၃၂၀၀၀၂၀၁၀၉ ]

မျက်နှာဖုံး
ဇော်မောင်

. . .

ပုံနှိပ်ခြင်း
သတ္တမအကြိမ်
စာပေလောက
(၁၀၀၀)

. . .

ထုတ်ဝေခြင်း
ဖေဖော်ဝါရီ ၂၀၁၀

ဦးမျိုးညွန့် (၇၁၄) စာပေလောက စာအုပ်တိုက်
အမှတ် ၁၇၃၊ ၃၃ လမ်း ရန်ကုန်မြို့က ထုတ်ဝေ၍
ဒေါ်ခင်လှ (၀၁၅၇၈) စာပေလောကပုံနှိပ်တိုက်
အမှတ် ၁၇၃၊ ၃၃ လမ်း ရန်ကုန်မြို့တွင်
မျက်နှာဖုံး နှင့် အတွင်းစာသားများ ပုံနှိပ်သည်။

## ဒို့တာဝန်အရေးသုံးပါး

| | | |
|---|---|---|
| ပြည်ထောင်စုမပြိုကွဲရေး | ဒို့အရေး | |
| တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး | ဒို့အရေး | |
| အချုပ်အခြာ အာဏာတည်တံ့ခိုင်မြဲရေး | ဒို့အရေး | |

တပ်မတော်ဖြိုခွဲသူ ဒို့ရန်သူ။
တပ်မတော် ဖြိုခွဲမည့်အကြံ
ဒို့လက်မခံ။
ဘယ်သူခွဲခွဲ ဒို့မကွဲ
အမြဲ စည်းလုံးမည်။

## ပြည်သူ့သဘောထား

ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
နိုင်ငံတော် တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက် နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေးဦးတည်ချက် (၄) ရပ်

* နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး
* အမျိုးသား ပြန်လည်စည်းလုံးညီညွတ်ရေး၊
* ခိုင်မာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ် ဖြစ်ပေါ်လာရေး၊
* ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး။

## စီးပွားရေး ဦးတည်ချက် (၄) ရပ်

* စိုက်ပျိုးရေးကိုအခြေခံ၍ အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုး တိုးတက်အောင် တည်ဆောက်ရေး၊
* ဈေးကွက်စီးပွားေ ရးစနစ် ပီပြင်စွာဖြစ်ပေါ်လာရေး၊
* ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေး ဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး၊
* နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသား ပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး။

## လူမှုရေးဦးတည်ချက် (၄) ရပ်

* တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တ မြင့်မားရေး၊
* အမျိုးဂုဏ်၊ ဇာတိဂုဏ် မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသားရေး လက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး၊
* မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး၊
* တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး။

## ဗုဒ္ဓသာသနာ ၂၅၀၀ ခရီး ပုံနှိပ်မှတ်တမ်း

**ယမုနာစာပေတိုက်**

| | | |
|---|---|---|
| ပထမအကြိမ် | ၂၀၀၀ အုပ် | ၁၉၇၇ |

**သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်**

| | | |
|---|---|---|
| ဒုတိယအကြိမ် | ၃၀၀၀ | ၁၉၇၉ |
| တတိယအကြိမ် | ၆၀၀၀ | ၁၉၈၀ |
| စတုတ္ထအကြိမ် | ၅၀၀၀ | ၁၉၈၉ |
| ပဉ္စမအကြိမ် | ၅၀၀၀ | ၁၉၉၅ |
| ဆဋ္ဌမအကြိမ် | ၁၀၀၀ | ၂၀၀၄ |

**စာပေလောက**

| | | |
|---|---|---|
| သတ္တမအကြိမ် | ၁၀၀၀ | ၂၀၁၀ |

## ဂိုဏ်းကွဲများ ဖြစ်ပေါ်လာပုံ ဇယား
## ကထာဝတ္ထု အဋ္ဌကထာနှင့် ဒီပဝံသကျမ်းအရ ၁၈-ကျမ်း

ထေရဝါဒ (သာသနာနှစ် ၁-နှစ်၊ ပထမသင်္ဂါယနာ)

ထေရဝါဒ (သာသနာနှစ် ၁၀၀-နှစ်၊ ဒုတိယသင်္ဂါယနာ)

- မဟာသံဃိက
  - ကေဗျောဟာရိက
  - ဂေါကုလိက
    - ဗဟုဿုတိယ (ဗာဟိယ)
      - စေတိယ
    - ပဏ္ဏတ္တိဝါဒ (ပညတ္တိဝါဒ)
- မဟိံသာသက
- ဝဇ္ဇီပုတ္တက
  - ဓမ္မုတ္တရိယ။
  - ဘဒြယာနိက။
  - ဆန္နာဂါရိက၊
  - သမ္မိတိယ။
  - သဗ္ဗတ္ထိဝါဒ
    - ကဿပိက
      - သင်္ကန္တိက
        - သုတ္တဝါဒ
  - ဓမ္မဂုတ္တိက

ထေရဝါဒ (သာသနာနှစ် ၂၅၀၀-ကျော်)

## ဝသုမိတြ၏ မှတ်တမ်းအရ ၂၀-ဂိုဏ်း

မူလသံဃာ (ဒုတိယသင်္ဂါယနာ)




မဟာသံဃိက

- ဝဇ္ဇီပုတ္တက
- ဓမ္မုတ္တရိယ
- ဘဒြယာနိက
- သမ္မိတ္တိယ
- ဆန္နာဂါရိက
- ဟေမဝတ
- ဓမ္မဂုတ္တိက
- မဟိသာသက
- ကဿပိက
- သကန္တိက (သုတ္တဝါဒီ)

- ဧကဗျောဟာရိက
- လောကုတ္တရဝါဒီ
- ကုက္ကုလိက
- ဥတ္တရသေလ
- အပရသေလ
- စေတိက
- ပညတ္တိဝါဒီ
- ဗဟုဿုတိယ

## ဝသုမိတြ၏ မှတ်တမ်းအရ ၂၀-ဂိုဏ်း





ပညာပါရမိတာ နတ်သမီး

မဟာယာနဂိုဏ်းမှ ပထမဆုံး တီထွင်ချက်ဖြစ်သည်။ ပညာပါရမီကို နတ်သမီးအဖြစ် တင်စား၍ ဘုရားအလောင်း၏ မယ်တော်အဖြစ် စတင်ကိုးကွယ်ကြသည်။ (စာမျက်နှာ ၁၅၃)

VI



**မဟာမုဒြာ Yabyun**

မေတ္တာကို ကိုယ်စားပြုသော ဗောဓိသတ္တဘုရားအလောင်းက
ပညာပါရမိတာနတ်သမီးကို ပွေ့ဖက်ထားသည်။
တိဗက်နှင့် နီပေါပြည်၌ ကိုးကွယ်ကြသည်။ (စာမျက်နှာ-၁၅၃)



အဝလောကိတေသရ ဘုရားလောင်းပုံ

အမည်အမျိုးမျိုးနှင့် ရုပ်သွင် ၁၀၈-မျိုးရှိသည်။ ပုဂံခေတ်က မြန်မာတို့သည် အဝလောကိတေသရကို လောကနာထ (လောကနတ်) အဖြစ် ထုလုပ်ကိုးကွယ်ခဲ့ကြသည်။ (နှာ ၁၆၂-နှင့်၂၉၂)



သီဟနာဒလောကေသရ ဘုရားလောင်းပုံ
အဝလောကိတေသရ၏ ကိုယ်ပွားတစ်ခုဖြစ်သည်။
ဤပုံကို ပွဲတင်ပသ၍ ဆေးကုပါက ကုဋ္ဌနူနာပင်
ပျောက်ကင်းသည် ဟူ၏။ (စာမျက်နှာ-၁၆၇)



မဥ္ဇူသီရိ ဘုရားလောင်းပုံ

သာသနာတော်နှစ် ၉၀၀ ကျော်က တရုတ်ဘုရင်၏ သားတော်ဖြစ်သော ရဟန်းတော် အရှင်မဥ္ဇူသီရိကို ဘုရားလောင်းအဖြစ် စတင်ကိုးကွယ်ကြသည်။



တာရာဒေဝီပုံ

အဝလောကိတေသွရဘုရားလောင်းသည် အမျိုးသမီးအသွင်ကိုဆောင်၍ တာရာဒေဝီဟု အမည်ခံ၏။ အပျိုစင်ရုပ်သွင်၊ အဘွားအိုအသွင်၊ ဘီလူးမအသွင် အမျိုးမျိုးပြောင်းလဲနိုင်၏။ (စာမျက်နှာ ၁၅၄)



ဘေရဝီ ခေါ် ကာလီမယ်တော်ပုံ

တန္တရဂိုဏ်း၌ လက်ဝဲဂိုဏ်း အောက်လမ်းဆရာကြီးများ ကိုးကွယ်ကြသည်။ ဓားရှည်သည် ဖျက်ဆီးခြင်းသဘော၊ ဗီဇပတ္တခေါ် မျိုးစေ့ခွက်သည် ဖန်ဆင်းခြင်းသဘောကို ပြသည်။ အပေါ်ဘယ်လက်မှာ ဘေးမဲ့ပေးဟန် (အဘယမုဒြာ)နှင့်အောက်ဘယ်လက်မှာ ဆုပေးဟန် (ဝရဒမုဒြာ)ကို ပြသည်။ (စာမျက်နှာ ၁၅၁)



ကလ္လိကခေါ် မဟာဒေဝီ၏ပုံ

တန္တရဂိုဏ်း အောက်လမ်းဆရာကြီးများ ကိုးကွယ်ကြသည်။
အဝတ်မပါ ဗလာနေခြင်းသည် ဖန်ဆင်းမှုကို ပြ၏။ ပြည့်ဝသော
ရင်သားများသည် သတ္တဝါကို ထိန်းသိမ်း စောင့်ရှောက်မှုကို ပြ၏။
တိရစ္ဆာန်များကို လှံဖြင့် ထိုးသီထား၍ သွေးစွန်းသောလက်သည်
ဖျက်ဆီးမှုကို ပြသည်။



ဟောဝဇီရနတ်သားက နတ်မိဖုရားကို ပွေ့ဖက်ထားပုံ
ဖိုမပေါင်းဆုံမှုကို သရုပ်ဖော်သော မဟာမုဒြာပုံ ဖြစ်သည်။
နီပေါနှင့် ဘင်္ဂလားပြည်တို့၌ တန္တရဂိုဏ်းက ကိုးကွယ်သည်။ (နှာ ၂၈၁)



ဘောရောဘုဒုရ် စေတီတော်ပုံ

အင်ဒိုနီးရှားပြည် ဂျာဗားကျွန်း၌ ရှိ၍ ဗုဒ္ဓရုပ်တုများကို စက်ဝိုင်းပုံ စီစဉ်ထားသည်။ ကမ္မမဏ္ဍလဟု ခေါ်၏။ (စာမျက်နှာ ၂၅၇၊ ၃၀၅)

## ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး

# နိဒါန်း



သဗ္ဗညု မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်စံဝင်တော်မူသည့် နှစ်ကို သာသနာသက္ကရာဇ် ၁ နှစ် ဟူ၍ စတင်ရေတွက်ခဲ့ရာ ယခုအခါ သာသနာသက္ကရာဇ် နှစ်ပေါင်း ၂၅၀၀ ကျော်လေပြီ။ ဤမျှရှည်လျားသော နှစ်ပရိစ္ဆေဒ ကာလအတွင်း ဖြတ်သန်း ချီတက်လာခဲ့ရသော ဗုဒ္ဓသာသနာတော်၏ ၂၅၀၀ ခရီးလမ်းမတစ်လျှောက် ပြန်လည်မျှော်ကြည့်၍ အတိတ်လှန် ဇာတ်ကြောင်းပြန်ရပါမူ ရွှင်လန်းအားတက်ဖွယ်၊ ဝမ်းနည်းကြေကွဲဖွယ်၊ အံ့သြထိတ်လန့်ဖွယ်၊ အောက်မေ့တသ လွမ်းဆွတ်ဖွယ်တို့နှင့် ပြည့်လျှမ်းနေသော ဝတ္ထုရှည်ကြီးတစ်ပုဒ်နှင့် တူလှပေတော့သည်။

သာသနာ ၂၅၀၀ ခရီးစဉ် သမိုင်းတစ်လျှောက်၌ ဗုဒ္ဓသာသနာတော်သည် မှိန်ခဲ့တစ်ခါ သာချီတစ်လှည့်၊ ခေါက်ရာငှက်ပျံသလို နိမ့်တုံမြင့်တုံ ကြုံခဲ့ရသည်။ ခေတ်အဆက်ဆက် အတွင်းရန်သူ အပြင်ရန်သူတို့၏ တိုက်ခိုက်ထိုးနှက်ချက်များနှင့် ရင်ဆိုင်ခဲ့ရသည်။ အဖျက်အဆီးများကို ဖယ်ရှား၍ အတားအဆီးများကို ဖြတ်ကျော်ခဲ့ရသည်။ သာသနာပြင်ပ အညတိတ္ထိယတို့သည် ရံခါ ပြင်ပမှ ဝါဒချင်း ယှဉ်ပြိုင်တိုက်ခိုက်ခဲ့ကြ၍ ရံခါ သာသနာတွင်းဝင်ကာ ပူးသတ်ခဲ့ကြသည်။ သာသနာ့ဝန်ထမ်းရဟန်းတော်များအထဲမှလည်း သာသနာ့ရန်ဆူးရန်ငြောင့်များ ပေါ်ထွက်ခဲ့ပြန်သည်။ အသားထဲမှ လောက်ထွက်၍ သံကို သံဖျက် သံချေးတက်ခဲ့သည်။ ယင်းသာသနာ့ဆူးငြောင့်ခလုတ်များကို ဖယ်ထုတ်ရာမှ ဂိုဏ်း

ကွဲများ ဖြစ်ပေါ်ခဲ့ရသည်။ ဆေးကြော ဖယ်ရှားပစ်လိုက်သော အညစ်အကြေးများကပင် အင်အားစုကာ တစ်စင်ထောင်လာကြပြန်သည်။

ဗုဒ္ဓသာသနာတော်သည် ရံခါ သာသနာ့ဒါယကာ ဘုရင်မင်းမြတ်တို့၏ ချီးမြှောက် ထောက်ပံ့မှု ခံရ၍ ရံခါ ဆန့်ကျင်ဘက် ဘုရင်တို့၏ ဖိနှိပ်ညှဉ်းပန်းမှု ခံခဲ့ရသည်။ ရံခါ လျစ်လျူရှုခြင်းခံခဲ့ရပြီး၊ ရံခါ အုပ်စိုးသူတို့၏ လိုလိုလားလား ပင့်ဖိတ်မှုကို ခံရ၍၊ ရံခါ ပြည်နှင်ဒဏ်ခတ်ခြင်းကို ခံခဲ့ရသည်။ တစ်ခေတ် တစ်ခါက ဗုဒ္ဓဘာသာ ကိုးကွယ်ပါမှ ခေတ်မီသည်ဟု ယူဆခဲ့ကြရာမှ တစ်ဖန် ခေတ်ပြောင်းသောအခါ ဗုဒ္ဓဘာသာကို ခေတ်နောက်ကျသည်ဟု ယူဆလာကြပြန်သည်။ ဘုရင်မင်းမြတ်တို့၏ ဘွဲ့တံဆိပ်နာမံကို ပါဠိဘာသာဖြင့် ခံယူကြ၍ စကားပြောရာ၌ပင် ပါဠိစကားလုံးများများညှပ်ပြောနိုင်မှ ဂုဏ်ရှိသည်ဟု ယူဆခဲ့ကြရာမှ တစ်ဖန် အခြားခေတ်တစ်ခု၌ ပါဠိဝေါဟာရများကို တတ်နိုင်သမျှ ရှောင်ကွင်း ဖယ်ထုတ်ရန် ကြိုးပမ်းကြပြန်သည်။

ဗုဒ္ဓမြတ်စွာ၏ သာသနာတော်သည် တစ်ခေတ်တစ်ခါက အနောက်သို့လားသော် ဂန္ဓာရတိုင်းခေါ် ပါကစ္စတန်ပြည်၊ အာဖဂန်နစ္စတန်ပြည်၊ ခိုတန် ခေါ် တာကစ္စတန်ပြည်နှင့် ယောနကလောက ခေါ်သော တူရကီ၊ ဂရိနိုင်ငံများအထိ ပျံ့နှံ့ ထွန်းကားခဲ့သည်။ ဂင်္ဂါမြစ်မှ ဗော်လဂါမြစ်သို့တိုင်အောင် သာသနာရောင်ဝါ ထွန်းကားခဲ့ပေသည်။ မြောက်သို့လားသော် ဆစ်ကင်းပြည်၊ ဘူတန်ပြည်၊ တိဗက်ပြည်၊ မွန်ဂိုလျပြည်၊ ဆိုဗီယက် ရုရှားနိုင်ငံ ဆိုက်ဗေးရီးယားအထိ ပျံ့နှံ့ခဲ့၍ ယခုတိုင် ဆက်လက်တည်ရှိနေဆဲဖြစ်သည်။ အရှေ့သို့လားသော် သုဝဏ္ဏဒီပ (အင်ဒိုနီးရှားနှင့်) သုဝဏ္ဏဘူမိခေါ် မြန်မာနိုင်ငံ၊ ထိုင်း၊ လာအို၊ ကမ္ဘောဒီးယား၊ ဗီယက်နမ်၊ ကိုရီးယား၊ ဂျပန်အထိ ပျံ့နှံ့၍ ယခုအထိ အချို့နိုင်ငံများ၌ သာသနာ တည်ရှိနေလေသည်။

ဤသို့လျှင် နေမဝင်သော ဗုဒ္ဓနိုင်ငံတော်ကြီး တည်ရှိခဲ့ပုံကို ပြန်လည်မှန်းဆ ကြည့်နိုင်ရန် ရာစုနှစ်အလိုက် အတိတ်ကိုလှန်၍ ဇာတ်ကြောင်းပြန်ရပါမူ -

## သာသနာနှစ် ၁

ရာဇဂြိုဟ်ပြည်တွင် အဇာတသတ်မင်းကြီး၏ ကာကွယ်စောင့်ရှောက် ထောက်ပံ့မှုကို ခံယူ၍ အရှင်မဟာကဿပ၊ အရှင်ဥပါလိ၊ အရှင်အာနန္ဒာ အမှူးပြုသော ရဟန္တာငါးရာတို့ စုပေါင်းညီညာ ပထမသင်္ဂါယနာ တင် တော်မူခဲ့ကြသည်။ ဘုရားဟော ဒေသနာတော်ကို နုတ်ပယ်, ဖြည့်စွက် ပြင်ဆင်ခြင်း မပြုကြရန် မူချမှတ်တော်မူခဲ့ကြသည်။

## သာသနာနှစ် ၁ ရာစု

ဝေသာလီပြည်တွင် ကာလာသောကမင်းကြီး၏ အထောက်အပံ့ ခံယူ၍ အရှင်မဟာယသနှင့်တကွ ရဟန္တာမထေရ် ခုနစ်ရာတို့ ဒုတိယ သင်္ဂါယနာတင်ခဲ့ကြသည်။ ဝဇ္ဇီတိုင်းသား ရဟန်းများသည် ဝိနည်းတရား တော်ကို ပြင်ဆင်ဖြည့်စွက်လိုကြ၍ မဟာသံဃိကဂိုဏ်းအဖြစ်ဖြင့် သီးခြား ခွဲထွက်ခဲ့ကြသည်။

## သာသနာနှစ် ၂ ရာစု

မဟာသံဃိကဂိုဏ်း၏ ရှေ့ဆောင် လမ်းပြမှုကြောင့် ဂိုဏ်းကွဲများ ဆက်ကာဆက်ကာ ပေါ်ထွက်ခဲ့သည်။ မဟာသံဃိကဂိုဏ်းမှ ဂိုဏ်းကွဲ ငါး ခု ထွက်ပေါ်ခဲ့၍ ထေရဝါဒမှ ၁၁ ဂိုဏ်း ကွဲထွက်ပြန်သည်။ ဂိုဏ်းကွဲ အသေးအဖွဲ့များကိုပါ ထည့်သွင်း ရေတွက်ပါက သံဃာ့ဂိုဏ်းပေါင်း ၃၀ အထိ အကွဲအပြဲ ခေတ်စားခဲ့သည်။

ထိုခေတ်က မြန်မာနိုင်ငံ သရေခေတ္တရာမြို့တွင် ဗုဒ္ဓသာသနာ ထွန်း ကား၍ ဗွတ္တပေါင်မင်းကြီးလက်ထက် စေတီကြီးတစ်ဆူ တည်ခဲ့ကြောင်း မြန်မာ့သမိုင်း၌ ပြဆိုထားသည်။

## သာသနာနှစ် ၃ ရာစု

အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ် အမှူးပြုသော ရဟန္တာမထေရ် ကြီး တစ်ထောင်တို့သည် အသောကမင်းကြီး၏ ကာကွယ် စောင့်ရှောက်

ထောက်ပံ့မှု ခံယူ၍ တတိယသင်္ဂါယနာတင်တော်မူခဲ့ကြသည်။ ဗုဒ္ဓဘာသာ ဂိုဏ်းကွဲ အယူဝါဒ အားလုံးကို ထေရဝါဒဘက်မှ ပြန်လည် ဖြေရှင်း ပယ်ဖျက် နှိမ်နင်းသော ကထာဝတ္ထုကျမ်းကြီးကို အရှင်မဟာမောဂ္ဂလိပုတ္တ တိဿထေရ်က ရဟန်းတော် ၁၂ သိန်းတို့၏အလယ်၌ ဟောကြားတော်မူ ခဲ့သည်။ အနောက်သို့ လားသော် ဂန္ဓာရတိုင်းနှင့် တူရကီ ဂရိတို့ဒေသ ယောနကလောကတိုင်အောင်လည်းကောင်း၊ အရှေ့သို့ လားသော် သုဝဏ္ဏ ဘူမိခေါ် မြန်မာနှင့်ထိုင်းနိုင်ငံတိုင်အောင်လည်းကောင်း၊ တောင်သို့ လား သော် သီရိလင်္ကာခေါ် သီဟိုဠ်ကျွန်းတိုင်အောင်လည်းကောင်း၊ မြောက်သို့ လားသော် ဟိမဝန္တာ တောင်တန်း ဒေသတိုင်အောင်လည်းကောင်း ဗုဒ္ဓ သာသနာတော် ပျံ့နှံ့စေရန် ရဟန္တာမထေရ်ကြီးများ၏ အမိန့်တော်အရ အသောကမင်းကြီးသည် ကိုးတိုင်းကိုးဌာနသို့ သာသနာပြုစေလွှတ်တော် မူခဲ့ရသည်။

**သာသနာနှစ် ၄ ရာစု**

အိန္ဒိယပြည်တွင် ဗုဒ္ဓသာသနာတော်ကို ချီးမြှင့်ထောက်ပံ့သော သာသနဒါယကာ မောရိယမင်းဆက် ပြုတ်၍ ဗြာဟ္မဏ ဘာသာဝင် ဘုရင်များ နန်းတက်ခဲ့သည်။ ဗြာဟ္မဏဘုရင်တို့၏ နှိပ်စက်မှုကြောင့် ဟီနယာန သဗ္ဗတ္ထိဝါဒဂိုဏ်းမှာ အိန္ဒိယအနောက်ပိုင်းသို့ ပြေးခဲ့ရ၍ ထေရ ဝါဒဂိုဏ်းမှာ အိန္ဒိယတောင်ပိုင်း ဆံချီသို့ ရွှေ့ခဲ့ရသည်။ ဗြာဟ္မဏဘုရင် တို့သည် သက္ကတဘာသာကို ဦးစားပေးရာ ၎င်းတို့၏ မျက်နှာသာပေး ခံလိုမှုကြောင့် ဟီနယာန သဗ္ဗတ္ထိဝါဂိုဏ်းသည် ဘုရားဟောပါဠိတော် များကို ပါဠိဘာသာမှ သက္ကတဘာသာသို့ ပြောင်းလဲခဲ့ကြသည်။ ထိုခေတ် မှာပင် သီဟိုဠ်ကျွန်းကို စောဠတိုင်းမှ 'ဧဠာရ'မည်သော ဗြာဟ္မဏဘုရင် သည် ကျူးကျော်တိုက်ခိုက် သိမ်းပိုက်၍ ဗုဒ္ဓသာသနာတော်ကို နှိပ်စက် ဖျက်ဆီးခဲ့သည်။ ဒုဋ္ဌဂါမဏိမင်းကြီးက မိစ္ဆာဒိဋ္ဌိ ကျေးကုလားတို့ကို တိုက် ခိုက်နှိမ်နင်း၍ ဗုဒ္ဓသာသနာတော်ကို ကာကွယ်စောင့်ရှောက် ချီးမြှောက် ခဲ့သည်။

## သာသနာနှစ် ၅ ရာစု

ပန်ဂျပ်ပြည်နယ် သာဂလမြို့တော်တွင် ဂရိနွယ်ဝင် မိလိန္ဒမင်းကြီး၏ အမေးကို ရဟန္တာအရှင်နာဂသိန်က ဖြေဆိုသော မိလိန္ဒပဉှာပါဠိတော်ကျမ်းကြီး ပေါ်ထွန်းခဲ့သည်။

သီဟိုဠ်ကျွန်းတွင် ဗြာဟ္မဏအနွယ်ဝင်များ သူပုန်ထ၍ တမိလ်စစ်တပ်၏ ကျူးကျော်ဝင်ရောက် နှိပ်စက်မှုကို ၁၄ နှစ် ခံစားကြရသည်။ ဝဋ္ဋဂါမဏိမင်းကြီးက နှိမ်နင်းတိုက်ခိုက်အောင်မြင်၍ တိုင်းပြည်အေးချမ်းသာယာသောအခါ ပါဠိတော်နှင့် အဋ္ဌကထာ ပိဋကတ် ကျမ်းစာများကို စတုတ္ထသင်္ဂါယနာတင်၍ ပေထက်အက္ခရာ တင်တော်မူခဲ့ကြသည်။

## သာသနာနှစ် ၆ ရာစု

ဂန္ဓာရတိုင်းတွင် ထေရဝါဒသာသနာတော်အပေါ် ဟီနယာန သဗ္ဗတ္ထိဝါဒဂိုဏ်းက လွှမ်းမိုးလာသည်။ (ဂျေရုစလင်မြို့တွင် ခရစ်ယာန် ဘာသာကို စတင်တည်ထောင်သော ခရစ်တော် ပေါ်ထွန်းခဲ့သည်။)

## သာသနာနှစ် ၇ ရာစု

ဂန္ဓာရတိုင်း ပက်သျှဝါမြို့တွင် သကမင်းများ စိုးစံသည်။ အိန္ဒိယပြည်မထုရာ၊ ဥဇ္ဇေနီ၊ ဒက်ကန်ဒေသတို့တိုင်အောင် အာဏာစက်ပျံ့နှံ့သည်။

သရေခေတ္တရာပြည်တွင် သုမုန္ဒရီမင်းက သာသနာနှစ် ၆၂၂ ကို ချေ၍ သက္ကရာဇ် ၁ နှစ်ဟု စတင်ရေတွက်သည်။ အလားတူပင် အိန္ဒိယနိုင်ငံ သကမင်းများကလည်း သာသနာနှစ် ၆၂၂ ကို ချေ၍ သကနှစ် ၁ နှစ်ဟု စတင်ရေတွက်သည်။

သကမင်းဆက်၌ ကနိသျှကဘုရင်ကို ဒါယကာပြု၍ ဟီနယာန သဗ္ဗတ္ထိဝါဒဂိုဏ်းက သင်္ဂါယနာတင်ခဲ့သည်။ မဟာယာနဂိုဏ်းက လေးစားသော အဋ္ဌကထာဆရာ အဿဃောသ ပေါ်ထွန်းခဲ့သည်။ ဗျာနီ ဗုဒ္ဓများနှင့် ဗောဓိသတ္တ ဘုရားလောင်းနတ်သားများ စတင်ပေါ်ပေါက်ခဲ့သည်။

သာသနာနှစ် ၆၀၈ ခုနှစ် တပေါင်းလပြည့်နေ့ ညတွင် 'မင်တီ' အမည်ရှိ တရုတ်ဘုရင်ကြီးသည် ထူးဆန်းသော အိပ်မက်ကို မြင်မက်သည်။ အရပ်တော် ၁၆ ပေရှိ၍ ဦးခေါင်းတော်တွင် ရောင်ခြည်တော် စက်ဝန်း ထွန်းလင်းနေသော ပုဂ္ဂိုလ်ထူးတစ်ဦးသည် ရွှေသက်န်း ရုံလျက် မင်းကြီး၏ ရှေ့မှောက် ကြွရောက်လာသည်ဟု အိပ်မက်မြင်မက်သည်။ ထိုအိပ်မက်နှင့် စပ်လျဉ်း၍ ပညာရှိ တရုတ်အမတ်ကြီးများက မဇ္ဈိမ ဒေသတွင် သဗ္ဗညုဘုရား ပွင့်ထွန်းပေါ်ပေါက်ခဲ့ကြောင်း၊ သာသနာနှစ် တစ်ထောင်နောက်၌ တရုတ်ပြည်တွင် ဗုဒ္ဓသာသနာတော် ထွန်းလင်း မည်ဟု ဗျာဒိတ်တော်ထားခဲ့ကြောင်းကို လျှောက်ထားလေရာ တရုတ် ဘုရင်သည် ဗုဒ္ဓရှင်တော်မြတ်ဘုရားကို ပင့်ရန် အနောက်ဘက်တိုင်းပြည် များသို့ တမန်တော်များ စေလွှတ်သည်။ ခိုတန်ပြည်သို့ ရောက်သောအခါ အရှင်ကဿပ မာတင်္ဂ (မိုထင်) ကို တွေ့၍ တရုတ်ပြည်သို့ ပင့်ခဲ့သည်။ ဗုဒ္ဓပုံတော်ကို ပိတ်ဖြူပေါ်တွင် ရေး၍ ပိဋကကျမ်းစာများနှင့်အတူတကွ မြင်းဖြူထက်၌ တင်ဆောင်၍ ပင့်ခဲ့ကြသည်။

## သာသနာနှစ် ၈ ရာစု

အိန္ဒိယနိုင်ငံတွင် နာဂအဇ္ဇုန ရဟန်းတော်သည် နဂါးပြည်မှ ပိဋက များကို ရရှိခဲ့သည်ဟု ဆို၍ မဇ္ဈိမိကသုညဝါဒ ကျမ်းများကို ရေးသား ခဲ့သည်။ ၎င်းမှ မဟာယာနဂိုဏ်း ပေါ်ထွန်းခဲ့သည်။ အိန္ဒိယ တစ်ပြည် လုံးတွင် မဟာယာနဝါဒ ပျံ့နှံ့သည်။ သီဟိုဠ်ကျွန်းတွင် ဝေါဟာရတိဿ မင်းက ဝေတုလ္လပိဋက (သဒ္ဓမ္မပုဏ္ဍရိကကျမ်း) ကို မီးရှို့ဖျက်ဆီး၍ မဟာ ယာနဂိုဏ်းကို တိုင်းပြည်မှ နှင်ထုတ်ခဲ့သည်။

## သာသနာနှစ် ၉ ရာစု

သီဟိုဠ်ကျွန်းတွင် မဟာသေနမင်းသည် အဘယဂိရိကျောင်းနေ မဟာယာန ရဟန်းတော်များကို ကြည်ညို၍ ထေရဝါဒဂိုဏ်း၏ ဗဟိုဌာန ဖြစ်သော မဟာဝိဟာရကျောင်းနေ ရဟန်းများကို ဆွမ်းမလောင်းစေရ၊

ဆွမ်းလောင်းသူကို ဒင်္ဂါးငွေတစ်ရာ ပေးဆောင်စေခဲ့သည်။ ဒုဋ္ဌဂါမဏိမင်းကြီး တည်ဆောက်ခဲ့သော လောဟပါသာဒ-ကြေးပြာသာဒ်ကျောင်းတော်ကြီးကို ဖျက်ဆီးသည်။ ကျောင်းတိုင်ပါ နုတ်စေ၍ ကျောင်းဝင်းကို ပြောင်းခင်းလုပ်စေခဲ့သည်။

အိန္ဒိယပြည်တွင် ကလိင်္ဂတိုင်း ဒန္တပူရမြို့တွင် ဂုဟာသီဝမင်းကို ဟိန္ဒူဘုရင်များက တိုက်ခိုက်ရာ ဂုဟာသီဝမင်း စစ်ပွဲ၌ ကျဆုံးသည်။ သမီးတော်ဟေမမာလာသည် မြတ်စွာဘုရား၏ စွယ်တော်ကို ဆံထုံးကြား၌ ဝှက်၍ သီဟိုဠ်ကျွန်းသို့ ထွက်ပြေးခဲ့ရသည်။ သီဟိုဠ်ဘုရင် ကိတ္တိသိရိမေဃမင်းက ကြိုဆိုလက်ခံ၍ စွယ်တော်ကို ထိန်းသိမ်းစောင့်ရှောက်ခဲ့ရာ ယနေ့အထိ သီဟိုဠ်ကျွန်း စွယ်တော်တိုက်၌ ဆက်လက်တည်ရှိနေသည်။

## သာသနာနှစ် ၁၀ ရာစု

မဟာယာန ဝိညာဏဂိုဏ်းကို စတင် တည်ထောင်သော ကျမ်းပြုဆရာ အသင်္ဂနှင့်ဝသုဗန္ဓု ညီနောင်နှစ်ပါး ပေါ်ထွန်းခဲ့သည်။ အိန္ဒိယပြည်တွင် ဂုတ္တမင်းများက နာလန္ဒာတက္ကသိုလ်စသော မဟာယာနတက္ကသိုလ်ကျောင်းကြီးများကို တည်ထောင်ပေးသည်။ ဂုတ္တမင်းများမှာ ဟိန္ဒူဘာသာဝင်များဖြစ်ကြ၍ ထိုခေတ် အိန္ဒိယပြည် ဗုဒ္ဓဘာသာမှာလည်း ဟိန္ဒူဝါဒနှင့် ညီအစ်ကို ဖြစ်နေသည်။

ထေရဝါဒဂိုဏ်း၌ အဋ္ဌကထာဆရာကြီး အရှင်မဟာဗုဒ္ဓဃောသ ပေါ်ထွန်းသည်။

အိန္ဒိယပြည်သား ရဟန်းတော်များသည် တရုတ်ပြည်သို့ သာသနာပြုကြွခဲ့ကြ၍ တရုတ် ရဟန်းတော်များလည်း အိန္ဒိယသို့ ပညာတော်သင်ကြွခဲ့ကြသည်။ တရုတ်ရဟန်းတော် ဖာဟိယန်သည် ဂိုဘီသဲကန္တာရကြီးကို အဖော်မပါ တစ်ယောက်တည်း ဖြတ်သန်းခဲ့၍ အိန္ဒိယပြည်အရောက်ခြောက်နှစ်ကြာ ခရီးနှင်ခဲ့သည်။ အိန္ဒိယပြည်တွင် ခုနစ်နှစ်ကြာ ပညာသင်ယူခဲ့၍ တရုတ်ပြည်သို့ ပိဋကတ်တော်များ သယ်ဆောင်ခဲ့သည်။ အင်ဒိုနီးရှား၊ မလေးရှား၊ ကမ္ဘောဒီးယားတို့တွင် မဟာယာန ဗုဒ္ဓသာသနာ

ထွန်းကားကြောင်း မှတ်တမ်းတင်ခဲ့သည်။ အရှင်ကုမာရဇီဝ တရုတ်ပြည်သို့ ကြွ၍ သာသနာပြုခဲ့သည်။ သာသနာ့ဒါယကာ ချင်မင်းဆက်ပြုတ်၍ မွန်ဂိုမင်းနှင့် တောင်ပိုင်း ဆွန်မင်းများက ဗုဒ္ဓသာသနာကို ညှဉ်းပန်းနှိပ်စက်ကြသည်။ မွန်ဂိုဘုရင်သည် ဆင်းတုတော်များကို ဖျက်ဆီး၍ ပိဋကတ်ကျမ်းစာများကို မီးတိုက်သည်။ ဘုန်းကြီးရဟန်းများကို သတ်သည်။ ပြည်သူလူထု မကျေနပ်သဖြင့် လူထုကို နှစ်သိမ့်စေရန် ပေ ငါးဆယ်မြင့်သော ကြေးဆင်းတုကြီးတစ်ဆူ သွန်းလုပ်၍ ရွှေချပေးသည်။ တစ်မြို့လျှင် ကျောင်းတိုက်တစ်ခုစီ ဆောက်လုပ်၍ ရဟန်းငါးဆယ်၊ သီလရှင် ငါးဆယ် ပြုခွင့်ပေးပြန်သည်။

## သာသနာနှစ် ၁၁ ရာစု

တရုတ်ပြည်တွင် ကျောင်းတိုက်ပေါင်း ၁၃၀၀၀ ရှိ၍ မဟာယာန ဗုဒ္ဓဘာသာ ရွှေခေတ်ဟု ခေါ်လောက်သည်။ အရှင်ဗောဓိဓမ္မ တရုတ်ပြည်သို့ ကြွ၍ ဈင်ဂိုဏ်းကို တည်ထောင်သည်။ ကိုရီးယားပြည်သို့ ဗုဒ္ဓသာသနာတော် စတင်ရောက်ရှိသည်။ ဂျပန်နိုင်ငံသို့ ဗုဒ္ဓရုပ်ပွားတော် စတင်ရောက်ရှိသည်။

## သာသနာနှစ် ၁၂ ရာစု

အိန္ဒိယပြည်တွင် မဟာယာနမှ တန္တရယာန ဝိဇ္ဇာယာနအဖြစ်သို့ ပြောင်းလဲခဲ့၍ ဝိဇ္ဇာဘုန်းကြီးများ ခေတ်စားခဲ့သည်။

အာရေဗျပြည် မက္ကာမြို့တွင် တမန်တော် မိုဟာမက် ပေါ်ထွန်း၍ အစ္စလာမ်ဘာသာ ပေါ်ပေါက်လာသည်။ အစ္စလာမ်ဘာသာဝင် အာရပ်တစ်မျိုးသားလုံး စည်းလုံးညီညွတ်၍ တူရကီ၊ ပါရှား၊ အာဖဂန်နစ္စတန် အထိ အောင်နိုင်၍ အစ္စလာမ်သာသနာတော်အောက် ရောက်စေခဲ့သည်။

တရုတ်ပြည်တွင် တန်မင်းဆက် ကော်စုဘုရင်က ဘုန်းကြီးနှင့် မယ်သီလများရှိခြင်းကြောင့် တိုင်းပြည်၌ လူဦးရေနည်းပါး၍ စီးပွားဆုတ်ယုတ်သည်ဟု ယူဆသဖြင့် ရဟန်း မဝတ်ရန်၊ သီလရှင် မဝတ်ရန် ချုပ်

ချယ်သည်။ ယူအန်ဆောင် ဘုရင့်လက်ထက်၌ ရဟန်း ၁၂၀၀၀ ကို လူထွက်စေ၍ တစ်ဖန် ထိုမင်းသည်ပင် သာသနာကြည်ညို၍ သာသနာ့ ဒါယကာ ခံယူပြန်သည်။ တရုတ်ရဟန်းတော် ဟူယင်ဆန် (ဟိယင်ဆိုင်း ယွန်ချွမ်း-ယွန်ချောင်း)သည် အိန္ဒိယပြည်သို့ ကြွ၍ ၁၄ နှစ်ကြာ ပညာ သင်ခဲ့သည်။

ဂျပန်ပြည်တွင် ဆူမိကို (ဆွိကို) ဘုရင်မကြီးလက်ထက် ရှိုတိုကု တိုင်းရှိ မင်းသားကြီး၏ ကြိုးပမ်းမှုကြောင့် ဂျပန်တစ်ပြည်လုံး မဟာယာန ဗုဒ္ဓဘာသာကို ကိုးကွယ်ခဲ့ကြသည်။ ဗုဒ္ဓဘာသာကို အခြေခံ၍ ဂျပန်ပြည် အုပ်ချုပ်ရေးဥပဒေကို ရေးဆွဲခဲ့သည်။

တိဗက်ပြည်သို့ ဗုဒ္ဓသာသနာတော် စတင်ရောက်ရှိသည်။ ဘုရင် ကိုးကွယ်ခံရ၍ နိုင်ငံတော်ဘာသာ ဖြစ်ခဲ့သည်။ အရှင်သန္တရက္ခိတနှင့် ပဒုမသမ္ဘဝတို့က စတင်သာသနာပြုခဲ့သဖြင့် တိဗက်လားမား ဗုဒ္ဓဘာသာ စတင် ပေါ်ပေါက်ခဲ့သည်။ လားမား ဗုဒ္ဓဘာသာသည် ဆစ်ကင်းပြည်၊ ဘူတန်ပြည်၊ မွန်ဂိုလျပြည်၊ ဆိုဗီယက်နိုင်ငံများသို့ ပျံ့နှံ့ခဲ့သည်။

မြန်မာနိုင်ငံတွင် ပုပ္ပားစောရဟန်းမင်းက သုမုန္ဒရီမင်းဖြိုကြွင်း သက္ကရာဇ် ၅၆၀ (ခ ဆ ပဥ္စကိန်း) ကို ချေ၍ ၂-ခု ကြွင်းထားကာ မြန်မာသက္ကရာဇ် ၂-နှစ်ဟု စတင်ရေတွက်သည်။ ယနေ့လက်ရှိ မြန်မာ သက္ကရာဇ်၏အစ ဖြစ်သည်။

## သာသနာနှစ် ၁၃ ရာစု

အိန္ဒိယတစ်ပြည်လုံးရှိ ရဟန်းများသည် ဝိဇ္ဇာဂိုဏ်းသို့ ဝင်ကြသည်။ နတ်ရုပ်၊ ဘီလူးရုပ်များကို ကန်တော့ပွဲထိုး၍ ဆေးဝါးမန္တရား စီရင် ကြသည်။ သချိုင်း၌ နေ၍ လူဦးခေါင်းခွံတွင် ထမင်းထည့် စားသောက် ကြသည်။ လူတို့ကို ချောက်လှန့် ညာဖြန်းစားကြသည်။ ဟိန္ဒူဗြာဟ္မဏ ဘာသာမှ ပညာရှိ ရှုံကရ ဆရာကြီးသည် ဟိန္ဒူဘုရင်တို့၏ အကူအညီဖြင့် တန္တရ-မန္တရ ဂိုဏ်းဝင် ဗုဒ္ဓဘာသာ ရဟန်းတော်များကို နှိပ်ကွပ်လေရာ အိန္ဒိယပြည်တောင်ပိုင်း၌ သာသနာကွယ်ပခဲ့သည်။ အာရဗီ စစ်ဗိုလ်

မိုဟာမက် ဘိန်ကာစင်သည် ဂင်္ဂါမြစ်ဝှမ်းတစ်ဝိုက်ကို တိုက်ခိုက်သိမ်း ပိုက်သည်။

တရုတ်ရဟန်းတော် အိစျင်(ယိကျင်)သည် ရေလမ်းခရီးဖြင့် အိန္ဒိယ သို့ ကြွ၍ ၂၂ နှစ်ကြာ ပညာသင်ကြားခဲ့သည်။ တရုတ်ပြည်တွင် မင်းညီ မင်းသား၊ မှူးမတ်၊ သူဌေးသူကြွယ်၊ ကုန်သည်၊ လယ်လုပ် လူတန်းစား အားလုံးမှ ရဟန်းဝတ်သူ, သီလရှင်ဝတ်သူ အလွန်များပြားသည်။ ဂျပန် ပြည်တွင် ဘုရင်များက ဘုရားတည်, ကျောင်းဆောက် ပြုလုပ်ခဲ့ကြသည်။

## သာသနာနှစ် ၁၄ ရာစု

တရုတ်ပြည်တွင် ဝူဆောင်းဘုရင်သည် တာအိုဘာသာဝင်ဖြစ်၍ ဘုန်းကြီးကျောင်းပေါင်း ၄၀၀၀၀ ကျော် ဖျက်ဆီးသည်။ ရဟန်းပေါင်း ၄၆၀၀ အသတ်ခံရသည်။ ရဟန်းနှင့်သီလရှင် ၂၆၀၀၀၀ လူဝတ်လဲ ကြရသည်။ ကြေးစည် ခေါင်းလောင်းများကို ဒင်္ဂါးပိုက်ဆံသွန်းခဲ့သည်။ ဤသို့ ပြုလုပ်၍ နှစ်နှစ်အကြာတွင် ဘုရင်ကြီး မကျန်းမာ၍ နှုတ်ဆွံ့အ, စကားမပြောနိုင်ဖြစ်သွားသည်။ ထိုအခါ ဘုရင်ကြီးထိတ်လန့်၍ အမိန့် တော်ကို ပြန်လည် ရုပ်သိမ်းပြီးလျှင် အကန့်အသတ်ဖြင့် ရဟန်းပြုခွင့် ပေးသည်။

တိဗက်ပြည်တွင် ဗုဒ္ဓသာသနာတော်ကို တရားလွန် ချီးမြှောက်ထောက် ပံ့သော ရာလ်ပချန်ဘုရင် နတ်ရွာစံပြီးနောက် ဘုရင် 'လံဓရ်မ'သည် ဘုန်းကြီးကျောင်းများကို ဖျက်ဆီး၍ ပိဋကတ်ကျမ်းစာများကို မီးရှို့သည်။ ဗုဒ္ဓရုပ်တုများကို မြေမြှုပ်ပစ်သည်။ ဥပုသ်စောင့်မှု, ရဟန်းခံ ရှင်ပြုမှု များကို တားမြစ်ပိတ်ပင်သည်။ ရဟန်းများကို ပြည်နှင်ဒဏ်ပေး၍ ထွက် မပြေးနိုင်သော ရဟန်းများကို လူဝတ်လဲစေ၍ မုဆိုး, တံငါလုပ်စေသည်။

## သာသနာနှစ် ၁၅ ရာစု

ပုဂံပြည်တွင် ညောင်ဦး စောရဟန်း (တောင်သူကြီး) မင်းဖြစ်၍ ရှင်မထီး အရည်းကြီးဂိုဏ်းကို ချီးမြှောက်ထောက်ပံ့သည်။ အိန္ဒိယပြည်

မထုရာမြို့ ဟီနယာန သဗ္ဗတ္ထိဝါဒဂိုဏ်းက တည်ထောင်ခဲ့သော ဝလဘိ တက္ကသိုလ်၊ မဂဓတိုင်း မဟာယာနဂိုဏ်းက တည်ထောင်ခဲ့သော နာလန္ဒ တက္ကသိုလ်၊ ဘင်္ဂါနယ်ရှိ ဩဒန္တပူရီတက္ကသိုလ် ကျောင်းတိုက်ကြီးများကို ဝိဇ္ဇာဂိုဏ်းဝင် အရည်းကြီးရဟန်းများ လွှမ်းမိုးလေသည်။

## သာသနာနှစ် ၁၆ ရာစု

ဝိက္ကမသီလာ တက္ကသိုလ်မှ ကျောင်းအုပ်ကြီး အတိဆာခေါ် ဒီပင်္ကရ သီရိဉာဏသည် တိဗက်ပြည်သို့ သာသနာပြုကြွသည်။

ခိုတန်ပြည်ကို ယူဆစ်ကာဒရ်ခန် ဦးဆောင်သော တူရကီစစ်တပ်က သိမ်းပိုက်ရာ ဗုဒ္ဓသာသနာ ကွယ်ပ၍ တာကစ္စတန်နိုင်ငံအဖြစ်သို့ ရောက် သည်။

သုဝဏ္ဏဘူမိ သထုံပြည်တွင် မနူဟာမင်းကြီးသည် ဝိဇ္ဇာဂိုဏ်းဝင် ဘုန်းကြီးတစ်ပါးကို နန်းဦးဆရာတော်ပြု ကိုးကွယ်သည်။ ဇော်ဂျီ ဖိုဝင်သား စားရလျှင် လူစွမ်းကောင်းဖြစ်နိုင်သည်ဟု မက်လုံးပြ၍ ဝိဇ္ဇာ ဂိုဏ်းက ဘုရင်ကို စည်းရုံးထားရာ သထုံပြည်တွင် ထေရဝါဒသာသနာ မျက်နှာငယ်နေသည်။ ထိုအချိန်တွင် ရှင်အရဟံသည် သထုံမှ ပုဂံပြည်သို့ ကြွ၍ သာသနာပြုရာ အနော်ရထာမင်းကြီးသည် ရှင်အရဟံကို အမှီရ၍ ရှင်မထီးတို့၏ အရည်းကြီးသာသနာကို နှိပ်ကွပ်၍ ထေရဝါဒသာသနာကို ချီးမြှောက်ထောက်ပံ့သည်။ သထုံမှ ကျမ်းဂန်တတ် ဆရာတော် သံဃာ တော်များနှင့် ပိဋကတ်တော်များကို ပုဂံပြည်သို့ ပင့်ဆောင်၍ ကိုးကွယ် ချီးမြှောက်ထောက်ပံ့သည်။

## သာသနာနှစ် ၁၇ ရာစု

သီဟိုဠ်ကျွန်းတွင် ပရက္ကမဗာဟု မင်းကြီးလည်း တမိလ်နိုင်ငံကိုပါ တိုက်ခိုက် အောင်နိုင်သည်၊ မဟာယာနအနွယ် အဘယဂိရိဂိုဏ်းသား များကို လူဝတ်လဲစေသည်၊ သီဟိုဠ်ကျွန်းရှိ သံဃာအားလုံးကို မဟာ ဝိဟာရဂိုဏ်း တစ်ခုတည်းဖြစ်အောင် ပူးပေါင်းစေသည်။ သီဟိုဠ်တစ် ကျွန်းလုံးတွင် ဂိုဏ်းကွဲ မရှိ မဟာဝိဟာရတစ်ဂိုဏ်းတည်းသာ ရှိစေသည်။

အလောင်းစည်သူမင်းကြီးလက်ထက်တွင် သီဟိုဠ်ကျွန်းမှ ပြန်ကြွလာသော မြန်မာပြည်သား ရဟန်းတော် အရှင်ဆပ္ပဒ,က ဂိုဏ်းသီးခြားတည်ထောင်သဖြင့် ပုဂံပြည်တွင် ပုရိမသံဃာနှင့် ပစ္ဆိမသံဃာဟူ၍ နှစ်ဂိုဏ်းကွဲကြသည်။ သထုံမှ လာသော ရှင်အရဟံအနွယ်များကို 'ပုရိမသံဃာ'ဟု ခေါ်ကြ၍ အရှင်ဆပ္ပဒ အဆက်အနွယ် သံဃာတော်များကို 'ပစ္ဆိမသံဃာ'ဟု ခေါ်ကြသည်။ ပုဂံနှင့်သီဟိုဠ်တို့ အချင်းချင်း သာသနာရေးဆက်သွယ်မှု ပြုကြသည်။

အိန္ဒိယအနောက်ပိုင်းနှင့် အလယ်ပိုင်း မဂဓတိုင်းတို့ကို တူရကီအနွယ်တို့က သိမ်းပိုက်သည်။ နာလန္ဒတက္ကသိုလ်၊ ဝိက္ကမသီလာတက္ကသိုလ်၊ ဇဂဒ္ဒလတက္ကသိုလ် စသည်ဖြင့် ဗုဒ္ဓဘာသာ တက္ကသိုလ်ကျောင်းတော်ကြီးများ ဖျက်ဆီးခံရသည်။ အိန္ဒိယပြည်တွင် ရဟန်းတော်များ ထောင်သောင်းချီ၍ အစုလိုက် အပြုံလိုက် အသတ်ခံကြရသည်။

## သာသနာနှစ် ၁၈ ရာစု

ဘင်္ဂလား (ဝင်္ဂတိုင်း)ပြည် ပါလမင်းများအနေဖြင့် တိုင်းပြည်လုံခြုံမှုကာကွယ်ရေးအတွက် ကိုးကွယ်အားထားနေသော ဩဒန္တပူရိတက္ကသိုလ်ကျောင်းကြီးအတွင်းရှိ ဝိဇ္ဇာဘုန်းကြီးများကို မိုဟာမေဒင် မြင်းစီးတပ်သားနှစ်ရာက သတ်ဖြတ်မီးရှို့ဖျက်ဆီး၍ ဘင်္ဂလားတစ်ပြည်လုံးကို သိမ်းပိုက်ခဲ့သည်။ ဝိဇ္ဇာဘုန်းကြီးများ၏ နတ်ရုပ်များ၊ မန္တန်များ၊ အင်းအိုင်ခါးလှည့်များသည် တစ်စုံတစ်ရာ အကာအကွယ် မပေးနိုင်သဖြင့် ဝိဇ္ဇာဘုန်းကြီးများ၏ လိမ်ညာ ဝါကြွားမှု ပေါ်သွားသည်။ ဗုဒ္ဓသာသနာတော်သည် အိန္ဒိယပြည်မှ လုံးဝပျောက်ကွယ်သွားလေသည်။

ဂျပန်ပြည်တွင် အမိတာဘုရားကိုးကွယ်သော ဂျိုဒိုဂိုဏ်းဝင် ဂျပန်မင်းမျိုးမင်းနွယ်မှ ရဟန်းပြုသော ရှိုနင်သည် အိမ်ထောင်ပြုသောဘုန်းကြီးဂိုဏ်းကို စတင်တည်ထောင်သည်။ ထိုဂိုဏ်းကို 'ရှင်'ဂိုဏ်းဟုခေါ်သည်။ နောက်ပိုင်းတွင် ဂျပန်ပြည်ရှိ အခြားသော ဗုဒ္ဓဘာသာဂိုဏ်းဝင် ရဟန်းများသည်လည်း 'ရှင်'ဂိုဏ်းကို အတုယူ အားကျ၍ အိမ်ထောင်

ပြုကြသည်။ ဤခေတ်၌ ဂျပန်ပြည် ဗုဒ္ဓဘာသာဘုန်းကြီး အားလုံးမှာ လူဝတ်ကြောင်များနှင့် အနေအထိုင် အကျင့်သီလ ထူးခြားမှု မရှိချေ၊ ဘုရားတရားအပေါ် ကြည်ညို၍ ဘာသာရေးစာပေကို တတ်ကျွမ်းသူကို (ဘုန်းကြီး=ဘိုစ်)ဟု ခေါ်၍ ဘာသာရေးခေါင်းဆောင်အဖြစ် အသိအမှတ် ပြုကြသည်။

ထိုင်းနိုင်ငံသည် စစ်အင်အားကောင်းလာ၍ ကမ္ဘောဒီးယား ဩဇာ ရိပ်မှ လွတ်ကင်းခဲ့သည်။ ထေရဝါဒသာသနာကို ချီးမြှောက် ထောက် ပံ့သည်၊ သီဟိုဠ်နှင့် သာသနာရေး ဆက်သွယ်မှုပြုခဲ့သည်။

## သာသနာနှစ် ၁၉ ရာစု

မြန်မာနိုင်ငံ ပင်းယနေပြည်တော်တွင် ဂါမဝါသီရဟန်း၊ အရညဝါသီရဟန်းနှင့် အရည်းကြီးအနွယ်ဝင် ရဟန်းများ အင်တူအားတူ ရှိနေ ခဲ့သည်။

တရုတ်ပြည်တွင် ကူဗလိုင်ခန်မင်းကြီးသည် မဟာယာန ဗုဒ္ဓဘာသာ နှင့် တိဗက်လားမား ဗုဒ္ဓဘာသာကို ချီးမြှောက်ထောက်ပံ့ခဲ့သည်။ တိဗက် ပြည်ကို ရဟန်းမင်း (ဘုန်းကြီးဘုရင်) များက အုပ်စိုးကြသည်။ 'အဝ လောကိတေသရ' ဘုရားလောင်းသည် လူဝင်စားဖြစ်လာ၍ ရဟန်းမင်း အဖြစ် အုပ်ချုပ်ရသည်။ သာသနာပိုင် ရဟန်းမင်းကြီး သေဆုံးလျှင် အသစ်တစ်ဖန် ပြန်လည်ဝင်စား၍ ဆက်လက်အုပ်ချုပ်ရသည်။

## သာသနာနှစ် ၂၀ ရာစု

ထိုင်းနိုင်ငံတွင် သီရိဓမ္မစက္ကဝတ္တိတိလက ရာဇာဓိရာဇာသည် ဇင်းမယ်မြို့၌ သင်္ဂါယနာတင်ပွဲ ပြုလုပ်ခဲ့သည်။

ပဲခူး ဟံသာဝတီနေပြည်တော်တွင် ဓမ္မစေတီမင်းကြီးသည် ရဟန်း တော် လေးဆယ်ကို သီဟိုဠ်သို့ လွှတ်၍ သိက္ခာအသစ်ယူ (ရဟန်းခံ) စေသည်။ သီဟိုဠ်မှ ပြန်ကြွလာသော ရဟန်းသစ်များဖြင့် ကလျာဏီသိမ် ကြီးကို သမုတ်သည်။ အောက်မြန်မာနိုင်ငံရှိ ရဟန်းတော် အားလုံးကို သိက္ခာချစေ၍ ထိုသိမ်၌ သိက္ခာအသစ်ယူ (ရဟန်းခံ) စေသည်။ သံဃာ

တော်များကို ပရိယတ္တိ ပဋိပတ္တိ လုပ်ငန်းနှစ်မျိုး၌သာ အားထုတ်စေ၍ ဗေဒင်ဟော၊ ဆေးကု၊ စိုက်ပျိုးရေး၊ မွေးမြူရေး၊ စီးပွားရေး လုပ်သော ရဟန်းအားလုံးကို လူဝတ်လဲစေခြင်းဖြင့် သာသနာတော် သန့်ရှင်းစင်ကြယ်ရေးကို ဆောင်ရွက်ခဲ့သည်။

မလ္လာယုကျွန်းဆွယ်နှင့် သုဝဏ္ဏဒီပခေါ် အင်ဒိုနီးရှားနိုင်ငံ၌ အာရပ်သင်္ဘောသား ကုန်သည်များ ရောက်ရှိ၍ အစ္စလာမ်သာသနာပြုကြသည်။

## သာသနာနှစ် ၂၁ ရာစု

အင်ဒိုနီးရှားနှင့် မလ္လာယုကျွန်း၌ ဗုဒ္ဓသာသနာတော် ကွယ်ပ၍ အစ္စလာမ်သာသနာ ထွန်းကားသည်။

အင်းဝ နေပြည်တော်တွင် သိုဟန်ဘွား နန်းစံ၍ ရဟန်း ၃၀၀၀ ခန့်ကို သတ်ဖြတ်ခံရသည်။ ပိဋကတ်ကျမ်းစာများကို မီးတိုက်သည်။

## သာသနာနှစ် ၂၂ ရာစု

သီဟိုဠ်ကျွန်းတွင် ပထမ ရာဇသီဟ ဘုရင်သည် ဖခင်ကို သတ်၍ နန်းတက်သည်။ ဟိန္ဒူအယူသို့ ကူးပြောင်းပြီး ရဟန်းများကို သတ်၍ ပိဋကတ်ကျမ်းဂန်တို့ကို မီးရှို့သည်။ ထိုမင်းနန်းကျ၍ ဝိမလဓမ္မသူရိယမင်း လက်ထက်၌ ယိုးဒယားနှင့် ရခိုင်မှ သံဃာတော်များကို ပင့်၍ သီဟိုဠ်သာသနာကို ပြန်လည် အသက်ဆက်ရသည်။

မြန်မာနိုင်ငံတွင် ဇေင်ကာသည် သန်လျင်၌ အခြေစိုက်၍ ဘုရားပုထိုးများ ဖျက်သည်။ ဗုဒ္ဓဘာသာဝင်လူထုကို ဘုရင်ဂျီဘာသာသို့ အဓမ္မ အနိုင်အထက် ပြုလုပ်သွတ်သွင်းခဲ့သည်။

## သာသနာနှစ် ၂၃ ရာစု

တရုတ်ပြည်တွင် မန်ချူးမင်းဆက် ကန်ဆီဘုရင်က ရဟန်းတစ်ပါးလျှင် သာမဏေတစ်ပါးသာ ထားခွင့်ပြုသည်။ ကျောင်းတိုက်ကြီးများ၌သာ ရဟန်းခံခွင့်ပြုသည်။ မြန်မာနိုင်ငံ ဗုဒ္ဓသာသနာတော်တွင် တုံဂိုဏ်း ရုံဂိုဏ်းများ ကွဲပြားခဲ့သည်။

## သာသနာနှစ် ၂၄ ရာစု

သီဟိုဠ်ကျွန်းသည် အင်္ဂလိပ်လက်အောက်သို့ ကျရောက်ခဲ့သည်။ ဘိုးတော်မင်းတရားကြီးလက်ထက်တွင် သီဟိုဠ်ကျွန်းမှ ရဟန်းများသည် အမရပူရနေပြည်တော်သို့ ကြွလာ၍ သိက္ခာတင်ကြကုန်သည်။ သီဟိုဠ်သို့ ပြန်၍ အမရပူရဂိုဏ်း သီးခြားတည်ထောင်သည်။

ယိုးဒယားပြည်တွင် အယုဒ္ဓယမြို့ ပျက်စီးပြီးနောက် သင်္ဂါယနာတင်ပွဲကို တစ်နှစ်ကြာ ပြုလုပ်ကျင်းပခဲ့သည်။

## သာသနာနှစ် ၂၅ ရာစု

မန္တလေး နေပြည်တော်တွင် မင်းတုန်းမင်းတရားကြီး၏ အထောက်အပံ့ ခံယူ၍ ပဉ္စမသင်္ဂါယနာတင်ခဲ့သည်။ မြန်မာနိုင်ငံ အင်္ဂလိပ်လက်အောက် ကျရောက်ခဲ့၍ ဂိုဏ်းကွဲမှုများ ပေါ်ထွန်းခဲ့သည်။

ဂျပန်ပြည်တွင် မေဂျီဘုရင်ခေတ်၌ ဘာသာတရား အားလုံးကို တန်းတူညီမျှ လွတ်လပ်ခွင့်ပြုလိုက်ရာ ဗုဒ္ဓဘာသာ အားနည်း၍ ရှင်တိုဘာသာ အားကောင်းလာသည်။

တရုတ်ပြည်တွင် ဒေါက်တာဆွန်ယက်ဆင် ဦးဆောင်၍ သမ္မတနိုင်ငံ ထူထောင်ပြီးသောအခါ ဘုန်းကြီးကျောင်းများကို ပြည်သူပိုင်သိမ်း၍ စာသင်ကျောင်းပြုလုပ်ရာ ပြည်သူတို့ မကျေနပ်သဖြင့် အလျှော့ပေးခဲ့ရသည်။

လွတ်လပ်ရေးရပြီးနောက် မြန်မာနိုင်ငံတွင် မြန်မာ သီဟိုဠ် ယိုးဒယား ကမ္ဘောဒီးယား လာအို ထေရဝါဒ ငါးနိုင်ငံ စုပေါင်း၍ ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီး ကျင်းပခဲ့သည်။

## ပြန်လည်သုံးသပ်ချက်

တစ်ချိန်တုန်းက ဗုဒ္ဓသာသနာတော်သည် အာရှတိုက်ကြီး တစ်ခုလုံးကို သက်န်းရောင်ဖုံးအုပ်ခဲ့၍ ယခုအခါ တည်ရာဒေသအားဖြင့် ကျဉ်းမြောင်းလာချေပြီ။ အရေအတွက်အားဖြင့်လည်း ရှေးခေတ်က ကမ္ဘာ့လူ

ဦးရေ ငါးပုံ လေးပုံတို့၏ ကိုးကွယ်မှုခံဘဝမှ ယခုအခါ ကမ္ဘာ့လူဦးရေ ဆယ်ပုံ တစ်ပုံ၏ ကိုးကွယ်မှုကိုသာ ခံယူရသော အခြေအနေသို့ ဆိုက်ရောက်နေလေပြီ။

အချို့က ဆိုကြသည်။ 'တိုးတက်နေသော စက်မှုခေတ်, အနုမြူခေတ်နှင့် ကိုက်ညီအောင် မြတ်ဗုဒ္ဓ၏ တရားတော်များကို နုတ်ပယ်, ဖြည့်စွက် ပြုပြင်ကြရမည်'ဟု ဆိုကြသည်။ ထိုသို့ ပြုပြင်ကြစတမ်းဆိုပါက မိမိဆန္ဒနှင့် မကိုက်ညီတိုင်း ဖြုတ်လိုက်ကြ၊ ဖြည့်စွက်လိုက်ကြ၊ ဆက်ကာ ဆက်ကာ ပြုပြင်နေကြလျှင် မကြာမီအတွင်း မူရင်းတရားတော် အစစ်အမှန် ကျန်တော့မည် မဟုတ်ချေ။ ဒုတိယ သင်္ဂါယနာတင်ပွဲ၌ ဂိုဏ်းခွဲထွက်ခဲ့ကြသော မဟာသံဃိကဂိုဏ်းနှင့် မဟာယာနဂိုဏ်းများသည် ဗုဒ္ဓသာသနာတော်ကို ဒေသအလိုက်, ခေတ်အလိုက် ကိုက်ညီအောင် ပြုပြင်ခဲ့ကြသဖြင့် ၎င်းဂိုဏ်းတို့၌ မူရင်းပါဠိတော်အစစ် ပျောက်ဆုံးခဲ့ရ လေသည်။ မိမိလက်ထက်၌ မိမိစိတ်ကြိုက် ပြင်ဆင်ပါက နောင်လာနောက်သားများကလည်း မိမိချမှတ်ခဲ့သော မူဝါဒအရ သူတို့စိတ်ကြိုက်ပြင်ကြပေလိမ့်ဦးမည်။ ဤသို့အားဖြင့် ဘာသာယုံကြည်ချက်နှင့် လူတို့၏ အကျင့်စာရိတ္တသည် အသားမကျ အနယ်မထိုင်ဘဲ အမြဲယိမ်းယိုင်ပြောင်းလဲနေလေတော့မည်။ ထို့ကြောင့် ဘုရားဟော ဒေသနာတော်ကို ခေတ်နှင့် လိုက်လျောအောင် ပြုပြင်ရန် မလိုချေ။ နိမ့်ကျသော လူတို့၏ အကျင့်စာရိတ္တနှင့် ဘာသာအယူဝါဒကို ဗုဒ္ဓတရားတော်နှင့် ကိုက်ညီအောင် မြှင့်တင်ပေးခြင်းသည်သာလျှင် နည်းမှန် လမ်းမှန် ဖြစ်ပေမည်။

တစ်ဖန် အချို့က ဆိုကြပြန်သည်။ "မြေကြီးက တစ်လက်မလောက်လွတ်အောင် ဈာန်ပျံပြနိုင်လျှင် ကမ္ဘာတစ်ခွင်လုံးကို ဗုဒ္ဓဘာသာဝင်ဖြစ်အောင် သာသနာပြုနိုင်မည်"ဟု ဆိုကြ၏။ ဈာန်ပျံပြခြင်းမှာ တန်ခိုးပြခြင်း ဖြစ်၏။ မြတ်စွာဘုရားရှင်သည် တန်ခိုးပြ၍ သာသနာပြုနည်းကို နှစ်သက်တော်မမူချေ။ မြတ်စွာဘုရားသက်တော်ထင်ရှားရှိစဉ်က နာလန္ဒမြို့နေ ဒါယကာတစ်ဦးက လျှောက်ထားဖူး၏။ "မြတ်စွာဘုရား . . . ဤ နာလန္ဒမြို့နေ လူအားလုံး သာသနာတော်ကို ယုံကြည်သက်ဝင်

အောင် တန်ခိုးပြာဋိဟာ ပြသော ရဟန်းတစ်ပါးကို အမြဲခန့်ထားပေးတော်မူပါဘုရား"တဲ့။

ထိုအခါ မြတ်စွာဘုရားရှင်က "ဤသို့ မြေလျှိုးမိုးပျံ တန်ခိုးပြ၍ သာသနာပြုပါက ထိုရဟန်းကို ဂန္ဓာရီ ဝိဇ္ဇာစိုးရ် ပုဂ္ဂိုလ်ထူးအဖြစ်ဖြင့်သာ ကိုးကွယ်ဆည်းကပ်ကြလတ္တံ့။ ထိုရဟန်း၏ သီလ သမာဓိ ပညာတို့ကို ကြည်ညိုမြတ်နိုးရကောင်းမှန်း သိမည်မဟုတ်"ဟု မိန့်တော်မူ၍ တန်ခိုးပြ၍ သာသနာပြုနည်းကို ပယ်မြစ်တော်မူခဲ့သည်။

ထို့ပြင် မြေလျှိုးမိုးပျံစသော တန်ခိုးများသည် အုံ့သြစရာကောင်းရုံမျှ တစ်ပါး အားကိုးအားထားစရာ မဟုတ်ချေ။ စားနပ်ရိက္ခာအတွက် လယ်သမားကိုသာ အားထားရပေမည်။ ကုန်ထုတ်လုပ်ငန်းအတွက် အလုပ်သမားကိုသာ အားထားရပေမည်။ တိုင်းပြည်ကာကွယ်ရေးအတွက် စစ်သည်သူရဲကောင်းများကိုသာ အားထားရပေမည်။ မှန်ကန်၍ တရားမျှတသော လူမှုဆက်ဆံရေး, လူ့ကျင့်ဝတ်များထွန်းကားရေးအတွက် ရဟန်းတော်များကိုသာ အားထားရပေမည်။ လူများစု မခိုးမဝှက်၊ မလိမ်မကောက်အောင် ရဟန်းတော်များက ကိုယ်တိုင်ကျင့်သုံး၍ ဟောကြားဆုံးမကြရမည် ဖြစ်ပေသည်။

ရဟန်းတော်များသည် လူဒါယကာများ အယူဝါဒ မှန်ကန်၍ အကျင့်စာရိတ္တ ကောင်းအောင် ဟောကြား ဆုံးမ သွန်သင်မှုကို မပြုဘဲ တန်ခိုးပြရုံသာ ပြနေကြပါက ဗုဒ္ဓသာသနာတော် အမြန်ကွယ်ပရန်သာ ဖြစ်၏။

သာသနာနှစ် ၁၀၀၀ ကျော်က အိန္ဒိယပြည်တွင် တန္တရ, မန္တရ ဂိုဏ်းဝင် ဘုန်းတော်ကြီးများသည် မန္တန်များ၊ အင်းအိုင်၊ ခါးလှည့် လက်ဖွဲ့များ၊ အဆောင်များ၊ နတ်ရုပ်များ၊ မယ်တော်ကြီးရုပ်များ၊ ကန်တော့ပွဲများဖြင့် ဟိတ်ဟန်ထုတ်ကာ တန်ခိုးပြ၍ စားခဲ့ကြသည်။ ယင်းတန်ခိုးရှင်ကြီးများသည် 'ထွက်ရပ်ပေါက် (သိဒ္ဓိရှင်) ဝိဇ္ဇာစိုးရ်'စသည်ဖြင့် အမည်ခံ၍ အညွန့်ခူးခဲ့ကြသည်။ ပြည်သူလူထုကလည်း ယင်းပုဂ္ဂိုလ်ကြီးများအား ပန်းဦးလွှတ် (ပူဇော်)သည်အထိ အရှူးထခဲ့ကြသည်။

သာသနာနှစ် ၁၃၀၀ ကျော်သောအခါ အိန္ဒိယပြည်ကြီးကို တူရကီ အနွယ်တို့က တစ်မြို့ပြီး တစ်မြို့ တိုက်ခိုက်သိမ်းပိုက်လာသည်။ ကောသလ တိုင်းနှင့်မဂဓတိုင်းတို့ ကျဆုံးသွားသော်လည်း အဆိုပါ သိဒ္ဓိရှင်ကြီး များကား အရှိန်မပျက် ကြွားကောင်းနေဆဲပင် ဖြစ်၏။ နောက်ဆုံးပိတ် ဘင်္ဂလားပြည် (ဝင်္ဂတိုင်း) ၏ဘုရင် ပါလမင်းကြီးသည် မဟာမေဒင် ဘာသာဝင် တူရကီအနွယ်တို့၏အန္တရာယ်ကို ကာကွယ်ရန် မိမိ၌ စစ်သည် အင်အား နှစ်သောင်းကျော်ရှိသော်လည်း စစ်ပြင်ဆင်မှု၊ စစ်လေ့ ကျင့်မှု မပြုလုပ်ဘဲ ဝိဇ္ဇာဓိုရ်ဘုန်းကြီးများကို ပစ်ပုံ ယုံကြည် အားကိုးခဲ့သည်။ ဤအချက်ကို သိသော တူရကီ စစ်ဗိုလ်သည် မြင်းစီးစစ်သား နှစ်ရာမျှဖြင့် ယင်းဘုန်းကြီးကျောင်းတိုက်ကို ဝင်ရောက် တိုက်ခိုက်၍ ဘုန်းကြီးများကို သတ်လိုက်သည်။ နတ်ရုပ်ကြီးများကို ဖျက်ဆီး မီးရှို့လိုက် လေသည်။ ထို့နောက် ဘုရင်ကို သတ်၍ တိုင်းပြည်ကို သိမ်းပိုက်ခဲ့သည်။ ဤတွင် ဝိဇ္ဇာဓိုရ်အမည်ခံ မှော်ဆရာ ဘုန်းကြီးများ အလိမ်ပေါ်ခဲ့သည်။ ဤကား (Supernatural Power) တန်ခိုးကို ဦးစားပေးမိသဖြင့် သာသနာတော် ကွယ်ပျောက်ရုံမျှမက တိုင်းပြည်နှင့် လူမျိုးပါ ဆုံးရှုံးခဲ့ရပုံကို ကျွန်ုပ်တို့ နာကြည်းဖွယ်ရာ သင်ခန်းစာတစ်ခုအဖြစ် မှတ်သားထားသင့်ပုံ ဖြစ် ပေသည်။

ဤသို့လျှင်သာသနာ ၂၅၀၀ ခရီးကို ပြန်လှန်သုံးသပ်၍ သာသနာ တော် တိုးတက်ခြင်း၏ အကြောင်း၊ ဆုတ်ယုတ်ခြင်း၏ အကြောင်းများကို ဝေဖန်စိစစ်ပြီးလျှင် အနာဂတ်သာသနာတော် ဆက်လက်တည်တံ့ သန့် ရှင်း ပြန့်ပွား ထွန်းကားတိုးတက်ရေးအတွက် ဆောင်ရွက်ရမည့်အချက်၊ ရှောင်ရမည့်အချက်များကို ကြိုတင်သတိပြု၊ ကြည့်ရှု၊ လိုက်နာ ကျင့်သုံး ကြရန်မှာ သာသနာ့ဝန်ထမ်း ရဟန်းတော်များနှင့် သာသနာကို ကြည် ညိုသော လူဒါယကာတို့၏ တာဝန်ဖြစ်ကြောင်း သတိပေးရန်အတွက် ဤကျမ်းစာကို ရေးသားရခြင်း ဖြစ်ပါကြောင်း။

မောင်အံ့

# ဒုတိယအကြိမ် ပုံနှိပ်ထုတ်ဝေခြင်း

ဤစာအုပ်ကို ၁၉၇၇ ခုနှစ်၊ ဇူလိုင်လအတွင်းက ယမုံနာစာပေ တိုက်မှ ပထမအကြိမ် ပုံနှိပ်ထုတ်ဝေခဲ့ပါသည်။ ပြည်ထဲရေးနှင့်သာသနာရေး ဝန်ကြီးဌာန၊ ဝန်ကြီး ဗိုလ်မှူးချုပ် စိန်လွင်သည် ထွက်ပေါ်လာသော ဘာသာရေးစာအုပ်မှန်သမျှကို မလွတ်တမ်း ဂရုစိုက် ဖတ်ရှုလေ့ရှိသည့် အတိုင်း ထိုစာအုပ်ငယ်ကိုလည်း ဖတ်ရှုကြည့်ရာ ဗုဒ္ဓသာသနာတော် သမိုင်းတစ်လျှောက်၌ ပေါ်ပေါက်ခဲ့သော ဂိုဏ်းကွဲများ၊ အယူဝါဒကွဲများ အကြောင်း စုံလင်စွာ တွေ့ရသဖြင့် ယင်းစာအုပ်ငယ်ကို လွန်စွာ နှစ်ခြိုက် သဘောကျ သောကြောင့် ယင်းစာအုပ်ငယ်မှာ အများပြည်သူ သိသင့် သိထိုက်သော စာအုပ်ကောင်းတစ်အုပ်ဖြစ်၍ ဈေးနှုန်းသက်သာစွာဖြင့် အများ ပြည်သူ ပြည်သားများ ဖတ်ရှုနိုင်ရေးအတွက် ၎င်းစာအုပ်ကို သာသနာရေးဦးစီးဌာနက ရိုက်နှိပ်ဖြန့်ချိပေးရန် သာသနာရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးကြည်ညွှန့်အား (၂၃၊ ၇၊ ၇၇) နေ့က ညွှန်ကြားခဲ့ ပါသည်။

တစ်ဖန် နိုင်ငံတော်ကောင်စီဝင် ဆရာဦးလှမောင်နှင့် ညွှန်ကြား ရေးမှူးချုပ် ဦးကြည်ညွှန့်တို့က စာရေးသူအား ယင်းစာအုပ်ငယ်၌ မရှင်း လင်းသည့် အချက်များကို ပြုပြင် ရေးသားခိုင်းသဖြင့် ပထမ သင်္ဂါယနာ နှင့် ဒုတိယ သင်္ဂါယနာအခန်းများကို အနည်းငယ်ချဲ့ထွင် ရေးသားလိုက် ပါသည်။ ထို့ပြင် တတိယ သင်္ဂါယနာတင်ပွဲ၌ အရှင်မဟာမောဂ္ဂလိပုတ္တ တိဿ ရဟန္တာမထေရ်ကြီး နှိမ်နင်းပယ်ဖျက်ခဲ့သော ပရဝါဒများသည် ဤခေတ်၊ ဤတိုင်းပြည်တွင် တစ်ဖန်ဆန်းသစ် ခေတ်စားလာပြန်သဖြင့် အဆိုပါ လွဲမှားနေသော ပရဝါဒများမှာ လွန်ခဲ့သော နှစ်ပေါင်း ၂၃၀၀ ကျော်က အပယ်ခံဝါဒ အဟောင်းအဆွေးကြီးများဖြစ်ကြောင်း စာဖတ်

ပရိသတ်ကို သိစေလိုသဖြင့် ကထာဝတ္ထု အဖြေကျမ်းကိုပါ ဖြည့်စွက်ရေးသား၍ နောက်ဆက်တွဲအဖြစ် ထည့်သွင်းလိုက်ပါသည်။ ဤနည်းအားဖြင့် **ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး** ကျမ်းစာမှာ တစ်တွဲ တည်းဖြင့် အပြီးမသတ်နိုင်တော့ဘဲ နှစ်တွဲခွဲ၍ မြန်မာ သီဟိုဠ် ယိုးဒယား စသော ထေရဝါဒ ငါးနိုင်ငံ၏ ဗုဒ္ဓသာသနာတော်သမိုင်းကို ဒုတိယတွဲ အဖြစ် ဆက်လက်ရိုက်နှိပ်ထုတ်ဝေရန် စီစဉ်လိုက်ရပါတော့သည်။

ဤစာအုပ်ဖြစ်မြောက်ရေးအတွက် အဘက်ဘက်မှ အားပေးကူညီကြသော အထက်ဖော်ပြပါ ပုဂ္ဂိုလ်ကြီးများနှင့်တကွ-သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက် ဝန်ထမ်းများအား အတိုင်းမသိ ကျေးဇူးတင်ရှိပါကြောင်းကိုပါ ဖော်ပြအပ်ပါသည်။

ဤစာအုပ်၌ ပါဝင်သော အယူဝါဒရေးရာ ဖော်ပြချက်နှင့် ရှင်းလင်းချက်များ၏ အမှားမှန်မှာ ရေးသူအပေါ်၌သာ လုံးဝ တာဝန်ရှိကြောင်းကိုလည်း ထပ်လောင်းဖော်ပြအပ်ပါသည်။

**မောင်အံ့**

# စတုတ္ထအကြိမ် ပုံနှိပ်ထုတ်ဝေခြင်း



ဗုဒ္ဓဘာသာဝင်တို့သည် မိမိတို့၏ ရှေးဘိုးဘေးဘီဘင်များ လျှောက်လှမ်းခဲ့သည့် သမိုင်းစဉ်ခရီးအကြောင်းကို သိရှိလိုကြသည်၊ လေ့လာသုတေသနပြုလိုကြသည်။ ယင်းဆန္ဒကို ဖြည့်ဆည်းရန်အတွက် ဤကျမ်းကို ရိုက်နှိပ် ထုတ်ဝေရခြင်းဖြစ်ပါသည်။ အိန္ဒိယနိုင်ငံတွင် ဗုဒ္ဓမြတ်စွာ ပွင့်ထွန်းခဲ့ပြီး ဗုဒ္ဓသာသနာတော် စတင်ထွန်းကားခဲ့သည်မှစ၍ ဗုဒ္ဓမြတ်စွာ မဟာပရိနိဗ္ဗာန် စံတော်မူပြီးနောက် သာသနာတွင် ဂိုဏ်းကွဲအမျိုးမျိုး ပေါ်ပေါက်ခဲ့ပုံများ၊ ကမ္ဘာ့ပြည်သူတို့၏ ရာဇဝင်သမိုင်း အစီအစဉ် ပြောင်းလဲဖြစ်ပေါ်မှုအရ သာသနာတော်၏ အနိမ့်အမြင့် အတက်အကျ တည်ရှိခဲ့ပုံများ၊ သံဃာတော် အရှင်မြတ် အဆက်ဆက်တို့၏ ကျေးဇူးကြောင့် မျက်မှောက်ခေတ် ဗုဒ္ဓသာသနာ ထွန်းကားရာ ဒေသများသို့ သာသနာ ပျံ့နှံ့ခဲ့ပုံများ၊ အပါအဝင် ဂိုဏ်းကွဲ ဒေသကွဲသည့်အလျောက် ဝါဒရေးရာ အယူအဆရေးရာ ကွဲလွဲကြပုံများနှင့် ယင်းဝါဒရေးရာ, အယူအဆရေးရာ ကွဲလွဲချက်များကို ကထာဝတ္ထုပါဠိတော်ကျမ်းကြီးနှင့် တိုက်ဆိုင် ညှိနှိုင်းထားသည့် ဝေဖန် ရှင်းလင်းချက်များ စသည် အပြည့်အစုံ ပါဝင်စေ၍ **ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး** ပထမတွဲ၌ ထည့်သွင်း စီစဉ်ထားပါသည်။

ဤ ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး ကျမ်းစာကို -

- ယမုံနာစာပေတိုက်မှ ပထမအကြိမ် အုပ်ရေ ၂၀၀၀၊ (၁၉၇၇-ခု)
- သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်မှ -
  ဒုတိယအကြိမ် အုပ်ရေ ၃၀၀၀၊ (၁၉၇၉-ခု)
- 〃 တတိယအကြိမ် အုပ်ရေ ၆၀၀၀ (၁၉၈၀-ခု)

စုစုပေါင်း အုပ်ရေ ၁၁၀၀၀ ရှိခဲ့ပြီး ဖြစ်ပါသည်။

သို့ပါသော်လည်း လက်ဝယ်မရရှိလိုက်ကြသော အနယ်နယ်အရပ်ရပ်ရှိ သုတေသီ စာဖတ်ပရိသတ်များမှာ လူကိုယ်တိုင်တစ်မျိုး, စာဖြင့်တစ်သွယ် တိုက်တွန်းမှာယူလျက် ရှိပေရာ ယင်းတို့၏ ဆန္ဒကို ဖြည့်ဆည်းလိုပါသော်လည်း များပြားလှသော လုပ်ငန်းတာဝန်များကြောင့် အလှည့်အခွင့်မရရှိခဲ့ပါ။ အလုပ်တာဝန်များ မအားလပ်သည့်ကြားမှပင် သုတေသီစာဖတ်ပရိသတ်တို့၏ လိုလား တောင့်တမှုကို ဖြည့်ဆည်းရန် ဆန္ဒဖြင့်ယခုအခါ ဤစာအုပ်ကို စတုတ္ထအကြိမ်အဖြစ် စက်တင် ပုံနှိပ်အပ်ပါကြောင်း။

မောင်အုံ့

၁၈၊ ၁၊ ၉၀။

# ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး

# မာတိကာ

## ပထမသင်္ဂါယနာ နိဒါန်း (၁ - ၃၄)

## ဒုတိယသင်္ဂါယနာ နိဒါန်း (၃၅ - ၆၃)

## တတိယသင်္ဂါယနာ နိဒါန်း (၆၃ - ၈၄)



## ဝေဘာသိတဂိုဏ်း (၈၅ - ၉၅)



## သုတ္တန္တိက (သစ္စသိဒ္ဓိ) ဂိုဏ်း (၉၆ - ၁၀၉)

## ယောဂါစာရ (ဝိညာဏဝါဒ) ဂိုဏ်း (၁၀၀ - ၁၁၀)

## မဓျမိက (သုညဝါဒ) ဂိုဏ်း (၁၁၀-၁၂၇)



## မဟာယာနဂိုဏ်း (၁၂၈ - ၁၄၅)



## မဟာယာန ဟီနယာန ထေရဝါဒ (၁၄၆ - ၁၄၇)

## တန္တရယာန (၁၄၈ - ၁၇၆)

## မန္တရယာန (၁၇၇ - ၁၈၅)

## အိန္ဒိယပြည်၌ ဗုဒ္ဓသာသနာကွယ်ပုံ (၁၈၆ - ၂၀၁)



## တရုတ်ပြည် ဗုဒ္ဓသာသနာသမိုင်း (၂၀၂ -၂၄၃)

## ဂျပန်ပြည် ဗုဒ္ဓသာသနာသမိုင်း (၂၄ - ၂၇၉)



## နီပေါပြည် ဗုဒ္ဓသာသနာသမိုင်း (၂၈၀ - ၂၈၃)



## တိဗက်ပြည် ဗုဒ္ဓသာသနာသမိုင်း (၂၈၄ - ၃၀၈)

## နောက်ဆက်တွဲ (က)
## ထေရဝါဒနှင့် ဂိုဏ်းကွဲများသမိုင်း (၃၁၃ - ၃၄၂)

## နောက်ဆက်တွဲ (ခ)



## နောက်ဆက်တွဲ (ဂ)



## နောက်ဆက်တွဲ (ဃ)



## နောက်ဆက်တွဲ (င)

## ကထာဝတ္ထုအဖြေ (၃၄၈ - ၄၀၁)

## ကထာဝတ္ထုကျမ်းလာ သကဝါဒနှင့်ပရဝါဒ
## ဝေဖန်ရှင်းလင်းချက် (၄၀၂ - ၆၀၈)

ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး
မာတိကာ ပြီးပါပြီ။



# ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး



**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

## ပဌမ သင်္ဂါယနာ နိဒါန်း

သဗ္ဗညုမြတ်စွာဘုရားသခင် ပရိနိဗ္ဗာန် စံလွန်တော်မူပြီးနောက် ခုနစ်ရက်မြောက်သောနေ့၌ မြတ်စွာဘုရား၏ အလောင်းတော်ကို မီးသင်္ဂြိုဟ်ရန် တင်ထားသော နံ့သာထင်းပုံကို မလ္လာမင်းတို့သည် စတင် မီးရှို့ကြကုန်၏။ နံ့သာထင်းပုံသည် မီးစွဲလောင်ခြင်း မရှိချေ။ ထိုအခါ ကုသိနာရုံပြည်သား မလ္လာမင်းတို့သည် အရှင်အနုရုဒ္ဓါအား ဤသို့ မေးလျှောက်ကုန်၏ -

'အရှင်ဘုရား မြတ်စွာဘုရား၏ ရုပ်ကလာပ်တော်ထားရာ နံ့သာထင်းပုံကို မီးတိုက်ရာ အဘယ့်ကြောင့် မီးစွဲလောင်ခြင်း မရှိပါသနည်း'

ထိုအခါ အရှင်အနုရုဒ္ဓါက -

'အို . . မလ္လာမင်းတို့၊ အရှင်မဟာကဿပသည် ပါဝါပြည်မှ ကုသိနာရုံပြည်သို့ နောက်လိုက် ရဟန်းသံဃာငါးရာနှင့်အတူတကွ ကြွလာလျက် ရှိ၏။ 'အရှင်မဟာကဿပသည် မြတ်စွာဘုရား၏ ခြေတော်ကို ဦးခိုက်၍ ရှိမခိုးရသေးမီ ဤနံ့သာထင်းပုံသည် မီးမလောင်စေသတည်း'ဟု နတ်တို့၏ အလိုဆန္ဒကြောင့် မီးစွဲလောင်ခြင်းမရှိ' ဟု မိန့်တော်မူ၏။

ထိုအခါ အရှင်မဟာကဿပသည် ငါးရာမျှသော တပည့်ရဟန်းပရိသတ်နှင့်အတူ ပါဝါပြည်မှ ကုသိနာရုံပြည်သို့ ကြွလာရာ လမ်းခရီးတွင်

တစ်ခုသော သစ်ပင်ရင်း၌ နားနေတော်မူ၏။ ထိုအခိုက် အဝတ်မဝတ်သော အာဇီဝက တက္ကတွန်းတစ်ယောက်သည် မန္ဒာရဝ နတ်ပန်းကို ထီးသဖွယ် ဆောင်း၍ ကုသိနာရုံဘက်မှ ပါဝါပြည်ဘက်သို့ လာလျက် ရှိ၏။ အရှင်မဟာကဿပသည် ထိုတက္ကတွန်းကို မြင်၍ -

'ငါ့ရှင်၊ ငါတို့ဆရာ မြတ်စွာဘုရားကို သိပါ၏လော'ဟု မေး၏။

ထိုအခါ အာဇီဝကတက္ကတွန်းက -

"ဩော်-သင်တို့ဆရာကို ငါသိပါ၏။ ရဟန်းဂေါတမ ပရိနိဗ္ဗာန်ပြုသည်မှာ ယနေ့ ခုနစ်ရက်ရှိပါပြီ။ ထိုပရိနိဗ္ဗာန်ပြုရာအရပ်မှ ဤမန္ဒာရဝနတ်ပန်းကို အကျွန်ုပ် ယူလာခဲ့ပါသည်'ဟု ဆို၏။

ထိုစကားကို ကြားသောအခါ ရာဂမကင်းသေးသော ရဟန်းတို့သည် မတ်တတ်မှ လဲ၍ လူးလှိမ့် ငိုကြွေးကြကုန်၏။ ရာဂကင်းပြီးသော ရဟန်းတို့သည်ကား 'သင်္ခါရတရားတို့သည် အမြဲမရှိကုန်။ ဤသင်္ခါရတရား၌ မြဲခြင်းသဘောကို အဘယ်မှာ ရနိုင်အံ့နည်း'ဟု အောက်မေ့ ဆင်ခြင်လျက် စိတ်ကို ဖြေ၍ ဓမ္မသံဝေဂ ယူကြကုန်၏။

ထိုအခါ၌ သုဘဒ္ဒမည်သော တောထွက်ရဟန်းကြီးသည် ထိုပရိသတ်၌ ပါဝင်လျက်ရှိ၏။ ထိုရဟန်းကြီး သုဘဒ္ဒသည် -

'ငါ့ရှင်တို့ . . . မငိုကြကုန်လင့်၊ အငိုတိတ်ကြကုန်လော့။ ယခုအခါ ငါတို့သည် ရဟန်းကြီးဂေါတမ၏လက်အောက်မှ ကောင်းစွာ လွတ်မြောက်ကြပေပြီ။ ရဟန်းကြီးဂေါတမသည် ငါတို့ကို အရာရာ၌ ချုပ်ချယ်ခဲ့၏။ ယခုမူကား ငါတို့ပြုလိုရာကို ပြုကြကုန်အံ့၊ မပြုချင်သည်ကို မပြုဘဲ နေကြကုန်အံ့' ဟု ဆို၏။

## မပြေတဲ့ ရန်ငြိုး

တောထွက်ရဟန်းကြီး သုဘဒ္ဒကား အဘယ့်ကြောင့် ဤသို့ ဆိုလေဘိသနည်း။ မြတ်စွာဘုရားအပေါ်၌ ထားခဲ့သော ရန်ငြိုးကို ယခုမှ ဖွင့်ဟ အန်ထုတ်ခြင်းဖြစ်၏။

. သုဘဒ္ဒသည် သာသနာ့ဘောင်မဝင်မီ လူဝတ်ကြောင်ဘဝက ဆံသ မုတ်ဆိတ်ရိတ်ပေးသော ဆတ္တာသည်အလုပ်ကို လုပ်၏။ သားနှစ်ယောက် လူပျိုပေါက် အရွယ်ရောက်ပြီးမှ မယားသေ၍ သားနှစ်ယောက်ကို ရှင် သာမဏေဝတ်စေပြီး မိမိကိုယ်တိုင် ရဟန်းဘဝ ဝင်ရောက်လာခဲ့သည်။ သား-ရှင်ပြု အဖေ-ပဉ္စင်းခံပွဲ ပြုလုပ်ခဲ့သည်။

ထိုရဟန်းကြီးသည် မိမိနေရာ အာတုမာတိုင်းပြည်သို့ မြတ်စွာ ဘုရား သခင် ဒေသစာရီ လှည့်လည်မည့်အကြောင်းကို ကြားသိလေ သည်။ မြတ်စွာဘုရားနှင့် နောက်ပါသံဃာ ၁၂၅၀ ကို သီးစုံထောပတ် ဒံပေါက်ဆွမ်း ကပ်ရန် အကြံဖြစ်ပေါ်လေသည်။ ရဟန်းကြီးသည် သား ငယ် ရှင်သာမဏေနှစ်ယောက်ကို သင်တုန်းဓား အပ်၍ အိမ်ပေါက်စေ့ မုတ်ဆိတ်ဆံသ အလုပ်ကို လုပ်စေသည်။ ဆံသလုပ်အားခဖြင့် ဘုရား အမှူးရှိသော သံဃာတော်များအား ဆွမ်းကပ်မည့်အကြောင်းကို ပြော ပြော၍ အလှူခံလေသည်။ ထောပတ် တင်လဲ ဆန် ရသမျှ ပစ္စည်းဝတ္ထု များကို အလှူခံသည်။ အချို့အိမ်မှ လုပ်အားခ ဆံသခမျှသာ ရ၍ ဗုဒ္ဓ ဘာသာဝင် သဒ္ဓါတရား ထက်သန်သော အိမ်များမှ လှူဖွယ်ဝတ္ထု အများ အပြား ရရှိသည်။ ဤနည်းဖြင့် စုဆောင်းလာခဲ့ရာ တစ်သိန်းဖိုးခန့်ရှိသော ဆီ ဆန် ထောပတ် တင်လဲ အသပြာငွေတို့ကို ရရှိလေသည်။

မြတ်စွာဘုရားသခင် အာတုမာပြည်သို့ ရောက်တော်မူလာသောအခါ သုဘဒ္ဒရဟန်းကြီးသည် ရွာထဲ ဝင်၍ ချက်ပြုတ်တတ်သော ယောကျ်ား တို့ကို လုပ်အားပေး ဖိတ်ခေါ်ခဲ့သည်။ သုဘဒ္ဒရဟန်း၏ ကျောင်းသခ်မ်း၌ အိုးကြီး အိုးငယ် အသွယ်သွယ်ဖြင့် သစ်သီးမျိုးစုံ, ငါးအမဲမျိုးစုံ ရောပွမ်း၍ နမသလေးဆန်မွှေးတို့ကို ဒံပေါက်ဆွမ်းအဖြစ် ချက်ပြုတ်နေလေသည်။ တောထွက်ရဟန်းကြီးကား မည်းနက်သော သင်္ကန်းကြီးကို ဝတ်၍ မီးဖို ချောင်ဝင်လိုက် ထွက်လိုက်ဖြင့် တစ်ညလုံး စီမံချက်ပြုတ်နေရာ ဖတ်ဖတ် မောနေလေပြီ။ တစ်သိန်းတန်သော သားပွမ်းထမင်းဖြစ်၍ အာတုမာ မြို့တွင် မြတ်စွာဘုရားအတွက် အကောင်းဆုံး ဆွမ်းတစ်နပ်ဟု မှတ်တမ်း.

တင်ခံရမည်ကို တွေး၍ တွေး၍ သုဘဒ္ဒရဟန်းကြီးသည် ကြည်နူးလျက် မောရမှန်း ပန်းရမှန်းပင် မသိချေ။

နံနက်မိုးသောက် အလင်းရောက်သောအခါ မြတ်စွာဘုရားသခင်သည် နောက်ပါရဟန်းသံဃာများ ခြံရံလျက် ကျောင်းတိုက်ကြီးအဝရှိ သုဘဒ္ဒထံ ဆွမ်းမရပ်ဘဲ အာတုမာမြို့ထဲသို့ ရှေ့ရှု ဆွမ်းခံကြွတော်မူလေသတည်း။ ထိုအခါ သုဘဒ္ဒရဟန်းကြီး၏တပည့် လုပ်အားပေး လူငယ်များက သုဘဒ္ဒါရဟန်းကြီးထံ ပြေးတည့်၍ -

'မြတ်စွာဘုရားရှင်မှူကား မြို့ထဲ ဆွမ်းခံကြွသွားပြီ၊ ကိုယ်တော်ကြီး ဆွမ်းကို မည်သူ့အတွက် ချက်ထားသနည်း'ဟု မေးကြလေသည်။

ထိုအခါ မီးဖိုချောင်၌ အလုပ်ရှုပ်နေသော သုဘဒ္ဒ ရဟန်းကြီးသည် ညဦးက ဝတ်ထားသော သင်္ကန်းမည်းညစ်ညစ်ဖြင့် ယောက်မတစ်ဘက်၊ ဒွန်းတစ်ဘက် ကိုင်ကာ မြတ်စွာဘုရားရှင်ရှေ့သို့ အလျင်အမြန် ပြေးသွား၍ ပြဟ္မာမင်းကြီး၏ တင့်တယ်စံပယ်ဟန်ဖြင့် ဒူးတစ်ဖက်ကို မြေမှာထောက်လျက် လက်အုပ်ချီ၍ -

'မြတ်စွာဘုရား၊ တပည့်တော်၏ ဆွမ်းကို ခံယူတော်မူပါဘုရား' ဟု လျှောက်ထားလေ၏။

မြတ်စွာဘုရားရှင်သည် သုဘဒ္ဒရဟန်းကြီး၏ ဆွမ်းဖြစ်ပေါ်လာပုံကို အစအဆုံး မေးစိစစ်တော်မူပြီးလျှင် 'တရားနှင့်မညီသော ဆွမ်းဖြစ်သည်' ဟု ရှုတ်ချကဲ့ရဲ့တော်မူ၍ သုဘဒ္ဒ၏ဆွမ်းကို မခံယူဘဲ အာတုမာမြို့တွင်းသို့သာလျှင် ဆွမ်းခံကြွလေ၏။

သုဘဒ္ဒရဟန်းကြီးကား ရင်ကျိုးလေပြီ။ အကောင်းဆုံး ဆွမ်းဒါယကာအဖြစ် ချီးကျူးခံရလိမ့်မည်ဟု မျှော်လင့်ထားရာ ယခုမူ မတရားသောဆွမ်းဟု ကဲ့ရဲ့ ရှုတ်ချခံရလေပြီ။ သုဘဒ္ဒရဟန်းကြီးသည် ရင်နင့်အောင်ခံစားရ၍ တွေးလိုက်တိုင်း မြတ်ဗုဒ္ဓအပေါ် အခဲမကျေ ဖြစ်ရလေသည်။

'အလုံးစုံကို သိမြင်တော်မူသည့် သဗ္ဗညုဘုရားဟု ဝန်ခံထားလျက် ငါ ဆွမ်းချက်သည်ကို မသိဘူးလေလော။ အကယ်၍ ငါ၏ဆွမ်းကို မခံယူလိုပါမူ ညနေကတည်းက တစ်ယောက်ယောက်လွှတ်ပြီး ပြောသင့်ပါ၏။ ယခုမူ ငါစုဆောင်းခဲ့သမျှ ပစ္စည်းဥစ္စာများအချည်းနှီး ဆုံးရှုံးရလေပြီ။ ကိုယ့်ပစ္စည်း ကိုယ်ထိုင်စားနေလျှင်တစ်သက်လုံးပင် စားလောက်လိမ့်မည်။ ယခုမူ ဤဆွမ်းများကိုဂေါတမဘုရားက ဖျက်ဆီးပစ်ခဲ့ပြီ။ ဂေါတမဘုရားကား ငါ၏ အကျိုးစီးပွားမဲ့ကိုသာ အလိုရှိဘိ၏'။

ဤသို့ တစိမ့်စိမ့်တွေးကာ မြတ်စွာဘုရားအပေါ်၌ ရန်ငြိုးဖွဲ့ခဲ့၏။ မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်ကမူ မြတ်ဗုဒ္ဓ၏ အရှိန်အဝါကိုကြောက်ရွံ့၍ နှုတ်မှ တစ်စုံတစ်ရာ ထုတ်ဖော် မပြောရဲချေ။ အမျက်ဒေါသကို ကြိတ်မှိတ် အောင့်အည်း မျိုသိပ်ခဲ့ရသည်။ ယနေ့ ဤအချိန်တွင်မှ 'မြတ်စွာ 'ဘုရား ပရိနိဗ္ဗာန်စံတော်မူပြီ'ဟု ကြားလိုက်ရသည်နှင့်တစ်ပြိုင်နက် မပြေနိုင်သည့် ရန်ငြိုးစကားကို ဝမ်းသာအားရ ဖွင့်ဟအန်ထုတ်ခြင်းဖြစ်၏။

## သင်္ဂါယနာတင်ရန် အကြံအစည်

တောထွက်ကြီး သုဘဒ္ဒရဟန်း၏ စကားလုံးများသည် အရှင်မဟာကဿပ၏ အသည်းနှလုံးကို လှံအစင်း တစ်ရာဖြင့် ထိုးဆွဘိသကဲ့သို့ဖြစ်ရ၏။ နွေလယ်၌ မိုးတိမ်မမြင် မထစ်ချုန်းဘဲ အခြောက်တိုက် မိုးကြိုးပစ်ခံရသကဲ့သို့ မမျှော်လင့်သော စကားများ ကြားရ၍ အံ့သြတုန်လှုပ်တော်မူမိလေသည်။

'သြော် . . . ပြောမှ ပြောရက်ပလေ၊ မြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်စံသည်မှာ ခုနစ်ရက်မျှသာ ရှိသေး၏။ ရွှေအဆင်းကဲ့သို့ ဝါဝင်းနေသောအလောင်းတော် ရုပ်ကလာပ်ကြီး ယနေ့အထိ ထင်ရှားရှိနေပါသေး၏။ မြတ်စွာဘုရားသခင် ပင်ပန်းကြီးစွာ ကြိုးစားအားထုတ်၍ တည်ထောင်

ခဲ့သော သာသနာဖြစ်ပါလျက် သာသနာ့ရန်ဆူးရန်ငြောင့် ပေါ်ပေါက်လာပုံမှာ မြန်ဆန်လှချေ၏တကား။ သာသနာ့ အလေ့အမှား၊ သာသနာ့ အမှိုက်သရိုက်တို့သည် အလွန်လျင်မြန်စွာ ပေါ်ပေါက်လာချေဘိ၏။ ဤရဟန်းယုတ်သည် ကာလရှည်ကြာ၍ သဘောတူရာ အဖော်အပေါင်းကို ရခဲ့သော် ဗုဒ္ဓသာသနာတော်ကို ဆုတ်ယုတ်စေနိုင်ရာ၏' ဟုလည်း ဓမ္မသံဝေဂ ဖြစ်တော်မူ၏။

ထို့နောက် အရှင်မဟာကဿပထေရ်သည် ဤသို့ အကြံဖြစ်တော်မူ၏ -

"အကယ်၍ ငါသည် ဤတောထွက်ရဟန်းကြီးကို သက်နှင်းချွတ် ပိတ်ဖြူပတ်ကာ လူဝတ်လဲစေ၍ သာသနာ့ဘောင်မှ နှင်ထုတ်ငြားအံ့၊ ဂေါတမဘုရား၏ အလောင်းတော်ပင် မီးသဂြိုဟ်မှု မပြုရသေးပါဘဲလျက် ဂေါတမဘုရား၏ တပည့်များသည် ငြင်းခုံခိုက်ရန် ဖြစ်နေကုန်ကြပြီဟု လူအများကဲ့ရဲ့စရာ ဖြစ်ချိမ့်မည်။ အခိုက်အတန့်အားဖြင့် ဆိုင်းငံ့ထားဦးအံ့။ မြတ်စွာဘုရား ဟောတော်မူခဲ့သော တရားဒေသနာတော်တို့သည် မသီကုံးရသေးသော ပန်းပုံကြီးသဖွယ် ဖြစ်နေသေး၏။ အရပ်လေးမျက်နှာတို့မှ လေတိုက်ခတ်လာပါမူ ပန်းပွင့်များ ဖရိုဖရဲ ပြန့်ကြလွင့်ပါ ပျောက်ပျက်ကုန်လေရာ၏သို့၊ ထိုနည်းအတူ အချိန်ကာလ ကြာညောင်းသောအခါ ဝိနည်းသိက္ခာပုဒ်များမှ သိက္ခာပုဒ် တစ်ခုချင်း နှစ်ခုချင်း ပျောက်ပျက်လေရာ၏။ သုတ္တန်တရား, အဘိဓမ္မာတရားတို့သည်လည်း တဖြည်းဖြည်း ပျောက်ပျက်လေရာ၏။ ထိုအခါ ဗုဒ္ဓသာသနာတော် ကွယ်ပသည် မည်၏။ ဤသို့ သာသနာတော် မကွယ်ပစေရန် ဓမ္မနှင့်ဝိနယကို သင်္ဂါယနာတင်အံ့၊ ထိုသို့ သင်္ဂါယနာတင်ပြီးသောအခါ၌မူ ဓမ္မနှင့် ဝိနယတို့သည် ခိုင်ခံ့သောကြိုးဖြင့် သီကုံးထားသော ပန်းပွင့်တို့ကဲ့သို့ ခိုင်မြဲလတ္တံ့။ ဗုဒ္ဓသာသနာတော် အဓွန့်ရှည်စွာ ခိုင်ခံ့တည်မြဲစေရန် သင်္ဂါယနာတင်ခြင်းအမှုကို အလွဲမသွေ ပြုရပေမည်။

ဤကြီးလေးသော တာဝန်ကြီးကို ငါကိုယ်တိုင် ထမ်းဆောင်ရမည့်အရေးကို မြော်မြင်တော်မူသောကြောင့်သာလျှင် ငါ ရဟန်းပြု၍ မြတ်ဗုဒ္ဓထံသို့ ရည်မှန်းထွက်ခွာလာစဉ်က မြတ်စွာဘုရား သည် ခြောက်မိုင် (သုံးဂါဝုတ်)ခန့် ခရီးကို ခြေလျင်ကြွ၍ ငါ့ကို ခရီးဦးကြိုပြုခဲ့၏။ ဩဝါဒသုံးပါးဖြင့် မြတ်စွာဘုရားကိုယ်တိုင် ငါ့ကို ရဟန်းပြုပေးခဲ့၏။ အကျင့်သိက္ခာ ဖြူစင်သန့်ရှင်းမှု၌ ငါ့ကိုသာလျှင် စံပြအဖြစ်ထား၍ ဟောကြားတော်မူခဲ့၏။ မြတ်ဗုဒ္ဓသည် မိမိဝတ်ရုံသော နှစ်ထပ်သင်္ကန်းကြီးကို ငါ့အား ချီးမြှင့်ပေးသနားတော်မူခဲ့၏။ ဤနှစ်ထပ်သင်္ကန်းကြီးကား အဓမ္မဝါဒီတို့ကို ချေမှုန်းတိုက်ခိုက် သောတရားသောစစ်ပွဲ၌ ဘုရားဝတ်ဆင်ခဲ့သော ချပ်ဝတ်တန်ဆာဖြစ်ပေသည်။ ငါသည်လည်း ထိုချပ်ဝတ်တန်ဆာကို ဝတ်၍ တရားသောစစ်ပွဲ၌ အောင်ပွဲခံအံ့။ ငါကဲ့သို့သော ရဟန်းထင်ရှားရှိပါလျက် ဤသုဘဒ္ဒ ရဟန်းယုတ်သည် ကြီးပွားတိုးတက်မှုကို မရစေသင့်။

သူယုတ်မာတို့၏တရား မထွန်းကားမီ၊ သူတော်ကောင်းတို့၏ တရားဓမ္မ တားမြစ်ပိတ်ပင်ခြင်း မခံရမီ၊ အကျင့်ပျက်မှု စည်းကမ်းမဲ့မှုများ မထွန်းကားမီ၊ အကျင့်မြတ် ဝိနည်းတရား တားမြစ် ပိတ်ပင်ခြင်း မခံရမီ၊ အဓမ္မဝါဒီ ရဟန်းဆိုးများ အင်အားမများမီ၊ ဓမ္မဝါဒီ ရဟန်းကောင်းများ အင်အားမနည်းမီ၊ အကျင့်ပျက် ရဟန်းဆိုးများ အင်အားမများမီ၊ အကျင့်သိက္ခာဖြူစင်သော ရဟန်းကောင်းများ အင်အားမနည်းမီ ဓမ္မနှင့်ဝိနယကို သင်္ဂါယနာတင်ကြအံ့။ ထိုသို့ သင်္ဂါယနာ တင်ပြီးသောအခါ၌ ရဟန်းဆိုးများ ခေါင်းထောင်နိုင်တော့မည် မဟုတ်သဖြင့် သာသနာတော် စည်ပင်ပြန့်ပွားလတ္တံ့"ဟု အကြံဖြစ်တော်မူ၏။

## သာဓုကီဠနသဘင်

ထိုသို့ အကြံအစည်ဖြစ်တော်မူသည်ကို ထုတ်ဖော်ပြောကြားတော်မမူဘဲ တပည့်ရဟန်းပရိသတ်ကို တရားဓမ္မဟောပြ၍ သောကမီးငြိမ်း

အပူဇာတ် သိမ်းစေပြီးလျှင် ကုသိနာရုံပြည်သို့ ဆက်လက်ကြွချီတော်မူလေသည်။ ကုသိနာရုံပြည်သို့ ရောက်သောအခါ မြတ်စွာဘုရားရှင်၏ အလောင်းတော်တင်ထားသော နံ့သာထင်းပုံကို လက်အုပ်ချီလျက် လက်ယာရစ် သုံးပတ်လှည့်လည်ပြီး မြတ်စွာဘုရား၏ ခြေတော်အစုံကို ဦးခိုက်ရိုကျိုး လက်စုံမိုး၍ ရှိခိုးကန်တော့လေသည်။

ထိုသို့ အရှင်မဟာကဿပထေရ်နှင့် နောက်တော်ပါ တပည့်ရဟန်းငါးရာတို့ ရှိခိုးကန်တော့ပြီးသည်နှင့် တစ်ပြိုင်နက် အလောင်းတော်တင်ထားရာ နံ့သာထင်းပုံသည် အလိုအလျောက် မီးထတောက်လေတော့သည်။ နံ့သာထင်းပုံကို ခုနစ်ရက်လုံးလုံး မီးလောင်ကျွမ်းလေရာ မြတ်စွာဘုရား၏ ရုပ်ကလာပ်အလောင်းတော်သည် မီးသွေးမဖြစ်၊ ပြာမဖြစ်မူ၍ ဓာတ်တော်များအဖြစ်သာ တည်ရှိလေ၏။ အလောင်းတော်ကို ရစ်ပတ်ထားသော ပုဆိုးသစ် အထပ်ငါးရာတို့တွင် အလယ်၌ရှိသော ၄၉၈ ထပ်သာ မီးလောင်ကျွမ်း၍ အပြင်ဆုံးထပ်နှင့် အတွင်းဆုံးထပ်ဖြစ်သော ပုဆိုးသစ်နှစ်ထည်ကား မီးလောင်ကျွမ်းမှု မရှိ၊ ပကတိအတိုင်းသာ ရှိလေသည်။

မလ္လာမင်းတို့သည် နံ့သာရေတို့ဖြင့် မီးငြိမ်းပြီးနောက် ဓာတ်တော်မွေတော် ရှစ်စိတ် (နှစ်တင်း)ကို ရတနာစီခြယ်သော ကြုတ်၌ ထည့်၍ ဓာတ်တော်ကြုတ်ကို ဓား လှံ လေးမြားစွဲကိုင်သော စစ်သည်တော်တို့ဖြင့် အထပ်ထပ်ဝန်းရံ စောင့်ရှောက်ထားကြလေသည်။ ဓာတ်တော် မွေတော်တို့ကို ပန်းနံ့သာ အတီး အမှုတ် အဆိုအကတို့ဖြင့် ခုနစ်ရက်တိုင်တိုင် သာဓုကီဠနသဘင် ပူဇော်ပွဲကြီး ကျင်းပလေသည်။

## ဓာတ်တော်ဝေခန်း

ကုသိနာရုံပြည်၌ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူကြောင်းကို ကြား သိရသောအခါ မဂဓတိုင်း ရာဇဂြိုဟ်ပြည့်ရှင် အဇာတသတ်မင်း၊ ဝေသာလီပြည် လိစ္ဆဝီမင်းများ၊ ကပိလဝတ်ပြည် သာကီဝင်မင်းများ၊ အလ္လကပ္ပတိုင်း ဗုလိမင်းများ၊ ရာမရွာကို အုပ်စိုးသော ကြာဟ္မဏပုဏ္ဏား၊

ဝေဋ္ဌဒီပကတိုင်းကို အစိုးရသော ပုဏ္ဏား၊ ပါဝါပြည် မလ္လာမင်းများ - ဤခုနစ်ပြည်ထောင်သော မင်းတို့သည် ကုသိနာရုံပြည် မလ္လာမင်းတို့ထံ တမန်စေလွှတ်၍ ဓာတ်တော် မွေတော်များကို ခွဲဝေပေးရန် တောင်းဆိုကြကုန်၏။

ကုသိနာရုံပြည်ရှိ မလ္လာမင်းတို့သည်လည်း "ဓာတ်တော် မွေတော်တို့ကို ခွဲမပေးနိုင်။ မြတ်စွာဘုရားသည် ငါတို့တိုင်းပြည်၌သာ ပရိနိဗ္ဗာန်စံခြင်းဖြစ်၍ ဓာတ်တော်တို့ကို ငါတို့သာပိုင်သည်'ဟု ဆိုကြကုန်၏။ ထိုအခါ ခုနစ်ပြည်ထောင်မင်းတို့သည် စစ်အင်အား အပြည့်အစုံဖြင့် ချီတက်လာကြ၍ ဓာတ်တော်များကို တိုက်ခိုက်လုယူရန် စီစဉ်ကြကုန်၏။

ထိုသို့ ကုသိနာရုံ မလ္လာမင်းတို့သည် ခုနစ်ပြည်ထောင်မင်းတို့နှင့် စစ်ခင်းရန် ပြင်ဆင်နေစဉ် ထိုမင်းအားလုံးတို့ကို ငယ်စဉ်က ပညာသင်ပေးရသော ဆရာ ဒေါဏပုဏ္ဏားကြီးသည် ကြားဝင် ဖျန်ဖြေ စေ့စပ်ပေး၍ ရှစ်ပြည်ထောင်မင်းတို့ကို ဓာတ်တော် တစ်စိတ်စီ ဆရာဒေါဏပုဏ္ဏားကြီးကိုယ်တိုင် ဝေငှပေးလေ၏။ ထိုသို့ ရရှိသော ဓာတ်တော်တို့ကို ရှစ်ပြည်ထောင် မင်းတို့သည် အသီးအသီး စေတီတည်ထား ကိုးကွယ်ကြလေသည်။

ဓာတ်တော်ကို ဝေဖန်သော ဆရာဒေါဏပုဏ္ဏားမှာ ရတနာစီခြယ်သော ဓာတ်တော်ခြင်ခွက်ကို ယူ၍ ကိုးကွယ်လေ၏။ ဓာတ်တော်ဝေဖန်ပြီးသည့်နောက်မှ ရောက်လာသော ပိပ္ပလိဝနနေ မောရိယမင်းတို့ကား အလောင်းတော်ကို မီးသင်္ဂြိုဟ်ရာဌာနမှ စန္ဒကူးမီးသွေးကို ယူ၍ စေတီတည်ထား ကိုးကွယ် ပူဇော်ကြရလေ၏။

စွယ်တော်လေးဆူတို့တွင် လက်ယာအထက်စွယ်တော်ကား သိကြားပြည်၊ လက်ယာ အောက်စွယ်တော်ကား နဂါးပြည်၊ လက်ဝဲ အထက်စွယ်တော်ကား ကာလိင်္ဂရာဇ်ပြည်၊ လက်ဝဲ အောက်စွယ်တော်ကား ဂန္ဓာလရာဇ်ပြည်သို့ ရောက်ရှိသွားလေသည်။

## သင်္ဂါယနာတင်မည့်ပုဂ္ဂိုလ် ရွေးချယ်ခြင်း

မြတ်စွာဘုရားသခင်သည် ကဆုန်လပြည့်နေ့နံနက် အရုဏ်တက်ချိန်၌ ပရိနိဗ္ဗာန်စံတော်မူရာ သရီရရုပ်အလောင်းတော်ကို ပူဇော်ပွဲ ခုနစ်ရက်၊ နံ့သာထင်းပုံကို မီးလောင်ကျွမ်းရာ ခုနစ်ရက်၊ ဓာတ်တော်ပူဇော်ပွဲ ခုနစ်ရက်အားဖြင့် စုစုပေါင်း ၂၁ ရက်မြောက်သောနေ့၌ ဓာတ်တော် ဝေပွဲပြီးဆုံး၏။ ထို့ကြောင့် ဓာတ်တော်ဝေသောနေ့သည် နယုန်လဆန်း ၅ ရက်နေ့ ဖြစ်လေသည်။

နယုန်လဆန်း ၅ ရက်နေ့ ဓာတ်တော်ဝေပွဲအပြီး ကုသိနာရုံပြည်၌ စည်းဝေးကြွရောက်လာကုန်သော ရဟန်းသံဃာတို့ကား မရေမတွက်နိုင်များလှစွာ၏။ ထိုရဟန်းများစွာတို့အနက် ခေါင်းဆောင်ဖြစ်သော သံဃာ့ထေရ် ခုနစ်သိန်းကို စည်းဝေးစေလျက် အရှင်မဟာကဿပမထေရ်သည် ရဟန်းကြီး သုဘဒ္ဒ၏ ရိုင်းပျသော စကားကို ပြန်လည်မိန့်ကြား၍ သာသနာအခွန့်ရှည်စွာတည်နေရန် သင်္ဂါယနာတင်ခြင်းကို မလွှဲမသွေ ပြုသင့်ကြောင်း စသည်ဖြင့် မိမိအကြံအစည် ရည်ရွယ်ချက် လုပ်ငန်းစဉ်များကို ရှင်းပြလျက် သင်္ဂါယနာတင်ကြဖို့အရေး တိုက်တွန်း နှိုးဆော်တော်မူ၏။ ထိုအစည်းအဝေး၌ရှိသော သံဃာတော်ခုနစ်သိန်းသည် သင်္ဂါယနာတင်ကြရန် သဘောတူညီကြ၍ သင်္ဂါယနာတင်ပွဲ၌ ပါဝင်ရွက်ဆောင်နိုင်မည့် ရဟန်းများကို အရှင်မဟာကဿပကိုယ်တိုင် ရွေးကောက်တော်မူပါရန် တောင်းပန်ကြကုန်၏။

ထိုသို့ သံဃာ့အစည်းအဝေးကြီး၏ တာဝန်ပေးချက်အရ အရှင်မဟာကဿပထေရ်သည် ပိဋကသုံးပုံဆောင် ပုထုဇဉ်ရဟန်း၊ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရိုးရိုး (သုက္ခဝိပဿက) ရဟန္တာပုဂ္ဂိုလ်များကို ရွေးကောက်တော်မမူဘဲ ပိဋကသုံးပုံဆောင် ဆဋ္ဌဘိညာ၊ ပဋိသမ္ဘိဒါပတ္တရဟန္တာပုဂ္ဂိုလ် ၄၉၉ ပါးကိုသာ သင်္ဂါယနာတင်ပွဲ၌ ပါဝင်ရန် ရွေးကောက်တော်မူ၏။ များသောအားဖြင့် မြတ်စွာဘုရားရှင်ကိုယ်တော်တိုင် ဧတဒဂ် (အမြတ်ဆုံး) အရာ ထားတော်မူသော ရဟန္တာထေရ်ကြီးများကိုသာ ရွေးချယ်တော်မူ၏။

သင်္ဂါယနာတင်ပွဲ၌ ပါဝင်မည့် ပုဂ္ဂိုလ်ငါးရာ ပြည့်အောင် မရွေးဘဲ တစ်ပါးလျှော့ထားခြင်းမှာ အရှင်အာနန္ဒာကို ရွေးချယ်လိုသောကြောင့် ဖြစ်၏။ ထိုအချိန်က အရှင်အာနန္ဒာသည် ပိဋကသုံးပုံဆောင် ပုဂ္ဂိုလ်ဖြစ်သော်လည်း သေက္ခပုဂ္ဂိုလ်အဆင့်မျှသာ ရှိသေး၏။ ရဟန္တာအဖြစ်သို့ မရောက်သေးချေ။ သံဃာတော်ခုနစ်သိန်းတွင် ဆဠဘိညာ၊ ပဋိသမ္ဘိဒါပတ္တ၊ ပိဋကသုံးပုံဆောင် ရဟန္တာထေရ်ကြီးများ ထောင်သောင်းချီ၍ ကျန်ရှိပါသေးလျက် သေက္ခပုဂ္ဂိုလ်မျှသာဖြစ်သော အရှင်အာနန္ဒာကို ရွေးကောက်လိုက်ပါက မျက်နှာလိုက်သည်၊ ဘက်လိုက်သည်ဟု မသိနားမလည်သူတို့ ကဲ့ရဲ့စရာဖြစ်မည်စိုးသောကြောင့် အရှင်အာနန္ဒာကို ရွေးကောက်တော်မမူချေ။ အမှန်စင်စစ် အရှင်အာနန္ဒာမပါဘဲ သင်္ဂါယနာတင်ရန်မှာ မဖြစ်နိုင်ချေ။

အကြောင်းမူ အရှင်အာနန္ဒာသည် မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်က မြတ်စွာဘုရား နောက်တော်က အရိပ်ပမာ ထက်ကြပ်မကွာ လိုက်ပါလျက် ဘုရားဟောထရားတော် ဓမ္မက္ခန္ဓာ ၈၄၀၀၀ ကို မြတ်စွာဘုရား မျက်မှောက်တော်၌ မြတ်စွာဘုရားထံမှ ကိုယ်တိုင်ကိုယ်ကြပ် ကြားနာ သင်ယူ မှတ်သားခဲ့သော ပုဂ္ဂိုလ်ထူး ဖြစ်လေသည်။ ထို့ကြောင့် အရှင်အာနန္ဒာကို သင်္ဂါယနာတင်ရာ၌ ပါဝင်စေလို၍ ငါးရာအပြည့် မရွေးဘဲ တစ်ပါးလျှော့ ရွေးကောက်တော်မူလေသည်။ ငါးရာပြည့်ရန် လိုနေသော တစ်ပါးအတွက် ထိုအစည်းအဝေးရှိ သံဃာ့ထေရ်များက အရှင်အာနန္ဒာကို ရွေးချယ်ပါရန် တောင်းပန်ကြကုန်၏။ ထိုသံဃာ့ပရိသတ်၏ တောင်းပန်ချက်အရ အရှင်အာနန္ဒာကို ရွေးချယ်တော်မူရာ မထေရ်ငါးရာ ပြည့်လေပြီ။

## ကုသိနာရုံမှ ရာဇဂြိုဟ်သို့

ထို့နောက် သင်္ဂါယနာတင်ရန်နေရာကို ရွေးချယ်ကြရာ ရာဇဂြိုဟ်မြို့ကား ကျောင်းတိုက်အများအပြားလည်း ရှိ၏၊ ပစ္စည်းလေးပါး ထောက်

ပုံနိုင်မည့် ပုဂ္ဂိုလ်လည်း များပြား အားကောင်း၏။ ရာဇဂြိုဟ်ပြည်၌ သင်္ဂါယနာတင်ပွဲ ကျင်းပမည်ဖြစ်၍ သင်္ဂါယနာတင် မထေရ်အရှင် ငါးရာမှတစ်ပါး အခြားရဟန်းများသည် ရာဇဂြိုဟ်မြို့၌ ဝါဆိုဝါကပ်ခြင်း မပြုရ။ အကြောင်းမူ - ဤသင်္ဂါယနာတင်ပွဲသည် ရက်ပေါင်း လပေါင်း များစွာ ကြာရှည် လုပ်ဆောင်ရမည်ဖြစ်၍ သဘောမတူသော ရဟန်း တစ်ပါးပါးသည် သံဃာ့အလယ်သို့ ဝင်၍ နှောင့်ယှက် ဆန့်ကျင်ဘက် ပြု ကောင်း ပြုလေရာ၏။

ထို့ကြောင့် ရာဇဂြိုဟ်မြို့၌ သင်္ဂါယနာတင် မထေရ်ငါးရာမှတစ်ပါး အခြားရဟန်းများ ဝါမဆိုရဟု အရှင်မဟာကဿပသည် ဉတ်ကမ္မဝါစာဖြင့် ကြေညာတားမြစ်တော်မူ၏။

ဝါဆိုရန် တစ်လကျော်ကျော်မျှသာ လိုတော့သဖြင့် အရှင်မဟာကဿပထေရ်သည် သင်္ဂါယနာတင်ပွဲအတွက် ရွေးချယ်ထားသော ရဟန္တာငါးရာအနက် တစ်ဝက်သော ရဟန္တာတို့ကို ဦးဆောင်၍လည်းကောင်း၊ အရှင်အနုရုဒ္ဓါထေရ်သည် ကျန်တစ်ဝက်သော ရဟန္တာတို့ကို ဦးဆောင်၍ လည်းကောင်း ကုသိနာရုံပြည်မှ ၂၅ ယူဇနာ ကွာသော ရာဇဂြိုဟ် ပြည်သို့ ခရီးတစ်ကြောင်းစီ ကြွချီတော်မူကြလေသည်။ အရှင်အာနန္ဒာ မထေရ်သည်မူကား တပည့်ရဟန်းတော် ငါးရာနှင့်တကွ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်ကြီးကို ပြုပြင်ပြီးနောက် ရာဇဂြိုဟ်ပြည်သို့ တစ်ပါးတည်း ကြွတော်မူ၏။ အရှင်ပုဏ္ဏထေရ်သည်ကား နောက်ကျ၍ ရောက်လာသော ရဟန်းပရိသတ်, လူပရိသတ်အား တရားဓမ္မဟောပြ နှစ်သိမ့်ရန် ကုသိနာရုံပြည်၌ တပည့်ရဟန်း ခုနစ်ရာနှင့်တကွ နေရစ်၍ ဝါဆိုခါနီးမှ ရာဇဂြိုဟ်ပြည်သို့ ကြွတော်မူ၏။

"မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီ"ဟု ကြားရသောအခါ ဇမ္ဗူဒီပါတစ်ကျွန်းလုံးရှိ ရဟန်းတော်အားလုံးသည် ပရိနိဗ္ဗာန်စံရာ ကုသိနာရုံပြည်သို့ တစ်ပါးမကျန် သွားရောက်ဖူးမြော်ကြလေသည်။ ရာဇဂြိုဟ်ပြည်ရှိ တစ်ဆယ့်ရှစ်ရပ်သော ကျောင်းတော်ကြီးများသည်လည်း ရဟန်းတော်များ တစ်ပါးမကျန် ကုသိနာရုံပြည်သို့ ကြွသွားလေရာ ပြုပြင်ထိန်းသိမ်း

စောင့်ရှောက်မည့်သူ မရှိသဖြင့် ဖုန့်အထပ်ထပ် အမှိုက်သရိုက်များ ဖုံးလွှမ်းနေ၏၊ ပိုးရွ ခြပုန်းများ ကိုက်သဖြင့် ကျိုးပဲ့ပေါက်ပြဲ ပျက်စီးလျက် ရှိကြ၏။

ရာဇဂြိုဟ်ပြည်တွင် သင်္ဂါယနာတင် ထေရ်အရှင်ငါးရာ စုံလင်စွာ ရောက်ရှိပြီးနောက် ဝါဆိုလပြည့်ကျော်တစ်ရက်နေ့ ဝါဆိုပွဲ သံဃာ့အစည်းအဝေး၌ ပထမ တစ်လ ကျောင်းပျက်ပြင်ရန်၊ ဒုတိယ တစ်လမှ စ၍ သင်္ဂါယနာတင်ရန် ဆုံးဖြတ်တော်မူကြ၏။

## ကျောင်းတော်ကြီး ၁၈ ရပ်

ဝါဆိုလပြည့်ကျော် ၂ ရက်နေ့တွင် အရှင်မဟာကဿပ အမှူးပြုသော မထေရ်ကြီးများသည် အဇာတသတ်မင်း၏ နန်းတော်သို့ ကြွ၍ ကျောင်းတော်ကြီး ၁၈ ရပ် ပြင်ဆင်လိုကြောင်းကို မိန့်တော်မူရာ အဇာတသတ်မင်းကြီးသည် ကျောင်းတော်ကြီး ၁၈ ရပ်ကို ပြင်ဆင်ပေးတော်မူ၏။ ကျောင်းတော်ကြီး ၁၈ ရပ်တို့မှာ -

၁။ ဝေဠုဝန်ကျောင်းတော် (ဝေဘာရတောင် အရှေ့မြောက်ဘက်၌ ရှိ၏)

၂။ သပ္ပသောဏ္ဍိကကျောင်း (ဝေဘာရတောင် အရှေ့ဘက် ဆင်ခြေလျှော၌ ရှိ၏။)

| | |
|---|---|
| ၃။ ပဏ္ဍာရယကျောင်း | (ၚင်း) |
| ၄။ ဂေါတမကန္ဒရကကျောင်း | (ၚင်း) |
| ၅။ တိန္ဒုကဂုဟာကျောင်း | (ၚင်း) |
| ၆။ တပေါဒါကန္ဒရကကျောင်း | (ၚင်း) |
| ၇။ တပေါဒါရာမကျောင်း | (ၚင်း) |
| ၈။ ဣန္ဒသာလဂုဟာကျောင်း | (ၚင်း) |
| ၉။ ပိပ္ပလိဂုဟာကျောင်း | (ၚင်း) |
| ၁၀။ ကာဠသိလာကျောင်း | (ဣသိဂိလိတောင်နံရံ၌ ရှိ၏။) |

၁၁။ ဂိဇ္ဈကုဋ်တောင်ထိပ်ကျောင်း (ဂိဇ္ဈကုဋ်တောင်၌ ရှိ၏။)
၁၂။ စောရပပါတကျောင်း (၎င်းတောင်နံရံ)
၁၃။ တာလဝနုယျာနကျောင်း (၎င်းတောင်ခြေ၌ရှိ၏။)
၁၄။ မဒ္ဒကုစ္ဆိမိဂဒါယကျောင်း (၎င်း)
၁၅။ ဇီဝကမ္ဗဝနကျောင်း (ဂိဇ္ဈကုဋ်တောင်ခြေ၌ ရှိ၏။)
၁၆။ မောရနိဝါပကျောင်း (၎င်း)
၁၇။ လဋ္ဌိဝနုယျာနကျောင်း (၎င်း)
၁၈။ အန္ဓကဝိန္ဒကတောကျောင်း (ဂိဇ္ဈကုဋ်တောင်၏ အရှေ့မြောက်ဘက်၌ရှိ၍ သိပ္ပိနီခေါ် ချောင်းငယ်ခြားသည်။)

## အာဏာစက်နှင့်ဓမ္မစက်

ထို့နောက် ရာဇဂြိုဟ်ပြည်တွင် သင်္ဂါယနာတင်မည့် အကြောင်းကို အဇာတသတ်မင်းကြီးအား ပြောကြားရာ 'သင်္ဂါယနာတင်ပွဲကို ရဲရဲကြီး ပြုလုပ်တော်မူကြပါဘုရား။ ဒါယကာတော်မင်းမြတ်အနေဖြင့် အာဏာစက်ဖြင့် ကူညီပါမည်။ သံဃာတော် အရှင်မြတ်တို့ဘက်မှ ဓမ္မစက်တည်အောင် ကြိုးပမ်းတော်မူကြပါဘုရား'ဟု လျှောက်ထားလေ၏။ ထိုအခါ မထေရ်ကြီးတို့က 'သံဃာစည်းဝေးရာဌာန အလိုရှိကြောင်း' မိန့်ကြားကြကုန်၏။

## စရည်းပင်ပေါက်ရာ လိုဏ်ဂူဝ

အဇာတသတ်မင်းကြီးလည်း ဝမ်းမြောက်ရွှင်လန်းစွာ ဝန်ခံကတိပြုခဲ့ပြီး ရာဇဂြိုဟ်ပြည် ဝေဘာရတောင်နံရံ၌ တည်ရှိသော စရည်းပင်ပေါက်ရာ (သတ္တပဏ္ဏိ) ဂူ၏ အနီးတွင် သံဃာတော်ငါးရာ စည်းဝေးရာ မဏ္ဍပ် ဆောက်လုပ်စေတော်မူ၏။ (မဟာယာနတို့၏ မှတ်တမ်း၌ ဂိဇ္ဈကုဋ်တောင် ဣန္ဒသာလလိုဏ်ဂူဝ၌ ပထမသင်္ဂါယနာတင်သည်ဟု ဆို၏)

ထိုသင်္ဂါယနာမဏ္ဍပ်ကြီးကား ဝိသကြုံနတ်သား ဖန်ဆင်းထားဘိသကဲ့သို့ နံရံများ တိုင်များ စောင်းတန်း လှေကားများဖြင့် အချိုးအစား

ကျန ပြေပြစ်လှပ၏။ အထူးထူးသော ခြူးပန်းခြူးနွယ် ပန်းချီဆေးရေးရုပ်တို့ဖြင့် တင့်တယ်လှပနေသည်မှာ ဘုရင့်နန်းတော်ထက်ပင် သာလွန်နေ၍ နတ်တို့၏ ဘုံဗိမာန်ကိုပင် ပြက်ရယ်ပြုနေသယောင် ထင်ရသည်။ နတ်လူတို့၏ မျက်စိအားလုံးသည် ထိုသင်္ဂါယနာမဏ္ဍပ်ကြီးအပေါ်သို့သာ တစုတပေါင်းတည်း ငေးစိုက်ကြည့်နေသည် ထင်ရ၏။ တစ်လောကလုံးရှိ ပျော်စရာရွှင်စရာ, သာယာကြည်နူးစရာ အားလုံးကို တစ်နေရာတည်း၌ စုပေါင်းထားသကဲ့သို့ ထင်ရ၏။

ဤသို့လျှင် တစ်ကြိမ်ကြည့်မိပါက မခွာနိုင်အောင် တရစ်ဝဲဝဲ စွဲနေလောက်သည့် သင်္ဂါယနာမဏ္ဍပ်ကြီး ဆောက်လုပ်ပြီးသောအခါ မဏ္ဍပ်အတွင်းပိုင်း၌လည်း အနုစိတ် ခြယ်မှုန်း တန်ဆာဆင်ထား၏။ အရောင်တဖိတ်ဖိတ်တောက်နေသည့် လှပသော မျက်နှာကြက်မှ ပန်းခိုင် ပန်းကုံး ပန်းဆိုင်းတို့သည် တွဲရရွဲကျနေ၏။ မဏ္ဍပ်တွင်းရှိ သမံတလင်းသည် မှန်အပြင်ကဲ့သို့ ချောမွတ်ညီညာ၍ စိန် ကြောင် နီလာ ပတ္တမြား ကျောက်မျက်တို့ဖြင့် ပန်းကွက်များ ဖော်ထား၏။ ပြဟ္မာမင်း၏ ဘုံဗိမာန်အလား တန်ဆာဆင်၍ ရဟန္တာမထေရ် ငါးရာတို့အတွက် အဖိုးအတိုင်းမသိ ထိုက်တန်သော အခင်းငါးရာတို့ကို ခင်းထား၏။ သံဃာအားလုံး၏ ရှေ့၌ အရှေ့ဘက်သို့ မျက်နှာမူလျက် ဓမ္မာသနပလ္လင်[၁] ကို ခင်းထား၏။ တောင်ဘက်နံရံကို ကပ်လျက် မြောက်ဘက်သို့ မျက်နှာမူ၍ ထေရာသနပလ္လင်[၂] ကို ခင်းထား၏။

ထိုသို့ မွမ်းမံခြယ်လှယ် တန်ဆာဆင်ပြီးသောအခါ အဇာတသတ်မင်းကြီးသည် သင်္ဂါယနာမဏ္ဍပ်ကြီး ပြီးစီးကြောင်းကို သံဃာတော်များအား လျှောက်ကြား၏။

---

မှတ်ချက်

၁။ ဓမ္မာသနပလ္လင် = ဖြေမည့်ပုဂ္ဂိုလ် ထိုင်မည့်နေရာ။

၂။ ထေရာသနပလ္လင် = မေးမည့်ပုဂ္ဂိုလ် (အရှင်မဟာကဿပ) ထိုင်မည့်နေရာ။

## အရှင်အာနန္ဒာ ရဟန္တာဖြစ်တော်မူခြင်း

ထိုအခါ၌ ရဟန်းအချို့သည် အရှင်အာနန္ဒာကို ရည်ရွယ်၍ "ဤသံဃာ့ပရိသတ်၌ ရဟန်းတစ်ပါးသည် ကိလေသာအညှီနံ့ နံစော်လျက် လှည့်လည်သွားလာနေ၏"ဟု ဆိုကြကုန်၏။ ထိုစကားကို အရှင်အာနန္ဒာ ကြား၍ "ကိလေသာ အညှီနံ့လှိုင်သော ရဟန်းဟူသည် အခြားသူ မဖြစ်နိုင်၊ ငါ့ကို ရည်ရွယ်၍သာ ဆိုခြင်းဖြစ်ပေမည်"ဟု ကြံစည်ကာ လွန်စွာ သံဝေဂဖြစ်တော်မူ၍ ဝိပဿနာ ကမ္မဋ္ဌာန်းတရားကို အပြင်းအထန် ကြိုးစားအားထုတ်တော်မူ၏။

အချို့သော ရဟန်းတို့သည် "ငါ့ရှင်အာနန္ဒာ၊ နက်ဖြန် သင်္ဂါယနာတင်ပွဲ စတော့မည်။ သင်ကား ရဟန္တာဖြစ်ရန် ကျင့်ဆဲပုဂ္ဂိုလ်သာ ဖြစ်၏။ ရဟန္တာမဖြစ်သေးဘဲ သံဃာ့အစည်းအဝေးသို့ တက်ရောက်ရန် မသင့်လျော်" ဟု သတိပေးစကား ဆိုကုန်၏။

ထိုအခါ အရှင်အာနန္ဒာသည် "နက်ဖြန် သင်္ဂါယနာတင်ပွဲ စတော့မည်၊ ရဟန္တာအဖြစ်သို့ မရောက်သေးဘဲ သံဃာ့အစည်းအဝေးသို့ တက်ရန် မသင့်လျော်"ဟု စဉ်းစားဆင်ခြင်၍ တစ်ညလုံး မရပ်မနား စင်္ကြံလျှောက်လျက် ကာယဂတာသတိကမ္မဋ္ဌာန်း (သတိပဋ္ဌာန်)တရားကို ကြိုးစားအားထုတ် ရှုမှတ်ဆင်ခြင်တော်မူ၏။ ကျောင်းပြင်ပ၌ စင်္ကြံလျှောက်ရင်း အပြင်းအထန် ရှုမှတ်ပွားများ အားထုတ်သော်လည်း တရားအထူး (အထက်မဂ်ဉာဏ်အထူး) ဖြစ်ပေါ်မလာနိုင်သဖြင့် ဤသို့ စဉ်းစားဆင်ခြင်၏။

"အာနန္ဒာ . . သင်သည် ပါရမီကုသိုလ်ပြည့်စုံသူဖြစ်၏။ ကမ္မဋ္ဌာန်းတရားကို ကြိုးစား အားထုတ်လော့၊ လျင်မြန်စွာ အာသဝေါကုန်ခန်း ရဟန္တာဖြစ်လတ္တံ့'ဟု မြတ်စွာဘုရားရှင်ကိုယ်တော်တိုင် မိန့်တော်မူခဲ့၏။ ဘုရားရှင်တို့၏ စကားသည် မလွဲမမှားနိုင်။ ငါသည် အားထုတ်မှု ဝီရိယ လွန်ကဲနေရာ စိတ်တက်ကြွ၍ မငြိမ်မသက် ပျံ့လွင့်မှုဖြစ်နေသည်။ ဝီရိယ လွန်၍ ဥဒ္ဓစ္စဖြစ်နေသည်။ အခု တစ်ဖန် ဝီရိယကို သင့်လျော်မျှတရုံ

အားထုတ်အံ့”ဟု ကြံစည်တော်မူလျက် မိုးသောက်ယံ၌ စင်္ကြံမှ ဆင်းသက်၍ ခြေတို့ကို ဆေးကြောပြီးလျှင် ကျောင်းတွင်းသို့ ဝင်တော်မူ၏။ ကျောင်းတွင်းရှိ ခုတင်ညောင်စောင်း၌ ထိုင်ပြီးလျှင် “ခေတ္တခဏ အပန်းဖြေ လဲလျောင်းဦးမည်”ဟု ကြံရွယ်၍ ကိုယ်ကို ညောင်စောင်းပေါ်သို့ ညွတ်ကိုင်းလိုက်စဉ် ခြေနှစ်ဖက်သည် မြေမှလွတ်၍ ဦးခေါင်းတော်သည် ခေါင်းအုံးသို့ မထိမီ အာသဝေါကုန်ခန်း ရဟန္တာအဖြစ်သို့ ရောက်တော်မူ၏။ ထို့ကြောင့် “ဤသာသနာတော်၌ သွားလျက်လည်း မဟုတ်၊ ရပ်လျက်လည်း မဟုတ်၊ ထိုင်လျက်လည်း မဟုတ်၊ အိပ်လျက်လည်း မဟုတ်ဘဲ ရဟန္တာအဖြစ်သို့ ရောက်သော ပုဂ္ဂိုလ်ထူးကား အရှင်အာနန္ဒာထေရ် ဖြစ်သည်”ဟု ဆိုရပေမည်။

ဝါခေါင်လပြည့်ကျော် ၅ ရက်နေ့တွင် ဆွမ်းစားပြီးချိန်၌ မထေရ်ကြီးများသည် သင်္ဂါယနာအစည်းအဝေးသို့ စုံညီစွာ ကြွရောက်တော်မူကြသည်။ မထေရ်ကြီးများ စုံလင်စွာ မိမိတို့နေရာတွင် သီတင်းသုံးနေတော်မူကြပြီးနောက်မှ အရှင်အာနန္ဒာထေရ်သည် ကြည်လင်ရွှင်ပျဝင်းပသော မျက်နှာဖြင့် တစ်ပါးတည်း ကြွလာ၍ မိမိနေရာ၌ သီတင်းသုံးလေသည်။ အရှင်အာနန္ဒာ၏ မျက်နှာထားသည် ရဟန္တာအဖြစ်ကို နှုတ်မှဖွင့်မပြောသော်လည်း အမူအရာဖြင့် ထုတ်ဖော် ကြေညာနေဘိသကဲ့သို့ ဖြစ်နေ၏။ အရှင်မဟာကဿပသည် အရှင်အာနန္ဒာကို မြင်ရသောအခါ “ရဟန္တာအဖြစ်သို့ ရောက်ပြီးသော အာနန္ဒာကား တင့်တယ်ပေစွတကား။ အကယ်၍ မြတ်စွာဘုရားသက်တော်ထင်ရှားရှိပါမူ အာနန္ဒာအား မချွတ်ဧကန် ကောင်းချီးပေးလေရာ၏။ ယခု ငါသည် မြတ်စွာဘုရားကိုယ်စား ကောင်းချီးပေးအံ့”ဟု ကြံတော်မူ၍ ‘သာဓု’ သုံးကြိမ် ခေါ်တော်မူ၏။

## ဝိနည်းပိဋကသင်္ဂါယနာ

သင်္ဂါယနာတင် ထေရ်အရှင် ငါးရာတို့ စုံလင်စွာ စည်းဝေးမိသောအခါ အရှင်မဟာကဿပထေရ်သည် သံဃနာယက မဟာထေရ်အဖြစ် ဆောင်ရွက်တော်မူ၍ ဆင်စွယ်ရိုးတပ် ယပ်တောင်ကို ကိုင်လျက် ထေရာ

သနပလ္လင်၌ ထိုင်နေတော်မူ၏။ ဝိနည်းပိဋကကို သင်္ဂါယနာတင်ရန် အတွက် အရှင်ဥပါလိထေရ်ကို သံဃာတော်များက ဆန္ဒပြုကြသောအခါ အရှင်ဥပါလိသည် ဆင်စွယ်ရိုးတပ် ယပ်တောင်ကို ကိုင်လျက် ဓမ္မာသန ပလ္လင်၌ ထိုင်တော်မူ၏။

အရှင်မဟာကဿပထေရ်သည် ဝိနည်းသိက္ခာပုဒ်တစ်ခုစီ ဖြစ်ပေါ် လာပုံ အကြောင်းအရာ အဋ္ဌုပ္ပတ္တိနိဒါန်းကိုလည်းကောင်း၊ သိက္ခာပုဒ် ပညတ်ရာ တိုင်းပြည်, မြို့ရွာကိုလည်းကောင်း၊ အပြစ်ကျူးလွန်သော ပုဂ္ဂိုလ်ကိုလည်းကောင်း၊ အာပတ်သင့်မှု, မသင့်မှုကိုလည်းကောင်း အသေးစိတ် အသီးအသီး မေးစိစစ်တော်မူ၏။ မေးတိုင်းမေးတိုင်းသော ပြဿနာတို့ကို အရှင်ဥပါလိထေရ်သည် ရှင်းလင်းပြတ်သားစွာ ဖြေဆို တော်မူ၏။ ဤသို့ အမေးအဖြေပြု၍ မထေရ်အားလုံး သဘောတူညီသော အခါ ရဟန္တာမထေရ် ငါးရာတို့သည် သံပြိုင်ရွတ်ဆို၍ အတည်ပြု လက် ခံတော်မူကြသည်။ ဤနည်းအားဖြင့် သိက္ခာပုဒ် တစ်ခုချင်းကို မေး, ဖြေ, စိစစ်ပြီးတိုင်း အတည်ပြု စုပေါင်းရွတ်ဆိုကြ၏။ ဝိနယပိဋကကို သင်္ဂါယနာတင်ရာ၌ အပိုင်းကဏ္ဍခွဲခြင်း၊ မျိုးတူရာ စုပေါင်းခြင်းပြု၍ ရှေ့နောက်အစီအစဉ် ကျနအောင် စီမံတော်မူခဲ့ကြသည်။

## သုတ္တန်နှင့် အဘိဓမ္မာပိဋက သင်္ဂါယနာ

ဝိနည်းပိဋကကို သင်္ဂါယနာတင်၍ ပြီးသဖြင့် သုတ္တန်နှင့် အဘိဓမ္မာ ပိဋကကို သင်္ဂါယနာတင်ရန် အရှင်အာနန္ဒာကို သံဃာတော်များက ရွေးချယ်သောအခါ အရှင်အာနန္ဒာသည် ဆင်စွယ်ရိုးတပ် ယပ်တောင်ကို ကိုင်လျက် ဓမ္မာသနပလ္လင်၌ ထိုင်တော်မူ၏။ ရှေးဦးစွာ သုတ္တန်ပိဋကကို သင်္ဂါယနာတင်ရာ တစ်သုတ်စီ တစ်သုတ်စီ၏ အကြောင်း အဋ္ဌုပ္ပတ္တိ နိဒါန်းကိုလည်းကောင်း၊ အကြောင်းပြု ဟောကြားသော ပုဂ္ဂိုလ်ကိုလည်း ကောင်း၊ တစ်သုတ်စီ၌ ပါဝင်သော တရားများကိုလည်းကောင်း မေးမြန်း စိစစ်တော်မူ၏။ မေးတိုင်းမေးတိုင်းသော ပြဿနာတို့ကို အရှင်အာနန္ဒာ ထေရ်သည် ရှင်းလင်းပြတ်သားစွာ ဖြေဆိုတော်မူ၏။ တစ်သုတ်စီကို မေး,

ဖြေ, စိစစ်ပြီးသောအခါ ရဟန္တာငါးရာတို့သည် စုပေါင်းညီညာ သံပြိုင် ရွတ်ဆို၍ အတည်ပြု လက်ခံတော်မူကြ၏။ ဤနည်းအားဖြင့် သုတ္တန္တ ပိဋကကို ဒီဃနိကာယ်, မဇ္ဈိမနိကာယ်, သံယုတ္တနိကာယ်, အင်္ဂုတ္တရနိကာယ်, ခုဒ္ဒကနိကာယ် ဟူ၍ အပိုင်းကဏ္ဍခွဲခြင်း၊ မျိုးတူရာ စုပေါင်းခြင်းပြု၍ ရှေ့နောက်အစီအစဉ် ကျနအောင် စီမံတော်မူခဲ့ကြသည်။ ထို့နောက် အဘိဓမ္မာပိဋကကို သင်္ဂါယနာတင်ရာ အရှင်အာနန္ဒာထေရ်က ဖြေ၍ အဘိဓမ္မာခုနစ်ကျမ်းကို အစီအစဉ်တကျ ခွဲခြားကာ သင်္ဂါယနာတင် တော်မူခဲ့ကြသည်။

ဤသို့ ပဌမသင်္ဂါယနာ တင်စဉ်ကပင်လျှင် ဓမ္မ, ဝိနယအားဖြင့် လည်းကောင်း၊ ပိဋကသုံးပုံအားဖြင့်လည်းကောင်း၊ နိကာယ်ငါးရပ်အား ဖြင့်လည်းကောင်း၊ အင်္ဂါကိုးတန်အားဖြင့်လည်းကောင်း၊ ဓမ္မက္ခန္ဓာ ရှစ် သောင်းလေးထောင်အားဖြင့်လည်းကောင်း အစီအစဉ် နေရာတကျ ဖြစ် အောင် ခွဲခြားသတ်မှတ်၍ သင်္ဂါယနာတင်တော်မူခဲ့ကြသည်။ ကျွန်ုပ်တို့ မြန်မာနိုင်ငံ လက်ရှိ ထေရဝါဒ ပိဋကသုံးပုံသည် ပဌမ သင်္ဂါယနာတင် စဉ်က အရှင်မဟာကဿပ အမှူးပြုသော ရဟန္တာထေရ်ကြီးငါးရာတို့ စီစဉ်ထားခဲ့သည့် အစီအစဉ်အတိုင်း ရှေးမူမပျက် ရှိနေလေသည်။

သင်္ဂါယနာတင်ရာ၌ တစ်စုံတစ်ရာ ဖြုတ်ပယ်ခြင်း, ဖြည့်စွက်ခြင်း ရှိသလောဟု မေးပါက ဘုရားဟောတရား (ဗုဒ္ဓဘာသိတ) မှာ တစ်စုံတစ် ရာကို ဖြုတ်ပယ်ခြင်းသည် မရှိချေ၊ သာဝကဟောသော တရား (သာဝက ဘာသိတ)နှင့် နတ်ပြဟ္မာတို့ ဟောသောတရား (ဒေဝတာဘာသိတ) များမှာမူ အချို့ကို နုတ်ပယ်ရသည် ရှိ၏။ ဖြည့်စွက်ချက်ကိုမူကား သင့် လျော်ရာ၌သာ ထည့်သွင်းပေးရ၏။ ထိုဖြည့်စွက်ချက်ဆိုသည်မှာလည်း အရေးကြီးသော တရားသား အဓိပ္ပာယ်ကို ဖြည့်စွက်ချက် မဟုတ်ချေ။ ရှေ့နောက် အဆက်အစပ် ပြေပြစ်စေရန် စကားစပ်များ ထည့်သွင်းပေး ခြင်းမျှသာ ဖြစ်၏။

ဥပမာ - "ထိုအခါ၌ ဤသို့ မိန့်တော်မူ၏၊ ဤသို့ ဆိုလတ်သော်, ဤသို့ အကြံဖြစ်တော်မူ၏၊ ဤသို့ ကြားနာလိုက်ရ၏" စသော ရှေ့နောက်

အဆက်အစပ် ပြေပြစ်စေရန် ထည့်သွင်းပေးသော စကားစပ်များသာ ဖြစ်လေသည်။

## အငယ်စား သိက္ခာပုဒ်များ ပြဿနာ

သင်္ဂါယနာတင်ပွဲကြီး ပြီးဆုံးသောအခါ အရှင်အာနန္ဒာသည်ရဟန္တာ မထေရ်ကြီးများကို ဤသို့ လျှောက်၏ -

"မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်စံတော်မူခါနီး၌ ငါဘုရား ပရိနိဗ္ဗာန်စံဝင်ပြီးနောက် သံဃာသည် အလိုရှိပါမူ အငယ်စား သိက္ခာပုဒ်များကို ပယ်ဖြုတ်ကြလေလော့"ဟု မိန့်တော်မူခဲ့ပါသည်။ သို့ရာတွင် တပည့်တော်သည် "မည်သည့်သိက္ခာပုဒ်များကို အငယ်စား သိက္ခာပုဒ် ဖြစ်သည်"ဟု မမေးလျှောက်မိပါဘုရား'

ထိုအခါ အချို့သော ရဟန္တာမထေရ်ကြီးများက ပါရာဇိကနှင့်သံဃာဒိသိသ်မှကြွင်းသော သိက္ခာပုဒ်တို့ကို အငယ်စား သိက္ခာပုဒ်ဟု ဆိုကြကုန်၏။ အချို့သော ရဟန္တာမထေရ်ကြီးများက ပါရာဇိကလေးပါး၊ သံဃာဒိသိသ် တစ်ဆယ့်သုံးပါး၊ အနိယတနှစ်ပါးမှ ကြွင်းသော သိက္ခာပုဒ်များကို အငယ်စား သိက္ခာပုဒ်များဟု ဆိုကြကုန်၏။

အချို့သော ရဟန္တာမထေရ်ကြီးများက ပါရာဇိကလေးပါး၊ သံဃာဒိသိသ် တစ်ဆယ့်သုံးပါး၊ အနိယတနှစ်ပါး၊ နိဿဂ္ဂိပါစိတ် သုံးဆယ်မှ ကြွင်းသော သိက္ခာပုဒ်များကို အငယ်စား သိက္ခာပုဒ်များဟု ဆိုကြကုန်၏။

အချို့သော ရဟန္တာမထေရ်ကြီးများက ပါရာဇိကလေးပါး၊ သံဃာဒိသိသ် တစ်ဆယ့်သုံးပါး၊ အနိယတနှစ်ပါး၊ နိဿဂ္ဂိပါစိတ်သုံးဆယ်၊ ပါစိတ်ကိုးဆယ့်နှစ်ပါးမှ ကြွင်းသော သိက္ခာပုဒ်တို့ကို အငယ်စား သိက္ခာပုဒ်ဟု ဆိုကြကုန်၏။

ဤသို့လျှင် အငယ်စား သိက္ခာပုဒ်များကို ဖြုတ်ပယ်ဖို့အရေး၌ အယူအဆမတူ သဘောကွဲလွဲတော်မူကြကုန်၏။ အမှန်စင်စစ် ဒုက္ကဋ်အာပတ်နှင့်ဆိုင်သော သိက္ခာပုဒ်များကို အငယ်စား (ခုဒ္ဒ)၊ ဒုဗ္ဘာသီအာပတ်နှင့်ဆိုင်သော သိက္ခာပုဒ်များကို (အငယ်ဆုံး အနုခုဒ္ဒ) ခေါ်ကြောင်းကို

ရဟန္တာမထေရ်ကြီးများ သိတော်မူကြ၏။ သို့ရာတွင် ဖြုတ်ပယ်ရန် သဘောမတူသောကြောင့် ဖြုတ်ပယ်မှု မပြုနိုင်အောင် အယူအဆ အမျိုးမျိုးကို ထုတ်ဖော် ပြောဆိုကြခြင်း ဖြစ်၏။

ထိုအခါ သံဃမဟာနာယက ဖြစ်တော်မူသော အရှင်မဟာကဿပသည် ဤသို့ မိန့်တော်မူ၏ -

"ဗုဒ္ဓမြတ်စွာဘုရား၏ တပည့်သာဝကများ လိုက်နာ ကျင့်ကြံရမည့် သိက္ခာပုဒ်များကို လူဝတ်ကြောင်များက သိနေကြလေပြီ။ နေ့လွဲညစာ စားပါက ပါစိတ်အာပတ်သင့်၏။ သစ်ပင် သစ်ကိုင်းကို ချိုးဖဲ့ ခုတ်ဖြတ် ခူးယူပါက ပါစိတ်အာပတ်သင့်၏။ ဆန် စပါး ပဲ ပြောင်းတို့ကို ကိုင်တွယ်တို့ထိပါက ဒုက္ကဋ်အာပတ်သင့်၏။ ဤဖော်ပြပါ ဒုက္ကဋ်အာပတ်နှင့် ပါစိတ်အာပတ်တို့သည် အငယ်စားဖြစ်သော်လည်း ရဟန်းတို့ မပြုလုပ်ရဟု လူဒါယကာများ သိရှိနေကြ၏။ ဤသို့ လူဒါယကာများ သိရှိနားလည်နေသော သိက္ခာပုဒ် အငယ်စားများကို ဖြုတ်ပယ်၍ ရဟန်းတော်များ မလိုက်နာ မကျင့်သုံးဘဲ နေကြပါမူ အများသူငါ ကဲ့ရဲ့စရာဖြစ်လတ္တံ့။"

"ဂေါတမဘုရားရှင်လည်း ပရိနိဗ္ဗာန်စံရော၊ သူ့တပည့်တွေလည်း ဘာစည်းကမ်းမှ မလိုက်နာကြတော့ဘူး။ ဂေါတမဘုရားရှင် ပညတ်ခဲ့တဲ့ သိက္ခာပုဒ်တွေကို မလိုက်နာ မကျင့်သုံးကြတော့ဘူး။ ဂေါတမဘုရားရှင်ရဲ့ အလောင်းတော်ကို မီးသင်္ဂြိုဟ်တဲ့နေရာက မီးခိုး တောင် မတိတ်သေးဘူး။ နောက်လိုက်တပည့်တွေက ဘုရားပညတ် ခဲ့တဲ့ သိက္ခာပုဒ်တွေ မလိုက်နာကြတော့ဘူး။"

"ဤသို့ စသည်ဖြင့် လူတို့ကဲ့ရဲ့ဖွယ်ရာ ဖြစ်ပေမည်။ ထို့ကြောင့် မြတ်စွာဘုရား ပညတ်တော်မမူခဲ့သော သိက္ခာပုဒ် ဥပဒေအသစ်များကို နောက်ထပ် တိုးချဲ့ပညတ်ခြင်း မပြုကြပါကုန်စို့၊ မြတ်စွာဘုရား ပညတ်တော်မူပြီးသော သိက္ခာပုဒ်များကို ဖြုတ်ထုတ် ပယ်နုတ်ခြင်း မပြုကြပါကုန်စို့"ဟု အဆိုပြု မိန့်ကြားတော်မူ၏။

## ဖြုတ်ပယ်ခြင်း ဖြည့်စွက်ခြင်း မပြုရ

ထိုအဆိုပြုချက်ကို သံဃာ့ဦးဆောင် ရဟန္တာမထေရ်ကြီး ငါးရာ တို့က တညီတညွတ်တည်း သဘောတူ လက်ခံတော်မူကြ၍ ပထမ သင်္ဂါယနာပွဲကြီး၌ အောက်ဖော်ပြပါ မူကြီးသုံးချက်ကို တညီတညွတ်တည်း ဆုံးဖြတ်တော်မူခဲ့ကြ၏။

၁။ **သံဃော အပ္ပညတ္တံ နပ္ပညပေတိ။**
သံဃာတော်သည် မြတ်စွာဘုရား မပညတ်ခဲ့သည်ကို အသစ်တိုးချဲ့ ပညတ်ခြင်း မပြုအံ့။

၂။ **ပညတ္တံ န သမုစ္ဆိန္ဒတိ။**
မြတ်စွာဘုရားပညတ်ခဲ့သည်ကို ဖြုတ်ပယ် ဖျက်ဆီးခြင်း မပြုအံ့။

၃။ **ယထာပညတ္တေသု သိက္ခာပဒေသု သမာဒါယ ဝတ္တတိ။**
မြတ်စွာဘုရား ပညတ်တော်မူခဲ့သော သိက္ခာပုဒ် (စည်းကမ်း ဥပဒေ) များကို ရိုသေစွာ လိုက်နာကျင့်သုံးပါအံ့။

ဤဖော်ပြပါ မူကြီးသုံးချက်အတိုင်း ဖြည့်စွက်ခြင်း, ထုတ်ပယ်ခြင်း လုံးဝမပြုဘဲ မူလအတိုင်း တရိုတသေ ထိန်းသိမ်းစောင့်ရှောက် ကျင့်သုံးလာသော ဂိုဏ်းကို "ထေရဝါဒဂိုဏ်း"ဟု ခေါ်တွင်လေသည်။

မြတ်စွာဘုရားသည် "အငယ်စား သိက္ခာပုဒ်များကို ဖြုတ်ပယ်လိုက ဖြုတ်ပယ်ကြလော့"ဟု အဘယ့်ကြောင့် မိန့်တော်မူခဲ့လေသနည်း။ ဤသို့ မိန့်တော်မူသော်လည်း မြတ်စွာဘုရား၏ တပည့်သာဝကကြီးများသည် သိက္ခာပုဒ်တစ်ခုကို မဆိုထားဘိ၊ ဘုရားဟောကြား ပညတ်ချက်မှ စကားတစ်လုံးကိုမျှ (သဝေထိုးတစ်ခု၊ တစ်ချောင်းပုဒ် တစ်ခုကိုမျှ) ဖြုတ်ပယ်လိမ့်မည်မဟုတ်ဟု သိမြင်တော်မူပြီးဖြစ်လေသည်။ အကြောင်းမူ မြတ်စွာဘုရား ပညတ်တော်မူခဲ့သော သိက္ခာပုဒ် (စည်းကမ်းဥပဒေ) အားလုံးသည် ရဟန်းကောင်းတို့ ချမ်းသာစေရန်၊ ဘေးရန်အန္တရာယ်အယှက် ကင်းစေရန်အကျိုးငှာသာ ဖြစ်ပေသည်။ ထိုသို့ ကောင်းကျိုးချမ်းသာကို ဖြစ်စေ

သော သိက္ခာပုဒ်များကို သံဃာ့ထေရ်ကြီးများက ဘယ်သောအခါမှ ဖြုတ်ပယ်ပစ်လိမ့်မည် မဟုတ်ချေ။

## သိက္ခာပုဒ်ပညတ်သည်ကို မလိုလားမှု

သို့ရာတွင် မြတ်စွာဘုရားသည် သက်တော်ထင်ရှားရှိစဉ်က သိက္ခာပုဒ်များကို ပညတ်တော်မူရာတွင် အချို့သော ရဟန်းများက မိမိဆန္ဒအကြိုက်နှင့် မညီ၍ ကန့်ကွက်လိုကြသည်။ မြတ်စွာဘုရားရှင်သည် မင်းမျိုးဖြစ်၍ ဘုရင်မင်းမြတ်အားလုံး၏ ကိုးကွယ်ပူဇော်မှုကို ခံယူရသည့်ပြင် အရှင်သာရိပုတ္တရာ၊ အရှင်မောဂ္ဂလာန်၊ အရှင်မဟာကဿပ၊ အရှင်အနုရုဒ္ဓါ စသော သီလ သမာဓိ ပညာ တန်ခိုးဣဒ္ဓိပါဒ်ရှိသော တပည့်ကြီးများဖြင့် ဝန်းရံထားအပ်၏။ ထို့ကြောင့် လူသာမန်တို့အနေဖြင့် မြတ်စွာဘုရားအား ခွန်းတုံ့ပြန် ပြောရန် မဆိုထားဘိ၊ မျက်နှာချင်းဆိုင်ရန်ပင် မဝံ့ကြပေ။ ထိုသို့ အရှိန်အဝါ ဩဇာကြီးမားလှသဖြင့် မြတ်စွာဘုရား ပညတ်တော်မူသော သိက္ခာပုဒ်တော် (ထုတ်ပြန်လိုက်သော စည်းကမ်းဥပဒေ)များကို အချို့ရဟန်းများမှာ မကျေနပ်သော်လည်း ကြိတ်မှိတ်အောင့်အည်း လိုက်နာခဲ့ကြရ၏။ သုဘဒ္ဒ တောထွက်ရဟန်းကြီး၏ ဝတ္ထုကို ကြည့်ပါက ဤအချက်မှာ ထင်ရှားလှ၏။

ရဟန်းများ နေ့လွဲညစာ မစားရဟု သိက္ခာပုဒ် ပညတ်စဉ်က ဘဒ္ဒါလိအမည်ရှိသော ရဟန်းသည် 'ညစာမစားရပါက အရှင်ဘုရားသာသနာမှာ တပည့်တော် ဆက်လက်နေနိုင်ပါ့မလား၊ သံသယဖြစ်မိသည်' စသည်ဖြင့် မကျေနပ်ချက်ကို ဖွင့်ဟ လျှောက်ထားခဲ့သည်။ (မဇ္ဈိမပဏ္ဏာသ၊ ဘဒ္ဒါလိသုတ်၊ ၁၀၀)

အရှင်မဟာ ဥဒါယီကလည်း လူ့ဘဝမှာ ညစာကို အကောင်းဆုံးထားပြီး စည်းစိမ်ခံစားကြရသည်။ 'ရဟန်းများ ညစာ မစား ရ'ဟု ပညတ်ချက်ကို ကြားရသောအခါ စိတ်နှလုံးမသာမယာ ဖြစ်ခဲ့ရပါသည်ဘုရား'ဟု ဖွင့်ဟ လျှောက်ထားခဲ့သည်။ (မဇ္ဈိမပဏ္ဏာသ၊ လဋုကိကောပမသုတ်၊ ၁၁၁)

အချို့သော ပုဂ္ဂိုလ်များကမူ ကိလေသာ စင်ကြယ်အောင် အာသဝေါ ကုန်ခန်းအောင် ကျင့်ဖို့သာ ပဓာနဖြစ်သည်။ ကိလေသာ အာသဝေါ ကုန်ခန်းပြီးပါက ဝိနည်းသိက္ခာပုဒ်များကို လိုက်နာရန် မလိုဟု ယူဆကြသည်။ အမှန်စင်စစ် အချို့သိက္ခာပုဒ်များမှာ ကောင်းသော လုပ်ငန်းမှန်သော လုပ်ငန်းများကိုပင် အသိဉာဏ်နည်းသူတို့ တွေ့မြင်၍ ကဲ့ရဲ့ပြစ်မှားမိပါက ထိုကဲ့ရဲ့ပြစ်မှားမှု ပြုသူတို့မှာ အကုသိုလ်ပွားများစရာ ရှိသောကြောင့် ရဟန်းများ မပြုလုပ်ရဟု တားမြစ်ချက်များဖြစ်သည်။

## ရဟန္တာလည်း အာပတ်သင့်နိုင်သည်

ဥပမာ - ရဟန္တာပုဂ္ဂိုလ်တစ်ပါးသည် စာပေမသင်ကြားဖူးသဖြင့် သိက္ခာပုဒ်များကို မသိနားမလည်ချေ။ ထိုရဟန္တာ၏ မိဘနှစ်ပါးသည် ခိုက်ရန်ဖြစ်၍ အိမ်မှ ဆင်းသွား၏။ ဖခင်သည် သားရဟန်းအား မိခင်ကို ပြန်ခေါ်ပေးပါရန် ပြော၏။ သားရဟန်းသည် မွန်မြတ်သော မေတ္တာ စေတနာဖြင့် မိခင်ကို လိုက်ခေါ်၍ အကျိုးအကြောင်းကို ဖခင်ထံ တစ်ဖန် ပြန်ပြောလျှင် ထိုရဟန္တာမှာ သံဃာဒိသိသ်အာပတ်သင့်လေသည်။ (ကခ၏။ ၄၊ ၁၃၃)

ဤအချက်များကို မသိသော ပဋိပတ္တိဘက်မှ ပုဂ္ဂိုလ်ကြီးများသည် ဤခေတ်တွင် စာပေမတတ်ခြင်းကို ဂုဏ်ယူနေကြလေသည်။ ရဟန်းဝတ်ဖြင့် နေသော ပုဂ္ဂိုလ်မှန်သမျှသည် သဒ္ဒါ, သင်္ဂြိုဟ်, ပါဠိစကား အရေး, အပြောကို မသင်ဘဲ နေနိုင်ပါ၏။ သို့ရာတွင် ဝိနည်းသိက္ခာပုဒ်များကိုမူကား မလွဲမသွေ သင်ယူမှတ်သားကြရမည့် တာဝန်ရှိလေသည်။ ပါဠိလို မကျက်မှတ်နိုင်ပါက မြန်မာလို သဘောအဓိပ္ပာယ်ကိုမူ ကျက်မှတ်ထားရမည့် တာဝန်ရှိလေသည်။ ဥပဒေကို မသိ၍ လွန်ကျူးသော်လည်း အပြစ်ရှိသည်သာ ဖြစ်၏။

## ဝိနည်းမတတ်လျှင် ဆရာနှင့် ခွဲမနေရ

အကယ်၍ အသက်အရွယ် ကြီးရင့်၍ ဝိနည်း သိက္ခာပုဒ်များကို ကိုယ်တိုင် ကျက်မှတ်နိုင်စွမ်းမရှိပါမူ မိမိတစ်ပါးတည်း သီးခြားနေထိုင်ခွင့်

မရှိချေ။ ဝိနည်းတတ်ကျွမ်းသော မထေရ်ကြီးများ၏ အနီး၌သာ နေရမည်။ ဝိနည်းမိုရ်ပုဂ္ဂိုလ်ကြီးများ၏ အဆုံးအမကို ခံယူနေရပေမည်။

ပုထုဇဉ်ဖြစ်စေ, ရဟန္တာဖြစ်စေ ရဟန်းမှန်လျှင် အာပတ်တစ်ခုခု သင့်လေ့ရှိ၏။ သိက္ခာပုဒ်ကို သိသည် ဖြစ်စေ, မသိသည် ဖြစ်စေ, စိတ်ပါသည် ဖြစ်စေ, စိတ်မပါဘဲ အမှတ်တမဲ့ ဖြစ်စေ အာပတ်သင့်နိုင်၏။ ထို့ကြောင့် ရဟန္တာပုဂ္ဂိုလ်များသည်လည်း ဒေသနာပြောကြားရ၏၊ အာပတ်ကို ကုစားရ၏။ လပြည့်, လကွယ်နေ့တိုင်း ပါတိမောက်ရွတ်ပြရာ, ဥပုသ်ပြုရာသို့ ရဟန်းတိုင်း သွားရောက် နားထောင်ကြရ၏။ ရဟန်းများသည် လပြည့်, လကွယ်နေ့များတွင် သိမ်အတွင်း၌ စည်းဝေး၍ စွမ်းနိုင်သောပုဂ္ဂိုလ်က (၂၂၇) သွယ်သော သိက္ခာပုဒ်များကို အစအဆုံး ရွတ်ပြ၍ ထိုသိက္ခာပုဒ်များအရ အာပတ်သင့်ခြင်း ရှိ, မရှိ မေးမြန်းစိစစ်ရသည်။ အာပတ်သင့်ကြောင်းတွေ့ရှိက ထိုနေရာမှာပင် ဒေသနာကြား၍ အာပတ်ကို စင်ကြယ်အောင် ကုစားရ၏။ ထို့ကြောင့် လပြည့်, လကွယ်နေ့တိုင်း ဥပုသ်ပြုခြင်းသည် လွန်စွာ အရေးကြီး၏။

## ရဟန္တာလည်း ဥပုသ်ပြုရသည်

ဤအချက်ကို သဘောမပေါက်သော ရဟန္တာ အရှင်မဟာကပ္ပိနသည် တစ်ပါးတည်း နေတော်မူစဉ် ဤသို့ ကြံစည်စဉ်းစားလေ၏ -

"ငါသည် အလွန်စင်ကြယ်၏၊ အာပတ်ဟူ၍ မြူမျှမရှိ၊ အတိုင်းထက်အလွန် စင်ကြယ်နေသောကြောင့် သံဃာတော်များ ဥပုသ်ပြုရာသို့ သွားရန် လိုပါဦးမည်လော။ စင်ကြယ်ပြီးသော ရဟန္တာပုဂ္ဂိုလ်များကား ဥပုသ်ပြုရာ, ပါတိမောက်ပြရာသို့ သွားရောက်ရန် မလိုဟု ထင်၏။"

ဤသို့ ဆင်ခြင် စဉ်းစားနေသည်ကို မြတ်စွာဘုရား သိတော်မူ၍ တန်ခိုးတော်ဖြင့် ကြွရောက်တော်မူလာပြီးလျှင် -

"ဥပုသ်ပြုခြင်း၊ ပါတိမောက်ရွတ်ပြခြင်းကို သင်တို့ကဲ့သို့သော ပုဂ္ဂိုလ်များက အမြတ်တနိုး ရှိသေလေးစားကြရမည်၊ ဥပုသ်ပြုရာသို့ မသွားဘဲ မနေရ၊ သွားကို သွားရမည်"ဟု မိန့်ကြားတော်မူလေသည်။ (ဝိနည်း၊ မဟာဝါ၊ ၁၄၅)

## မဖြုတ်လိုသော သံဃာတော်၏ ဆန္ဒမွန်

ယခု ပြဆိုခဲ့သော ဘဒ္ဒါလိ၊ မဟာဥဒါယီ စသော ပုဂ္ဂိုလ်များကဲ့သို့ အချို့က မိမိအကြိုက်နှင့် မကိုက်ညီ၍လည်းကောင်း၊ အချို့က အကျိုးအပြစ်ကို မသိ၍လည်းကောင်း ဝိနည်းသိက္ခာပုဒ်များကို နှစ်နှစ်ခြိုက်ခြိုက်မဟုတ်ဘဲ မလွှဲသာ၍ လိုက်နာနေကြရသော ရဟန်းများရှိလေသည်။

ထိုသို့ မကျေမလည်ဖြစ်နေသော ရဟန်းများကို ကြေကြေညက်ညက် ဆွေးနွေးခွင့် ဖွင့်ပေးသည့်အနေဖြင့်သာ "ငါဘုရားပရိနိဗ္ဗာန်စံက အငယ်စား သိက္ခာပုဒ်များကို သံဃာသည် ဖြုတ်လိုက ဖြုတ်ကြလော့"ဟု မိန့်တော်မူခဲ့ခြင်း ဖြစ်လေသည်။ ရဟန်းတို့အား ဆင်းရဲကို ပယ်ဖျောက်၍ ချမ်းသာကို ဆောင်မည့် ဝိနည်းသိက္ခာပုဒ် (စည်းကမ်း) များကို သံဃာဦးဆောင် ရဟန္တာမထေရ်ကြီးများက ပယ်ဖြုတ်လိမ့်မည် မဟုတ်ချေ။ ဥပမာအားဖြင့် စကြဝတေးမင်းကြီး နတ်ရွာစံခါနီး၌ သားတော်ကြီးများအား "လက်ရှိအုပ်စိုးနေသော နယ်ပယ်အချို့ကို စွန့်လိုက စွန့်ရစ်ကြ"ဟု မိန့်တော်မူသော်လည်း သားတော်ကြီးများသည် ဘယ်နည်းနှင့်မျှ လက်ရှိနယ်ပယ်များကို စွန့်ကြလိမ့်မည်မဟုတ်ဟု သိပြီးဖြစ်ပေသည်။

(မိလိန္ဒပဉှာပါဠိတော်)

ဆရာဖြစ်သော မြတ်စွာဘုရားရှင် ကိုယ်တိုင်က ပယ်ဖြုတ်လိုက ပယ်ဖြုတ်ကြရန် ခွင့်ပေးပါလျက် တပည့်သာဝကများက ပယ်ဖြုတ်ခြင်း မပြုဘဲ တညီတညွတ်တည်း သဘောတူ လက်ခံကျင့်သုံးပြသဖြင့် -

ထိုမြတ်စွာဘုရား၏ ဝိနည်းသိက္ခာပုဒ် စည်းကမ်းများသည် မှန်ကန်၍ တရားနှင့် လျော်ညီကြောင်း၊ တရားစစ် တရားမှန် ဖြစ်ကြောင်း

ထင်ရှားစေလေသည်။ ထိုတရားကို ဟောကြားသော ဘုရားသည်လည်း ဘုရားစစ် ဘုရားမှန်ဖြစ်ကြောင်း ထင်ရှားစေသည်။ ထိုမှန်ကန်သော အကျင့်ကို လိုက်နာကျင့်သုံးသော တပည့်သာဝကတို့သည် သံဃာစစ် သံဃာမှန်ဖြစ်ကြောင်း ပိုမိုထင်ရှားလာလေသည်။ ဗုဒ္ဓဘာသာကို မကြည်ညိုသူ ဘာသာခြား (အညတိတ္ထိယ) တို့အား ဗုဒ္ဓ, ဓမ္မ, သံဃာ အစစ်အမှန်ကို သိရှိနားလည် ကြည်ညိုလာကြစေရန်လည်းကောင်း၊ ဘုရားရှင်၏ အရှိန်အဝါ ဩဇာကြောင့် ဝိနည်းသိက္ခာပုဒ်များကို မလွှဲမရှောင်သာ လက်ခံကျင့်သုံးကြသည်ဟု အပြစ်ရှာ ပြောလိုသူတို့ကို နှုတ်ပိတ်သွားစေ၍ တပည့်သာဝက ရဟန်းသံဃာများကိုယ်တိုင်က ကျေကျေနပ်နပ် လိုလိုလားလား လက်ခံကျင့်သုံးမှုပြုကြသည်ကို ထင်ရှားစေရန်လည်းကောင်း "ငါဘုရား ပရိနိဗ္ဗာန် စံပြီးနောက် အငယ်စား သိက္ခာပုဒ်များကို ဖြုတ်လိုက ဖြုတ်ကြလော့"ဟု မြတ်စွာဘုရား မိန့်တော်မူခဲ့ခြင်းဖြစ်လေသည်။ "မြတ်စွာဘုရားရှင် ကိုယ်တိုင်က ပယ်ဖြုတ်ခွင့်ပေးပါလျက် ငါတို့ရဟန်းသံဃာများ ကိုယ်တိုင်က လိုလိုလားလား လက်ခံကျင့်သုံးလိုကြသော သိက္ခာပုဒ်တော်များပါတကား"ဟု သဒ္ဓါတရားနည်းပါးသော ပုထုဇဉ်ရဟန်း အချို့တို့သည်လည်း အများနည်းတူ ကျေကျေနပ်နပ် လက်ခံလာကြလေတော့သည်။

## အရှင်အာနန္ဒာ အပြစ်တင်ခံရခြင်းများ

သင်္ဂါယနာတင်ပွဲ ပြီးဆုံးသောနေ့၌ ရဟန္တာမထေရ်ကြီးများသည် အရှင်အာနန္ဒာအပေါ် ဝေဖန်ပြစ်တင်မှု ပြုကြလေသည်။

၁။ "ငါဘုရား ပရိနိဗ္ဗာန်စံတော်မူပြီးနောက် အငယ်စား သိက္ခာပုဒ်များကို သံဃာသည် ဖြုတ်ပယ်လိုက ဖြုတ်ပယ်ကြလော့"ဟု မြတ်စွာဘုရား မိန့်တော်မူရာ၌ "မည်သည့် သိက္ခာပုဒ်များ သည် အငယ်စားသိက္ခာပုဒ်ဖြစ်သည်"ဟု အရှင်အာနန္ဒာသည် ခွဲခြား မမေး မလျှောက်မိချေ။ ထိုသို့ မမေး မလျှောက်မိခြင်း သည်

အရှင်အာနန္ဒာ၏ ပေါ့လျော့မှု, ချွတ်ယွင်းမှုဖြစ်သည်ဟု အပြစ်တင်ကြလေသည်။ (အမှန်စင်စစ် အရှင်အာနန္ဒာသည် သိက္ခာပုဒ်များကို ပယ်ဖြုတ်ရန် လုံးဝ မရည်ရွယ်သောကြောင့် "အဘယ်သိက္ခာပုဒ်သည် အငယ်စားဖြစ်ပါသနည်း" ဟု မေးရန် မလိုသဖြင့် မမေးမလျှောက်မိခြင်း ဖြစ်ပေသည်။)

၂။ တစ်ရံရောအခါ မြတ်စွာဘုရားရှင်အတွက် မိုးရေခံသင်္ကန်း ချုပ်ကြသောအခါ အရှင်အာနန္ဒာသည် ထိုသင်္ကန်းစကို ခြေဖြင့် နင်းမိ၍ ချုပ်၏။ ထိုသို့ မြတ်စွာဘုရား၏ သင်္ကန်းကို ခြေဖြင့် နင်းခြင်းသည် မရိုသေရာ ရောက်သည်ဟု အပြစ်တင်ကြလေသည်။

၃။ ကုသိနာရုံပြည်၌ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူသောအခါ မြတ်စွာဘုရားအလောင်းတော်ကို လာရောက်ဖူးမြော်သူများ အနက် အိမ်အပြန် မိုးမချုပ်စေရန်အတွက် အရှင်အာနန္ဒာသည် အမျိုးသမီးများအား ပထမဦးစွာ ဖူးမြော်ခွင့်ပေး၏။ ထိုအမျိုးသမီးများ ငိုယိုမှုကြောင့် မြတ်စွာဘုရား၏ ရုပ်အလောင်းတော်ကို မျက်ရည်များဖြင့် ပေကျံခဲ့ရလေသည်။ ဤသို့ အမျိုးသမီးထုအား ပထမဦးစွာ ရှိခိုးခွင့်ပြုသည့်အတွက်လည်း အရှင်အာနန္ဒာကို အပြစ်တင်ကြလေသည်[၁]။

၄။ မြတ်စွာဘုရားသည် "အလိုတော်ရှိပါက အာယုကပ်ပတ်လုံး တည်နိုင်ကြောင်း"ကို မိန့်တော်မူပါလျက် "သတ္တဝါတို့ကို သနားသောအားဖြင့် အာယုကပ်ပတ်လုံး တည်တော်မူပါဘုရား"ဟု မတောင်းပန်ခြင်းသည်လည်း အရှင်အာနန္ဒာ၏ ချွတ်ယွင်းချက်ဖြစ်သည်ဟု အပြစ်တင်ကြသည်။

---

မှတ်ချက်

၁။ မဟာယာနမှတ်တမ်းအရ အရှင်အာနန္ဒာသည် အမျိုးသမီးထု၏ ကြည့်လိုမှုကြောင့် မြတ်စွာဘုရား၏ယောကျ်ားအင်္ဂါကို ဖွင့်လှစ်ဖော်ပြသည်ဟု ဆိုကြသည်။

၅။ ဗုဒ္ဓမြတ်စွာ၏ သာသနာတော်၌ အမျိုးသမီးများ ရဟန်းပြုခွင့် ရအောင် (ဘိက္ခုနီသာသနာ ဖြစ်ပေါ်လာအောင်) ကြိုးစား အားထုတ်မှုအတွက်လည်း အရှင်အာနန္ဒာကို အပြစ်တင်တော် မူကြသည်။

အထက်ပါ ငါးချက်တို့ကို သံဃာ့ဦးဆောင် ရဟန္တာမထေရ်ကြီးတို့ ကျေနပ်မှုရှိအောင် အရှင်အာနန္ဒာသည် မိမိချွတ်ယွင်းချက်ဖြစ်ကြောင်း ဝန်ခံရလေသည်။

## ပထမသင်္ဂါယနာ၌ သံဃာကွဲပြားမှု ရှိသလော

ထိုပထမ သင်္ဂါယနာတင်ချိန်၌ ဝါကျွတ်သောအခါ အရှင်ပုရာဏ မဟာထေရ်သည် ဒက္ခိဏာဂိရိဇနပုဒ်၌ နောက်လိုက် ရဟန်းငါးရာနှင့် အတူတကွ ဒေသစာရီ လှည့်လည်တော်မူ၏။ ဒက္ခိဏာဂိရိဇနပုဒ်တွင် အတန်ကြာ သီတင်းသုံးနေထိုင်ပြီးနောက် သင်္ဂါယနာတင်ပွဲ ပြီးဆုံးခါနီး အချိန်၌ ရာဇဂြိုဟ်ပြည်သို့ ကြွရောက်လာ၏။ ရာဇဂြိုဟ်ပြည် ဝေဠုဝန် ကျောင်းတော်တွင် သင်္ဂါယနာတင် ရဟန္တာမထေရ်ကြီးများထံသို့ ချဉ်း ကပ်၍ ဝမ်းမြောက်ဝမ်းသာ အလ္လာပသလ္လာပ ပြောဆို၏။ အရှင်ပုရာဏ ထေရ်ကို သင်္ဂါယနာတင်ပွဲသို့ ပါဝင်တက်ရောက်ရန် ရဟန္တာမထေရ်ကြီး များက တိုက်တွန်း ဖိတ်ခေါ်ကြလေသည်။

ထိုအခါ အရှင်ပုရာဏထေရ်က "ငါ့ရှင်တို့၊ သင်္ဂါယနာတင်ခြင်းကို ကောင်းစွာပြုအပ်လေပြီ၊ (သင်္ဂါယနာတင်သောအမှုသည် ကောင်းပါ သည်။) သို့ရာတွင် ငါမူကား မြတ်စွာဘုရားမျက်မှောက်တော်မှ ကြားနာ မှတ်သားထားသည့်အတိုင်း ဆက်လက်ဆောင်ရွက်ပါအံ့"ဟု ပြန်လည် မိန့်ကြားလေသည်။

ဤစကားရပ်၌ အရှင်ပုရာဏ၏ ဆိုလိုချက်ကို သဘောမပေါက်သူ တို့သည် သင်္ဂါယနာတင်ခြင်းကို အရှင်ပုရာဏထေရ်က ထောက်ခံခြင်း မရှိ။ ပထမသင်္ဂါယနာ၌ သံဃာအက်ကြောင်းပေါ်သည်ဟု ကောက်ချက် ချကြ၏။ အမှန်စင်စစ် အရှင်ပုရာဏထေရ်၏ နှုတ်မှ "သုသင်္ဂီတာေ

ကောင်းသော သင်္ဂါယနာတင်ခြင်းတည်း”ဟု ထုတ်ဖော်ပြောကြားခြင်းသည် သင်္ဂါယနာတင်မှုကို သဘောတူလက်ခံကြောင်း ထင်ရှားပါသည်။

“မြတ်စွာဘုရား မျက်မှောက်ခေတ်၌ ငါကိုယ်တိုင် ကြားနာခဲ့ရသည့်အတိုင်း ဆက်လက်ဆောင်ပါအံ့”ဟူသော စကားမှာ သင်္ဂါယနာကို အသိအမှတ် မပြုရာ ရောက်သည်ဟု အဓိပ္ပာယ်ကောက်ကြပြန်သည်။ အမှန်စင်စစ် သင်္ဂါယနာတင်ခြင်းဆိုသည်မှာ မြတ်စွာဘုရား ဟောတော်မူသောတရားများကို ပိဋကတ်အားဖြင့် ခွဲခြား၍, နိကာယ်အားဖြင့် ခွဲခြား၍ တစ်ပါးစု, နှစ်ပါးစု စသည်ဖြင့် မျိုးတူရာ, သဘောတူရာ အစီအစဉ်စနစ်တကျ ခွဲခြားစီစဉ်ခြင်း ဖြစ်လေသည်။ ထိုအစီအစဉ်များမှာ အရှင်ပုရာဏမထေရ်ကြီး ကျက်မှတ် ဆောင်ထားသော အစီအစဉ်နှင့် မတူချေ။ ထို့ကြောင့် အရှင်ပုရာဏမထေရ်ကြီးအနေဖြင့် “အသက်အရွယ်ကြီးရင့်အိုမင်းမှ ပိဋကများကို, နိကာယ်များကို အစီအစဉ်သစ်ဖြင့် ပြန်လည် မသင်ယူလို၊ မသင်ယူနိုင်တော့။ စွမ်းဆောင်နိုင်သည့် ပုဂ္ဂိုလ်များနှင့် ရဟန်းသစ်များသည် သင်္ဂါယနာမူအတိုင်း ဆက်လက် သင်ယူဆောင်ထားကြပါ။ မိမိမူကား မိမိရထားသည့် အစီအစဉ်အတိုင်း ဆက်လက်ဆောင်ထားတော့မည်”ဟု ဆိုလိုပါသည်။

ရာဇဂြိုဟ်ပြည်တွင် သင်္ဂါယနာတင်မည့် ရဟန္တာမဟာထေရ် ငါးရာမှတစ်ပါး အခြားမည်သည့် ရဟန်းမျှ ဝါမဆိုရဟု ဉာတ်ကမ္မဝါစာဖြင့် အမိန့်ထုတ်ပြန်ထားကြောင်းကို အထက်၌ ဖော်ပြခဲ့လေပြီ။ ထို့ကြောင့် ရာဇဂြိုဟ်ပြည်တွင် သင်္ဂါယနာတင်နေချိန်၌ ရဟန္တာမထေရ်ကြီး ငါးရာမှတစ်ပါး အခြားရဟန်းသံဃာများ မရှိချေ။ သင်္ဂါယနာတင်ပွဲကို ဝါခေါင်လပြည့်ကျော် ၅ ရက်နေ့မှ စတင်၍ ခုနစ်လကြာမှ ပြီးဆုံးသည် ဆိုရာ တပေါင်းလပြည့်လောက်တွင် သင်္ဂါယနာတင်ပြီးခါနီးမှ အရှင်ပုရာဏထေရ် ရာဇဂြိုဟ်သို့ ရောက်လာခြင်းဖြစ်ပေသည်။ အရှင်ပုရာဏထေရ်သည်လည်း ထိုအချိန်၌ သင်္ဂါယနာတင်ပွဲ ပြီးဆုံးလောက်ပြီဟု ယူဆ၍ ရာဇဂြိုဟ်သို့ ကြွရောက်လာခြင်းဖြစ်ပေမည်။

အရှင်ပုရာဏသည် သံဃာငါးရာကို ဦးဆောင်နေသော သံဃာ့ထေရ်ဖြစ်၍ ကုသိနာရုံပြည်တွင် သံဃာ့ထေရ် ခုနစ်သိန်း စည်းဝေးရာ၌ အရှင်ပုရာဏထေရ် ပါဝင်ခဲ့မည် ဧကန်ဖြစ်ပါသည်။ ထိုအစည်းအဝေးက သင်္ဂါယနာတင်ရန် ဆုံးဖြတ်ချက်နှင့် ရာဇဂြိုဟ်၌ အခြားရဟန်းများ ဝါမဆိုရန် ဆုံးဖြတ်ချက်တို့ကို အရှင်ပုရာဏထေရ်သည်လည်း သိရှိပြီး ဖြစ်ပေမည်။ သို့ပါလျက် ရာဇဂြိုဟ်ပြည်သို့ အရှင်ပုရာဏကြွလာခြင်းမှာ တပေါင်းလပြည့်ကျော်လောက်တွင် သင်္ဂါယနာတင်ပြီးလောက်ပြီဟု ယူဆ၍ ကြွလာခြင်း ဖြစ်ပေမည်။

ဤသို့ ရှင်းလင်းစွာ နားလည်ပါက အရှင်ပုရာဏသည် ပထမသင်္ဂါယနာကို ကန့်ကွက်ခြင်းမရှိ။ သဘောတူ ထောက်ခံကြောင်း သိသာပါသည်။

## အဇာတသတ်မင်းနှင့်ဂျိန်းသာသနာ့ဒါယကာ

ဂျိန်းစာပေ မှတ်တမ်းများ၌ မဂဓတိုင်း ကူနိယဘုရင်သည် ဂျိန်းဘုရား မဟာဝီရ၏ ဒါယကာဖြစ်၍ ဂျိန်းဘာသာ၏ သာသနာ့ဒါယကာဖြစ်သည် ဟု ဆို၏။ ထိုကူနိယမင်းကို အဇာတသတ်မင်းကြီး ဖြစ်သည်ဟု အချို့ရာဇဝင်ဆရာများက ဆိုကြ၏။ ဗိမ္ဗိသာရမင်းကြီးကို 'သေနိယ'ဘွဲ့ အမည်ဖြင့် ခေါ်၍ 'ကူနိယ'ဟူသော ဘွဲ့အမည်သည် ဗိမ္ဗိသာရမင်းကြီး၏ သား အဇာတသတ်မင်းကြီးပင် ဖြစ်ရမည်ဟု ခန့်မှန်းကြ၏။ ထို့အပြင် အဇာတသတ်မင်းကြီး၏ မယ်တော်မှာ ဝေဒေဟီ ဖြစ်၏။ ဝိဒေဟတိုင်း ဝေသာလီပြည့်ရှင် ဘုရင်၏ နှမတော်ဖြစ်သောကြောင့် 'ဝေဒေဟီ' ဘွဲ့အမည်ရခြင်း ဖြစ်သည်ဟု ဆိုကြ၏။ ဂျိန်းဘုရား မဟာဝီရသည်လည်း ဝိဒေဟတိုင်း ဝေသာလီ မင်းမျိုးမင်းနွယ်ဖြစ်၍ အဇာတသတ်၏ မယ်တော်ဘက်မှ ဆွေမျိုးဆက်စပ်မှုရှိသည်။ ထို့ကြောင့် ကူနိယဘွဲ့ခံ အဇာတသတ်မင်းကြီးသည် မယ်တော်ဘက်မှ ဆွေမျိုးတော်စပ်သော ဂျိန်းဘုရား မဟာဝီရကို ကိုးကွယ်ဆည်းကပ်၍ ဂျိန်းဘာသာ၏ သာသနာ့ဒါယကာဘုရင်ဖြစ်သည်ဟု ဆိုကြပြန်သည်။

အမှန်စင်စစ် ဝေဒေဟီမိဖုရားကြီးသည် ဝိဒေဟတိုင်း ဝိဒေဟဘုရင်၏ သမီးတော် မဟုတ်၊ ပါဠိဘာသာ၌ ပဏ္ဍိတ=ပညာရှိကို "ဝေဒေဟီ"ဟု ခေါ်၏။

(ဝေဒေဟီ = ဝေဒ+ဤဟ+ဤ = ဉာဏ်ပညာဖြင့်+အားထုတ်ပြု လုပ်လေ့ရှိ+သူ)

ဝေဒေဟီသည် မဟာကောသလမင်းကြီး၏ သမီးတော်ဖြစ်၍ ပသေနဒီ ကောသလမင်းကြီး၏ နှမတော် ဖြစ်လေ၏။ ဗိမ္ဗိသာရမင်းကို လုပ်ကြံ၍ အဇာတသတ်မင်း နန်းတက်သောအခါ ဝေဒေဟီ၏ မောင် ပသေနဒီ ကောသလမင်းကြီးနှင့် စစ်ဖြစ်ကြောင်းကိုလည်းကောင်း၊ နောက်ပိုင်းတွင် အဇာတသတ်မင်းကြီးနှင့် ပသေနဒီကောသလမင်းကြီးတို့ ချစ်ကြည်ရေး ပြန်လည် ရရှိကြောင်းကိုလည်းကောင်း၊ ပသေနဒီ ကောသလမင်းကြီးကို သားတော် ဝိဋူဍဘ, က ထီးနန်းလုပ်ကြံသောအခါ ပသေနဒီ ကောသလမင်းကြီးသည် အဇာတသတ်မင်းကြီးထံ စစ်ကူတောင်းရန် လာရောက်ပုံကိုလည်းကောင်း ပါဠိတော်နှင့် အဋ္ဌကထာများ၌ အပြည့်အစုံ မှတ်တမ်းတင်ပြီးရှိပါသည်။ ထို့ကြောင့် အဇာတသတ်မင်းကြီးသည် ဂျိန်းဘုရား, မဟာဝီရနှင့် ဆွေမျိုးတော်စပ်ခြင်းမရှိကြောင်း ထင်ရှား၏။

ထို့ပြင် ဂျိန်းစာပေမှတ်တမ်းအရ "ကူနိယဘုရင်နန်းတက်၍ ၁၆ နှစ်ကြာမှ ဂျိန်းဘုရား မဟာဝီရ ကွယ်လွန်သည်"ဟု ဆိုရာ အဇာတသတ်မင်း မဟုတ်နိုင်။ အဇာတသတ်မင်းကြီး နန်းတက်သည်မှာ မြတ်စွာဘုရား ပရိနိဗ္ဗာန်မစံမီ ၈ နှစ် အလို၌ ဖြစ်၏။ မြတ်စွာဘုရားသည် သက်တော် ၈၀ ၌ ပရိနိဗ္ဗာန်စံတော်မူ၍ ဂျိန်းဘုရား မဟာဝီရသည် ၇၂ နှစ်သာ အသက်ရှည်၏။ ထို့ပြင် မဟာဝီရသည် ဗုဒ္ဓမြတ်စွာဘုရားထက် နှစ်အနည်းငယ်စော၍ ကွယ်လွန်ခဲ့သည်။ ထို့ကြောင့် မဟာဝီရသည် မြတ်စွာဘုရား ပရိနိဗ္ဗာန်မစံမီ အနည်းဆုံး ၉ နှစ်လောက်က ကွယ်လွန်ပြီးဖြစ်ရပေမည်။ ဤသို့ဆိုလျှင် မဟာဝီရကွယ်လွန်ချိန်တွင် အဇာတသတ်မင်းသားသည် နန်းမတက်ရသေးရုံမျှမက အသက် ၁၀ နှစ်ကျော်၊

၁၂ နှစ်ခန့် မျှသာ ရှိပေဦးမည်။ ထို့ကြောင့် မဟာဝီရကို ဆည်းကပ်ကိုးကွယ်သော ကူနိယဘုရင်သည် အဇာတသတ်မင်းကြီး မဖြစ်နိုင်ချေ။ ထို့အပြင် ရာဇဂြိုဟ်ပြည့်ရှင် အဇာတသတ်မင်းကြီးသည် 'သေနိယ (စစ်အင် အားကြီးသူ)'ဟူသော ဘွဲ့အမည်ကို ခံယူ၏။ 'ကူနိယ'ဟူသော ဘွဲ့အမည်ကို မခံယူချေ။

အမှန်စင်စစ် 'ကူနိယ'ဘွဲ့အမည်ကို ခံယူသော ဘုရင်မှာ မဂဓတိုင်း အဇာတသတ်မင်းကြီး (သေနိယ၏) လက်အောက်ခံ ဘုရင်အဖြစ်ဖြင့် စမ္ပာမြို့ကို အုပ်စိုးသော မင်းတစ်ပါးဖြစ်သည်ဟု မဂျူးဒါး အစရှိသော အိန္ဒိယသမိုင်း ဆရာကြီးများက နောက်ဆုံး ကောက်ချက်ချကြလေသည်။

ထို့ကြောင့် ရာဇဂြိုဟ်ပြည့်ရှင် အဇာတသတ်မင်းကြီးသည် ပထမ သင်္ဂါယနာတင်ပွဲကို အာဏာစက်ဖြင့် ကူညီစောင့်ရှောက်၍ ဗုဒ္ဓသာသနာတော်ကို ထောက်ပံ့လှူဒါန်းသော သာသနဒါယကာ မင်းကြီးဖြစ်ကြောင်း သံသယကင်းရှင်းစွာ မှတ်ယူကြရမည်။

အထူး သတိပြုရန်မှာ - အသောကမတိုင်မီ ရှေးပိုင်း အိန္ဒိယရာဇဝင်မှာ ဘုရားဟော ပါဠိတော်များကိုသာလျှင် အခိုင်အမာဆုံး မှတ်တမ်းအဖြစ် ယူကြရသည်။ ဂျိန်းစာပေမှာ ပထမ သင်္ဂါယနာနောက် အနှစ် ၂၀၀ ခန့် နောက်ကျမှ သင်္ဂါယနာတင်ရသောကြောင့် ဗုဒ္ဓခေတ်ရာဇဝင် သမိုင်းကြောင်း အထောက်အထားရှာဖွေရာ၌ ဒုတိယအဆင့်မျှသာ ရှိ၏။ ပါဠိပိဋကတ်တော်လောက် အားမထားရချေ။ ပါဠိစာပေနှင့် ဂျိန်းစာပေ နှစ်ခုမှလွဲ၍ အသောကမတိုင်မီခေတ် ရာဇဝင်သမိုင်းမှတ်တမ်း မရှိချေ။ အေဒီ ၅ ရာစု ဂုတ္တမင်းများလက်ထက်ရောက်မှ အိန္ဒိယစာရေးဆရာများက ရာဇဝင်သမိုင်းများ ရေးကြသည်။ ထို့ကြောင့် လွန်ခဲ့သော ၂၅၀၀ ကျော် ဗုဒ္ဓခေတ် ရာဇဝင်သမိုင်းမှာ ပါဠိပိဋကသာလျှင် အခိုင်လုံဆုံး ဖြစ်သည်ဟု မှတ်ယူသင့်၏။

## သက္ကရာဇ်ဖြို၍ သာသနာသက္ကရာဇ် စတင်ခြင်း

ပထမသင်္ဂါယနာတင်ပွဲသည် ခုနစ်လ ကြာမြင့်ရာ ဝါခေါင်လပြည့်ကျော် ၅ ရက်နေ့တွင် စတင်ခဲ့၍ တပေါင်းလပြည့်ကျော် ၅ ရက်နေ့တွင် ပြီးဆုံးခြင်းသို့ ရောက်လေသည်။

ထိုအခါ အရှင်မဟာကဿပနှင့် သာသနာ့ဒါယကာ အဇာတသတ်မင်းကြီးတို့ သဘောတူညီကြ၍ မဟာသက္ကရာဇ် ၁၄၈ ခုနှစ်ကို ချေဖြိုးလျှင် ၁ ခုကြွင်းပြုလျက် မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူသော နှစ်ကို ပထမ ၁ နှစ်ဟု သတ်မှတ်ရေတွက်လေ၏။ မဟာသက္ကရာဇ်နှင့်သာသနာသက္ကရာဇ်ကို တညီတည်းပြု၍ ရေတွက်ခဲ့လေသည်။



# ဒုတိယ သင်္ဂါယနာ နိဒါန်း

မြတ်စွာဘုရားရှင် ပရိနိဗ္ဗာန် စံတော်မူမည့်နှစ်၌ မဂဓတိုင်းဘုရင် အဇာတသတ်သည် ဝိဒေဟတိုင်း ဝေသာလီပြည်ကို တိုက်ခိုက် သိမ်းပိုက်ရန်အတွက် ဝေသာလီနှင့် မျက်နှာချင်းဆိုင် ဂင်္ဂါမြစ်တစ်ဖက်ကမ်းတွင် ပါဋလိပုတ်ခံတပ်မြို့ကို တည်၏။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီး၍ ၂ နှစ်ခန့် ကြာသောအခါ အဇာတသတ်မင်းကြီးသည် ဝေသာလီပြည်ကို ချီတက်တိုက်ခိုက် သိမ်းယူလေသည်။ ဤနည်းအားဖြင့် ဝိဒေဟတိုင်းနှင့် မဂဓတိုင်းတို့သည် ဘုရင်တစ်ပါးတည်း၏ အုပ်စိုးမှုအောက်သို့ ရောက်ရှိလာလေသည်။

အဇာတသတ်မင်း နန်းစံ ၃၂ နှစ်ရှိသောအခါ ၎င်း၏ သားတော် ဥဒယဘဒ္ဒမင်းသားသည် ဖခင်ကို လုပ်ကြံသတ်ဖြတ်၍ နန်းတက်လေ၏။ ထိုမင်း နန်းစံ ၁၆ နှစ်ရှိသောအခါ ၎င်း၏သားတော် မဟာမုဏ္ဍိကသည် ခမည်းတော်ကို လုပ်ကြံ၍ ထီးနန်းသိမ်းပိုက်လေ၏။ ထိုမင်းကို ၎င်း၏ သားတော် အနုရုဒ္ဓမင်းသားက လုပ်ကြံ၍နန်းတက်၏။ မဟာမုဏ္ဍိကနှင့် အနုရုဒ္ဓ မင်းနှစ်ဆက် နန်းစံ ၈ နှစ်မျှသာ ရှိ၏။ ထို့နောက် အနုရုဒ္ဓမင်းကို ၎င်း၏သားတော် နာဂဒါသက လုပ်ကြံ၍ နန်းတက်၏။

နာဂဒါသမင်း နန်းစံ ၂၄ နှစ် ရှိသောခါ တိုင်းသူပြည်သားတို့သည် အဖသတ်မင်းမျိုးကို အလိုမရှိသဖြင့် စုပေါင်းတိုင်ပင်ညီညွတ်၍ နာဂဒါသမင်းကို နန်းချပြီးလျှင် ဝေသာလီမင်းမျိုးမှ ဆင်းသက်သော သုသုနာဂအမတ်ကြီးကို ဘုရင်အဖြစ် တင်မြှောက်ကြကုန်၏။ ထိုသုသုနာဂဘုရင်လက်ထက်၌ ဘုရင့်နေပြည်တော်ကို ရာဇဂြိုဟ်မှ ပါဋလိပုတ်မြို့တော်သို့ ရွှေ့ပြောင်း၏။

## ပြင်ဆင်ချက် ဆယ်ချက်

သုသုနာဂမင်း၏သားတော် ကာလာသောကမင်းလက်ထက် မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူ၍ နှစ်ပေါင်း တစ်ရာ ကြာသောအခါ ဝေသာလီပြည်တွင် ဝဇ္ဇီတိုင်းသား ရဟန်းများသည် ဝိနည်း သိက္ခာပုဒ်များကို ပြင်ဆင်ချက် ဆယ်ချက် (ဒသဝတ္ထုက)ကို ပြုကြကုန်၏။ ၎င်းတို့မှာ

၁။ သိင်္ဂီလောဏကပ္ပ = သားချိုဦထည့်၍ ဆောင်ထားသောဆားကို နေ့စဉ် ဆွမ်းစားတိုင်း ရောနှောစားနိုင်သည်ဟု ဆိုကြ၏။

(ရဟန်းတော်များသည် ခဲဖွယ်ဘောဇဉ်တို့ကို အကပ်ခံပြီးပါက နောက်နေ့အတွက် သိုမှီးသိမ်းဆည်း၍ မစားရချေ။ တစ်ထပ်စာအတွက်သာ အကပ်ခံ စားသောက်ရ၏။ ဆားကို ဆေးအဖြစ် သုံးဆောင်ရန် အကပ်ခံပါမူ တစ်ကြိမ် အကပ်ခံပြီးပါက တစ်သက်လုံး သုံးဆောင်ခွင့်ရှိ၏။ သို့ရာတွင် နံနက်ပိုင်း ခဲဖွယ်ဘောဇဉ်နှင့် ရောနှောစားသုံးရန် အကပ်ခံပါမူ နောက်တစ်ရက်ဆက်လက်စားသုံးခွင့်မရှိ။ မွန်းမတည့်မီ လူသာမဏေတို့အား ပေးစွန့်ရ၏။ ထိုသို့မဟုတ်ဘဲ မိမိဘာသာ သိမ်းဆည်းထား၍ နောက်တစ်ရက် ဆွမ်းနှင့်ရော၍ သုံးဆောင်ပါလျှင် ပါစိတ်အာပတ်သင့်၏။ ဝဇ္ဇီတိုင်းသား ရဟန်းများသည် ထိုသိက္ခာပုဒ်ကို ပြင်ဆင်သည့် အနေဖြင့် သားချိုဖြင့် ပြုလုပ်သော ဆားဘူး၌ ထည့်၍ ဆောင်ထားလျှင် နေ့စဉ် ဆွမ်းနှင့် ရောနှော စားသော်လည်း အာပတ်မသင့်ဟု ဆို၏။

အမှန်စင်စစ် သားချို၌ ထည့်ထားသော ဆားသည်လည်း ဆားသာလျှင်ဖြစ်၍ ဘာမျှထူးခြားမှု မရှိ။ တမင်အဆန်းထွင်ခြင်းမျှသာဖြစ်၍ အာပတ်သင့်ခြင်းမှ မလွတ်နိုင်။)

၂။ ဒွင်္ဂုလကပ္ပ = မွန်းလွဲပြီးနောက် နေအရိပ် လက်နှစ်သစ်လွန်သည်အထိ ရဟန်းများ ဆွမ်းစားနိုင်ခွင့်ရှိသည်ဟု ဆို၏။

(အမှန်စင်စစ် ရဟန်းတော်များသည် နေမွန်းတည့်ပြီး နောက် ဆွမ်းခဲဖွယ်ဘောဇဉ်တို့ကို စားသောက်လျှင် ပါစိတ် အာပတ်သင့်၏။)

၃။ အာဝါသကပ္ပ = အလွန်ကျယ်ဝန်းသော မဟာသိမ်ကြီးတစ်ခု အတွင်း ကျောင်းအဆောက်အအုံ များစွာရှိရာ တစ်ချိန်တည်း၌ တစ်ကျောင်းစီတွင် သံဃာစည်းဝေး၍ ဥပုသ်ကံ စသော သံဃာ့ကံများ ပြုနိုင်သည် ဆို၏။

(အမှန်စင်စစ် သိမ်တစ်ခုအတွင်း၌ သံဃာစည်းဝေးရာတွင် သံဃာညီညွတ်မှုကို ပြရန် ရဟန်းတစ်ပါးနှင့်တစ်ပါး တစ်တောင်ခန့် နီးကပ်အောင် ထိုင်ကြရ၏။ တစ်ကျောင်းစီ စည်းဝေးပါက သံဃာမညီမညွတ် ကွဲပြားနေသောကြောင့် အာပတ်သင့်၏၊ ပြုသမျှသောသံဃာ့ကံသည် အထမမြောက်ချေ၊ ကံပျက်၏။)

၄။ အနုမတိကပ္ပ = သံဃာ့အစည်းအဝေး၌ သံဃာ စုံလင်အောင် အချိန်မစောင့်ဘဲ နောက်မှရောက်လာသော သံဃာများထံမှ သဘောတူညီချက်ကို နောက်မှရယူမည်ဟု ကြံရွယ်၍ အလျင်ရောက်နှင့်သော သံဃာများက ဆုံးဖြတ်ချက်တစ်ခုခု ပြုလုပ်နိုင်သည်၊ သံဃာ့ကံ ပြုနိုင်သည်ဟု ဆို၏။

(အမှန်စင်စစ် သံဃာ့အစည်းအဝေးသို့ မတက်ရောက်နိုင်သော ရဟန်းများသည် ထိုအစည်းအဝေးက ဆုံးဖြတ်သမျှကို သဘောတူပါကြောင်း ကြိုတင်ဆန္ဒပေးကြရ၏။ အစည်းအဝေးပြီးမှ, နောက်ကျမှပေးသောဆန္ဒ (သဘောတူချက်)သည် တရားမဝင်ချေ။ ထို့ကြောင့် သံဃာမစုံလင်မီ ဆန္ဒ = သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ ရောက်လာသမျှ သံဃာတစ်စိတ်တစ်ပိုင်းဖြင့် ဆုံးဖြတ်ခြင်းသည် တရားမဝင်ချေ။ သံဃာ မညီညွတ်သောကြောင့် ဆုံးဖြတ်ပြုလုပ်ချက်သည် ထမြောက်အောင်မြင်ခြင်းမရှိ။)

၅။ အာစိဏ္ဏကပ္ပ = မိမိဆရာသမား ပြုလုပ်ခဲ့သော အစဉ်အလာ ထုံးစံမှန်သမျှကို ပြုလုပ်နိုင်ခွင့် ရှိသည်ဟု ဆိုကြ၏။ ထိုသို့ ဆရာသမား အတုလိုက်ခြင်းကြောင့် အာပတ်မသင့်နိုင်ဟု ဆိုကြ၏။

(အမှန်စင်စစ် ဆရာသမားတို့ ပြုလုပ်ခဲ့သော အစဉ်အလာ ထုံးစံများသည် ဝိနည်းနှင့်ညီလျှင် အာပတ်မသင့်ချေ။ ဝိနည်းနှင့် မညီပါက အာပတ်သင့်မည်သာ ဖြစ်၏။ မိမိလုပ်သမျှ အပြစ်ကို ဆရာ့အမည်တပ်၍ ကာကွယ်ရန် ဤနည်းကို တီထွင်ခြင်းဖြစ်၏။)

၆။ ဂါမန္တရကပ္ပ = တခြားရွာသို့ သွားရန် ကိစ္စရှိပါက ပဝါရိတ်သင့်သော ရဟန်းသည် အတိရိက်ဝိနည်းကံ မပြုသောဆွမ်းကို စားနိုင်သည် ဟု ဆို၏။

(ရဟန်းတော်များ ဆွမ်းစားနေစဉ် 'တော်ပြီ, တန်ပြီ'ဟု နှုတ်မြွက်၍ဖြစ်စေ၊ လက်ကာ၍ဖြစ်စေ ထုတ်ဖော်ပြောကြားလျှင် ပဝါရိတ်သင့်သည်။ 'မစားတော့ပါ'ဟု ငြင်းပယ်ခြင်းကို ပဝါရိတ်သင့်သည်ဟု ခေါ်ဆို၏။ ဤသို့ ငြင်းပယ်မိသော ရဟန်းသည် ထိုနေ့ နံနက်ပိုင်းတွင် တစ်စုံတစ်ခုမျှ စားသောက်ခွင့် မရှိတော့ချေ။ အကယ်၍ စားသောက်လိုပြန်ပါက အခြား ရဟန်းတစ်ပါးအား ခဲဖွယ်ဘောဇဉ်များကို ပေးစွန့်လိုက်ရ၏။ ထိုဒုတိယရဟန်းက 'ဤခဲဖွယ်ဘောဇဉ်များကို တော်ပြီ၊ ငါမစားလို၊ အပိုအလျှံဖြစ်သည်'ဟု နှုတ်မြွက်၍ ပြန်ပေးမှ စားခွင့်ရှိ၏။ ထိုသို့ အခြားရဟန်းတစ်ပါးက 'တော်ပြီ'ဟု ဆို၍ ပြန်ပေးခြင်းကို အတိရိက်ဝိနည်းကံ ပြုသည်ဟု ဆိုရ၏။ ပဝါရိတ်သင့်သော ရဟန်းသည် အတိရိက်ဝိနည်းကံ မပြုဘဲ ခဲဖွယ်ဘောဇဉ် တစ်ခုခုကို စားပါက ပါစိတ်အာပတ်သင့်သည် ဟူသော သိက္ခာပုဒ်ကို လျှော့ပေါ့အောင် ပြင်ဆင်ခြင်း ဖြစ်သည်။)

၇။ အမထိတကပ္ပ = ပဝါရိတ်သင့်သော ရဟန်းသည် အတိရိက် ဝိနည်းကံ မပြုဘဲ နို့ရည်အဖြစ်ကို လွန်၍ ဒိန်ချဉ်အဖြစ်သို့ မရောက်သေးသော နို့ချဉ်ကို သောက်ခွင့်ရှိသည်ဟု ဆို၏။

(ဝိနည်းသိက္ခာပုဒ်တွင် နို့ရည်ကိုလည်းကောင်း၊ ဒိန်ချဉ်ကို လည်းကောင်း ဘောဇဉ် (စားစရာ)၌ ထည့်သွင်း ရေတွက် ပြထားရာ နို့ရည်နှင့် ဒိန်ချဉ် စပ်ကူးမပ်ကူး နို့ချဉ်ရည်သည် ဘုရားဟောသော ဘောဇဉ်မှ အလွတ်ဖြစ်သည်ဟု ကြံဆ၍ အထက်ပါ သိက္ခာပုဒ်များကို ခြွင်းချက်ဖြင့် လျော့ပေါ့အောင် ပြင်ဆင်ချက် ပြုလုပ်ခြင်း ဖြစ်၏။)

၈။ ဇဠောဂိ = ကောက်ညင်းဆန်၊ ထန်းလျက်၊ ကြံသကာ စသည်ကို စိမ်ရည်ဖြစ်အောင် ဖော်စပ်ရာ၌ (စိမ်ရည်, ခေါင်ရည်) အဖြစ် သို့ မရောက်သေးသော သေရည်အနုစား, စိမ်ရည်အနုစားကို ရဟန်းတော်များ သောက်သုံးနိုင်သည်ဟု ဆို၏။

(အမှန်စင်စစ် ရဟန်းတော်များသည် စိမ်ရည်, ခေါင်ရည်, ထန်းရည်ခါး စသော သေရည် အရက် မူးယစ်ဆေးဝါးကို သုံး ဆောင်ခွင့်မရှိ။ သုံးဆောင်ပါက ပါစိတ်အာပတ်သင့်၏။ မြန်မာ နိုင်ငံတွင်လည်း ဝေသာလီရဟန်းတို့၏ နောက်လိုက် အရည်း ကြီးအနွယ်ဝင် ရဟန်းများသည် ပင်ပေါ်ကျ ထန်းရည်ခါးကို သောက်သုံးနေကြသဖြင့် ပင်ပေါ်ကျ ထန်းရည်အပျော့စားမှာ 'ရဟန်းကြီးကြိုက်'ဟု ယခုတိုင် အမည်တွင် ကျန်နေရစ်၏။)

၉။ အဒသကံ နိသီဒနံ = အမြိတ်အဆာ မပါသော နေရာထိုင် အခင်း (နိသီဒိုင်)သည် ရဟန်းများနှင့် မအပ်စပ်ဟု မြတ်စွာ ဘုရား ပညတ်ချက်ကို ကျူးလွန်၍ အမြိတ်အဆာ မပါသော နိသီဒိုင် (နေကထိုင်) သည် အပ်၏ဟု ဆိုကြ၏။

၁၀။ ဇာတရူပရဇတ = ရဟန်းတော်များသည် ရွှေ, ငွေကို အလှူမခံ အပ်ဟု ပညတ်ချက်ကို ဖောက်ဖျက်၍ ရွှေ, ငွေ အသပြာကို အလှူခံနိုင်သည်ဟု ဆိုကြ၏။

## ဘုရားဟောကို ပြင်လိုသူများ

ဝဇ္ဇီတိုင်းသား (ဝေသာလီပြည်သား) ရဟန်းများသည် အထက်ဖော်ပြပါ ပြင်ဆင်ချက်ဆယ်ချက် (ဒသဝတ္ထုက)ကို ပြုလုပ်ကြကုန်၏။ ဗုဒ္ဓမြတ်စွာဘုရား သက်တော်ထင်ရှားရှိတော်မူစဉ်ကလည်း ဤဝဇ္ဇီတိုင်းမှ ရဟန်းများသည် မြတ်စွာဘုရား ပညတ်တော်မူသော သိက္ခာပုဒ်များကို အမျိုးမျိုး ကျူးလွန်ဖောက်ဖျက်ခဲ့ကြကုန်၏။ ဒေဝဒတ်သည် မြတ်စွာဘုရားထံမှ ဂိုဏ်းခွဲထွက်စဉ်ကလည်း ဝဇ္ဇီတိုင်းမှ ရဟန်းငါးရာတို့သည် ဒေဝဒတ်၏နောက်သို့ လိုက်ပါသွားကြကုန်၏။

ရှင်ဒေဝဒတ်ကား ဝိနည်း သိက္ခာပုဒ်များကို ပိုမိုတင်းကြပ်အောင် ထပ်မံပညတ်ဖို့ အဆိုပြုခဲ့၏။ မြတ်စွာဘုရား မပညတ်အပ်သော အချက်များကို ထပ်မံပညတ်လို၏။ ရဟန်းတော်များ အသက်ထက်ဆုံး -

၁။ တောရ ဆောက်တည်ရမည်၊ မြို့ရွာအနီး၌ မနေရ။ (အာရညကင်ဓုတင်)

၂။ စွန့်ပစ်ထားသော အဝတ်များကို ကောက်ယူ ချုပ်ထားသော ပံ့သကူသင်္ကန်းကိုသာ ဝတ်ရုံရမည်။ လှူတို့လှူသော သင်္ကန်းကို မဝတ်ရုံရ။ (ပံသုကူလိကဓုတင်)

၃။ သစ်တစ်ပင်ရင်း ဝါးတစ်ပင်အောက်၌သာ နေရမည်၊ ကျောင်းအဆောက်အအုံ၌ မနေရ။ (ရုက္ခမူလိကဓုတင်)

၄။ အိမ်စဉ်လှည့်၍ ဆွမ်းခံ၍သာ စားရမည်၊ ပင့်ဖိတ်ကျွေးသော ဆွမ်းကို လက်မခံရ၊ (ပိဏ္ဍပါတိကဓုတင်)

၅။ သက်သတ်လွတ် စားရမည်၊ အမဲသား ငါး လုံးဝမစားရ။

အထက်ပါ ငါးချက်ကို မလိုက်နာလျှင် အာပတ်သင့်စေရမည်ဟု သိက္ခာပုဒ်ပညတ်ရန် တောင်းဆို၏။ ဒေဝဒတ်၏ တောင်းဆိုချက်များသည် ကြည်ညိုဖွယ်ရာကောင်း၍ တရားမျှတ မှန်ကန်သည်ဟု ထင်မြင်

ယူဆစရာရှိ၏။ အမှန်စင်စစ် လူသားတို့ မလိုက်နာနိုင်အောင် ကောင်းလွန်းသော အကျင့်သည် အကျိုးထက် အပြစ်ဖြစ်ရန်သာ များ၏။ လူနည်းစုသာ လိုက်နာနိုင်၍ လူများစု မလိုက်နာနိုင်သော ကျင့်ဝတ်စည်းကမ်းများကို မြတ်စွာဘုရား ပညတ်တော် မမူချေ။ ထို့ကြောင့် နံပါတ် ၁ မှ ၄ အထိ ကျင့်ဝတ်များကို စွမ်းနိုင်သူတို့သာလျှင် အပိုဆောင်း ကျင့်ရန် ဓုတင်အကျင့်အဖြစ်ဖြင့် ခွင့်ပြုတော်မူပြီးဖြစ်၏။

အသားမစားရေးနှင့် ပတ်သက်၍မူ ရဟန်းတော်များအတွက် ရည်ရွယ်၍ သတ်ဖြတ်သော အသားမဟုတ်လျှင် အမဲသားငါးတိုင်းကို စားခွင့်ပြုတော်မူ၏။ အကြောင်းမူ - ကမ္ဘာအရပ်ရပ်၌ အသားစားသူနှင့် မစားသူ အသားစားသူက ပိုမိုများပြား၏။ ရဟန်းတော်များသည် အိမ်စဉ်လှည့်လည် ဆွမ်းခံ၍ ရသမျှကို သုံးဆောင်ရမည်ဖြစ်၏။ သက်သတ်လွတ်မှ စားမည်ဆိုလျှင် ရဟန်းတော်များအတွက် သီးခြားဟင်းချက်၍ မလောင်းနိုင်သဖြင့် ရဟန်းများ ဆွမ်းဟင်းရရန် ခက်ခဲလာပေမည်။ ထို့ပြင် သားငါးဖြစ်စေ, အသီးအရွက်ဖြစ်စေ အာဟာရ၌ တပ်မက်မှု ရသတဏှာ မဖြစ်အောင် ပစ္စဝေက္ခဏာ - ဆင်ခြင် သုံးဆောင်ရန်သာ အရေးကြီး၏။ သက်သတ်လွတ် ဟင်း၌လည်း တပ်မက်မှု ရသတဏှာဖြင့် စားသုံးပါက ကိလေသာထူပြော၍ အာသဝေါကုန်နိုင်မည် မဟုတ်ချေ။ ထို့ကြောင့် သက်သတ်လွတ်စားခြင်းကို ကျင့်ဝတ်တစ်ခုအဖြစ်ဖြင့် မြတ်စွာဘုရား သတ်မှတ်တော်မမူချေ။

ရှင်ဒေဝဒတ်ကား မြတ်စွာဘုရား မပညတ်သည်ကို အသစ်ချဲ့ထွင် ပညတ်လို၏။ အကယ်၍သာ ရှင်ဒေဝဒတ်၏ တောင်းဆိုချက်အတိုင်း သိက္ခာပုဒ်ပညတ်လိုက်ပါက လိုက်နာကျင့်သုံးနိုင်မည့်ပုဂ္ဂိုလ် တဖြည်းဖြည်းနည်းပါး၍ ယခုကဲ့သို့ ကမ္ဘာအရပ်ရပ်သို့ သာသနာပျံ့နှံ့ရန် ဖြစ်နိုင်တော့မည် မဟုတ်ချေ။ ရှင်ဒေဝဒတ်ဂိုဏ်း၏ အဆက်အနွယ်များသည် သာသနာနှစ်တစ်ထောင်ကျော် ဂုတ္တမင်းများလက်ထက်အထိ အိန္ဒိယ ပြည်တွင် တည်ရှိသည်ဟု အိန္ဒိယသမိုင်းဆရာများက ဆို၏။

## ဆဗ္ဗဂ္ဂီ ရဟန်းဆိုးများ

အဿဇိနှင့် ပုနဗ္ဗသုကတို့ ဆဗ္ဗဂ္ဂီရဟန်းဆိုးများ ဦးဆောင်သော ဆဗ္ဗဂ္ဂီ (ခြောက်ပါးအုပ်စု) ဂိုဏ်းဝင် ရဟန်းငါးရာတို့သည် ကီဋာဂိရိဇနပုဒ်၌ ကျောင်းထိုင်ပုဂ္ဂိုလ်များ ဖြစ်ကြကုန်၏။

ထိုရဟန်းတို့သည် အရှက်ကင်းမဲ့စွာဖြင့် အကျင့်ဆိုးများကို ပြုကျင့်ကြကုန်၏။ သစ်ပင်, ပန်းပင်တို့ကို စိုက်၍ သစ်သီးပေးခြင်း၊ ပန်းခိုင် ပန်းကုံးပေးခြင်းဖြင့် အမျိုးသမီးထုကို စည်းရုံးကုန်ကြ၏။ အမျိုးသမီးထုနှင့် ရင်းနှီးစေရန် လိုက်လိုက်လျောလျော ရောနှော နေထိုင်ကြကုန်၏။ အမျိုးသမီးတို့နှင့် ထမင်းလက်ဆုံ စားကြကုန်၏။ ရေတစ်ခွက်တည်း အတူသောက်ကြကုန်၏။ အတူယှဉ်တွဲ၍ ထိုင်ကုန်, အိပ်ကုန်ကြ၏။ အိပ်ရာခင်းတစ်ခုအပေါ်၌ အတူအိပ်၍ စောင်တစ်ထည်တည်း အတူခြုံကြကုန်၏။ ညစာလည်း စားကြကုန်၏။ သေရည် အရက်လည်း သောက်ကြ၏။ အမျိုးသမီးတို့နှင့် အတူတကွ ပန်းပန်ခြင်း, နံ့သာလိမ်းခြင်း ပြုကြကုန်၏။ ထိုရဟန်းများ ကိုယ်တိုင်လည်း သီချင်းဆိုကြကုန်၏၊ တူရိယာဂီတ တီးမှုတ်ကြကုန်၏၊ ကခုန်ကြကုန်၏၊ အမူအရာဖြင့် သရုပ်ဆောင်ကြကုန်၏၊ အဆိုတော်, အငြိမ့်သမ, ဆိုင်းသမားတို့နှင့် တွဲဖက်၍ တစ်လှည့်စီ အပြန်အလှန် သီဆို တီးမှုတ် ကခုန်ကြကုန်၏။ ဤနည်းဖြင့် အနုပညာကို နှစ်သက်သော လူငယ်ထုကို စည်းရုံးသိမ်းသွင်းကြကုန်၏။

ကလေးငယ်များနှင့် ချစ်ခင်ရင်းနှီးမှုရှိစေရန် အိုးငယ်, ခွက်ငယ်, စကောငယ်တို့ဖြင့် ကစားခြင်း၊ ထွန်ငယ်, ရထားငယ်, လေးမြားငယ်တို့ဖြင့် ကစားခြင်း၊ ကျည်းသားရိုက်ခြင်း၊ စကြာငယ်ဖြင့် ပြေးကစားခြင်း၊ စကားထာဝှက်ခြင်း၊ ဇယ်တောက်ခြင်း၊ အန်စာပစ်ခြင်း၊ ဂေါ်လီရိုက်ခြင်း၊ ရှစ်ကွက်ကျား, ဆယ်ကွက်ကျား, ဖိုးလမင်းကျား, ကောင်းကင်ကျား ကစားခြင်းတို့ကို ပြုကြကုန်၏။ အတတ်ပညာကို လိုလားသော လူငယ်လူရွယ်တို့ကို စည်းရုံး သိမ်း

သွင်းရန် ဆင်စီး, မြင်းစီး, ရထားစီးအတတ်များ, ဓားခုတ်, လှံထိုး, လေးမြားအတတ်ပညာများကို သင်ကြား ပို့ချကုန်၏။ လက်ပမ်းလုံး (နပန်းလုံး) ခြင်း, လက်ဝှေ့ထိုးခြင်း, လေချွန်ခြင်း, လက်ခမောင်း ခတ်ခြင်းတို့ကို ပြုကုန်၏။

အငြိမ့်စင်ပေါ်သို့တက်၍ နှစ်ထပ်သက်န်းကြီး (ဒုကုဋ်)ကို ဖြန့် ခင်းပြီးလျှင် အငြိမ့်သမကို "နှမ၊ ဤနှစ်ထပ်သက်န်းပေါ်၌ က ပါလော့"ဟု ခိုင်း၏။ အငြိမ့်သမ ကပြီးသောအခါ 'ကောင်းပေစွ'ဟု ဩဘာလက်ခုပ်တီး၏။ အငြိမ့်သမ၏ နဖူးကို လက်ချောင်းများဖြင့် ထိတို့၍ မိမိနဖူးကို တစ်ဖန် ထိတို့ခြင်းဖြင့် ကောင်းချီးပေးကုန်၏။

ထိုဆဗ္ဗဂ္ဂီရဟန်းဆိုးတို့၏ စည်းရုံးရေးကောင်းမှုကြောင့် ကီဋာဂိရိ ဇနပုဒ်နေ လူများသည် မိမိတို့ဆရာ ရဟန်းများကိုသာ ကြည်ညိုနိုင်ကြ၍ အခြားသော ရဟန်းကောင်း၊ ရဟန်းစစ်၊ ရဟန်းမှန်တို့ကိုမူ မကြည်ညို တတ်ကြတော့ချေ။

ထိုအခါ ရဟန်းတစ်ပါးသည် ကာသိတိုင်းရွာငယ်တစ်ခု၌ ဝါဆို၍ ဝါကျွတ်သောအခါ မြတ်စွာဘုရားရှင်ကို ဖူးမြော်ရန်အတွက် ကောသလ တိုင်း သာဝတ္ထိမြို့သို့ ရှေ့ရှုလာရာ ကောသလတိုင်း၏ အစွန်အဖျား ကီဋာဂိရိဇနပုဒ်သို့ ရောက်လေ၏။ နံနက်အချိန်၌ သက်န်းကို ကောင်း စွာ ဝတ်ရုံပြီးလျှင် မျက်လွှာချလျက် တည်ငြိမ်သော ဣန္ဒြေဖြင့် ကီဋာဂိရိ မြို့တွင်းသို့ ဆွမ်းခံကြွလေ၏။

လူတို့သည် ထိုရဟန်းကို မြင်သောအခါ -

"ဤရဟန်းကား ခြေတစ်လှမ်းချင်း ဖြည်းညင်းစွာလှမ်း၍ နုံနဲ့နဲ့ သွားနေ၏။ မလှုပ်တလှုပ်နှင့် သွားနေပုံမှာ အားမရှိသလို ထင်ရ၏။ လူမြင်လို့မှ ပြုံးပြုံးရွှင်ရွှင် နှုတ်မဆက်တတ်ချေ။ မျက်မှောင်လည်း ကုပ်တ်ထားသည်။ ဤရဟန်းမျိုးကို ဘယ်သူက ဆွမ်းလောင်းလှူ မည်နည်း။ ငါတို့အရှင် အဿဇိ, ပုနဗ္ဗသုက ရဟန်းများမူကား နှုတ်ချို၏၊ ပြုံးရွှင်သော မျက်နှာ ရှိ၏၊ ရှေးဦးစွာ စတင်နှုတ်ဆက်

တတ်၏၊ 'လာပါ ကြွပါ'ဟု ဖော်ရွေစွာ ကြိုဆိုလေ့ရှိကုန်၏။ ငါတို့ ဆရာလို ရဟန်းမျိုးသာ ဆွမ်းလှူသင့်၏" ဟု ပြောဆိုကြကုန်၏။

ရဟန်းကောင်းတို့ကို ဖူးမြင်ဖူးသော ဒါယကာ တစ်ယောက်သည် ထိုရဟန်းကို အိမ်သို့ ပင့်ဖိတ်၍ ဆွမ်းကပ်လှူပြီးလျှင် ကီဋာဂိရိ ဇနပုဒ်နေ ရဟန်းဆိုးများ၏ အမူအကျင့်ကို မြတ်စွာဘုရားထံ လျှောက်ကြားပါရန် တောင်းပန်၏။ ထိုရဟန်းသည် ကြားခဲ့ရသမျှသတင်းကို မြတ်စွာဘုရား ထံ လျှောက်ကြား၏။

မြတ်စွာဘုရားရှင်၏အမိန့်တော်အရ အရှင်သာရိပုတ္တရာနှင့် အရှင် မောဂ္ဂလာန်တို့သည် နောက်လိုက်နောက်ပါ သံဃာများစွာနှင့်အတူတကွ ကီဋာဂိရိဇနပုဒ်သို့ ကြွရောက်ပြီးလျှင် အဿဇိ၊ ပုနဗ္ဗသုက အမှူးပြုသော ရဟန်းဆိုးငါးရာတို့ကို နယ်နှင်ဒဏ် ခတ်တော်မူကြသည်။

ဤ အဿဇိ၊ ပုနဗ္ဗသုက ရဟန်းတို့သည် မြတ်စွာဘုရား ပညတ် တော်မူအပ်သော သိက္ခာပုဒ်တော်များကို မလိုက်နာဘဲ ကျူးလွန်ဖောက် ဖျက်၍ ထင်ရာစိုင်းနေကြခြင်း ဖြစ်ပေသည်။ (ပါရာဇိကဏ်၊ မြန်မာပြန်၊ ၂၉၈-၂၉၆)

## ရဟန်းဆိုး အရိဋ္ဌ

'အရိဋ္ဌ' အမည်ရှိသော ရဟန်းကမူ -

"နူးညံ့သော အတွေ့အထိရှိသော ပိုးဖဲကတ္တီပါအဝတ်များ၊ နေရာထိုင်ခင်းများ၊ လဲခေါင်းအုံးများကို ရဟန်းတော်များ သုံး ဆောင်ကောင်းပါလျှင် ဖောဋ္ဌဗ္ဗာအာရုံ အတွေ့အထိချင်း တူသော ကြောင့် မေထုန်မှီဝဲမှုကိုလည်း ပြုလုပ်နိုင်ရာ၏။ အဝတ်အထည် တို့ကို ထိတွေ့သုံးဆောင်ရာ၌ ပစ္စဝေက္ခဏာ-ဆင်ခြင်၍ သုံးဆောင် လျှင် အပြစ်မရှိသကဲ့သို့ မေထုန်မှုကိုလည်း ပစ္စဝေက္ခဏာ-ဆင်ခြင် ၍ သုံးဆောင်လျှင် အပြစ်မဖြစ်နိုင်။ မြတ်စွာဘုရား၏ တရားတော် ကို ဤသို့သဘောပေါက်နားလည်၏"ဟု ဟောပြော၏။

"ရဟန်းတော်များ မေထုန်မှီဝဲလျှင် စျာန်မဂ်ဖိုလ်၏ အန္တရာယ် ဖြစ်နိုင်သည်"ဟု မြတ်စွာဘုရား ဟောကြားချက်ကို ပယ်ဖျက် ငြင်းပယ်ခြင်း ဖြစ်၏။ ထို့ကြောင့် အရိဋ္ဌရဟန်းကို သံဃာတော်များက တစ်စုံတစ်ရာ မဆက်ဆံဘဲ ဝိုင်းကြဉ် ဒဏ်ခတ်၍ ဆုံးမခဲ့ကြလေသည်။ (ပါစိတ်ပါဠိတော်၊ ၁၇၅-၉)

## ရဟန်းဆိုး သာတိ

တစ်ဖန် သာတိမည်သော ရဟန်းသည်လည်း -

"ဝိညာဉ်သည် မပျက်မစီး အမြဲတည်၍ ဤဘဝမှ ထိုဘဝသို့ ကူးပြောင်း ကျင်လည်နေ၏။ မြတ်စွာဘုရားဟောသော တရားကို ဤသို့လျှင် ငါသဘောပေါက် နားလည်၏"ဟု ဆိုပြန်သည်။

မြတ်စွာဘုရားသည် "ဝိညာဉ်သည် အတ္တမဟုတ်၊ ဝိညာဉ်သည် အမြဲမရှိ မရပ်မစဲ တဖွဲဖွဲ ပျက်ခြင်းသဘောရှိ၏။ အမြဲတည်သော ဝိညာဉ်ဟူ၍ မရှိ"ဟု ဟောကြားတော်မူပါလျက် မြတ်စွာဘုရား မဟောကြားသည်ကို ဘုရားဟောအဖြစ် ပြုလို၏။ သဿတဝါဒကို ဗုဒ္ဓဝါဒအဖြစ် ပြင်ဆင်လို၏၊ ထည့်သွင်းလို၏။ ထိုသာတိအမည်ရှိသော ရဟန်းကို မြတ်စွာဘုရားရှင် ကိုယ်တိုင် ဟောကြား ဆုံးမတော်မူခဲ့ရ၏။ (မဇ္ဈိမပဏ္ဏာသ၊ မဟာတဏှာသင်္ခယသုတ်၊ ၃၂၃)

## ရဟန်းဆိုး အညတရ

တစ်ဖန် အမျိုးအမည်အားဖြင့် မထင်ရှားသော အညတရ ရဟန်းတစ်ပါးသည် မြတ်စွာဘုရား ဟောကြားသော အနတ္တ (ငါမဟုတ်၊ ငါမရှိ) တရားတော်ကို လက်မခံနိုင်ဘဲ -

"အနတ္တကတာနိ ကမ္မာနိ ကတမတ္တာနံ ဖုသိဿန္တိ" = 'ငါမဟုတ်သော အနတ္တတရားက ပြုလုပ်သော ကံ၏ အကျိုးဆက်ကို ဘယ်ငါက ခံစားမည်နည်း၊ ငါမရှိက ငါပြုသမျှကံတွေ အချည်းနှီး ဖြစ်ရတော့မည်လော"ဟု မေးခွန်းထုတ်ခဲ့လေသည်။ အတ္တ အစွဲသန်နေသဖြင့် အနတ္တတရားကို လုံးဝ လက်မခံနိုင်ပုံကို ဖော်ပြခဲ့သည်။ (ခန္ဓဝဂ္ဂသံယုတ်၊ ၈၅)

## အစမွဝါဒီ အားမကောင်းမီက

ဤသို့ဖြစ်လျှင် ဗုဒ္ဓလက်ထက်တော်ကပင်လျှင် ဘုရားမဟောသည်ကို ဘုရားဟော်ပြုလုပ်ရန် ကြိုးစားမှု၊ ဘုရား မပညတ်သည်ကို ထပ်မံပညတ်လိုမှု၊ ဘုရားပညတ်ပြီးသော သိက္ခာပုဒ်များကို ပယ်ဖျက် ပြင်ဆင်လိုမှုများ ရှိခဲ့လေသည်။ သို့ရာတွင် ထိုရဟန်းဆိုးများသည် အရေအတွက်အားဖြင့်လည်းကောင်း၊ အရည်အချင်းအားဖြင့်လည်းကောင်း ပြောပလောက်အောင် အင်အားမရှိခဲ့ချေ။ ဘုန်းတော်ကြီးသော မြတ်စွာဘုရားရှင် ကိုယ်တိုင် သက်တော်ထင်ရှား ရှိတော်မူသောကြောင့်လည်းကောင်း၊ အရှင်သာရိပုတ္တရာ, အရှင်မောဂ္ဂလာန်, အရှင်မဟာကဿပ, အရှင်အာနန္ဒာ, အရှင်အနုရုဒ္ဓါ အစရှိသော မဟာသာဝကကြီးများ၊ တေဒဂ်ဘွဲ့မည်ရ ရဟန်းပုဂ္ဂိုလ်, လူပုဂ္ဂိုလ်များက အရေအတွက်ရော အရည်အချင်းပါ အင်အားကောင်းနေသောကြောင့်လည်းကောင်း ထိုရဟန်းဆိုးများ၏ လှုပ်ရှားမှုသည် 'ခွေးလေးခုန်၍ ဖုန်မထ' ဖြစ်ခဲ့ရပေသည်။

အစဉ်အဆက်က ဆိုးသွမ်းလာသော ဝဇ္ဇီပုတ္တကရဟန်းများ၊ သာတိရဟန်း၊ အရိဋ္ဌရဟန်း၊ ရှင်ဒေဝဒတ်တို့၏ အဆက်အနွယ် ရဟန်းများ၊ သုဘဒ္ဒ တောထွက်ရဟန်းကြီး စသော ရဟန်းဆိုးများသည် မြတ်စွာဘုရား၏ တရားတော်များကို မိမိတို့စိတ်ကြိုက် ပြင်ဆင်, ဖြည့်စွက်, ပယ်နုတ်လိုကြ၏။ ထိုရဟန်းဆိုးများ အင်အားစုစည်း၍ တစ်စုံတစ်ရာ မပြုလုပ်နိုင်မီ အရှင်မဟာကဿပ ဦးစီးသော ရဟန္တာ မဟာထေရ်ကြီးငါးရာတို့က ပထမသင်္ဂါယနာတင်ပွဲကြီး ကျင်းပခဲ့၏။ ထိုသံဃာ့အစည်းအဝေးကြီးက -

> "မြတ်စွာဘုရားရှင် တရားတော်တို့ကို ဖြည့်စွက်ခြင်း၊ ပြင်ဆင်ခြင်း၊ ပယ်နုတ်ခြင်း လုံးဝမပြုဘဲ မူလရှိရင်းအတိုင်း လက်ခံ ကျင့်သုံးကြရန်"

ဆုံးဖြတ်တော်မူခဲ့ကြသည်။ ထိုပထမသင်္ဂါယနာ၏ အရှိန်အဝါကြောင့် ရဟန်းဆိုးများသည် အနှစ်တစ်ရာခန့် ခေါင်းမထောင်နိုင်အောင် ငြိမ်ကျသွားခဲ့သည်။

## အဓမ္မဝါဒီ အားကောင်းပြီ

ယခုအခါ အဇာတသတ်မင်းကြီး၏ သားစဉ်မြေးဆက်ပြတ်၍ သုသုနာဂမင်း နန်းတက်သောအခါ သုသုနာဂမင်းသည် ဝေသာလီမင်းမျိုး ဖြစ်၍ ဝေသာလီပြည်သား ရဟန်းများကိုလည်းကောင်း၊ ဂျိန်းရဟန်း များကိုလည်းကောင်း ထောက်ပံ့အားပေး၏။ သုသုနာဂ၏သား ကာလာ သောကမင်းသည်လည်း ဝေသာလီပြည်သား ဝဇ္ဇီတိုင်းသား ရဟန်းများကို အားပေးချီးမြှောက်လေသည်။ (ဝိ၊ ၄၊ ၁၊ ၂၆)

ထိုသို့ ဘုရင်၏ အားပေးထောက်ပံ့မှုကို ရသောကြောင့် ရဟန်းဆိုး အဆက်အနွယ် ဝဇ္ဇီတိုင်းသား ရဟန်းများသည် ပြင်ဆင်ချက် ဆယ်ချက် (ဒသဝတ္ထုက) ကို တရားဝင် ပြောင်ပြောင်တင်းတင်း ကျင့်သုံးကြလေ သည်။ ဤအကြောင်းကို ကြားသိသော အရှင်မဟာယသထေရ်ကြီးသည် ဝေသာလီပြည် မဟာဝုန်ကျောင်းတိုက်သို့ ကြွရောက်တော်မူလာ၏။ ထိုအချိန်တွင် သံဃာများ ဥပုသ်ပြုသောနေ့၌ သံဃာ့အလယ်မှာ ရေပြည့် သော ရွှေဖလားကို ချထား၏။ ဥပုသ်နေ့တွင် တရားနာလာကြသော ဥပါသကာ ဒါယကာတို့ကို ပရိက္ခရာဖိုးအတွက် တစ်ကျပ်, ငါးမူး, တစ် မတ်, တစ်ပဲ တတ်စွမ်းသမျှ အလှူငွေ ထည့်ကြရန် ဟောပြောကြ၏။ ထိုအခါ အရှင်မဟာယသထေရ်ကြီးက ဒါယကာတို့အား "ရွှေ ငွေ အသပြာကို မလှူရ၊ ရဟန်းတို့နှင့် မအပ်စပ်ကြောင်း"ဟု ဟောပြော၏။ သို့ရာတွင် ဓလေ့ထုံးစံတစ်ခု ဖြစ်နေသောကြောင့် လှူမြဲ လှူဒါန်းကြ၏။ ဥပုသ်နေ့ တစ်ညလုံး အလှူခံရသမျှ ငွေကို နံနက်မိုးလင်းသောအခါ ရဟန်းတော်များ အညီအမျှ ခွဲဝေယူကြ၏။ အရှင်မဟာယသထေရ်ကြီး အားလည်း ဝေစုငွေအသပြာပေးရာ လက်မခံဘဲ ငြင်းပယ်လိုက်၏။

## အရှင်မဟာယသကို ကံပြုခြင်း

ထိုအခါ ဝဇ္ဇီတိုင်းသား ရဟန်းတော်များသည် အရှင်မဟာယသကို ဝေသာလီသံဃာထုအပေါ် ဒါယကာတို့ အကြည်ညိုပျက်စေရန် ဟော

ပြောမှုဖြင့် စွပ်စွဲပြစ်တင်ကြ၏။ "ဝေသာလီပြည်ရှိ ဒါယကာတို့ကို ရှုတ်ချကဲ့ရဲ့သည့်အတွက် ဝေသာလီမြို့တွင်း၌ လှည့်လည်တောင်းပန်ရမည်" ဟု ဆို၏။ (ပဋိသာရဏီယကံ ပြု၏။)

အရှင်မဟာယသထေရ်ကြီးသည် ဝေသာလီမြို့တွင်းသို့ ကြွရောက်၍ ဒါယကာတို့အား ဤသို့ တောင်းပန်စကား မိန့်ကြား၏။

"ငါသည် အဓမ္မကို အဓမ္မဟု ပြောဆိုခြင်းဖြင့်လည်းကောင်း၊ ဓမ္မကို ဓမ္မဟု ပြောဆိုခြင်းဖြင့်လည်းကောင်း၊ ဝိနည်းကို အမှန်အတိုင်း ပြောဆိုခြင်းဖြင့်လည်းကောင်း သဒ္ဓါတရားနှင့်ပြည့်စုံသော သင် ဒါယကာတို့ကို အကြည်ညိုပျက်အောင် လုပ်မိပေ၏။

အခါတစ်ပါး၌ မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌နေစဉ် ဤတရားကို ဟောကြားတော်မူ၏-

"ရဟန်းတို့ ဆီးနှင်း မြူတိမ် သူရိန် မီးခိုးသည် လ, နေတို့၏ အညစ်အကြေး ဖြစ်သကဲ့သို့ သေရည် သေရက် သောက်စားမှု၊ မေထုန်မှီဝဲမှု၊ ရွှေ ငွေ အလှူခံမှု၊ မှားယွင်းသော အသက်မွေးမှုတို့သည် တရားကျင့်သော ရသေ့ရဟန်းတို့အတွက် အညစ်အကြေး ဖြစ်ကုန်၏"ဟု ဟောတော်မူခဲ့၏။

ရာဇဂြိုဟ်ပြည်၌ အရှင်ဥပနန္ဒကို အကြောင်းပြု၍ ရွှေ ငွေ အလှူခံမှုကို တားမြစ်သော သိက္ခာပုဒ်ကို မြတ်စွာဘုရား ပညတ်တော်မူခဲ့၏။

ဤသို့လျှင် တရားလမ်းကြောင်း, ဝိနည်းလမ်းကြောင်း အမှန် အတိုင်း ပြောဆိုခြင်းဖြင့် ငါသည် သင်ဒါယကာတို့ အကြည်ညိုပျက် အောင် ပြုမိပေ၏။

ဤသို့စသည်ဖြင့် တရားအမှန်ကို ရှင်းလင်းဟောကြားရာ ဝေသာလီပြည်သူပြည်သားတို့သည် အရှင်မဟာယသထေရ်ကြီးသည်သာ ရဟန်းစစ် ရဟန်းမှန်ဖြစ်သည်ဟု ဆို၍ အရှင်မဟာယသအတွက် ပစ္စည်းလေးပါး ဒါယကာခံယူကြကုန်၏။

မဟာဝုန်ကျောင်းတိုက်သို့ ပြန်ရောက်သောအခါ အရှင်မဟာယသ နှင့်အတူ အဖော်အဖြစ်လိုက်ပါသွားသော ရဟန်းက အကြောင်းစုံကို ပြန်လည်ပြောပြ၏။ ဝဇ္ဇီတိုင်းသား ရဟန်းတို့သည် ဒေါသအမျက် ထွက်ကုန်၍ အရှင်မဟာယသကို ဥက္ခေပနီယကံ (သံဃာ့ဘောင်မှ ဝိုင်းကြဉ်မှု) ပြုရန် သံဃာများက စုဝေးကြလေသည်။ အရှင်မဟာယသသည် အဘိညာဉ်တန်ခိုးဖြင့် ကောင်းကင်ယံသို့ ပျံတက်၍ ကောသမ္ဗီပြည်သို့ ကြွသွားလေ၏။

အရှင်မဟာယသသည် အရှက်ကင်းမဲ့သော ရဟန်းဆိုးများကို ဆုံးမနှိမ်နင်းရန် မဇ္ဈိမဒေသတစ်ခုလုံး လှည့်လည် လှုံ့ဆော်ဟောပြောလေသည်။ အစမ္ပဝါဒီ ရဟန်းဆိုးများ အင်အားမကြီးထွားမီ, အချိန်မီ ဝိုင်းဝန်း၍ ဆုံးမ နှိမ်နင်းကြပါရန် ဥဇ္ဇေနီပြည်သို့ လည်းကောင်း၊ ရာဇဂြိုဟ်ပြည်၊ သာဝတ္ထိပြည်၊ ကုသိနာရုံပြည်စသော အနောက်ပိုင်း တိုင်းပြည်များသို့လည်းကောင်း တမန်စေလွှတ် အကြောင်းကြား လျှောက်ထားလေ၏။

## အရှင်မဟာယသ နှင့် အရှင်သမ္ဘူတ

အရှင်မဟာယသထေရ်သည် အဟောဂင်္ဂါတောင်၌ သီတင်းသုံးနေထိုင်သော အရှင်သမ္ဘူတထေရ်ထံသို့ ကြွရောက်၍ ဝဇ္ဇီတိုင်းသား ရဟန်းတို့၏ ပြင်ဆက်ချက် ဆယ်ချက်သည် ဝိနည်းတရားတော်နှင့် ညီ, မညီ မေးမြန်းလျှောက်ထား၏။ ဝိနည်းတရားနှင့် မညီကြောင်းကို အရှင်သမ္ဘူတထေရ်က မိန့်ကြား၏။ ထိုအချိန်တွင် အနောက်ဘက်တိုင်းပြည်များမှ ကြွရောက်လာတော်မူသော ရဟန္တာမထေရ်ကြီးခြောက်ဆယ်နှင့် ဥဇ္ဇေနီစသော တောင်ဘက်တိုင်းပြည်များမှ ကြွလာတော်မူသော ရဟန္တာမထေရ်ကြီးရှစ်ဆယ်တို့သည်လည်း အဟောဂင်္ဂါတောင်၌ စုံညီစွာ စည်းဝေးရောက်လာကြကုန်၏။ ထိုရဟန္တာပုဂ္ဂိုလ်များသည် ပံ့သကူဓုတင်, တိစီဝရိက်ဓုတင်, ပိဏ္ဍပါတိကဓုတင်, အာရညကင်ဓုတင် ဆောင်သော ပုဂ္ဂိုလ်မြတ်တို့ ဖြစ်ကြကုန်၏။ ထိုရဟန္တာမထေရ်ကြီးများ စည်းဝေး၍ "ဤအဓိကရုဏ်းကား အလွန်ကြမ်းတမ်း၏၊ ပြင်းထန်၏။ ငါတို့ဘက်မှ

အဘယ်ပုဂ္ဂိုလ်ကို ရရှိသော် အင်အားသာလွန်မည်နည်း”ဟု ညှိနှိုင်းတိုင်ပင်ရာ သောရေယျတိုင်းနေ အရှင်ရေဝတထေရ်ကို မိမိတို့ဘက်မှ ရရှိပါမူ အင်အားပိုမိုရရှိမည်ဟု ဆုံးဖြတ်တော်မူကြ၏။

## အရှင်ရေဝတထေရ်

အရှင်ရေဝတထေရ်ကား ပိဋကသုံးပုံကို အာဂုံဆောင်၏၊ ဝိနည်းမိုရ် ပုဂ္ဂိုလ်ဖြစ်၏၊ ပညာဉာဏ်ရှိ၍ အဆုံးအဖြတ်၌ လိမ္မာကျွမ်းကျင်၏၊ သိက္ခာသုံးပါးကို ဖြည့်ကျင့်လိုသော ကောင်းမြတ်သော ဆန္ဒရှိ၏။ အရှင်ရေဝတထေရ်သည် အဟောဂင်္ဂါတောင်၌ သံဃာ့အစည်းအဝေးမှ ဆုံးဖြတ်ချက်ကို ဒိဗ္ဗသောတအဘိညာဉ်ဖြင့် ကြားတော်မူ၍ ထိုရဟန္တာကြီးများ မကြွလာမီ ရှေ့မှကြိုတင် ကြွသွားနှင့်၏။ ရဟန်းအများနှင့် ခရီးသွားရခြင်းကို နှစ်သက်တော်မမူသဖြင့် သောရေယျမြို့မှ သက်ဿမြို့သို့ ကြိုတင်ကြွတော်မူ၏။ ရဟန္တာထေရ်တို့သည် သောရေယျမြို့သို့ ရောက်သောအခါ အရှင်ရေဝတထေရ်ကို မတွေ့ရ၍ သက်ဿမြို့သို့ လိုက်ကြကုန်၏။ အရှင်ရေဝတထေရ်သည် ကဏ္ဏကုဇ္ဇမြို့သို့ ကြွနှင့်၏။ ရဟန္တာထေရ်တို့ ကဏ္ဏကုဇ္ဇမြို့သို့ ရောက်သောအခါ အရှင်ရေဝတထေရ်သည် ဥဒုမ္ဗရမြို့သို့ ကြွနှင့်သဖြင့် မမီလိုက်ချေ။ ဤသို့လျှင် ဥဒုမ္ဗရမြို့မှ အဂ္ဂဠပူရမြို့၊ ထိုမှတစ်ဆင့် သဟဇာတိမြို့သို့ ရောက်သောအခါ အရှင်ရေဝတထေရ်ကို မီကုန်၏။

ညချမ်းသောအခါ အရှင်ရေဝတထေရ်သည် အန္တေဝါသိက တပည့်ရဟန်းတစ်ပါးအား သုတ္တန်ဒေသနာတစ်ခုကို အသံထုတ် ရွတ်ဆိုစေ၏။ ထိုဒေသနာ ရွတ်ဆိုပြီးချိန်၌ အရှင်မဟာယသထေရ်သည် အရှင်ရေဝတမထေရ်ကြီးထံ ချဉ်းကပ်၍ ဝဇ္ဇီတိုင်းသားရဟန်းတို့၏ အချက်ဆယ်ချက် (ဒသဝတ္ထုက) ကို ဝိနည်းတရားတော်နှင့် ညီ, မညီ မေးမြန်းလျှောက်ထား၏။ ဝိနည်းနှင့် မညီကြောင်း မိန့်တော်မူရာ အဓမ္မဝါဒီ ရဟန်းဆိုးများ အားမကောင်းမီ ဤအဓိကရဏ်းကို ဖြေရှင်းတော်မူပါရန် အရှင်မဟာယသထေရ်၏ လျှောက်ထားချက်ကို သဘောတူ လက်ခံတော်မူ၏။

ဝေသာလီပြည်မှ ဝဇ္ဇီတိုင်းသား ရဟန်းများသည်လည်း အရှင်မဟာယသ အင်အားစုနေကြောင်းကို ကြားသိရ၍ မိမိတို့ဘက်မှ ရပ်တည်မည့် သက်တော် ဝါတော်ကြီး မဟာထေရ်ကြီးများကို လိုက်လံရှာဖွေ အင်အားစုဆောင်းကုန်ကြ၏။ အကယ်၍ အရှင်ရေဝတထေရ်ကို မိမိတို့ဘက်မှ ရရှိပါမူ ဤအဓိကရုဏ်း၌ မိမိတို့ အင်အားကောင်း၍ အနိုင်ရမည်ဟု ခန့်မှန်းမိကြသဖြင့် ရဟန်းအသုံးအဆောင် သင်္ကန်း, သပိတ် ပရိက္ခရာများကို စုဆောင်းယူဆောင်၍ သဟဇာတိမြို့သို့ ဂင်္ဂါမြစ်ကို ဆန်တက်သွားကြကုန်၏။

## အရှင်သာဠ္ဟထေရ်

ထိုအချိန်၌ အရှင်သာဠ္ဟအမည်ရှိသော မထေရ်ကြီးသည် ဤသို့ ကြံစည် စဉ်းစား၏။ "အရှင်မဟာယသထေရ်ဘက်က မှန်သလော၊ ဝဇ္ဇီတိုင်းသား ရဟန်းတို့ဘက်က မှန်သလော"ဟု စဉ်းစားနေရာ အရှင်မဟာယသထေရ်ဘက်က မှန်ကန်ကြောင်း သိလေ၏။ ထိုအခါ သုဒ္ဓါဝါသဘုံမှ ဗြဟ္မာကြီးတစ်ဦးသည် အရှင်သာဠ္ဟထေရ်၏ရှေ့မှောက် ကိုယ်ထင်ရှား ပြ၍ "အရှင်မဟာယသထေရ်ဘက်မှ မှန်ကန်၍ မှန်ကန်သည့်ဘက်မှ ရပ်တည်ပါရန်" လျှောက်ထားလေ၏။ အရှင်သာဠ္ဟထေရ်က "ငါသည် ရှေးယခင်ကတည်းက အမှန်ဘက်က ရပ်တည်ခဲ့၏။ သို့ရာတွင် ဤအဓိကရုဏ်း၌ ငါသည် အဆုံးအဖြတ်ပေးရမည့် ဝိနည်းမိုရ် ပုဂ္ဂိုလ်အဖြစ် အရွေးချယ်ခံရကောင်း ခံရဖွယ်ရှိ၏။ ထို့ကြောင့် ငါ၏ အယူအဆကို ကြိုတင်ထုတ်ဖော် မပြောကြားသင့်"ဟု မိန့်တော်မူ၏။

## ဝေသာလီရဟန်းတို့က လာဘ်ထိုးခြင်း

ဝေသာလီပြည်မှ ဝဇ္ဇီတိုင်းသား ရဟန်းတို့သည် အရှင်ရေဝတထေရ်ထံ ချဉ်းကပ်၍ ရဟန်းပရိက္ခရာ များစွာတို့ကို လှူကြကုန်၏။ အရှင်ရေဝတထေရ်က "ငါ့အား သပိတ်တစ်လုံး, သင်္ကန်းသုံးထည် ရှိပြီဖြစ်၍ နောက်ထပ် အပိုပစ္စည်း မလို"ဟု ပယ်မြစ်တော်မူ၏။ ဝဇ္ဇီတိုင်းသား

ရဟန်းများသည် အရှင်ရေဝတထေရ်၏ အလုပ်အကျွေး တပည့်ရင်း ဖြစ်သော ဝါနှစ်ဆယ်ရ အရှင်ဥတ္တရထေရ်ကို ပရိက္ခရာများစွာ လှူဒါန်းကြပြန်၏။ အရှင်ဥတ္တရထေရ်က အတန်တန်ပယ်သော်လည်း "မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်က လူတို့သည် မြတ်စွာဘုရားအား ပရိက္ခရာလှူဒါန်းသောအခါ မြတ်စွာဘုရားကိုယ်တိုင် အလှူခံလျှင် ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြရ၏။ အကယ်၍ မြတ်စွာဘုရားက အလှူမခံမူ အရှင်အာနန္ဒာအား လှူလေ့ရှိကြ၏။ ဤနည်းတူ အရှင်ရေဝတထေရ်က အလှူမခံလျှင် အရှင်ဘုရား (ဥတ္တရထေရ်) က အလှူခံသင့်ပါ၏"ဟု အကြပ်ကိုင် လျှောက်ထားကြသဖြင့် သင်္ကန်းတစ်ထည်ကို အလှူခံလိုက်လေ၏။ ထိုသင်္ကန်းလှူပြီးနောက် "မြတ်စွာဘုရားသည် အရှေ့တိုင်း၌ ပွင့်တော်မူသောကြောင့် အရှေ့တိုင်းသား ဝေသာလီရဟန်းတို့သာလျှင် မှန်ကန်သည်"ဟု အရှင်ရေဝတထေရ်အနေဖြင့် သံဃာ့အလယ်၌ မိန့်ကြားပေးပါရန် သွားရောက်ပြီး လျှောက်ထားပေးပါဟု တောင်းပန်ကြကုန်၏။ အရှင်ဥတ္တရထေရ်သည် အရှင်ရေဝတထံ ချဉ်းကပ်၍ အထက်ပါအတိုင်း လျှောက်ထားရာ "သင်သည် ငါ့ကို မတရားမှုပြုရန် တိုက်တွန်းဘိ၏"ဟု အရှင်ဥတ္တရကို မောင်းမဲနှင်ထုတ်လိုက်၏။

ထိုအခါ ဝေသာလီရဟန်းတို့သည် အရှင်ဥတ္တရထေရ်ကို "အရှင်ဘုရားလည်း ဝါနှစ်ဆယ်ရပြီး မဟာထေရ်ကြီးပင် ဖြစ်၏။ တပည့်တော်တို့သည် အရှင်ဘုရားကို ဆရာတင်ပါကုန်၏"ဟု လျှောက်ထားကြကုန်၏။

## ကာလာသောကမင်း အမြင်မှန်ရခြင်း

အရှင်မဟာယသအမျှူးပြုသော ရဟန္တာမထေရ်ကြီးများ ကြွရောက်တော်မူလာသောအခါ ဝဇ္ဇီတိုင်းသားရဟန်းတို့လည်း အကောက်ကြံ၍ "မဟာဝုန်ကျောင်း၌ ဂန္ဓကုဋီတိုက်တော်ကို ငါတို့ စောင့်နေပါသည်ကို ရဟန်းအများ လုယူရန် လာသည်"ဟု ပါဋ္ဌလိပုတ်ပြည် ကာလာသောကမင်းအား ကုန်းချောစကားဆိုလေ၏။ ကာလာသောကမင်းလည်း "ထိုရဟန်းများကို မလာအောင် ဆီးထားချေ"ဟု အမတ်တို့ကို စေမှာဘိ၏။

ထိုမင်း၏နှမတော် နန္ဒာမည်သော ရဟန္တာထေရီမလည်းကောင်း ကင်ခရီးဖြင့် လာပြီးသော် ဓမ္မဝါဒီမထေရ်များကို ပြစ်မှား၍ အဓမ္မဝါဒီ ရဟန်းများကို အပင်းအသင်းပြုလျှင် အပြစ်ကြီးကြောင်းကို ပြသလျက် သာသနာတော်ကို ချီးမြှင့်ထောက်ပံ့ရန် ဆုံးမ၏။ ကာလာသောကမင်း လည်း ထိတ်လန့်ခြင်းရှိသဖြင့် ဝေသာလီပြည်သို့ လာ၍ အရှင်မဟာယသ စသော မထေရ်တို့အား ကန်တော့ ပူဇော်ပြီးလျှင် ရဟန်းကောင်းတို့ကို အစောင့်အရှောက် ပြုတော်မူ၏။

## အရှင်သဗ္ဗကာမီမထေရ်

ရဟန္တာမဟာထေရ်ကြီးတို့သည် ဝေသာလီပြည်သို့ ကြွတော်မူ ကြ၏။ ဝေသာလီပြည်တွင် ဝါတော်-၁၂၀ (သက်တော်-၁၄၀) ရှိ အရှင် သဗ္ဗကာမီထေရ်ကြီး သီတင်းသုံးနေထိုင်တော်မူ၏။ ဇမ္ဗူဒိပ်တစ်ကျွန်းလုံး ရှိ သံဃာများအနက် သက်တော် ဝါတော် အကြီးဆုံး သံဃာ့ထေရ်ဖြစ်၏။ အရှင်အာနန္ဒာထေရ်၏ အတူနေ တပည့်ကြီးဖြစ်၏။ အရှင်ရေဝတထေရ် သည် အရှင်သမ္ဘူတထေရ်ကို အရှင်သဗ္ဗကာမီထေရ်ကြီးအား အချက် ဆယ်ချက် (ဒသဝတ္ထုက) ကို မေးမြန်း လျှောက်ထားရန် စေခိုင်း၏။

ရှေးဦးစွာ အရှင်ရေဝတထေရ်သည် အရှင်သဗ္ဗကာမီမထေရ်ကြီး၏ ကျောင်းသို့ သွားနှင့်၏။ တိုက်ခန်းအတွင်း၌ အရှင်သဗ္ဗကာမီအတွက် နေရာခင်းထား၏။ အရှင်ရေဝတအတွက်နေရာကို တိုက်ခန်းဝ၌ ခင်း ထား၏။ အရှင်ရေဝတသည် အရှင်သဗ္ဗကာမီမထေရ်ကြီး မကျိန်းစက် သေးသဖြင့် တစ်ညလုံး လဲလျောင်း ကျိန်းစက်ခြင်း မပြုချေ။ အရှင် သဗ္ဗကာမီ မထေရ်ကြီးသည်လည်း ခရီးပန်းလာသော အာဂန္တုရဟန်းပင် မကျိန်းစက်သေးသဖြင့် တစ်ညလုံး လဲလျောင်း ကျိန်းစက်တော် မမူချေ။ အရှင်သဗ္ဗကာမီမထေရ်ကြီးသည်လည်း ခရီးပန်းလာသော အာဂန္တု ရဟန်းပင် မကျိန်းစက်သေးသဖြင့် တစ်ညလုံး လဲလျောင်းကိန်းစက်တော် မမူချေ။ အရှင်သဗ္ဗကာမီမထေရ်ကြီးသည် ဖလသမာပတ် ဝင်စားတော် မူ၍ အရှင်ရေဝတထေရ်သည် မေတ္တာဈာန်သမာပတ်ဝင် စားတော်မူ၏။

နံနက်မိုးသောက် အလင်းရောက်သောအခါ မထေရ်ကြီးနှစ်ပါး တရားစကားဆွေးနွေးနေချိန်တွင် အရှင်သမ္ဘူတထေရ်သည် အရှင်သဗ္ဗကာမီ မထေရ်ကြီးအား အချက်ဆယ်ချက် (ဒသဝတ္ထုက) ကို မေးလျှောက်၏။ ထိုဆယ်ချက်သည် ဝိနည်းတရားနှင့် ညီ, မညီ အရှင်ရေဝတ၏ ထင်မြင်ချက်ကို အရှင်သဗ္ဗကာမီမထေရ်ကြီးက မေးတော်မူ၏။ အရှင်ရေဝတထေရ်က "ဝေသာလီရဟန်းတို့၏ အချက်ဆယ်ချက်သည် ဝိနည်းတရားနှင့် မညီဟု ယူဆပါ၏။ သို့ရာတွင် ဤအဓိကရုဏ်း၌ အဆုံးအဖြတ်ပေးရမည့် ဝိနည်းမိုရ်ပုဂ္ဂိုလ်အဖြစ် ရွေးချယ်ခံရကောင်း ခံရနိုင်ဖွယ်ရှိသောကြောင့် တပည့်တော်၏ အယူအဆကို ကြိုတင်ထုတ်ဖော် မကြေညာလိုပါ"ဟု လျှောက်ကြား၏။ အရှင်သဗ္ဗကာမီ မထေရ်ကြီးကလည်း မိမိလည်း ထိုနည်းအတူဖြစ်ကြောင်း မိန့်ကြား၏။

## နှစ်ဖက်ကိုယ်စားလှယ် ရွေးချယ်ဆုံးဖြတ်ခြင်း

ထိုအခါ ဝေသာလီပြည်သို့ သံဃာတော် ၁၂ သိန်း စည်းဝေးရောက်လာကြကုန်၏။ ဝေသာလီပြည် မဟာဝုန်ကျောင်းတိုက်၌ သံဃာတော်များ စုံလင်စွာ စည်းဝေးမိကြသောအခါ အရှင်ရေဝတထေရ်က ဤသို့ မိန့်ကြား၏။ "ဤအစည်းအဝေး၌ တစ်ပါးစီ ပြောဆိုနေကြပါက စကားမဆုံးနိုင်ရှိတော့မည်။ တစ်ပါးပြောသမျှကို ဆူဆူညံညံဖြစ်နေ၍ တစ်ပါးက နားလည်နိုင်မည်မဟုတ်။ ထို့ကြောင့် နှစ်ဦးနှစ်ဖက် ဝိနည်းမိုရ်ပုဂ္ဂိုလ် ရွေးကောက် တင်မြှောက်၍ ထိုအရွေးချယ်ခံ ဝိနည်းမိုရ် ပုဂ္ဂိုလ်များကို ဆုံးဖြတ်စေအံ့"ဟု မိန့်တော်မူ၏။

ထိုအခါ ဝေသာလီပြည် အစရှိသော အရှေ့တိုင်းပြည်များဘက်မှ-

၁။ အရှင်သဗ္ဗကာမီမဟာထေရ် (ဝါတော်-၁၂၀၊ သက်တော်-၁၄၀)
၂။ အရှင်သာဠ္ဍ မဟာထေရ် (သက်တော် ၁၂၀-ကျော်)
၃။ အရှင်ခုဇ္ဇသောဘိတ မဟာထေရ် ( ။ )
၄။ အရှင်ဝါသဘဂါမိ မဟာထေရ် ( ။ )

ဤပဋိသမ္ဘိဒါပတ္တ၊ ဆဠဘိည တိပိဋကဓရ ရဟန္တာထေရ်ကြီးလေးပါးကို ဝိနည်းမိုရ်ပုဂ္ဂိုလ်အဖြစ် ရွေးကောက်တင်မြှောက်လေ၏။

ဥဇ္ဇေနီ၊ ရာဇဂြိုဟ်၊ သာဝတ္ထိစသော အနောက်ပိုင်း တိုင်းပြည်များဘက်မှ -

| | | |
|---|---|---|
| ၁။ | အရှင်ရေဝတ မဟာထေရ် | (သက်တော် ၁၂၀-ကျော်) |
| ၂။ | အရှင်သမ္ဘူတ မဟာထေရ် | ( ။ ) |
| ၃။ | အရှင်ယသ မဟာထေရ် | ( ။ ) |
| ၄။ | အရှင်သုမန မဟာထေရ် | ( ။ ) |

ဤပဋိသမ္ဘိဒါပတ္တ ဆဠဘိည တိပိဋကဓရ ရဟန္တာထေရ်ကြီးလေးပါးကို ဝိနည်းမိုရ် ပုဂ္ဂိုလ်အဖြစ် ရွေးကောက် တင်မြှောက်ကြလေ၏။ အဇိတအမည်ရှိသော ဆယ်ဝါရ ရဟန်းတော်တစ်ပါးကို ဝိနည်းမိုရ်များအတွက် နေရာထိုင်ခင်းပြင်ဆင်ရန် သမ္မုတိပေး ရွေးချယ်ကြ၏။

ထိုသံဃာ့အစည်းအဝေးမှ ရွေးချယ်အပ်သော မဟာထေရ်ကြီးရှစ်ပါးတို့သည် အဓိကရုဏ်းကို ဆုံးဖြတ်ရန် ဝါလိကာရုံကျောင်းတိုက်၌ အစည်းအဝေးကျင်းပလေ၏။

ထိုအစည်းအဝေး၌ အနောက်ပိုင်း တိုင်းပြည်ဘက်မှ သံဃာ့ထေရ် အရှင်ရေဝတသည် အရှေ့ပိုင်းတိုင်းပြည်ဘက်မှ သံဃာ့ထေရ် အရှင်သဗ္ဗကာမီအား ဒသဝတ္ထုက ။ အချက်ဆယ်ချက်ကို ဝိနည်းတရားတော်နှင့်ညီ, မညီ မေးလျှောက်ရာ ဝိနည်းနှင့် မလျော်ညီကြောင်းကို တစ်ချက်စီဖြေရှင်းဆုံးဖြတ်တော်မူ၏။

တစ်ဖန် မဟာဝုန်ကျောင်းတိုက်သို့ ပြန်ကြွ၍ သံဃာ့အစည်းအဝေးအလယ်တွင် အထက်ပါအတိုင်း အရှင်ရေဝတကမေး၍ အရှင်သဗ္ဗကာမိ မဟာထေရ်ကြီးက ဖြေရှင်း ဆုံးဖြတ်တော်မူ၏။ ထိုဆုံးဖြတ်ချက်များကို သံဃာ့အစည်းဝေးကြီးက တညီတညွတ်တည်း လက်ခံအတည်ပြုတော်မူကြ၏။

## ရဟန္တာခုနစ်ရာ ဒုတိယသင်္ဂါယနာ

ဤအဓိကရုဏ်းငြိမ်းပြီးသောအခါ စည်းဝေးကြွရောက်လာကြသော သံဃာတော် (၁၂) သိန်းမှ တိပိဋကဓရ ပဋိသမ္ဘိဒါပတ္တ ဆဋ္ဌာဘိညာ ရဟန္တာ မထေရ်ကြီးခုနစ်ရာတို့ကို ရွေးကောက်၍ ဒုတိယအကြိမ် သင်္ဂါယနာ တင်ရာ ရှစ်လတိုင်ကြာမှ ပြီးဆုံးခြင်းသို့ ရောက်၏။ ထိုသင်္ဂါယနာတင် ပွဲကို ပါဋလိပုတ်ပြည် ကာလာသောကမင်းကြီးသည် အာဏာစက်ဖြင့် ထောက်ပံ့ကူညီ၍ သာသနာ့ဒါယကာ ခံယူလေသည်။

ထိုဒုတိယသင်္ဂါယနာတင်ပွဲ၌ သံဃာ့ဦးဆောင်နာယက မထေရ် ရှစ်ပါးလုံးသည် မြတ်စွာဘုရားကို ဖူးမြင်ဖူးကြကုန်၏။ အရှင် သဗ္ဗကာမီ ထေရ်၊ အရှင်သာဠှထေရ်၊ အရှင်ရေဝတ၊ အရှင်ခုဇ္ဇသောဘိတထေရ်၊ အရှင်သမ္ဘူတထေရ်၊ အရှင်မဟာယသထေရ် - ဤခြောက်ပါးသော ထေရ်မြတ်တို့ကား အရှင်အာနန္ဒာထေရ်၏ အတူနေတပည့်ကြီးများ ဖြစ် ကြကုန်၏။ အရှင်သုမနထေရ်၊ အရှင်ဝါသဘဂါမိထေရ်တို့ကား အရှင် အနုရုဒ္ဓါ၏ အတူနေတပည့်ကြီးများ ဖြစ်ကြကုန်၏။

## တိဘက်တရုတ်မှတ်တမ်း

တိဘက်, တရုတ် မှတ်တမ်းများအရဆိုပါမူ ရဟန်းတော် မဟာ ဒေဝ၏ အောက်ဖော်ပြပါ အယူဝါဒ ငါးချက်ကြောင့် ဒုတိယသင်္ဂါယနာ တင်ခဲ့ရသည်ဟု ဆို၏။

၁။ ရဟန္တာသည် မကောင်းမှု ဒုစရိုက်ကို အမှတ်မဲ့ ကျူးလွန်သေး သည်။

၂။ အချို့ရဟန္တာသည် မိမိရဟန္တာဖြစ်နေသည်ကို ဖြစ်မှန်းမသိချေ။

၃။ ရဟန္တာသည် ယုံမှားသံသယ ဝိစိကိစ္ဆာကို ကုန်စင်အောင် မပယ် ရသေး။

၄။ ဆရာ မကူညီက ရဟန္တာမဖြစ်နိုင်။

၅။ မဂ်ဖိုလ်ရသောအခါ 'ဒုက္ခ ဒုက္ခ'ဟု နှုတ်မှ ရွတ်ဆိုသည်။

ဤငါးချက်ကို မူတည်၍ အငြင်းပွားခဲ့ရာမှ ဒုတိယသင်္ဂါယနာ တင်ရသည်ဟု ဆိုသည်။

အမှန်စင်စစ် မဟာဒေဝ၏ အယူဝါဒငါးချက်ကို အဘိဓမ္မာ ကထာဝတ္ထု ပါဠိတော်ဖြင့် ဖော်ပြထားသဖြင့် ဒုတိယသင်္ဂါယနာတင်ပြီးနောက် တတိယသင်္ဂါယနာ မတင်မီကြားကာလ၌ ၁၈ ဂိုဏ်းကွဲခြင်း အကြောင်းသာ ဖြစ်တန်ရာ၏။ ဒုတိယသင်္ဂါယနာတင်ရခြင်း၏ အကြောင်းရင်း မဖြစ်နိုင်ချေ။ မဟာဒေဝသည် မထုရာမြို့နေ ပညာတတ် ပုဏ္ဏားတစ်ဦး၏ သားဖြစ်၍ ပါဋလိပုတ်ပြည် ကုက္ကုဋာရာမကျောင်းတိုက်၌ ရဟန်းပြုသည်ဟု ဆို၏။

## ပထမစင်ပြိုင် သင်္ဂါယနာ

ထိုဝဇ္ဇီပုတ္တက ရဟန်းတို့အား ရဟန္တာမထေရ်ကြီးတို့၏ ဆုံးဖြတ်ချက်ကို မနာခံသဖြင့် သံဃာ့ကံပြု၍ နှင်ထုတ်လိုက်လေသည်။ အကယ်၍ ထိုအချိန်က မိမိတို့အများကို ဝန်ခံ၍ အပြစ်ကို ကုစားပါက ဂိုဏ်းကွဲမှု မရှိတော့သဖြင့် ယနေ့ အိန္ဒိယပြည်တွင် သာသနာရောင်ဝါ ထွန်းလင်းလျက် ရှိပေလိမ့်ဦးမည်။ ယခုမူ ဝဇ္ဇီပုတ္တကရဟန်းတို့သည် ဝေသာလီပြည်မှ ထွက်ခွာ၍ အနယ်နယ် အရပ်ရပ်တွင် အဓမ္မဝါဒီရဟန်းများကို စည်းရုံး၍ ရဟန်းပရိသတ်တစ်သောင်း ရရှိသောအခါ ကောသမ္ဗီပြည်တွင် စင်ပြိုင်သင်္ဂါယနာ တင်ကြကုန်၏။ အချို့သော နယ်စား, မြို့စားနှင့် ဘုရင်များက အားပေးထောက်ပံ့ကြ၏။ ထိုရဟန်းဆိုးတို့သည် မိမိတို့ ဂိုဏ်းက နာမည်အားဖြင့် အပေါ်စီးမှ ရစေရန် ရှေ့မှ 'မဟာ' တစ်လုံး အပိုထည့်ထားကြကုန်၏။ သူတို့ပြုလုပ်သော သင်္ဂါယနာကို 'မဟာသင်္ဂီတိဂိုဏ်း'ဟူ၍လည်းကောင်း၊ 'မဟာသံဃိကဂိုဏ်း'ဟူ၍လည်းကောင်း အမည် ပေးကြကုန်၏။

ထိုစင်ပြိုင် သင်္ဂါယနာ၌ ပထမသင်္ဂါယနာတင်ပွဲတွင် အရှင်မဟာကဿပ၊ အရှင်အာနန္ဒာ စသော ရဟန္တာမထေရ်ကြီးတို့ စီစဉ်ထားချက်

တို့ကို ရှေ့နောက် ကပြောင်းကပြန် ပြုလုပ်ကြကုန်၏။ နိကာယ်တစ်ခုမှ သုတ်ကို အခြားနိကာယ်ထဲ၌ ရွှေ့ပြောင်းထားကြကုန်၏။ ဇာတကများကို ဝိနယပိဋကထဲသို့ ရွှေ့ပြောင်းခြင်း၊ သုတ္တန်တရားများကို အဘိဓမ္မာပိဋကထဲသို့ ရွှေ့ပြောင်းခြင်း ပြုကြကုန်၏။ ပါဠိကိုလည်း ပြင်ဆင်ကြ၏။ အနက်အဓိပ္ပာယ်ကိုလည်း တလွဲတချော် ဖွင့်ဆိုကြကုန်၏။ တိုက်ရိုက် အဓိပ္ပာယ်ယူရမည့် နေရာတွင် သွယ်ဝိုက်၍ အဓိပ္ပာယ်ယူကြကုန်၏။ သွယ်ဝိုက်၍ အဓိပ္ပာယ်ကောက်ယူရမည့်နေရာ၌ တိုက်ရိုက်အဓိပ္ပာယ် ကောက်ယူကြကုန်၏။ ဆိုလိုချက်ကို တလွဲတချော်ဖြစ်အောင် အဓိပ္ပာယ် ဖွင့်ဆိုကြကုန်၏။ စကားတစ်စွန်းတစ်စ ရိပ်ဖမ်းသံဖမ်းရလျှင် မိမိလိုရာ ရောက်အောင် ဆွဲယူကြကုန်၏။

မိမိတို့စိတ်ကြိုက် မတွေ့သော သုတ်, ဝိနည်းတို့ကို ဖြုတ်ထုတ်နုတ် ပယ်ပစ်ကြ၍ မိမိတို့ဝါဒလေ့စရိုက်အကျင့်နှင့်ညီသော သုတ်, ဝိနည်း တရား အသစ်များကို စီစဉ်ထည့်သွင်းကြကုန်၏။ ဝိနည်းငါးကျမ်းမှ ပရိဝါပါဠိ တော်ကို ဖြုတ်ပယ်ကြကုန်၏။ အချို့က အဘိဓမ္မာပိဋကတစ်ခုလုံးကို ဖြုတ်ပယ်ပစ်ကြ၏။ အချို့က အဘိဓမ္မာပိဋကမှ အဋ္ဌကထာကဏ္ဍတစ်ခု ကိုသာ ဖယ်ထုတ်ကြ၏။ အဘိဓမ္မာကျမ်းသစ်များကိုလည်း ရေးသားစီရင် ကြကုန်၏။

ပဋိသမ္ဘိဒါမဂ္ဂပါဠိတော်၊ မဟာနိဒ္ဒေသနှင့် စူဠနိဒ္ဒေသ ပါဠိတော် တို့ကို ဖယ်ထုတ်ကြကုန်၏။ ဇာတကပါဠိတော်မှ ဇာတ်အချို့ကို ဖြုတ်၍ အသစ်စီရင် ထည့်သွင်းကြကုန်၏။

ရတနာသုံးပါးနှင့် မစပ်ဆိုင်သော မဥ္ဇုသိရိနိကာယ စသော ဂိုဏ်း အမည် အထူးအဆန်းများကို သုံးစွဲကြ၏။ သင်္ကန်းဝတ်ပုံ ရုံပုံများကို လည်း တစ်မျိုးတစ်မည် တီထွင်ကြလေ၏။ ရဟန်းပရိက္ခရာများကိုလည်း ပြုပြင် တီထွင်ကြ၏။ နေပုံ, ထိုင်ပုံ, စားသောက်ပုံ, သွားပုံများကိုလည်း တစ်မူတီထွင်ကြ၏။ သင်္ကန်းချုပ်ပုံမှာလည်း အကျီပုံ, ဘောင်းဘီပုံ စသည် ဖြင့် တစ်မျိုးတစ်မည် တီထွင်ကြသည်။

## ဂိုဏ်းကြီး ၁၈ ဂိုဏ်း

ဝဇ္ဇီတိုင်းသား ရဟန်းဆိုးများဦးဆောင်၍ ဗွေဆော်ဦးခွဲထွက်သော ဂိုဏ်းကို 'မဟာသံဃိကဂိုဏ်း ≈ မဟာသင်္ဂီတိဂိုဏ်း'ဟု ခေါ်သည်။ မဟာသံဃိကတို့၏ ဦးဆောင်လမ်းပြမှု တီထွင်မှုကြောင့် အကွဲအပြဲများ ဆက်ကာ ဆက်ကာ ပေါ်ပေါက်လာလေတော့သည်။ ဒုတိယသင်္ဂါယနာ တင်ပြီးနောက် တတိယသင်္ဂါယနာမတိုင်မီ အနှစ်တစ်ရာကျော်လောက်အတွင်း၌ မဟာသံဃိကဂိုဏ်းမှ ဂေါကုလိကဂိုဏ်းနှင့် ဧကဗျောဟာရိကဂိုဏ်း နှစ်ခု ခွဲထွက်ပြန်၏။ တစ်ဖန် ဂေါကုလိကဂိုဏ်းမှ ပဏ္ဏတ္တိဝါဒဂိုဏ်း (ပညတ္တိဝါဒ) ဗာဟုလိယဂိုဏ်း (=ဗဟုဿုတိကဂိုဏ်း)ဟု နှစ်ဂိုဏ်း ခွဲထွက်ပြန်၏။ တစ်ဖန် ဗဟုဿုတိကဂိုဏ်းမှ စေတိယဂိုဏ်း ခွဲထွက်ပြန်၏။ စုစုပေါင်း မဟာသံဃိကဂိုဏ်းမှ နောက်ထပ် ငါးဂိုဏ်း ခွဲ၏။

ထိုမဟာသံဃိကဂိုဏ်းကွဲများကို အတုလိုက်၍ မူလပင်မ ထေရဝါဒမှ မဟိသာသကနှင့် ဝဇ္ဇီပုတ္တက ဂိုဏ်းနှစ်ခု ခွဲထွက်ကြကုန်၏။ တစ်ဖန် ဝဇ္ဇီပုတ္တကဂိုဏ်းမှ ဓမ္မုတ္တရိယ၊ ဘဒြယာနိက၊ ဆန္နာဂါရိက၊ သမ္မိတိယဟူ၍ လေးဂိုဏ်းခွဲထွက်ပြန်၏။ မဟိသာသကဂိုဏ်းမှ သဗ္ဗတ္ထိ ဝါဒနှင့် ဓမ္မဂုတ္တိကဂိုဏ်းများ ခွဲထွက်ပြန်၏။ သဗ္ဗတ္ထိဝါဒမှ ကဿပိကဂိုဏ်း ခွဲထွက်ပြန်၏။ ၎င်းမှ သင်္ကန္တိကဂိုဏ်း ခွဲထွက်ပြန်၏။ ၎င်းမှ သုတ္တဝါဒဂိုဏ်း ခွဲထွက်ပြန်၏။ ဤသို့အားဖြင့် ပင်မထေရဝါဒသံဃာမှ ဒုတိယအကြိမ် ၁၁ ဂိုဏ်း ခွဲထွက်ပြန်၏။ ထို့ကြောင့် မူလက ပင်မထေရဝါဒ သံဃာ တစ်ဂိုဏ်း၊ ပထမအကြိမ် ခွဲထွက်သော မဟာသံဃိက စသည် ခြောက်ဂိုဏ်း၊ ဒုတိယအကြိမ် ခွဲထွက်သော မဟိသာသက စသည် တစ်ဆယ့်တစ်ဂိုဏ်း၊ စုစုပေါင်း ၁၈ ဂိုဏ်း ဖြစ်လေသည်။

ထိုဂိုဏ်းကြီး ၁၈ ဂိုဏ်းကွဲ နေပုံကို ဒီပဝံသကျမ်း၌ ပြထားခဲ့သည်။ ထို ၁၈ ဂိုဏ်းအပြင် ပုဗ္ဗသေလိယ, အပရသေလိယ, ရာဇဂိရိက, သိဒ္ဓတ္ထိက ဟူသော အန္ဓကဂိုဏ်း လေးဂိုဏ်း၊ ဟေမဝတိကဂိုဏ်း၊ ဝါဇိရိယဂိုဏ်း၊ ဥတ္တရာပထကဂိုဏ်း၊ ဝေတုလ္လကဂိုဏ်း၊ ဟေတုဝါဒဂိုဏ်းများ ဆက်လက်ကွဲပြားကြောင်းကို ကထာဝတ္ထုအဋ္ဌကထာ၌ ပြဆိုထားသည်။

## ဝသုမိတြ၏မှတ်တမ်း

သက္ကတဘာသာဖြင့် ရေးခဲ့သော ဝသုမိတြ၏ မှတ်တမ်းအရဆိုပါမူ တတိယသင်္ဂါယနာခေတ်၌ ထေရဝါဒ၊ ပဏ္ဍာ၊ နာဂ၊ ဗဟုသုတိယသံဃာ အုပ်စုလေးခု ဝါဒရေးရာ ငြင်းခုံကြရာမှ ထေရဝါဒနှင့် မဟာသံဃိက ကွဲပြားသည်ဟု ဆို၏။ ၎င်းမှတ်တမ်းအရ မဟာသံဃိကဂိုဏ်းမှ ဧက ဗျောဟာရိက၊ လောကုတ္တရဝါဒီ၊ ကုက္ကုလိက၊ ဥတ္တရသေလ၊ အပရသေလ၊ စေတိယ၊ ပညတ္တိဝါဒီ၊ ဗဟုသုတိယဟု ရှစ်ဂိုဏ်းခွဲထွက်သည်။

ထေရဝါဒကို သဗ္ဗတ္ထိဝါဒဂိုဏ်းဟု ခေါ်၍ သဗ္ဗတ္ထိဝါဒမှ ဝဇ္ဇီပုတ္တက၊ ဓမ္မုတ္တရိယ၊ ဘဒြယာနိက၊ သမ္မိတ္တိယ၊ ဆန္နာဂါရိက၊ ဟေမာဝတ၊ ဓမ္မ ဂုတ္တိက၊ မဟိသာသက၊ ကဿပိက၊ သင်္ကန္တိက ခေါ်သော သုတ္တဝါဒီဟူ၍ ဆယ်ဂိုဏ်းခွဲထွက်၏။ စုစုပေါင်း ဂိုဏ်းပေါင်း နှစ်ဆယ်ဖြစ်လေသည်။

ဤမှတ်ထမ်းအရ ကုက္ကုလိကဂိုဏ်းကို ကထာဝတ္ထု အဋ္ဌကထာနှင့် ဂေါကုလိကဂိုဏ်းဟု ခေါ်၏။ ထို့ပြင် ဥတ္တရသေလ (ပုဗ္ဗသေလ)နှင့် အပရသေလဟူသော အန္ဓကဂိုဏ်းကို ကထာဝတ္ထုအဋ္ဌကထာ၌ အသောက နောက်ပေါ်ဂိုဏ်းများဟု ဆိုထားသော်လည်း ဝသုမိတြ၏ မှတ်တမ်း၌မူ မဟာသံဃိကဂိုဏ်းကွဲစာရင်း၌ ထည့်သွင်း ပြသထား၏။ လောကုတ္တရ ဝါဒီဂိုဏ်းမှာ ကထာဝတ္ထုအဋ္ဌကထာ၌ ဖော်ပြထားခြင်း မရှိသော်လည်း ထိုဂိုဏ်း၏ အယူဝါဒဖြစ်စရာရှိသော လောကုတ္တရာဝါဒကိုမူ ကထာဝတ္ထု ပါဠိတော်၌ တွေ့ရ၏။

ဝသုမိတြ၏မှတ်တမ်း၌ ထေရဝါဒကို သဗ္ဗတ္ထိဝါဒဟု မှားယွင်းစွာ ဖော်ပြထားရာ ဤအချက်ကို ထောက်ရှု၍ ဝသုမိတြ မှတ်တမ်းရေးချိန်၌ အိန္ဒိယပြည်တွင် ထေရဝါဒမူရင်းအစစ် မရှိတော့ဟု သိနိုင်ပေသည်။ အမှန်စင်စစ် သဗ္ဗတ္ထိဝါဒ မှားယွင်းကြောင်းကို ကထာဝတ္ထုပါဠိတော်၌ ဝေဖန် ဟောကြားထားပြီးဖြစ်၍ သဗ္ဗတ္ထိဝါဒသည် ပင်မထေရဝါဒ မဟုတ်ကြောင်း ထင်ရှား၏။ မဟာသံဃိကဂိုဏ်းမှ မဇ္ဈိကသုညဝါဒဂိုဏ်း,

ဝိညာဏဝါဒဂိုဏ်း၊ ယောဂါစာရဂိုဏ်းများ ဆက်လက်ပေါက်ပွားခဲ့၏။ မဟာယာနဟူ၍ ပေါ်လာသောအချိန်၌ မဟာယာနဂိုဏ်းသားတို့နှင့် အပြင်းအထန်ငြင်းခုံကြသော ဂိုဏ်းများမှာ ဤသဗ္ဗတ္ထိဝါဒ ဂိုဏ်းကွဲများ ဖြစ်ကြ၏။ ဟီနယာနဟု အခေါ်ခံကြရသော ဂိုဏ်းများမှာလည်း သဗ္ဗတ္ထိဝါဒဂိုဏ်းနှင့် ၎င်း၏ အဆွယ်အပွားများ ဖြစ်ကြသည်။ မူလက ပင်မထေရဝါဒမှာ ဟီနယာန မဟုတ်ချေ။

ထို့ပြင် ကထာဝတ္ထုအဋ္ဌကထာသည် သုတ္တဝါဒီနှင့် သင်္ကန္တိကဂိုဏ်းကို နှစ်ဂိုဏ်းဟု ရေတွက်ပြထားသော်လည်း ဝသုမိတြ၏ မှတ်တမ်း၌မူ တစ်ဂိုဏ်းတည်း ပြုလုပ်ထား၏။

## ဘဗျ၏မှတ်တမ်း

သက္ကတစာရေး ဆရာကြီး ဘဗျ၏ အဆိုအရမူ ထေရဝါဒနှင့် မဟာသံဃိက ကွဲပြီးနောက် မဟာသံဃိကဂိုဏ်းမှ ဧကဗျောဟာရိက၊ လောကုတ္တရဝါဒီ၊ ဗဟုသုတိယ၊ ပညတ္တိဝါဒီ၊ စေတိယ၊ ပုဗ္ဗသေလ၊ အပရသေလဟူ၍ ခုနစ်ဂိုဏ်းကွဲလေသည်။ ထေရဝါဒကိုမူ ဟေမာဝတဂိုဏ်းဟု ခေါ်၍ ၎င်းဟေမာဝတဂိုဏ်းမှ သဗ္ဗတ္ထိဝါဒီ၊ ဥတ္တရိကခေါ် သင်္ကန္တိကဝါဒ၊ ဝိဘဇ္ဇဝါဒီ၊ ဟေတုဝိဇ္ဇာ၊ ဝဇ္ဇီပုတ္တိယ၊ ဓမ္မုတ္တရိယ၊ ဘဒြယာနိက၊ သမ္မတ္တ၊ မဟီသာသက၊ ဓမ္မဂုတ္တိက၊ သဒ္ဓမ္မဝဿကခေါ် ကဿပိကဂိုဏ်းဟူ၍ ၁၁ ဂိုဏ်း ကွဲပြားလေသည်။ စုစုပေါင်း ၂၁ ဂိုဏ်း ရှိလေသည်။ ဒီပ ဝံသ၌ ဖော်ပြထားသော ဂိုဏ်းကြီး ၁၈ ဂိုဏ်းအနက် ဂေါကုလိကဂိုဏ်း၊ ဆန္နာဂါရိကဂိုဏ်း၊ သုတ္တဝါဒဂိုဏ်းများမှာ ဤမှတ်တမ်း၌ မပါဝင်တော့ချေ။ ထို့ပြင် ကထာဝတ္ထုအဋ္ဌကထာ၌ မပါရှိသော ဝိဘဇ္ဇဝါဒီဂိုဏ်း အမည်သစ်တစ်ခု တိုးထား၏။ ဟေတုဝါဒဂိုဏ်းကို ထေရဝါဒဟု မှားယွင်းစွာ ဖော်ပြထားသဖြင့် ဤမှတ်တမ်း အဆိုအမိန့်များကို အလေးဂရုပြုဖွယ် မလိုချေ။ (ဂိုဏ်းကြီး ၁၈ ဂိုဏ်း အပါအဝင် ဂိုဏ်းကွဲများ၏ အယူဝါဒများကို နောက်ဆက်တွဲ၌ ရှုပါ။)

## အသောကမင်းတရားကြီး

သာသနာသက္ကရာဇ် ၂၀၂ (မဟာဝိဟာရဝါသိနိကာယအလို ၂၆၀) နှစ်တွင် သီရိဓမ္မာသောကမင်းကြီးသည် မဇ္ဈိမဒေသတစ်ခုလုံးကို စိုးမိုးအုပ်ချုပ်တော်မူ၏။ အသောကမင်းကြီး၏ ဖခမည်းတော် ဗိန္ဒုသာရ မင်းကြီးကား ဂိုဏ်းဘာသာ၏ သာသနာ့ဒါယကာဖြစ်တော်မူ၏။ ထို့ကြောင့် အသောကမင်းကြီး နန်းတက်သောအခါ၌လည်း အဝတ်မဝတ်သော ဂိုဏ်းရဟန်းများ၊ အာဇီဝက တက္ကတွန်း ရဟန်းများ၊ ပြာဟ္မဏဘာသာဝင် ရဟန်းများကို လှူဒါန်းထောက်ပံ့လေသည်။

နန်းတက်ပြီးနောက် လေးနှစ်ကြာသောအခါ အဘိသိက်ခံတော်မူ၏။ ထို့နောက် မိမိတူတော် နိဂြောဓသာမဏေ၏ ဟောကြားဆုံးမမှုကြောင့် ဗုဒ္ဓဘာသာကို သက်ဝင် ယုံကြည်လေသည်။ ထိုအချိန်မှ စ၍ နေ့စဉ် နန်းတော်၌ ဆွမ်းစားနေကျ ဝတ်လစ်စလစ် တက္ကတွန်းရဟန်းခြောက်သောင်းကို နန်းတော်သို့ အဝင်မခံဘဲ မောင်းထုတ်ခဲ့လေသည်။

နေ့စဉ် နေ့တိုင်း မြတ်စွာဘုရားအား တစ်သိန်း၊ တရားတော်အား တစ်သိန်း၊ သံဃာတော်အား တစ်သိန်း၊ ဆရာဖြစ်သော နိဂြောဓ သာမဏေအား တစ်သိန်း၊ ရဟန်းသံဃာတော်များ ဆေးပစ္စည်းအတွက် ရွှေမြို့တော်တံခါးလေးရပ်တွင် တစ်သိန်းအားဖြင့် စုစုပေါင်း ငါးသိန်း လှူဒါန်းပူဇော်လေ့ရှိ၏။ ထို့ပြင် ဓမ္မက္ခန္ဓာပေါင်း (၈၄၀၀၀)ကို အထိမ်းအမှတ်ပြု၍ ဇမ္ဗူဒိပ်ကျွန်း၌ ရေတွင်းပေါင်း (၈၄၀၀၀)၊ ရေကန်ပေါင်း (၈၄၀၀၀)၊ ကျောက်တိုင်ပေါင်း (၈၄၀၀၀)၊ စေတီပုထိုးပေါင်း (၈၄၀၀၀)ကို လှူဒါန်းတော်မူ၏။ အသောကမင်းကြီးကား ဗုဒ္ဓသာသနာတော်သမိုင်းတစ်လျှောက် ပြိုင်ဘက်ကင်းသော သာသနာ့ဒါယကာ သာသနာပြုမင်း ဖြစ်လေသည်။

ပြာဟ္မဏနွယ်ဝင် ရဟန်းများ၊ ဂိုဏ်းရဟန်းများ၊ အာဇီဝက တက္ကတွန်းများသည် လာဘ်လာဘပါးရှား၍ စားရေး၊ သောက်ရေး ခက်ခဲလာရကား ဗုဒ္ဓသာသနာတော်အတွင်းသို့ နည်းအမျိုးမျိုးဖြင့် ဝင်ရောက်လာကြတော့၏။

# တတိယသင်္ဂါယနာ နိဒါန်း

အချို့သော တိတ္ထိများသည် ဗုဒ္ဓတရားတော်ကို ယုံကြည်ဟန်ဆောင်၍ ရဟန်းကောင်းများတို့ထံ၌ ရဟန်းပြုကြပြီးလျှင် နောင်သောအခါ မိမိတို့ တိတ္ထိအယူဝါဒများကို ဟောပြောကြ၏။ အချို့သော တိတ္ထိများသည် မိမိတို့ဘာသာ ရရာသင်္ကန်းဝတ်၍ ရဟန်းအသွင်ကို ယူပြီးလျှင် ရဟန်းကောင်းတို့နှင့် ရောနှောနေထိုင်ကြ၏။ ရေငုပ်မီးလှုံခြင်း၊ ဇောက်ထိုးဆွဲခြင်း၊ အုန်းပင်စိုက်ခြင်း စသော အကျင့်များကို ရဟန်းအသွင်ဖြင့် ကျင့်ကြကုန်၏။ မိမိတို့ တိတ္ထိဝါဒများကို ဘုရားဟောတရား ဖြစ်လေဟန် လုပ်ကြံ ဟောပြောကြ၏။ ထိုရဟန်းတု ရဟန်းယောင်များသည် နေရာတကာ ရောနှော ပါဝင်နေကြသဖြင့် ရဟန်းကောင်းများမှာ ဥပုသ်, ပဝါရဏာ မပြုနိုင်ကြတော့ချေ။ အသောကာရုံကျောင်းတော်ကြီး၌ ဥပုသ်, ပဝါရဏာ မပြုနိုင်သည်မှာ ခုနစ်နှစ်ကြာလေသည်။

ဤအကြောင်းကို ကြားသိရသော အသောကမင်းကြီးသည် ရဟန်းများ ဥပုသ်, ပဝါရဏာ ပြုနိုင်ရေးအတွက် အမတ်တစ်ယောက်ကို စေလွှတ်၍ ဆောင်ရွက်စီမံစေ၏။ မလိမ္မာသော ထိုအမတ်သည် ရဟန်းကောင်းတို့ကို အမိန့်တော် မနာခံဟု ဆိုကာ သတ်ဖြတ်လေသည်။ ထိုသို့ ရဟန်းများသတ်ဖြတ်ခံရသည့်အတွက် အသောကမင်းကြီးမှာ ယူကျုံးမရဖြစ်ကာ ပြင်းစွာ စိတ်ဆင်းရဲရလေ၏။ ထိုပြဿနာကို ဖြေရှင်းနိုင်မည့် ပုဂ္ဂိုလ်ကို စုံစမ်းရှာဖွေရတော့သည်။ သံဃာတော် အရှင်မြတ်တို့၏ ညွှန်ကြားချက်အရ အဟောဂင်္ဂါတောင်၌ သီတင်းသုံးနေသော အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်ကို နေပြည်တော်သို့ ပင့်၍ ဩဝါဒခံယူလေသည်။

အသောကမင်းကြီးသည် အရှင်မဟာမောဂ္ဂလိပုတ္တတိဿထံ ခုနစ်ရက်တိုင်တိုင် အယူဝါဒများကို သင်ယူပြီးနောက် သံဃာတော်အားလုံးကို အသောကာရုံကျောင်းတော်သို့ ပင့်ဆောင်လေသည်။ ရဟန်းတော်များကို မိမိတို့ အယူဝါဒ တူရာတူရာ အုပ်စုအလိုက် အယူဝါဒများကို မင်းကြီးကိုယ်တိုင် မေးမြန်းစိစစ်လေသည်။ "မြတ်စွာဘုရားသည် အဘယ်ဝါဒရှိသနည်း"ဟု မေးတော်မူလျှင် ဗုဒ္ဓတရားတော်ကို မသင်ယူဖူးသော ရဟန်းတု ရဟန်းယောင်များသည် မှန်ကန်စွာ မဖြေဆိုနိုင်ကြချေ။ "မြတ်စွာဘုရားသည် သဿတဝါဒီဖြစ်၏။ ဥစ္ဆေဒဝါဒီဖြစ်၏"စသည်ဖြင့် မိမိတို့ ထင်ရာမြင်ရာ ဖြေဆိုကြ၏။

ထိုအခါ မင်းကြီးသည် "ဤရဟန်းတို့ကား မိစ္ဆာအယူရှိသော ရဟန်းတု ရဟန်းယောင်များတည်း"ဟု သိတော်မူ၍ အဝတ်ဖြူလဲစေကာ သာသနာတော်မှ နှင်ထုတ်လေသည်။

"မြတ်စွာဘုရားသည် ဝိဘဇ္ဇဝါဒီ ဖြစ်တော်မူ၏"ဟု ဖြေကြားသော ရဟန်းတော်များကိုသာလျှင် သာသနာတော်အတွင်း၌ ဆက်လက် နေခွင့်ပြုတော်မူ၏။ သို့ရာတွင် အခြားသာ တိတ္ထိတက္ကတွန်းများသည် ဘုရားဟော တရားတော်ကို သင်ယူဖူးကြ၍ အသောကမင်းကြီး မေးစစ်သောအခါ မှန်ကန်စွာ ဖြေဆိုနိုင်ကြ၏။ ထိုသို့ တိတ္ထိဘောင်မှ ကူးပြောင်းလာ၍ ဘုရားဟော တရားတော်၌ တတ်သိကျွမ်းကျင်သော ရဟန်းတု ရဟန်းယောင်များကိုလည်းကောင်း၊ ထေရဝါဒမှ တစ်ပါးသော မဟာသံဃိကဂိုဏ်း အစရှိသော (၁၇) ဂိုဏ်းသားတို့ကိုလည်းကောင်း အရှင်မောဂ္ဂလိပုတ္တတိဿသည် ကိုယ်တော်တိုင် စိစစ်ထုတ်ပယ်၍ ထေရဝါဒီစစ်စစ်များကိုသာ ရွေးချယ်လက်ခံတော်မူ၏။

## ကထာဝတ္ထုပါဠိတော်

ဤသို့လျှင် အသောကမင်းကြီးက သာသနာတော်ကို အကြမ်းဖျင်းအားဖြင့် သန့်စင်စေပြီးနောက် အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်ကြီးက ထပ်မံ၍ အနုစိတ် စစ်ဆေးကာ စင်ကြယ်စေ၏။ ထေရဝါဒမှ

တစ်ပါးသော ဂိုဏ်းတို့၏ အယူဝါဒများ မှားယွင်းပုံကို အပြန်အလှန် အမေးအဖြေ အချေအတင် ပြုလုပ်၍ ဝါဒတစ်ခုချင်းကို စိစစ် ဖယ်ထုတ်တော်မူခဲ့သည်။ ဤသို့ အခြားဂိုဏ်းသားတို့၏ အယူဝါဒမှားယွင်းပုံကို အရှင်မဟာမောဂ္ဂလိပုတ္တတိဿ,က ထောက်ပြ ဝေဖန်သည့်ကျမ်းကို "ကထာဝတ္ထုပါဠိတော်"ဟု ခေါ်သည်။ ဤဂါထာဝတ္ထုကျမ်းကား သစ် ပင်၌ ကပ်၍ပေါက်သော ကျည်းပေါင်းများကို ခွာချပစ်သကဲ့သို့ မူရင်း ဗုဒ္ဓဘာသာဖြစ်သော ထေရဝါဒပင်မကြီးအား တွယ်ကပ်လာသော ဆင်တူရိုးမှား တရားတုများကို ပယ်လှန်ခွာချသော ကျမ်းကြီးဖြစ်၏။ ကထာဝတ္ထုကျမ်းတွင် စကားအချေ အတင်ပြောဆို ဆွေးနွေးရာ၌ လွန်စွာ အတုယူထိုက်သော စကားပြောနည်းများ ပါဝင်၏။ တစ်ဖက်သားအား မေးခွန်းများ ဆင့်ကာဆင့်ကာ ထုတ်၍ သူ့အဖြေဖြင့် သူ့ကို ပြန်၍ချည်သောနည်းကို အသုံးပြုထား၏။ ဆင့်ကဲဆင့်ကဲ မေးခွန်းများကို ဖြေရင်း ချောင်ပိတ်မိကာ အထောင်းခံရပုံများကို နည်းရလောက်အောင် ပြထားသည်။

ဤကျမ်း၏ ထူးခြားချက်မှာ-မိမိဘက်ကသာ တစ်ဖက်သတ် အနိုင်ယူ ပြောနေခြင်းမဟုတ်ဘဲ ဆန့်ကျင်ဘက်ဂိုဏ်းသားဘက်မှလည်း အပြန်အလှန် အထက်စီးရယူသွားပုံကိုလည်း ပြထားသဖြင့် ဤခေတ်အမြင်ဖြင့် ဆိုပါက 'ဒီမိုကရေစီ သရုပ်ပြကျမ်းကြီး'ဟု ဆိုသင့်၏။

'လက်ညှိုးတစ်ချောင်းဖြင့် ထိုလက်ညှိုးကို မထိနိုင်၊ ဓားတစ်ချောင်းဖြင့် ထိုဓားကို ပြန်၍မခုတ်နိုင်' စသော ယုတ္တိပြချက်များကို ဤကထာဝတ္ထုကျမ်း၌ စတင်တွေ့ရှိရသည်။

ထိုကထာဝတ္ထုကျမ်းကို အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်က ဟောကြားတော်မူပြီးနောက် ရဟန်းတော်ပေါင်း ခြောက်သန်းအနက် ပဋိသမ္ဘိဒါပတ္တ ပိဋကသုံးပုံဆောင် ရဟန္တာထေရ်ကြီးတစ်သောင်းကို ရွေးချယ်တော်မူ၍ ကိုးလပတ်လုံး တတိယ သင်္ဂါယနာတင်တော်မူသည်။ (ကထာဝတ္ထုကျမ်း အဓိပ္ပာယ်အကျဉ်းချုပ်ကို နောက်ဆက်တွဲ၌ ရှုရန်)

## ဒုတိယစင်ပြိုင်သင်္ဂါယနာ

ဤတတိယ သင်္ဂါယနာတင်ပွဲ၌လည်း အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်သည် ကထာဝတ္ထုကျမ်းကို ဟောကြား၍ ဂိုဏ်းကွဲ, အယူဝါဒကွဲများကို စစ်ဆေး၍ ဖယ်ရှားသုတ်သင်တော်မူ၏။ တတိယသင်္ဂါယနာမှ ထုတ်ပယ်ခြင်းခံရသော သဗ္ဗတ္ထိဝါဒဂိုဏ်း စသော ဂိုဏ်းကွဲများသည် မိမိတို့သဘောတူရာ စုရုံးကြ၍ ရာဇဂြိုဟ်အနီး နာလန္ဒမြို့၌ စင်ပြိုင်သင်္ဂါယနာတင်ကြလေသည်။

ထိုအချိန်မှစ၍ ဝေသာလီ၊ ကောသမ္ဗီ၊ ရာဇဂြိုဟ်၊ နာလန္ဒ၊ သာဝတ္ထိ စသော မဇ္ဈိမဒေသတစ်ဝန်း၌ မဟာသံဃိကဂိုဏ်း, သဗ္ဗတ္ထိဝါဒဂိုဏ်း စသည်တို့သည် အရေအတွက်အားဖြင့် သာလွန်ရန် ကြိုးစားလျက်ရှိကြသည်။

## ကိုးတိုင်းကိုးဌာန သာသနာပြုစေလွှတ်ခြင်း

တတိယ သင်္ဂါယနာတင်ပြီးသောအခါ မဇ္ဈိမဒေသ၌ သာသနာရေရှည်မတည်နိုင်ဟု သိမြင်တော်မူ၍ အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ် အမှူးရှိသော ရဟန္တာကြီးများက ကိုးတိုင်းကိုးဌာနသို့ -

၁။ ကသ္မီရနှင့် ဂန္ဓာရတိုင်းသို့ မဇ္ဈန္တိကထေရ်ကိုလည်းကောင်း၊

၂။ မဟိံသကတိုင်းသို့ မဟာဒေဝထေရ်ကိုလည်းကောင်း၊

၃။ ဝနဝါသီတိုင်းသို့ ရက္ခိတထေရ်ကိုလည်းကောင်း၊

၄။ အပရန္တတိုင်းသို့ ယောနက ဓမ္မရက္ခိတထေရ်ကိုလည်းကောင်း၊

၅။ မဟာရဋ္ဌတိုင်းသို့ မဟာဓမ္မရက္ခိတထေရ်ကိုလည်းကောင်း၊

၆။ ယောနကလောကသို့ မဟာရက္ခိတထေရ်ကိုလည်းကောင်း၊

၇။ ဟိမဝန္တာဒေသသို့ မဇ္ဈိမထေရ်ကိုလည်းကောင်း၊

၈။ သုဝဏ္ဏဘူမိသို့ သောဏနှင့်ဥတ္တရထေရ်ကိုလည်းကောင်း၊

၉။ လင်္ကာဒီပကျွန်းသို့ မဟိန္ဒထေရ် အမှူးပြုသော မထေရ်ငါးပါးကိုလည်းကောင်း အသီးသီး သာသနာပြု စေလွှတ်တော်မူခဲ့၏။

အသောကမင်းကြီးသည် တတိယသင်္ဂါယနာ တင်တော်မူပြီးသည့်နောက် မဇ္ဈိမဒေသ၌ ဗုဒ္ဓသာသနာတော်ကို အန္တရာယ်ဝန်းရံလျက်ရှိသည်ကို တွေ့နေရ၏။

မဇ္ဈိမဒေသ၌ ဂျိန်းဘာသာ၊ ဗြာဟ္မဏ ဟိန္ဒူဘာသာတို့က အင်အားကောင်းလှ၏။ မိရိုးဖလာ အစဉ်အဆက်က အရိုးစွဲလာခဲ့၍ တစ်ချိန်မဟုတ် တစ်ချိန် လွှမ်းမိုးဦးမည် ဖြစ်၏။

ထို့ပြင် ကထာဝတ္ထုကျမ်းကို ဟောတော်မူပြီးနောက် အထက်တွင် ဖော်ပြခဲ့သော ဗုဒ္ဓဘာသာအမည်ခံ ဂိုဏ်းကွဲ (၃၀) တို့ကိုလည်း ထေရဝါဒ ပင်မသာသနာတော်မှ ထုတ်ပယ်ခဲ့လေသည်။ ထိုဂိုဏ်းများသည် အသောကမင်းတရားကြီး ဘုန်းတန်ခိုးတောက်ပနေစဉ်တွင် ပါဋလိပုတ်နေ ပြည်နားသို့ မကပ်နိုင်ကြသော်လည်း ဝေသာလီ၊ ရာဇဂြိုဟ်၊ သာဝတ္ထိ၊ နာလန္ဒ၊ မထုရာ စသော မြို့ကြီးများ၌ ခြေကုပ်ယူထားကြသည်။

အသောကမင်းကြီး နန်းတော်တွင်း၌ ဂျိန်းဘာသာဝင် အမတ်ကြီးများ၊ ဗြာဟ္မဏ ဟိန္ဒူဘာသာဝင် အမတ်ကြီးများ၊ စစ်သူကြီးများကလည်း နောက်တက်မည့် ဘုရင်လောင်း မင်းသားများကို မိမိတို့ အယူဝါဒဘက်ပါစေရန် စည်းရုံးသိမ်းသွင်းနေကြသည်။ "သတ္တဝါတို့ကို သတ်ဖြတ်၍ ယဇ်နတ်မပူဇော်ရ"ဟူသော အသောကမင်းကြီး၏ အမိန့်တော်သည် ဗြာဟ္မဏ ဟိန္ဒူဘာသာဝင်တို့၏ လည်ပင်းကို ညှစ်သည်နှင့် တူ၏။ ပင်မဗုဒ္ဓသာသနာတော်၏ ရန်သူတော်အပေါင်းကား အသောကမင်းကြီး နတ်ရွာစံမည့်နေ့ကိုသာ လက်ချိုးရေတွက်နေကြသည်။ ဤအခြေအနေအားလုံးကို တွေ့မြင်နေရသော အသောကမင်းကြီးသည် သာသနာတော်နောင်ရေးအတွက် စိတ်မအေးနိုင်ရှာပေ။

အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ် အမှူးပြုသော ရဟန္တာထေရ်ကြီးများကလည်း မဇ္ဈိမဒေသတွင် သာသနာ ကြာရှည် မတည်နိုင်ဟု သိမြင်တော်မူကြ၍ မဇ္ဈိမဒေသ၏ပြင်ပသို့ သာသနာဖြန့်ချိကြရန် စီစဉ်ဆောင်ရွက်တော်မူကြ၏။

၁။ ရန်သူအင်အားနည်း၍ မိမိက အင်အားကောင်းနေလျှင် မိမိ အင်အားကို တစုတရုံးတည်းစု၍ ရန်သူကို အပြုတ်ချေမှုန်း ရမည်။

၂။ မိမိက အင်အားနည်း၍ ရန်သူက အင်အားများနေလျှင် မိမိ အင်အားကို ဖြန့်ထုတ်၍ ပြောက်ကျားစနစ်သုံး၍ ခုခံရမည်-

ဟူသော နည်းဗျူဟာနှစ်မျိုးတွင် ပထမ သင်္ဂါယနာ၊ ဒုတိယ သင်္ဂါယနာ၊ တတိယ သင်္ဂါယနာများ၌ ထေရဝါဒ ပင်မ ဗုဒ္ဓသာသနာက အင်အား ကောင်းနေခဲ့သဖြင့် ရဟန်းဆိုးများကို နှိမ်နင်းရာ၌ ပထမနည်းကို သုံးခဲ့ ကြသည်။ ယခုမူ တတိယ သင်္ဂါယနာနောက်ပိုင်း၌ ရဟန်းဆိုးများသည် ဗြာဟ္မဏ ပုဏ္ဏားဘာသာ၊ ဂျိန်းဘာသာတို့နှင့် ပူးပေါင်းလိုက်ကြသဖြင့် ထေရဝါဒ ရဟန်းများမှာ အနည်းစု ဖြစ်ရပေတော့မည်။ ထို့ကြောင့် ဒုတိယ နည်းဗျူဟာကို သုံး၍ ပင်မဗုဒ္ဓသာသနာတော်ကို နယ်လေးရပ်သို့ ဖြန့်ချိခြင်းဖြစ်လေသည်။

ထိုသို့ နယ်လေးရပ်သို့ ဖြန့်ချိထားသော်လည်း မဟာသံဃိကဂိုဏ်း၊ သမ္မိတိယဂိုဏ်း၊ ဝေတုလ္လဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်းတို့သည် ထေရဝါဒ သာသနာနောက်သို့ အစဉ်တစိုက် လိုက်ကာ နှောင့်ယှက် ဖျက်ဆီးခဲ့ ကြသည်။ ထေရဝါဒသာသနာ အစစ်အမှန် ပွင့်လင်းစေရန် အသောက မင်းကြီး၏ အာဏာစက် အကူအညီဖြင့် ကိုးတိုင်းကိုးဌာန သာသနာပြု စေလွှတ်ခဲ့သော်လည်း သီဟိုဠ်ကျွန်းနှင့် သုဝဏ္ဏဘုမ္မိ သထုံပြည်မှတစ်ပါး ကျန်သာသနာပြု ဌာနအားလုံးမှာ မဟာသံဃိကဂိုဏ်းစသော ဂိုဏ်းကွဲ များ လွှမ်းမိုးဝါးမျိုခြင်းကို ခံကြရသည်။ သုဝဏ္ဏဘုမ္မိ သထုံပြည်မှာလည်း သမ္မိတိယဂိုဏ်း၊ တန္တရ-မန္တရဂိုဏ်းများ လွှမ်းမိုးမှုကြောင့် အသက်ငွေ့ငွေ့ မျှသာ ကျန်တော့သည်။

သီဟိုဠ်ကျွန်း ထေရဝါဒ သာသနာကိုလည်း ဝေတုလ္လဂိုဏ်း၊ ဝဇ္ဇီ ပုတ္တကဂိုဏ်း၊ မဟာသံဃိကဂိုဏ်းတို့က အစဉ်တစိုက် လိုက်လံနှောင့်ယှက် ကြသည်။ သို့သော် သီဟိုဠ်ရှိ ထေရဝါဒသာသနာကား ကြံ့ကြံ့ခံနိုင်ခဲ့

သည်။ ထို့ကြောင့် သီဟိုဠ်ကျွန်းကို ထေရဝါဒသာသနာတော်၏ နောက်ဆုံးခံတပ်ကြီးဟု ချီးကျူးကြရသည်။ ဤအချက်ကို ကြိုတင်သိမြင်တော်မူသောကြောင့် အရှင်မဟာမောဂ္ဂလိပုတ္တတိဿ အမှူးပြုသော ရဟန္တာမထေရ်ကြီးများက သီဟိုဠ်ကျွန်းသို့ အသောကမင်းကြီး၏ သားတော် အရှင်မဟိန္ဒနှင့် သမီးတော် သင်္ဃမိတ္တာထေရီမတို့ကို သာသနာပြုစေလွှတ်ခဲ့၏။ မူလ မဟာဗောဓိပင် အဖျက်ဆီးခံရမည်ကို မြင်တော်မူကြသဖြင့် မဟာဗောဓိပင်၏ တောင်ကိုင်းကို ဖြတ်ယူ၍ ကိုးတိုင်းကိုးဌာနရှိသည့်အနက် သီဟိုဠ်ကျွန်းမှာ စိုက်ထားစေခဲ့၏။ သာသနာပြု ကိုးတိုင်းကိုးဌာနရှိသည့်အနက် သီဟိုဠ်ကျွန်းကို ဤမျှဦးစားပေး အရေးထားပုံကို ကြည့်ပါက ထိုရဟန္တာကြီးများ၏ အနာဂတ်ကို ကြိုတင် သိမြင်ကြောင်းမှာ မငြင်းသာအောင် ထင်ရှားလှ၏။

## အသောကမင်းကြီး၏ဒါန

အသောကမင်းကြီး၏ညီတော် အိမ်ရှေ့မင်း တိဿသည် သာသနာ့ဘောင်၌ ရဟန်းပြုခဲ့လေပြီ။ သားတော်မဟိန္ဒနှင့် သမီးတော် သင်္ဃမိတ္တာတို့သည်လည်း သာသနာ့ဘောင်သို့ဝင်ကာ ရဟန်းပြုခဲ့လေပြီ။ ထို့ကြောင့် သားတော် ကုဏာလကို အိမ်ရှေ့အရာ ထားတော်မူ၏။

အနာထပိဏ်သူဌေးသည် ကုဋေတစ်ရာမျှသော ဥစ္စာတို့ကို လှူဒါန်းခဲ့၍ ဤသာသနာတွင် အများဆုံး အလှူဒါနပြုခဲ့သူဖြစ်ကြောင်းကို ရဟန်းတော်များ မိန့်ကြားချက်အရ အသောကမင်းကြီးသည်လည်း ကုဋေတစ်ရာ လှူဒါန်းပါမည်ဟု ရဟန်းတော်များအား လျှောက်ထားဖူး၏။ ထိုလျှောက်ထားချက်နှင့်အညီ အသောကမင်းတရားကြီးသည် စေတီပေါင်း၊ ကျောင်းတိုက်ပေါင်း ၈၄၀၀၀ စီ ဆောက်လုပ်လှူဒါန်း၍ ရတနာသုံးပါးအတွက် နေ့စဉ် ငါးသိန်းလှူဒါန်းကြောင်း ဖော်ပြခဲ့ပြီးဖြစ်သည်။ ထို့ပြင် လုမ္ဗိနီ၊ ဗုဒ္ဓဂယာ၊ မိဂဒါဝုန်၊ ကုသိနာရုံတို့၌ လေးသိန်း လှူဒါန်းခဲ့၏။ ဘဏ္ဍာတိုက်ကို ချန်လှပ်၍ မိမိကိုယ်ကိုလည်းကောင်း၊ သားတော်

ကုဏာလကိုလည်းကောင်း၊ နန်းတွင်းသူ နန်းတွင်းသားတို့ကိုလည်းကောင်း အရိယာ သံဃာတော်များအား လှူဒါန်း၍ အသပြာလေးသိန်းဖြင့် ပြန်လည် ရွေးနုတ်တော်မူ၏။ ဤနည်းအားဖြင့် ၉၆ ကုဋေမျှသော ဥစ္စာ တို့ကို သာသနာတော်၌ လှူဒါန်းပြီးလေပြီ၊ ဗုဒ္ဓသာသနာတော်ကို မကြည်ညိုသော အမတ်နှင့် စစ်သူကြီးများကား ၉၆ ကုဋေ လှူမှုကို မကျေနပ်သော်လည်း ဘုန်းရောင်တောက်ချိန်၌ မကန့်ကွက်ရဲကြပေ။

## အသောကမင်းကြီး နတ်ရွာစံတော်မူခန်း

အသောကမင်းကြီးကား ဇရာထောင်း၍ နာမကျန်းဖြစ်တော်မူရာ သေရာညောင်စောင်း၌ လဲလျောင်းတော်မူရလေပြီ။ ထိုအချိန်တွင် သားတော် ကုဏာလ မရှိပြီဖြစ်၍ ကုဏာလ၏သားတော် သမ္ပဒိမင်းသားကို ဘိုးတော် မင်းတရားကြီး နာမကျန်းဖြစ်ခိုက် နန်းသိမ်းပွဲခံရလေပြီ။ သမ္ပဒိမင်းသားမှာ ဂျိန်းဘာသာဝင်ဖြစ်၍ ဂျိန်းဘာသာဝင် အမတ်များနှင့် ပြာဟ္မဏဘာသာဝင် အမတ်ကြီးများက အားပေးထောက်ခံလျက်ရှိသည်။ အသောကမင်းကြီးကား နန်းတော်ထက်မှာပင် စံလျက် နန်းကျဘုရင်ဖြစ်နေရရှာလေပြီ။

အခြေအနေမှန်ကို မသိရှာသော အသောကမင်းကြီးသည် မိမိထားခဲ့သည့် ကတိအတိုင်း ကုဋေတစ်ရာပြည့်အောင် လှူဒါန်းရန် စိတ်စောလျက်ရှိ၏။ ၉၆ ကုဋေ ငွေလှူပြီးဖြစ်၍ လေးကုဋေ ထပ်လှူပါက မူလစီမံကိန်း ကုဋေတစ်ရာအလှူကြီး အထမြောက်ပေတော့မည်။ မိမိ ရောဂါမသက်သာဘဲ နတ်ရွာစံရမည်ကို သိသဖြင့် မင်းကြီးသည် အမတ်ချုပ်ကြီး ရာဓဂုတ္တကို ခေါ်တော်မူ၍ ရွှေတိုက်တော်မှ လေးကုဋေကို ကုက္ကုဋ္ဌာရုံကျောင်းတော်သို့ လှူရန် အမိန့်ချမှတ်တော်မူ၏။ ထိုအမိန့်ကို ကြားသိရသော ပုဏ္ဏား အမတ်များနှင့် ဂျိန်းဘာသာဝင် အမတ်တို့သည် သမ္ပဒိမင်းသားထံသို့ အပြေးသွား၍ ရွှေတော်တိုက်ကို အမြန်သိမ်းပိုက်ပါရန် လျှောက်ထားကြကုန်၏။ ရဟန်းတော်များအား လှူဒါန်းလိုက်ပါက တိုင်းပြည်၏ ဘဏ္ဍာငွေကို တိုင်းရေးပြည်ရေးအတွက် မသုံးရဘဲ အလဟဿ

ဖြစ်ချေတော့မည်ဟု လျှောက်ထားကြ၏။ သမ္ပဒိမင်းသားသည် ရွှေတိုက်စိုးကိုခေါ်၍ မိမိအမိန့် မရက အပ်တိုတစ်ချောင်းကိုမျှ ထုတ်မပေးရန် အမိန့်ထုတ်ပြန်လေသည်။ ထို့ကြောင့် ရွှေတိုက်တော်မှ လေးကုဋေ ထုတ်လှူရန်အရေးမှာ လေထဲတွင် ပျောက်သွား၍ အကောင်အထည် မပေါ်တော့ချေ။ ဘုရင်ထီးဘုရားကြီး၏ အမိန့်တော်သည် အိပ်ခန်းဆောင်အပြင်သို့ မထွက်နိုင်တော့ချေ။

အသောကမင်းကြီးလည်း လေးကုဋေမလှူနိုင်သော်လည်း မိမိပွဲတော်တည်သော ရွှေခွက်, ရွှေဖလား, ရွှေလင်ပန်းတို့ကို ကုက္ကုဋာရုံကျောင်းတော်သို့ ပို့လှူစေ၏။ ထိုအခါ မင်းတရားကြီးအား ငွေထည်, ငွေခွက်တို့ဖြင့် ပွဲတော်အုပ်ဆက်ကြ၏။ ထိုငွေထည်, ငွေခွက်များကိုလည်း ကျောင်းတော်သို့ ပို့လှူစေပြန်၏။ ထို့နောက် ကြေးခွက်တို့ဖြင့် ပွဲတော်ဆက်စေ၏။ ထိုကြေးခွက်များကိုလည်း ကုက္ကုဋာရုံကျောင်းတိုက်သို့ ပို့လှူစေ၏။

နောက်ဆုံး၌ မြေအိုး မြေခွက်တို့ဖြင့် ပွဲတော်ဆက်စေ၏။ ဇမ္ဗူဒိပါကျွန်းတစ်ကျွန်း (အိန္ဒိယပြည်) လုံးကို အစိုးရသော အသောကမင်းတြားကြီးသည် ရွှေနန်းတော်ထက်၌ မြေစလောင်းဖုံးဖြင့် ပွဲတော်တည်ရရှာလေသည်။ မင်းတြားကြီးအနီး၌လည်း ဆေးဆရာကြီးတစ်ဦးနှင့် တပည့်တစ်ဦး၊ လက်ပါးစေ မောင်းမငယ်တစ်ဦးမျှသာ ဦးညွတ်ခစားလျက် ရှိနေတော့၏။ မှူးတော်, မတ်တော်များနှင့် စစ်သေနာပတိကြီးများ, မိဖုရား, မောင်းမမိဿံများကား ဘုရင်သစ်ထံ သွားထက်ငါဦး မျက်နှာလို အားရခစားနေကြလေပြီ။ မင်းတြားကြီးကား သလွန်ပေါ်တွင် လဲလျောင်း မှေးနေရာမှ ဆေးဆရာကြီး ဆက်သသော သျှစ်သျှားသီး (ဆီးဖြူသီး) တစ်လုံးကို တစ်ခြမ်းကိုက်ဝါးလျက် အတွေးနက်နေ၏။ ဤအချိန်၌ "ငါပိုင်သမျှ စည်းစိမ်ဥစ္စာကား လက်ထဲ၌ ကျန်ရှိနေသေးသော ဤသျှစ်သျှားသီးတစ်ခြမ်းမျှသာ ရှိပါတော့သည်တကား"ဟု သံဝေဂယူတော်မူမိသဖြင့် ထိုသျှစ်သျှားသီးတစ်ခြမ်းကို အနီးရှိ လုလင်ငယ်ထံ ပေးအပ်၍ ကုက္ကုဋာရုံ

ကျောင်းတိုက်ရှိ သံဃာတော်များထံ သွားရောက်လှူဒါန်းရန် ယဲ့ယဲ့မျှသော လေသံဖြင့် မှာကြားလေ၏။

'အိုလုလင် . . . ငါ၏စကားဖြင့် သံဃာတော်အား ခြေတော်ဦးခိုက်၍ ဤသို့ လျှောက်ထားလော့။ ဇမ္ဗူဒီပါ တစ်ကျွန်းလုံးကို အစိုးရတော်မူခဲ့သော သာသနာ့ဒါယကာ ရေမြေ့ရှင် ဘုရင်ကြီးသည် ယခုအချိန်၌ ပိုင်ဆိုင်သမျှ စည်းစိမ်ဥစ္စာအစုစုကား ဤသျှစ်သျှားသီး တစ်ခြမ်းသာ ရှိပါတော့သည်ဘုရား။ ဤသျှစ်သျှားသီး တစ်ခြမ်းကို သံဃာတော်အား လှူဒါန်းပါ၏။ ဤကား ဒါယကာကြီး ပိုင်ဆိုင်သမျှ ရှိစုမဲ့စု ဥစ္စာစည်းစိမ်ကို နောက်ဆုံး လှူဒါန်းခြင်း ဖြစ်ပါသည်ဘုရား။"

ဤသို့ နှုတ်သံယဲ့ယဲ့ ချည့်နဲ့နဲ့လေသံဖြင့် မိန့်ကြားပြီးနောက် မကြာမီ နတ်ရွာစံ ကံတော်ကုန်လေသတည်း။ (ဒိဗျာဝဒါနကျမ်း)

## သုင်ခေတ်သာသနာ

အသောကမင်းကြီးနောက် မင်းခြောက်ဆက်မြောက်၌ 'သုင်ပုရှာမိတြ'အမည်ရှိသော ဗြာဟ္မဏပုဏ္ဏားမျိုး စစ်သူကြီးသည် ဘုရင်ကို သတ်ဖြတ်၍ နန်းရပ်ထီးဖြူ လုယူတော့၏။

ထိုသုင်မင်းကား ဗြာဟ္မဏဘာသာကို နိုင်ငံတော်ဘာသာအဖြစ် ကြေညာလေ၏။ ကြက် ဝက် ဆိတ် နွား စသည်တို့ကို သတ်ဖြတ်၍ ယဇ်နတ်ပူဇော်မှုကို အသောကမင်းတြားကြီးလက်ထက်က ပိတ်ပင်ထားခဲ့ရာ ယခုမူ သတ်ဖြတ် ယဇ်ပူဇော်မှုကို တရားဝင် အားပေးအားမြှောက်ပြုလေ၏။

သုင်ပုရှာမိတြဘုရင်သည် အဿမေဓယဇ် (မြင်းကို သတ်၍ ယဇ်ပူဇော်ပွဲ)ကို ကျင်းပ၏။ ယဇ်ပူဇော်မည့်မြင်းကို တန်ဆာဆင်၍ တိုင်းပြည်မြို့ရွာ အသီးသီးသို့ လွှတ်၏။ တိုင်းပြည်အသီးသီးက ထိုမြင်းကို ကြိုဆိုပူဇော်ကြရ၏။ ထိုသို့ ပူဇော်ခြင်းသည် ထိုယဇ်ပူဇော်သည့် ဘုရင်၏ လက်အောက်ခံဖြစ်သည့် အထိမ်းအမှတ်ကို ပြခြင်းဖြစ်၏။ ပုရှာမိတြ

ဘုရင်၏ ယဇ်ပူဇော်မည့်မြင်းကို ပန်ဂျပ်အလယ်ပိုင်းရှိ ဂရိဘုရင်များက ဖမ်းယူ သိမ်းဆည်းကြ၏။ ထိုအပြုအမူမှာ စစ်ကြေညာခြင်းပင် ဖြစ်၏။ သုင်ပုရှာမိတြဘုရင်သည် ဂရိစစ်သည်တို့ကို အောင်မြင်စွာ တိုက်ခိုက်၍ အဿမေဓယဇ်ပွဲကို ကျင်းပနိုင်ခဲ့သည်။

ထိုခေတ်၌ ဗြာဟ္မဏတို့၏ စာပေနှင့် ရာဇဝင်သမိုင်းများကို အသစ် ပြုပြင် ပြန်လည်ရေးသားစေ၏။ မဟာဘာရတ၊ ရာမာယဏနှင့် ပုရာဏ် ကျမ်းများကို ခမ်းနားအောင် ပြုပြင်ရေးသားစေ၏။

ဗြာဟ္မဏတို့၏ စာပေမှာ သက္ကတဘာသာဖြင့် ရေးသားရာ သက္ကတ ဘာသာကို စနစ်တကျဖြစ်စေရန် ပါဏိနီသဒ္ဒါကျမ်းအဖွင့် မဟာဘာသ ကို ပတဉ္စလိဆရာကြီးက ရေးခဲ့၏။ ထို့ပြင် သက္ကတသဒ္ဒါကျမ်းများလည်း အများအပြားပေါ်ထွက်ခဲ့၏။

ဤခေတ်မှာပင် 'အမရကောသ'ခေါ် သက္ကတအဘိဓာန်ကို အမရ သီဟဆရာက ရေးခဲ့၏။

ဇေမိနိ၊ ကဏာဒ၊ အက္ခပါဒဂေါတမ၊ ဗာဒရာယဏ၊ ပတဉ္စလိ ဆရာ ကြီးများသည် ဝီမံသာဒဿနကျမ်း၊ ဝိသေသိက ဒဿနကျမ်း၊ ဉာယဒဿန ကျမ်း၊ ဗြဟ္မသုတ္တကျမ်း၊ ယောဂဒဿနကျမ်းများကို ရေးခဲ့ကြ၏။

ဆေးဆရာကြီး စကရနှင့် သုဿုတတို့ကလည်း စကရသံဟိတာ၊ သုဿုတသံဟိတာ ဆေးကျမ်းများကို စီရင်ခဲ့ကြ၏။

မနုအမည်ရှိ ဥပဒေပညာရှင်ကြီးများကလည်း 'မနုဓမ္မသတ်'ခေါ် ဥပဒေကျမ်းကို ရေးခဲ့၏။

သုင်ခေတ်ကား ဗြာဟ္မဏပုဏ္ဏားတို့၏ အယူဝါဒကို ပြန်လည် အသက်သွင်း၍ ရှေ့တန်းထားကာ မြှောက်စားနေသောခေတ် ဖြစ်လေ သည်။ ထိုအချိန်မှစ၍ သိဝလိင်ကိုးကွယ်မှု၊ ကရိရှနာဘုရားကိုးကွယ်မှု၊ ဗိဿနိုးကိုးကွယ်မှုများ ကြီးကျယ်ထွန်းကားလာလေသည်။

ဗြာဟ္မဏတို့၏ ဘာသာအယူ၌ "ခတ္တိယမင်းမျိုးသည်သာ တိုင်းပြည် အုပ်ချုပ် မင်းလုပ်၍ ဗြာဟ္မဏတို့ကို ကာကွယ်စောင့်ရှောက်ရမည်၊ ပူဇော်

ချိုးမြှောက်ရမည်”ဟု သတ်မှတ်ပြဋ္ဌာန်းထား၏။ သို့ရာတွင် ဗုဒ္ဓခေတ်မှစ၍ အသောကခေတ်နောက်ပိုင်းတိုင်အောင် ခတ္တိယမျိုးဘုရင်တို့သည် ဗြာဟ္မဏပုဏ္ဏားတို့ကို ဘေးချိတ်၍ ဗုဒ္ဓဘာသာရဟန်းများနှင့် ဂျိန်းရဟန်းများကို ဦးစားပေး ချီးမြှောက်ခဲ့ကြ၏။ ကောသလမင်း၊ အဇာတသတ်မင်း၊ ကာလာသောကမင်း၊ အသောကမင်း စသော ခတ္တိယမျိုးဘုရင်တို့သည် ဗုဒ္ဓဘာသာကို အင်တိုက်အားတိုက် ထောက်ပံ့ခဲ့ကြ၏။ ကောသလမင်း၏ သားတော် စန္ဒဂုတ်မင်းကြီးနှင့် ဗိန္ဒုသာရမင်းကြီးတို့ လက်ထက်၌ကား ဂျိန်းဘာသာကို အားပေးခဲ့ကြ၏။ အသောကမင်းကြီး၏ သား မြေး မြစ်တို့၏ လက်ထက်၌လည်း ဂျိန်းဘာသာကို ဘုရင်က အားပေးခဲ့၏။ ထို့ကြောင့် သုင်္ဂခေတ်မတိုင်မီက ဗြာဟ္မဏပုဏ္ဏား ဘာသာသည် အပယ်ခံအဖြစ်ဖြင့် မျက်နှာငယ်ခဲ့ရ၏။ ထို့ပြင် ပရိဗိုဇ်ပညာရှိများ၊ ဂျိန်းရဟန်းများ၊ ဗုဒ္ဓဘာသာ ရဟန်းများကလည်း ဗြာဟ္မဏ ပုဏ္ဏားတို့၏ အယူဝါဒကို အဘက်ဘက်မှ အပြစ်ရှာ ဝေဖန်ကြကုန်၏။ အထူးသဖြင့် ဗုဒ္ဓတရား တော်၌ပါသော အနတ္တဒေသနာတော်မှာ ဗြာဟ္မဏတို့၏ အရှိုက်ကို အထိ နာစေသည်။

ဗြာဟ္မဏ ပုဏ္ဏားတို့၏ အယူဝါဒမှာ သတ္တဝါတိုင်း၌ တည်မြဲသော အတ္တရှိ၏။ ထိုအတ္တတို့ကို ပိုင်စိုးအုပ်ချုပ်စီမံနေသော ပရမအတ္တ (ဗြဟ္မာကြီး) ရှိသည်။ ထိုပရမအတ္တ (ဗြဟ္မာကြီး)၏ ပါးစပ်မှ ဗြာဟ္မဏပုဏ္ဏားမျိုးတို့ ပေါက်ပွားလာ၏။ ထို့ကြောင့် ဗြာဟ္မဏမျိုးတို့သည် အမြတ်ဆုံးဖြစ်၍ မင်း သူဌေး ကုန်သည် ဆင်းရဲသား အားလုံးက ဗြာဟ္မဏပုဏ္ဏားတို့ကို ပူဇော်ကြရမည်၊ ထောက်ပံ့လှူဒါန်းကြရမည်။ ဗြာဟ္မဏပုဏ္ဏားတို့သည် ကျွဲ နွား မြင်းတို့ကို သတ်ဖြတ် ယဇ်ပူဇော်ပေးရသည့် လုပ်ငန်းတစ်မျိုးနှင့် ဝေဒကျမ်းများကို သင်အံပို့ချပေးမှုတို့ကိုသာ ပြုလုပ်ရမည်ဟု ဆိုသည်။

### အနတ္တ = အတ္တမဟုတ် = အတ္တမရှိ။

ဤဒေသနာတော်အရ သတ္တဝါ၌ အတ္တမရှိ၊ အတ္တများကို စီမံဖန်တီးနေသော ပရမအတ္တ (ဗြဟ္မာကြီး)လည်း မရှိဟု ငြင်းပယ်လိုက်ရာ ဗြာဟ္မဏ

ပုဏ္ဏားတို့ အားကိုးစရာ ပရမအတ္တ (ဗြဟ္မာကြီး) ကား မရှိတော့ချေ။ ထိုအခါ ဗြာဟ္မဏတို့၏ အခွင့်ထူးခံဘဝသည် အလိုလို ပျက်သုဉ်းသွားလေ၏။

ထို့ပြင် အသောကမင်းကြီးလက်ထက်၌ "သတ္တဝါများကို မသတ်ရ၊ သတ်ဖြတ်၍ ယဇ်နတ်မပူဇော်ရ"ဟု ဘုရင့်အမိန့်ဖြင့် တားမြစ်ရာ ယဇ်ပူဇော်ပွဲရှိပါမှ နှုတ်ခမ်းဆီစိုရသော ဗြာဟ္မဏပုဏ္ဏားများမှာ ရေသောက်ကာ ဗိုက်မှောက်နေကြရမည့်အခြေသို့ ရောက်နေ၏။

ဗုဒ္ဓဘာသာသည် ဗြာဟ္မဏပုဏ္ဏားတို့၏ ဖောက်ပြန်မှုကို မညှာ မတာ ရက်ရက်စက်စက် ဝေဖန်ခဲ့သည်။ ဇာတ်နိပါတ်တို့၌ ကေဝဋ္ဋပုဏ္ဏား၊ ဇူဇကာပုဏ္ဏား အကြောင်းများဖြင့် ဗြာဟ္မဏပုဏ္ဏားကို အကောက်ကြံ သူ၊ နှိပ်စက်သူအခန်းမှာသာ ထားကြ၏။

## ဗြာဟ္မဏတို့ တစ်စခန်းထကြပုံ

ထို့ကြောင့် ဗြာဟ္မဏ ပုဏ္ဏားတို့သည် ကျဆင်းနေသော မိမိတို့၏ ဘာသာရေးအခြေအနေကို အားသစ်လောင်းရန်အတွက် နိုင်ငံတော် အာဏာကို အရယူလိုက်ကြတော့သည်။ ဗြာဟ္မဏတို့ အာဏာရပြီးသည် နှင့် တစ်ပြိုင်နက် နံပါတ်တစ်ရန်သူဖြစ်သော ဗုဒ္ဓဘာသာကို ဖိနှိပ်လေတော့သည်။

ဘုန်းကြီးခေါင်းတစ်လုံး ဖြတ်ယူ ဆက်သပါက ဆုတော်ငွေ တစ် သောင်းပေးမည်ဟု ကြေညာလေရာ ဗုဒ္ဓဘာသာ ရဟန်းမှန်သမျှသည် မဂဓတိုင်း၊ ကောသလတိုင်း အစရှိသော မဇ္ဈိမဒေသ၌ မနေဝံ့ကြသဖြင့် တိုင်းစွန်ပြည်ဖျားသို့ ထွက်ပြေးပုန်းရှောင်ကြရသည်။

ထေရဝါဒ သံဃာတော်များသည် ဝိဒိသာမြို့အနီးရှိ ဆံချီစေတီတော်တည်ရှိရာ စေတိယပဗ္ဗတသို့ ရွှေ့ပြောင်းခဲ့ရ၏။ သဗ္ဗတ္ထိဝါဒီတို့ကား မထုရာမြို့အနီးရှိ ဥရုမုဏ္ဍ (ဂေါဝဒ္ဓန)တောင်သို့ ရွှေ့ပြောင်းခဲ့ကြရ၏။ အခြားသော ဂိုဏ်းသံဃာများသည်လည်း အလားတူပင် သုင်မင်း၏ အာဏာစက် လွတ်ကင်းရာသို့ ပြေးခဲ့ကြရ၏။

## ပါဠိတော်ကို သက္ကတပြောင်းခြင်း

သဗ္ဗတ္ထိဝါဒနှင့် မဟာသံဃိကဂိုဏ်း စသည်တို့သည် ဗြာဟ္မဏ ပုဏ္ဏား ဘုရင်တို့ သဘောကျ ကျေနပ်မှု ရှိစေရန် ပါဠိတော်၏ အနက် အဓိပ္ပာယ်တို့ကို ပြင်ဆင်ရုံသာမက သက္ကတဘာသာဖြင့်သာ သင်ယူ, ပို့ချ, ဟောပြောကြလေတော့သည်။ ထို့ကြောင့် မြောက်ပိုင်းဗုဒ္ဓဘာသာ၏ ပါဠိတော်ကို ဗုဒ္ဓတားမြစ်ခဲ့သော သက္ကတဘာသာဖြင့် ရေးကြသည်။ တောင်ပိုင်းဗုဒ္ဓဘာသာ (ထေရဝါဒ)၏ ပါဠိတော်မှာ မူလအတိုင်း မာဂဓ ဘာသာ (ပါဠိဘာသာ) ဖြင့် ဆက်လက်တည်ရှိလေသည်။

သာသနာသက္ကရာဇ် ၁၃ ရာစု၌ ရေးခဲ့သော ဝိနိတဒေဝ၏ မှတ်တမ်း၌ သဗ္ဗတ္ထိဝါဒဂိုဏ်းသည် ပါဠိတော်ကို သက္ကတဘာသာဖြင့် ရေး၏။ မဟာသံဃိကဂိုဏ်းသည် ပြာကရစ်ဘာသာ (အဒ္ဓမာဂဓိ) ဖြင့် ရေး၏။ သမ္မိတိယဂိုဏ်းကား အပဘ္ဘံသ-ဘာသာဖြင့် ရေး၏ ဟု မှတ်တမ်းတင် ခဲ့သည်။

ဤ၌ စကားစပ်လျှင်း၍ ပါဠိဘာသာနှင့် သက္ကတဘာသာများ အကြောင်း ရှင်းပြပါဦးမည်။

ဘာသာအယူဝါဒတစ်ခု၌ ကိုယ်ပိုင်မူရင်း ဘာသာစကား သီးသန့် ရှိ၏။

## ပါဠိနှင့်သက္ကတ

ဂျူးဘာသာ၏ မူရင်း ကိုယ်ပိုင် ဘာသာစကားမှာ ဟီဘရူးဘာသာ စကား ဖြစ်၏။ ဇိုရိုအက်စတာဘာသာဝါဒမှာ ပဟလဝိဘာသာဖြင့် ရှိ၏။ ဗြာဟ္မဏတို့၏ အယူဝါဒဖြစ်သော ဗေဒကျမ်း, ဥပနိသျှဒ်ကျမ်းများမှာ သက္ကတဘာသာဖြင့် ရှိ၍ ဗြာဟ္မဏဘာသာဝါဒ၏ မူရင်း ကိုယ်ပိုင်စကား မှာ သက္ကတဘာသာစကား ဖြစ်၏။ ဂျိန်းဘာသာဝါဒ၏ မူရင်းကိုယ်ပိုင် ဘာသာစကားမှာ အဒ္ဓမာဂဓိဘာသာစကား ဖြစ်၏။ ထိုနည်းအတူ ဗုဒ္ဓ ဝါဒ၏ မူရင်းကိုယ်ပိုင်စကားမှာ ပါဠိဘာသာစကား ဖြစ်သည်။

# ပါဠိဘာသာ

ဗုဒ္ဓမြတ်စွာ သက်တော်ထင်ရှားရှိစဉ်အခါက မဂဓတိုင်း၊ ကောသလတိုင်း အစရှိသော မဇ္ဈိမဒေသ၌ ပြည်သူအများ ပြောဆိုသုံးစွဲနေခဲ့သော ဘာသာစကား တစ်ခုရှိ၏။ ထိုဘာသာစကားကို မဂဓတိုင်းသူတိုင်းသားတို့ သုံးစွဲသောကြောင့် 'မာဂဓီဘာသာ'ဟု ခေါ်၏။ မြတ်စွာဘုရားရှင်သည် ထိုမာဂဓီဘာသာဖြင့် တရားဟောတော်မူခဲ့၏။

မြတ်စွာဘုရားဟောတော်မူသော စကားစဉ်, ဒေသနာတော် အစဉ်ကို 'ပါဠိ'ဟု ခေါ်သည်။ (ပါဠိ=အစဉ်အတန်းဟု ဆိုလို၏။) မြတ်စွာဘုရား၏ စကားတော်, ဒေသနာတော်အစဉ်သည် မာဂဓီဘာသာဖြင့် တည်ရှိရကား ဘုရားဟော ဒေသနာတော်ကို 'ပါဠိ'ဟု ခေါ်ရာမှ အချိန်ကြာညောင်းသောအခါ မာဂဓီဘာသာကိုလည်း 'ပါဠိဘာသာ'ဟု ခေါ်ကြလေသည်။

ထို့ကြောင့် ဘုရားနှုတ်တော်မှ ထွက်ပေါ်လာခဲ့သော ဘာသာစကားကို 'ပါဠိဘာသာ'ဟု ခေါ်သည်။ ထိုဘုရားဟော ပါဠိဘာသာကို ထေရဝါဒဂိုဏ်းကြီးက ဤခေတ်တိုင်အောင် ဆက်လက် ထိန်းသိမ်းလာခဲ့ရာ လွန်ခဲ့သော ၂၅၀၀ က မူရင်းအတိုင်း ဆက်လက် တည်ရှိနေလေသည်။

ထိုပါဠိဘာသာသည် သဘာဝအနက်အဓိပ္ပာယ်ကို ပြနိုင်၏၊ အနက်အဓိပ္ပာယ် တိကျပြတ်သား၏၊ မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို ဖြစ်စေနိုင်၏၊ ပဋိသမ္ဘိဒါဉာဏ်၏ အထောက်အပံ့ဖြစ်၏။ ပဋိသမ္ဘိဒါဉာဏ်ရသူအား ပါဠိဘာသာဂါထာတစ်ပုဒ် ရွတ်ပြက အနက်အဓိပ္ပာယ်ကို အကျယ်တဝင့်ချက်ချင်းသိ၏။ တစ်ဆူတည်းသော ဆရာ၏လက်အောက်၌ ဝါဒတစ်ခုတည်းကိုသာ ဖော်ပြသော ဘာသာစကားဖြစ်၍ အနက်အဓိပ္ပာယ် ပုံသေကားကျ ယတိပြတ်မှတ်သား၍ ရနိုင်၏။ ဥပမာအားဖြင့် ဝေဒနာ သညာ အနိစ္စ ဒုက္ခ စသော ပါဠိပုဒ်များကို မည်သည့်ခေတ်၊ မည်သည့်ဒေသ၊ မည်သည့်လူမျိုး၊ မည်သည့် ပါဠိတော်, အဋ္ဌကထာ, ဋီကာများ၌ တွေ့ရစေ

ကာမူ အနက်အဓိပ္ပာယ် တစ်သမတ်တည်း တည်မြဲ၏၊ ပြောင်းလဲခြင်း မရှိချေ။

## သက္ကတဘာသာ

သက္ကတဘာသာမှာ ဝေဒိကသက္ကတနှင့် နဝိနသက္ကတ ဟူ၍ ခေတ်အားဖြင့် နှစ်ပိုင်းကွဲလျက် ရှိနေ၏။

ဝေဒိကသက္ကတမှာ ဝေဒကျမ်းများ၊ ဗြာဟ္မဏကျမ်းများ၊ အာရညကကျမ်းများ၊ ဥပနိသျှဒ်ကျမ်းများ၌ သုံးစွဲသော ဘာသာစကားဖြစ်၏။ အဆိုပါကျမ်းများကို ခေတ်အဆက်ဆက် ကျမ်းဆရာအမျိုးမျိုးက ရေးသားခဲ့ကြ၏။ ထို့ကြောင့် စကားတစ်လုံး၏ အဓိပ္ပာယ်သည် တစ်ကျမ်းနှင့်တစ်ကျမ်း၊ တစ်ဆရာနှင့်တစ်ဆရာ၊ တစ်ခေတ်နှင့်တစ်ခေတ် မတူနိုင်တော့ချေ၊ အမျိုးမျိုး ပြောင်းလဲနေ၏။ ထို့ပြင် ထိုဝေဒကျမ်း စသည်တို့ကို ဗြာဟ္မဏမျိုးနှင့် ခတ္တိယမျိုးတို့သာ သင်ခွင့်ရကြ၏။ ဆင်းရဲသားအောက်တန်းလွှာများမှာ ဝေဒကျမ်းများ ရွတ်ဖတ်သည်ကို အမှတ်တမဲ့ မတော်တဆ နားထောင်မိပါက နားတွင်းသို့ ချိပ်ရည်ပူ လောင်းထည့်ခံရလေသည်။ ထိုဝေဒကျမ်းစသည်တို့ကို အမျိုးမြတ်သူ ဗြာဟ္မဏအနွယ်တို့ကိုသာ တိတ်တဆိတ် လျှို့ဝှက်သင်ကြားပေးလေသည်။

ထို့ကြောင့် သုဂ်ခေတ်မတိုင်မီက သုံးစွဲသော သက္ကတဘာသာကို 'ဝေဒိကသက္ကတဘာသာ'ဟု ခေါ်လေသည်။

သုဂ်ခေတ်ရောက်သောအခါ ပတဉ္စလိသည် ပါဏိနီသက္ကတသဒ္ဒါ၏ အဖွင့် မဟာဘာသကို ရေး၍ သက္ကတဘာသာစကားကို မူကွဲများ ညှိနှိုင်း၍ ပိုလျှင် နုတ်၊ လိုလျှင် ဖြည့် နည်းဖြင့် ပြုပြင်မွမ်းမံခဲ့သည်။ ထိုသဒ္ဒါကျမ်းကို စံထား၍ တညီတညွတ်တည်း သုံးစွဲကြသဖြင့် ထိုခေတ်က သက္ကတဘာသာမှာ သဒ္ဒါစည်းကမ်းအားဖြင့် တစ်ညီတည်းဖြစ်ခဲ့လေသည်။ ထိုအချိန်မှစ၍ ဖြစ်ပေါ်လာသော သက္ကတဘာသာကို 'နဝီန (အသစ်)သက္ကတဘာသာ'ဟု ခေါ်ကြလေသည်။

## သက္ကတဘာသာကို တားမြစ်ခဲ့ခြင်း

မြတ်စွာဘုရားသခင် သက်တော်ထင်ရှားရှိနေစဉ်က '(ယမေဠုနှင့် ကေကုဋ)' မည်သော ပြာဟ္မဏနွယ်ဖွား ရဟန်းနှစ်ပါးတို့သည် မြတ်စွာ ဘုရား၏ ဒေသနာတော်များကို သက္ကတဘာသာသို့ ပြောင်းလဲထားရန် လျှောက်ထားကြကုန်၏။ ထိုအခါ မြတ်စွာဘုရားသည် "ငါဘုရား၏ ဒေသနာတော်ကို သက္ကတဘာသာသို့ ပြောင်းလဲထားသော ရဟန်းအား ဒုက္ကဋ်အာပတ်သင့်စေ"ဟု သိက္ခာပုဒ်ပညတ်ကာ တားမြစ်တော်မူခဲ့၏။

သဗ္ဗတ္ထိဝါဒဂိုဏ်း၊ မဟာသံဃိကဂိုဏ်းတို့အား ဗုဒ္ဓ၏ အမိန့်အာဏာ တော်ကို ဖီဆန်လျက် အုပ်စိုးသူတို့၏ အကြိုက်ကို လိုက်၍ ပါဠိတော်ကို သက္ကတဘာသာဖြင့် ရေးသားကြကုန်၏။

သက္ကတဘာသာသည် မြောက်ပိုင်းသာသနာကိုသာ လွှမ်းမိုးသည် မဟုတ်၊ တောင်ပိုင်းသာသနာတော်၌လည်း နောက်ပိုင်းကျသော ဋီကာများ၊ အလင်္ကာကျမ်းများ၊ ဝံသကျမ်းများ၌ သက္ကတအသုံးအနှုန်းများ ရောနှောပါဝင်လာလေသည်။

နောက်ပိုင်းတွင် ထေရဝါဒ ရဟန်းအချို့သည် သက္ကတဘာသာ တတ်ကျွမ်းခြင်းကို ဂုဏ်ထူးတစ်ခုဟု ယူဆကာ သက္ကတပုဒ်များ၊ အသုံး အနှုန်းများကို လက်စွမ်းပြ သုံးနှုန်းလာခဲ့ကြသည်။

ဝေဒခေတ်သုံး ဝေဒိကသက္ကတဘာသာကိုလည်းကောင်း၊ သုဂ်ခေတ် နောက်မှပေါ်သော နဝီနသက္ကတဘာသာကိုလည်းကောင်း အဋ္ဌကထာ ဆရာကြီး အရှင်မဟာဗုဒ္ဓဃောသ၊ အရှင်မဟာနာမ၊ ဋီကာဆရာကြီး အရှင်အာနန္ဒာ၊ အရှင်ဓမ္မပါလတို့က တားမြစ် ပယ်ချခဲ့ကြလေပြီ။

မြန်မာနိုင်ငံ ပုဂံခေတ်၌ သဒ္ဒနီတိကျမ်းပြု ဆရာကြီးကလည်း သက္ကတ သဒ္ဒါနည်းသို့ လိုက်၍ ဘုရားဟောပါဠိကို မပြင်မိကြစေရန် သတိပေး တားမြစ်ခဲ့လေပြီ။ သို့ပါလျက် သက္ကတကို မူမှန်ထား၍ ဘုရားဟော ပါဠိတော်ကို ပြင်ဆင်ရန် ကြိုးစားနေကြသော ပုဂ္ဂိုလ်များကား ဤခေတ် တိုင်အောင် ရှိနေကြဆဲပင် ဖြစ်၏။

သက္ကတဘာသာအပေါ်၌ ကမ္ဘာကျော်သာသနာပြု လယ်တီဆရာတော် ဘုရားကြီးက ဤသို့ သုံးသပ်မှတ်ချက်ချခဲ့၏ -

"သက္ကတသည် ဗြာဟ္မဏ ပုဏ္ဏားတို့၏ စာပေဖြစ်၏။ အတ္တဝါဒ၊ ထာဝရ တန်ခိုးတော်ရှင်၊ ဖန်ဆင်းရှင် ဗြဟ္မာဝါဒများကို ရေးသားထား၏။ ငါသည် ဘဝသံသရာ တစ်လျှောက်လုံး အတ္တဝါဒ၊ ထာဝရ ဗြဟ္မာဝါဒများကို သင်ယူနာကြားလျက် သံသရာ ကျင်လည်ခဲ့ရလှလေပြီ။ ယခုဘဝ ကံကောင်းထောက်မ၍ ဗုဒ္ဓသာသနာတော်နှင့် တွေ့ကြုံခိုက် အနတ္တတရားတော်ကို ကြိုးစားလေ့လာ ကျင့်ကြံအားထုတ်မှ တော်ပေမည်"ဟု ဝေဖန်သုံးသပ် ဆုံးဖြတ်၍ သက္ကတ စာပေကို လုံးဝသင်ယူခြင်း မပြုခဲ့ချေ။ (အဘိ၊ ၄၊ ၂၊ ၃၇၁။ ပဋိသံ၊ ၄၊ ၁။ ၅။ မူလဋီ၊ ၁။ ၁၉၂။ လယ်တီဂန္ထဝင်ကျော်များ)

## အရှင်နာဂသိန်နှင့်မိလိန္ဒမင်း

ဗြာဟ္မဏမျိုး သုင်္ဂမင်းများသည် အသောကမင်းကြီး၏ နိုင်ငံတော် တစ်ဝန်းလုံးကို မအုပ်စိုးနိုင်။ မဂဓတိုင်း, ကောသလတိုင်း အစရှိသော မဇ္ဈိမဒေသတစ်ဝိုက်၌သာ ဩဇာအာဏာပျံ့နှံ့၏။ အသောကနိုင်ငံတော်ကြီး၏ တောင်ဘက်နှင့် အနောက်ဘက်ရှိ တိုင်းပြည်များသည် သီးခြားခွဲထွက်ကြကုန်၏။ ကသ္မီရ ဂန္ဓာရတိုင်း, ယောနကတိုင်း (ဤခေတ်အခေါ် ကက်ရှမီးယားနှင့် အနောက်ပါကစ္စတန်၊ အာဖဂန်) များကို ဂရိနွယ်ဝင် ဘုရင်များက အုပ်စိုးလေသည်။ ထိုဂရိဘုရင်များသည် တိုင်းသူပြည်သားအများ ကိုးကွယ်သော ဗုဒ္ဓဘာသာကိုပင် လက်ခံကိုးကွယ်ကြလေသည်။ အသောကနိုင်ငံတော်ကြီး ပြိုကွဲပြီးနောက် ယောနကနှင့်ကသ္မီရကို ဆက်လက်အုပ်စိုးသော ဂရိမင်းဆက် သုံးဆယ်ခန့်မျှသာ ရှိသည်။

ထိုဂရိနွယ်ဝင် ဘုရင်များအနက် သာသနာသက္ကရာဇ် ၅၀၀ ၌ ပေါ်ထွန်းခဲ့သော မိလိန္ဒမင်းကြီးကား ပညာရှိဘုရင်တစ်ပါး ဖြစ်၏။ ထိုမင်းသည် မိမိကိုယ်တိုင် မရှင်းမလင်းသော အချက်အလက်များကို အရှင်

နာဂသေနအမည်ရှိသော ရဟန္တာမထေရ်မြတ်အား မေးမြန်းလျှောက်ထားသည်။ မထေရ်မြတ်သည် မင်းကြီး၏ သံသယများကို အချက်ကျကျ ပယ်ရှင်းလျက် မေးခွန်းတိုင်းကို တိကျပြတ်သားစွာ ဖြေဆိုတော်မူခဲ့၏။ ထိုပညာရှိ မိလိန္ဒမင်းနှင့်အရှင်နာဂသိန်တို့၏ အမေးအဖြေကို မှတ်တမ်းတင်ထားသောကျမ်းသည် "မိလိန္ဒပဉှာကျမ်း"မည်၏။

ထိုမိလိန္ဒပဉှာကျမ်းသည် ထေရဝါဒ သာသနာတော်၌ ပါဠိတော်စာရင်းဝင်ဖြစ်၍ ဘုရားဟော ပါဠိတော်ကျမ်းနှင့် တန်းတူထားကာ အဋ္ဌကထာဆရာကြီးများက လေးစားခဲ့ကြသည်။

ယောနကတိုင်း၌ မိလိန္ဒမင်းကြီးနောက် နှစ်ပေါင်း ၁၀၀ ကျော်ကြာသောအခါ သဗ္ဗတ္ထိဝါဒဂိုဏ်း, မဟာသံဃိကဂိုဏ်း စသည်တို့၏ ထွန်းကားရာဌာနအဖြစ်သို့ ပြောင်းလဲသွား၏။ ထို့ကြောင့် မိလိန္ဒပဉှာကျမ်းကိုလည်း သဗ္ဗတ္ထိဝါဒဂိုဏ်း၏ကျမ်းဟု ယူဆကာ သက္ကတဘာသာဖြင့် မူရင်းရှိရမည်ဟု နှောင်းခေတ် ပညာရှင်တို့က ခန့်မှန်းကြ၏။ အမှန်စင်စစ် မိလိန္ဒနှင့်အရှင်နာဂသိန်တို့၏ခေတ်၌ သဗ္ဗတ္ထိဝါဒသည် မြောက်ဘက်အစွန်အဖျားနှင့် တောင်ဘက်အစွန်အဖျားတို့၌ ပြောင်းရွှေ့ကာ ခြေကုပ်ယူနေကြဆဲဖြစ်၏။ အိန္ဒိယပြည်အနောက်ဖျား ယောနကတိုင်းသို့ သဗ္ဗတ္ထိဝါဒ စသည်တို့ မရောက်ကြသေးချေ။ ယောနကတိုင်း၌ ထေရဝါဒ ပင်မဗုဒ္ဓသာသနာတော် ဆက်လက် ထွန်းကားလျက်ရှိကြောင်း ပါရာဇိကဏ်အဋ္ဌကထာ၌ ပြဆိုထားလေသည်။

ထို့ပြင် မိလိန္ဒပဉှာကျမ်း၌ သဗ္ဗတ္ထိဝါဒီတို့၏ အယူအဆကို အရိပ်အယောင်မျှ မတွေ့ရချေ။ ထို့ကြောင့် မိလိန္ဒပဉှာပါဠိတော်သည် ထေရဝါဒဂိုဏ်း၏ မူရင်းကျမ်းတစ်ဆူသာဖြစ်သည်ဟု မှတ်ယူသင့်သည်။ ဤမိလိန္ဒပဉှာကျမ်းကား အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်နှင့် အသောကမင်းကြီးတို့၏ ကိုးတိုင်းကိုးဌာန သာသနာပြုလုပ်ငန်းမှ ပေါ်ထွက်လာသော အသီးအပွင့်တစ်ခု ဖြစ်လေသည်။

## ထေရဝါဒ သွားလေရာ

အသောကခေတ်နောက်ပိုင်း၌ မဂဓ, ကောသလ အစရှိသော မဇ္ဈိမ ဒေသတွင် မဟာသံဃိက, သဗ္ဗတ္ထိဝါဒ စသော ဂိုဏ်းကွဲများ အင်အား ကြီးမားစွာ လွှမ်းမိုးနေသောကြောင့် ထေရဝါဒ ပင်မ ဗုဒ္ဓသာသနာတော် သည် မဇ္ဈိမဒေသမှပြင်ပ အရပ်လေးမျက်နှာသို့ ဖြန့်ချိခဲ့ရ၏။

ထို့နောက် သုင်မင်းများ အုပ်စိုးသောအခါ ဗြာဟ္မဏ ပုဏ္ဏားဘုရင် တို့သည် ရဟန်းသံဃာ မှန်သမျှကို မဇ္ဈိမဒေသမှ မောင်းနှင်ထုတ်ခဲ့၏။ ထိုအခါ ထေရဝါဒ ပင်မဗုဒ္ဓသာသနာတော်သည် မဇ္ဈိမဒေသ၏ ပြင်ပ အရှေ့ အနောက် တောင် မြောက် အရပ်လေးမျက်နှာတို့၌ အခြေချ၍ ထွန်းကားနေလေပြီ။ မဟာသံဃိက၊ မဟိသာသက၊ စေတိယ၊ အန္ဓက၊ ပုဗ္ဗသေလိယ၊ အပရသေလိယ စသော ဂိုဏ်းများသည် ရဟန္တာမထေရ် ကြီးများ သာသနာပြုတော်မူခဲ့ကြသော မဟာရဋ္ဌတိုင်း၊ မဟိံသကတိုင်း များသို့ ပြောင်းရွှေ့လိုက်လာကြကုန်၏။ ထိုဂိုဏ်းကွဲများ ရောက်လာသော အခါ ထေရဝါဒသာသနာတော် အစစ်အမှန်သည် ထိုဒေသများမှ ပျောက် ကွယ်ရလေသည်။ ဤခေတ် ဘုံဘေမြို့အနီးရှိ ကာလေးလိုဏ်ဂူ၊ ကနေရီ ဂူနှင့် အိန္ဒိယပြည်တောင်ပိုင်း အမရဝတီနှင့် နာဂအဇ္ဇုနကုဏ္ဍ အရပ်ရှိ ကျောင်းတော်ရာများ၊ ကျောက်စာများသည် အထက်ပါဂိုဏ်းကွဲများ၏ လက်ရာ အကြွင်းအကျန်များ ဖြစ်လေသည်။

သမ္မိတိယစသော ဂိုဏ်းများသည်ကား မြန်မာ၊ ယိုးဒယား၊ အင်ဒို နီးရှား အစရှိသော အရှေ့ဘက်တစ်လွှားရှိ ထေရဝါဒ ဗုဒ္ဓဘာသာနောက် သို့ လိုက်ကာ ထေရဝါဒ သာသနာတော်ကို ညှိုးနွမ်းစေ၏။

သဗ္ဗတ္ထိဝါဒ၊ ဥတ္တရာပထကနှင့် မဟာသံဃိကဂိုဏ်းတို့သည် ကသ္မီရ ဂန္ဓာရတိုင်းနှင့်ယောနကတိုင်းရှိ ထေရဝါဒသာသနာနောက်သို့ လိုက်ကာ ပင်မဗုဒ္ဓသာသနာတော်ကို ကွယ်ပစေ၍ သဗ္ဗတ္ထိဝါဒအယူကို ထွန်းကား အောင် ဆောင်ရွက်ကြကုန်၏။

ထို့ကြောင့် သာသနာနှစ် ၆၀၀ ခန့် ရောက်သောအခါ အိန္ဒိယပြည် မြောက်ပိုင်းနှင့် အနောက်မြောက်ဒေသတို့တွင် ထေရဝါဒ ပင်မ

ဗုဒ္ဓသာသနာတော် မရှိတော့ချေ။ ဒုတိယသင်္ဂါယနာနှင့် တတိယသင်္ဂါယနာ၌ နှင်ထုတ်ခံခဲ့ရသော မဟာသံဃိကနှင့် သဗ္ဗတ္ထိဝါဒစသော ဂိုဏ်းကွဲများသာ ထွန်းကားနေကြလေပြီ။

## မြောက်ပိုင်းသာသနာ သင်္ဂါယနာ

သာသနာနှစ် (၆၀၀)ခန့်တွင် 'သက'ခေါ် တုရုရှကအနွယ်ဝင် ဘုရင်တို့သည် အာဖဂန်နစ္စတန်၊ ဗလူချီတန်၊ ဂန္ဓာရ၊ ကသ္မီရ စသော အိန္ဒိယအနောက်မြောက်ပိုင်းမှ စ၍ အိန္ဒိယအလယ်ပိုင်း မထုရာတိုင်အောင် ဝင်ရောက် လွှမ်းမိုးအုပ်စိုးကုန်ကြ၏။ ထိုမင်းဆက်ကို သကမင်းဆက်ဟူ၍လည်းကောင်း၊ ကုရှာနမင်းဆက်ဟူ၍လည်းကောင်း ခေါ်၏။ ကုရှာနမင်းဆက်တွင် သာသနာနှစ် ၆၅၀ ခန့်၌ ကနိရှကဘုရင်သည် သဗ္ဗတ္ထိဝါဒဂိုဏ်း၏ ပိဋကတ်တော်ကို သင်္ဂါယနာတင်ခဲ့၏။

သင်္ဂါယနာတင်ရခြင်း အကြောင်းမှာ ကနိရှက မင်းကြီးသည် ပိဋကစာပေကို သင်ယူရာ ဂိုဏ်းကွဲတစ်ခု၊ ဝါဒတစ်ခုစီ ကွဲပြားသေည်ကို တွေ့ရလေသည်။ ထို့ကြောင့် ထိုဂိုဏ်းကွဲ, ဝါဒကွဲများကို ညှိနှိုင်း၍ တညီတညွတ်တစ်မူတည်း ဖြစ်စေရန် ဂိုဏ်းပေါင်းစုံ သံဃာတော်များကို စည်းဝေးစေ၏။ ထိုအစည်းအဝေး၌ သဗ္ဗတ္ထိဝါဒဂိုဏ်းမှ ဝသုမိတြထေရ်ကို အကြီးအမှူးပြု၍ သင်္ဂါယနာတင်ကြကုန်၏။ ထိုသင်္ဂါယနာပွဲ၌ ပိဋကတ်စာပေပရိယတ်ကျွမ်းသော သံဃာတော်ငါးရာတို့သည် စုဝေးညှိနှိုင်း၍ သုတ်, ဝိနည်း, အဘိဓမ္မာတို့၏အဖွင့် ဝိဘာသာကျမ်းများကို ပြုကြကုန်၏။

သုတ္တန္တပိဋကအဖွင့် ဝိဘာသာကျမ်းမှာ ဂါထာတစ်သိန်း၊ ဝိနယပိဋကအဖွင့် ဝိဘာသာကျမ်းမှာ ဂါထာတစ်သိန်း ရှိသည် ဆို၏။ မဟာဝိဘာသာကျမ်းများကို ကြေးပြားပေါ်၌ ရေးသား၍ ကျောက်သေတ္တာကြီးများတွင် ထည့်ပြီး စေတီတစ်ဆူအတွင်း ဌာပနာခဲ့သည်ဟု ယွန်ချမ်၏မှတ်တမ်း၌ ဖော်ပြခဲ့၏။ ထိုဝိဘာသာကျမ်းကို တရုတ်ဘာသာ ပြန်ဆိုထားခဲ့ကြသည်။

ဤသင်္ဂါယနာကို ထေရဝါဒဂိုဏ်းက လုံးဝ အသိအမှတ်မပြုခဲ့ချေ။ အချို့သော ဆန်းကျင်ဘက်ဝါဒီတို့က ဤသင်္ဂါယနာကို 'စတုတ္ထသင်္ဂါယနာ' ဟု အမည်ပေးကြ၏။ အမှန်စင်စစ် ထေရဝါဒက ပြုလုပ်သော တတိယ သင်္ဂါယနာ၏ အဆက်ဖြစ်ပါမူ ဤသင်္ဂါယနာကို 'စတုတ္ထသင်္ဂါယနာ'ဟု ခေါ်သင့်၏။ သို့ရာတွင် သဗ္ဗတ္ထိဂိုဏ်းသားတို့ ဦးဆောင်သော သင်္ဂါယနာ သည် တတိယသင်္ဂါယနာ၏အဆက် မဟုတ်နိုင်ချေ။ ထိုသို့ တတိယ သင်္ဂါယနာနှင့် မဆက်လျှင် 'စတုတ္ထသင်္ဂါယနာ'ဟု မခေါ်သင့်တော့ချေ။

သဗ္ဗတ္ထိဝါဒဂိုဏ်းသည် တတိယသင်္ဂါယနာတွင် ပေါ်ပေါက်ခဲ့သည်။ သဗ္ဗတ္ထိဝါဒဂိုဏ်းအပါအဝင် ဂိုဏ်းကွဲများသည် နာလန္ဒမြို့၌ စင်ပြိုင် သင်္ဂါယနာတင်ခဲ့ကြသည်ဟု ဆိုသည်။ ထို့ကြောင့် ကနိရှကမင်းလက် ထက်၌ ပြုလုပ်သော သဗ္ဗတ္ထိဝါဒသင်္ဂါယနာသည် ထိုသဗ္ဗတ္ထိဝါဒဂိုဏ်း အတွက် ဒုတိယသင်္ဂါယနာသာ ဖြစ်သင့်လေသည်။

ထို့ပြင် သင်္ဂါယနာတင်ရာဌာနကို အချို့က ဂန္ဓာရတိုင်း ဇလန္ဓရမြို့၌ ပြုလုပ်သည်ဟု ဆို၍ အချို့က ကသ္မီရတိုင်း ကုဏ္ဍလဝနမြို့၌ ပြုလုပ် သည်ဟု ဆိုသည်။ နေရာအတည်တကျ မညွှန်ပြနိုင်ချေ။ ဤသင်္ဂါယနာ အကြောင်းများကို မှတ်တမ်းတင် ရေးသားထားသော တရုတ်ဘုန်းကြီး ယွန်ချွမ်သည် ကနိရှကနောက် အနှစ် ၅၀၀ ခန့်ကြာမှ အိန္ဒိယသို့ ဘုရား ဖူးရောက်ရှိ၍ မှတ်တမ်းတင်ခဲ့သည်။ တိဗက်မှတ်တမ်းမှာလည်း ထို့ထက် နောက်ကျမှ မှတ်တမ်းတင်ခဲ့ခြင်း ဖြစ်သည်။ ဤသင်္ဂါယနာ၌ သက္ကတ ဘာသာဖြင့် သင်္ဂါယနာတင်သည်ဟု အစဉ်အလာအားဖြင့် ဆိုကြသော် လည်း တရုတ်မှတ်တမ်းနှင့် တိဗက်မှတ်တမ်းတွင် မည်သည့် ဘာသာ စကားကို သုံးသည်ဟု တိတိကျကျ မဖော်ပြခဲ့ချေ။



# ဝေဘာသိကဂိုဏ်း

သဗ္ဗတ္ထိဝါဒဂိုဏ်းသည် ဂန္ဓာရဂိုဏ်းနှင့် ကသ္မီရဂိုဏ်း ဟူ၍ နှစ်ဂိုဏ်းကွဲခဲ့၏။ ကနိရှကမင်းလက်ထက်၌ ထိုဂိုဏ်းကွဲနှစ်ခု ညှိနှိုင်း၍ ဝိဘာသာခေါ်သော အဖွင့်အဋ္ဌကထာကျမ်းများကို ရေးသားခဲ့ကြောင်း ပြဆိုခဲ့ပြီ။ ထိုဝိဘာသာကျမ်းများကို ဆက်လက်ထိန်းသိမ်း သင်ကြားပို့ချခဲ့သောကြောင့် (ဝိဘာသာ + ဏ္ဏက) 'ဝေဘာသိကဂိုဏ်း'ဟု အမည်ရလေသည်။

ဝေဘာသိကခေါ် သဗ္ဗတ္ထိဝါဒဂိုဏ်း၏ အယူဝါဒမှာ အတိတ်ဖြစ်သော နာမ်ရုပ်တို့သည်လည်း ပျောက်ကွယ်ခြင်း မရှိ၊ တစ်နည်းတစ်ဖုံ ရှိနေကြသည်။ အနာဂတ် ရုပ်နာမ်တို့သည်လည်း မြင်သာအောင် ထင်ရှားသောအဆင့်သို့ မရောက်ကြသေးဘဲ မထင်မရှား အသွင်တစ်မျိုးဖြင့် တည်ရှိနေကြသည်သာ ဖြစ်၏။

ဥပမာ - ရုပ်ရှင်ပြစက်ပေါ်ရှိ ဖလင်ကားနှင့်တူ၏။ ပြစက်မှန်ဘီလူးရှေ့ရှိ ဖလင်ကွက်သည် ပစ္စုပ္ပန် ရုပ်နာမ်နှင့် ဥပမာတူ၏။ မှန်ဘီလူးရှေ့ ဖြတ်သန်းပြီးနောက် လိပ်ခွေထားသောဖလင်သည် အတိတ်ရုပ်နာမ်နှင့်တူ၏။ မှန်ဘီလူးရှေ့သို့ မရောက်မီ ရှိနှင့်သော ဖလင်လိပ်သည် အနာဂတ် ရုပ်နာမ်နှင့် ဥပမာတူ၏။

ထေရဝါဒ၌ ပိဋကသုံးပုံ, နိကာယ်ငါးရပ်ဖြင့် ခွဲခြားထားသကဲ့သို့ ဝေဘာသိကဂိုဏ်း၌ နိကာယ်အစား 'အာဂမ'ဟု သုံးစွဲ၏။ ဒီဃာဂမ၊ မဇ္ဈိမာဂမ၊ သံယုတ္တာဂမ၊ အင်္ဂုတ္တရာဂမ၊ ခုဒ္ဒကာဂမ ဟူ၍ အာဂမ ငါးရပ်ရှိ၏။

## သဗ္ဗတ္ထိဝါဒ အဘိဓမ္မာခုနစ်ကျမ်း

ဝေဘာသိကဂိုဏ်း၌ အဘိဓမ္မာ ခုနစ်ကျမ်းရှိသော်လည်း ထေရဝါဒ အဘိဓမ္မာခုနစ်ကျမ်းနှင့် လုံးဝမတူချေ။ တတိယသင်္ဂါယနာနောက်ပိုင်းတွင် ကိုယ်ပိုင် အဘိဓမ္မာကျမ်းများ တီထွင်ရေးသားခဲ့ကြသည်။ သို့ရာတွင် ထိုကျမ်းများမှာ ဗုဒ္ဓလက်ထက်တော်ကပင် တည်ရှိခဲ့သယောင် ထင်မှတ်ကြစေရန် အရှင်မဟာကစ္စည်း၊ အရှင်မဟာကောဋ္ဌိလ၊ အရှင်မောဂ္ဂလာန် စသည်တို့ကို ကျမ်းပြုပုဂ္ဂိုလ်များအဖြစ် ပြဆိုကြ၏။

ဤဂိုဏ်း၏ အဘိဓမ္မာ ခုနစ်ကျမ်းမှာ -

၁။ ဉာဏပဋ္ဌာန၊

၂။ သင်္ဂီတိပရိယာယ၊

၃။ ပကရဏပါဒ၊

၄။ ဝိညာဏကာယ၊

၅။ ဓာတုကာယ၊

၆။ ဓမ္မက္ခန္ဓာ၊

၇။ ပညတ္တိသတ္ထ -

တို့ဖြစ်ကြ၏။

**၁။ ဉာဏပဋ္ဌာနကျမ်း။** ။ဤကျမ်းကို အရှင်ကစ္စာယနီပုတြ စီရင်သည်ဟု ဆိုကြ၏။ ထေရဝါဒ ပိဋကစာရင်းတွင်မူ အရှင်မဟာကစ္စာယနထေရ်သည် နေတ္တိပါဠိတော်ကို ဟောကြားသည်ဟု ပြဆိုထား၏။ ထိုအရှင်မဟာကစ္စာယနနှင့် အရှင်ကစ္စာယနီပုတြသည် အမည်ဆင်တူသော်လည်း တခြားစီဟု မှတ်ယူသင့်သည်။ ဉာဏပဋ္ဌာနကျမ်း၌ လောကုတ္တရဓမ္မ၊ သံယောဇန၊ ဉာဏ၊ ကမ္မ၊ မဟာဘူတ၊ ဣန္ဒြိယ၊ သမာဓိ၊ မရဏာပ္ပတ္တိ ဋ္ဌာန ဟူ၍ အခန်းပေါင်း ရှစ်ခုပါဝင်၍ 'အဋ္ဌဂန္ထာ'ဟု ခေါ်သည်။ ကနိရှကမင်း၏ လက်ထက် သင်္ဂါယနာတွင် ဤကျမ်း၏ အဖွင့် ဝိဘာသာကျမ်းကို စီရင်ကြသည်။ ဤကျမ်းသည် ဝေဘာသိကဂိုဏ်းအတွက် အရေးပါသော အဘိဓမ္မာကျမ်းဖြစ်သည်။

၂။ သင်္ဂီတိပရိယာယ။ ။ဤကျမ်းကို အရှင်မဟာကောဋ္ဌိလ စီရင်သည်ဟု ဆိုကြသည်။ အချို့က အရှင်သာရိပုတ္တရာ စီရင်သည်ဟု ဆိုကြ၏။ ထေရဝါဒပိဋကတွင် အရှင်သာရိပုတ္တရာ ဟောကြားသော သင်္ဂီတိသုတ်ဟူ၍ ရှိသည်။ ထေရဝါဒ အဘိဓမ္မာခုနစ်ကျမ်းတွင် ပုဂ္ဂလပညတ်ပါဠိတော်နှင့် အနည်းငယ်တူသည်။

၃။ ပကရဏပါဒ။ ။ဤကျမ်းကို အရှင်ဝသုမိတြ စီရင်ခဲ့သည်။ ဤကျမ်းပြုသော ဝသုမိတြထေရ်သည် သဗ္ဗတ္ထိဝါဒသင်္ဂါယနာ၌ နာယကဖြစ်သော ဝသုမိတြထေရ်နှင့် တစ်ပါးစီဖြစ်၏။ ဤကျမ်းပြုပုဂ္ဂိုလ်မှာ ဒုတိယသင်္ဂါယနာခေတ်က ပေါ်ပေါက်ခဲ့သည်။

၄။ ဝိညာဏကာယ။ ။ဤကျမ်းကို အရှင်ဒေဝသမဏ စီရင်သည်။ ဤကျမ်းတွင် ပုဂ္ဂလ ဟောတု ပစ္စယ အာလမ္ဗဏနှင့် အထွေထွေ အကြောင်းအရာများကို ပြဆိုထား၏။

၅။ ဓာတုကာယ (မနောဓာတုကာယ)။ ။အရှင်ပုဏ္ဏထေရ် စီရင်သည်။ အချို့က အရှင်ဝသုမိတြ စီရင်သည်ဟု ဆိုကြ၏။ ဤကျမ်း၌ ဓမ္မအမျိုးမျိုးကို အကျယ်ဝေဖန်ပြထား၏။

၆။ ဓမ္မက္ခန္ဓ။ ။အရှင်သာရိပုတ္တရာ စီရင်သည်။ အချို့က အရှင်မဟာမောဂ္ဂလာန် စီရင်သည်ဟု ဆိုကြ၏။ ဤကျမ်းတွင် ခန္ဓာ အာယတန သစ္စာ ဣန္ဒြေ ဗောဇ္ဈင် ပဋိစ္စသမုပ္ပါဒ် အစရှိသော တရားများ အကျယ်ဝေဖန်ထား၏။ ထေရဝါဒ အဘိဓမ္မာ၌ ဓမ္မသင်္ဂဏီကျမ်းနှင့် အမည်အားဖြင့် ဆင်တူသည်။

၇။ ပညတ္တိသတ္ထ။ ။ဤကျမ်းကို အရှင်မောဂ္ဂလာန် စီရင်သည်။ မြတ်စွာဘုရားလက်ထက်က လက်ဝဲတော်ရံ အရှင်မောဂ္ဂလာန်သည် အဘိဓမ္မာတရားတော်ကို ဟောကြားလေ့ရှိသော အဘိဓမ္မာ ဓမ္မကထိက ဖြစ်သည်ဟု ထေရဝါဒပိဋက၌ ဖော်ပြထား၏။

သို့ရာတွင် ဤကျမ်းကို စီရင်သောပုဂ္ဂိုလ်မှာ ဗုဒ္ဓလက်ထက်က အရှင်မဟာမောဂ္ဂလာန် မဟုတ်။ တတိယသင်္ဂါယနာတင် နောက်မှပေါ်သောကျမ်းဖြစ်၏။ သဗ္ဗတ္ထိဝါဒဂိုဏ်း၌ ကနိရှကမင်း သင်္ဂါယနာမတင်မီက ဂန္ဓာရဂိုဏ်းနှင့်ကသ္မီရဂိုဏ်းတို့သည် အဘိဓမ္မာအယူအဆချင်း မတူညီချေ။ ထိုဂိုဏ်းနှစ်ဂိုဏ်း၏ အယူအဆကို ဤကျမ်း၌ မျှတစွာ ဝေဖန်သုံးသပ်ပြထား၏။

နံပါတ် ၂ မှ ၇ အထိ ခြောက်ကျမ်းသည် ဉာဏပဋ္ဌာနကျမ်း၏ အဖွင့် အဆွယ်အပွားများသာ ဖြစ်ကြသည်။

အဘိဓမ္မာကျမ်းများကို ဖွင့်ဆိုသော 'ဝိဘာသာ'ကျမ်းကို တရုတ်ဘာသာပြန်ဆိုထားရာ အတွဲ ၁၄ တွဲရှိ၏။

ထို့နောက် ပါသအမည်ရှိ ပုဂ္ဂိုလ်က 'မဟာဝိဘာသာ' ကျမ်းကြီးကို ပြုစုခဲ့၍ တရုတ်ဘာသာ ပြန်ဆိုထားရာ အတွဲပေါင်း နှစ်ရာရှိ၏။ ထို ၁၄ တွဲရှိ ဝိဘာသာကျမ်းနှင့် အတွဲနှစ်ရာရှိ မဟာဝိဘာသာကျမ်းကြီးကို ဂျပန်ပြည်က အမွေခံရရှိထား၏။ ဝိဘာသာကျမ်းကို ဂန္ဓာရဂိုဏ်းက ပြုစု၍ မဟာဝိဘာသာကို ကသ္မီရဂိုဏ်းက ပြုစုစီရင်ခဲ့၏။

ထိုမျှကြီးကျယ်သော အဘိဓမ္မာကျမ်းကြီးများကို အကျဉ်းချုပ်၍ ဓမ္မတ္တရထေရ်က အဘိဓမ္မာဟဒယကျမ်းကို ရေးခဲ့၏။

ဓမ္မတြာတထေရ်ကလည်း သံယုတ္တအဘိဓမ္မဟဒယကျမ်းကို စီရင်ခဲ့၏။

သာသနာသက္ကရာဇ် ၁၀၀၀ ခန့်တွင် အထက်ဖော်ပြပါ အဘိဓမ္မာကျမ်းများကို မှီး၍ ဝသုဗန္ဓုသည် 'အဘိဓမ္မကောသ' ခေါ် အဘိဓမ္မာအကျဉ်းချုပ်ကျမ်းကို ရေးသားခဲ့သည်။ ပရမတ္ထသတ္တတိကျမ်း၊ တက္ကသတ္ထကျမ်း၊ ဝါဒဝိဓိကျမ်းများကိုလည်း စီရင်ခဲ့၏။

## ဝသုဗန္ဓုနှင့် အဘိဓမ္မကောသ

မဟာပညာကျော် ဝသုဗန္ဓုသည် ဂန္ဓာရတိုင်း ပက်ရှဝါမြို့ (ပုရိသပုရ) ၌ သာသနာနှစ် ၉၆၄ တွင် ဖွား၍ ၁၀၄၄ တွင် ပျံလွန်တော်မူသည်။

ဝသုဗန္ဓုသည် သဗ္ဗတ္ထိဝါဒဂိုဏ်း၌ ရဟန်းပြုခဲ့၏။ အဘိဓမ္မာကို သင်ယူရန် ကက်ရှမီးယားနိုင်ငံသို့ မထင်မရှား သွားရောက် နေထိုင်၏။ မိမိနေရပ် ဂန္ဓာရတိုင်းသို့ ပြန်လည်ရောက်ရှိသောအခါ အဘိဓမ္မကောသ ကျမ်းကို ရေးသားပြုစု၏။ ထိုကျမ်းကို တရုတ်ဘာသာ ပြန်ဆိုထားခဲ့ရာ အခန်းကဏ္ဍပေါင်း ၆၀ ရှိ၏။ သက္ကတဘာသာဖြင့် ရေးသားထားသော မူရင်းကျမ်းစာမှာ ပျောက်ဆုံးသွားလေပြီ။ တရုတ်ဘာသာပြန်သာ ရှိတော့၏။

ထိုအဘိဓမ္မကောသ၏ အဖွင့်ဖြစ်သော အဘိဓမ္မ ကောသဗျာချာကျမ်းကို ယသောမိတြက ရေးသားစီရင်ခဲ့သည်။ ထိုအဖွင့်ကျမ်းကို မှီး၍ ကွယ်လွန်သူ ဘယ်လ်ဂျီယံအမျိုးသား ပါမောက္ခတစ်ဦးက ပျောက်ဆုံးသွားသော သက္ကတ အဘိဓမ္မကောသကျမ်းကို ပြန်လည်၍ ဖော်ထုတ်ခဲ့၏။ နောက်ဆုံးတွင် အိန္ဒိယပြည်သား ရာဟုလာသံကစ္စည်းက အပြီးသတ် အချောကိုင် သက္ကတဘာသာ ပြန်ဆိုရေးသားခဲ့၏။

လက်ရှိသက္ကတဘာသာ အဘိဓမ္မကောသကျမ်းမှာ အပိုင်း ၈ ပိုင်း ပါဝင်၍ တရုတ်ဘာသာပြန် အဘိဓမ္မကောသကျမ်းမှာမူ အပိုင်း ၉ ပိုင်းရှိ၏။ ပထမကဏ္ဍရှစ်ခုတွင် ရုပ်နာမ်နှင့်ဆိုင်သော မှတ်သားဖွယ်ရာ အဓိပ္ပာယ်များကို ဖွင့်ပြထား၏။ တရုတ်ဘာသာပြန်ကျမ်း၌သာရှိသော နဝမကဏ္ဍမှာမူ ဗုဒ္ဓဘာသာဂိုဏ်းအားလုံးက လိုက်နာကျင့်သုံးရမည့် အနတ္တသဘောတရားကို ရှင်းလင်း ဖော်ပြထား၏။ ဤနဝမကဏ္ဍမှာ ဝသုဗန္ဓု၏ ကိုယ်ပိုင်အယူအဆ ဖြစ်ပုံရ၏။ အကြောင်းယုတ္တိ ခိုင်လုံပါက ဝသုဗန္ဓုသည် မိမိဂိုဏ်း၏ အယူဝါဒကိုပင် ပယ်ဖျက်တတ်၏။ ဂန္ဓာရတိုင်း၌ ဝသုဗန္ဓု၏ အဘိဓမ္မကောသကျမ်းကို ထုတ်ဝေလိုက်သောအခါ မိမိဂိုဏ်းအတွင်းမှလည်းကောင်း၊ အခြားဂိုဏ်းများမှလည်းကောင်း ပြင်းထန်စွာ ကန့်ကွက်မှုများ တွေ့ရ၏။ ဝသုဗန္ဓုနှင့် ခေတ်ပြိုင် သံဃဘဒြ ထေရ်သည် ဉာယနုကာရကျမ်းနှင့် သမယဒီပိကာကျမ်းကို ရေး၍ ဝသုဗန္ဓုအား ကန့်ကွက်ခဲ့၏။ သို့ရာတွင် နောက်ဆုံး၌ ဝသုဗန္ဓုက အောင်ပွဲရခဲ့၏။ ထိုအချိန်မှ စ၍ အဘိဓမ္မကောသကျမ်း အိန္ဒိယတစ်ပြည်လုံး

ကျော်ကြား၍ အသုံးများခဲ့၏။ ကျယ်ပြန့်စွာ သင်ယူပို့ချကြ၏။ နာလန္ဒ၊ ဝလဘီ အစရှိကုန်သော ဗုဒ္ဓဘာသာတက္ကသိုလ် ကျောင်းတော်ကြီးများ၌ ကျောင်းသုံးပြဋ္ဌာန်းရုံမျှမက အဓိပ္ပာယ်အဖွင့်ကျမ်း များစွာလည်း ရေးခဲ့၏။

အဘိဓမ္မကောသကျမ်းကို အဖျားဆွတ်၍ ကောသကျမ်းဟု ခေါ်ကြ၏။ ထိုခေတ်က ကောသကျမ်းခေတ်စားပုံကို "ရဟန်းတော် ဒိဝါကရမိတြ ၏ သခ်မ်းကျောင်း၌ လိမ္မာသော ကျေးသားသော်လည်း ကောသကျမ်းကို သင်ကြားပေးနိုင်၏"ဟု သက္ကတစာရေးဆရာကြီး ဝါဏဘဋ္ဋက မှတ်တမ်းတင်ခဲ့၏။

အဘိဓမ္မကောသကျမ်းကို ဇိနမိတြက တိဘက်ဘာသာ ပြန်ဆို၍ ဝလဘီမှ ပရမတ္ထထေရ်က တရုတ်ဘာသာသို့ ပထမအကြိမ် ပြန်ဆို၏။ နောက်ဆုံး၌ ဟူယင်ဆင် (ရွှင်ကျန်)က ဒုတိယအကြိမ် တရုတ်ဘာသာပြန်ဆိုခဲ့၏။ ဤကျမ်းကို အစွဲပြု၍ တရုတ်ပြည်တွင် ကောသ (ကောရှ) ဂိုဏ်း သီးခြား ပေါ်ထွန်းခဲ့၏။ ဂျပန်ပြည်တွင် ကုရှဂိုဏ်း သီးခြားပေါ်ထွန်းခဲ့လေသည်။

ဤနည်းအားဖြင့် သဗ္ဗတ္ထိဝါဒဂိုဏ်းမှ ဝေဘာသိကဂိုဏ်း၊ ၎င်းမှ တရုတ်ပြည်တွင် ကောရှဂိုဏ်း၊ ဂျပန်ပြည်တွင် ကုရှဂိုဏ်းများ အဆင့်ဆင့် ပြောင်းလဲဖြစ်ပေါ်လာလေသည်။

## သဗ္ဗတ္ထိဝါဒ အဘိဓမ္မာ (ကောသအဘိဓမ္မာ)

အိန္ဒိယပြည်တွင် ရှေးအကျဆုံးအယူဝါဒတစ်ခုဖြစ်သော သဗ္ဗာဝါဒသည် နာမ်ရုပ်နှစ်ပါးကို အမြဲတည်ရှိ၏ဟု ယုံကြည်ယူဆကြ၏။ ထို့ကြောင့် ဒွယတာဝါဒ ဖြစ်၏။ ပထမမူလအကြောင်းတရားနှစ်ပါးသည် မပြောင်းလဲ မပျက်စီးဘဲ အမြဲတည်နေ၏။ အမြဲတမ်း အကြောင်းတရား ဖြစ်၏။ ထိုအကြောင်းတရားများမှ ပေါ်ထွက်လာသော အကျိုးအဆက် များသည် ကား မတည်မမြဲ ပြောင်းလဲ ဖောက်ပြန်နေ၏။ မည်သည့်အရာမျှ ပျောက်ကွယ်မသွားသကဲ့သို့ မည်သည့်အရာမျှ အသစ်ဖြစ်ပေါ်ခြင်းမရှိချေ။

ဗုဒ္ဓဝါဒ၌ အရာခပ်သိမ်းသည် ခဏတာမျှသာ တည်၏၊ ခဏချက်ချင်း ဖြစ်ပြီးနောက် ပျက်စီးသွားကြ၏၊ အခိုင်အမာ အနှစ်သာရမရှိဟု ယူဆ၏။

ဗုဒ္ဓဝါဒနှင့် သင်္ချာဝါဒတို့သည် ဥပနိသျှဒ်ကျမ်းလာ ဧကတ္တဝါဒကို ဆန့်ကျင်၏။ ဖန်ဆင်းရှင် ထာဝရဘုရားကို ငြင်းပယ်ရာ၌ တူညီကြ၏။

ကောသအဘိဓမ္မာအလိုအရ အဏုမြူသုံးမျိုးရှိ၏။

၁။ ပရမာဏုမြူ

၂။ အဏုမြူ

၃။ မြူမှုန် (ရဇ)။

ပရမာဏုမြူသည် အသေးဆုံးဖြစ်၍ ဆက်လက်ပြိုကွဲခြင်း မရှိချေ။ ခွဲစိတ်၍ မရနိုင်ချေ။ ဒိဗ္ဗစက္ခုအဘိညာဏ်ဖြင့်သာ မြင်နိုင်၏။ ပရမာဏုမြူ ခုနစ်လုံးကို ပေါင်းစပ် ပူးတွဲလိုက်သောအခါ အဏုမြူတစ်လုံး ဖြစ်လာ၏။ ထုထည်ပုံ အသွင်ဆောင်၏။ ထိုအဏုမြူခုနစ်လုံးကို ပေါင်းစပ်လိုက်သောအခါ ရဇခေါ် မြူမှုန်တစ်ခု ဖြစ်၏။ ရဇခေါ် မြူမှုန်ကို ဗောဓိသတ္တဘုရားလောင်း၏ မျက်စိဖြင့် မြင်နိုင်၏။ အတိုဆုံးအချိန်ကို ရေတွက်ရာ၌ အဏုမြူတစ်ခုမှ အခြားအဏုမြူတစ်ခုသို့ ရွေ့ပြောင်းမှုဖြင့် တိုင်းတာ ရေတွက်ရ၏။ ကာလနှင့်အာကာသ (ဒေသ)သည် အချင်းချင်း အပြန်အလှန် အမှီပြုနေ၏။

အတ္တ မရှိ ဟူသော အယူအဆသည် အနိစ္စ (မမြဲခြင်း) ဟူသော အယူအဆနှင့် တွဲစပ်နေ၏။ ဤအယူအဆအရ ပစ္စုပ္ပန်သာလျှင် ရှိ၏။ ပစ္စုပ္ပန်အခိုက်၌သာလျှင် တည်ရှိ၏။ အတိတ်ကာလသည် ကုန်လွန်သွားပြီဖြစ်၍ ယခုမရှိတော့ချေ။ အနာဂတ်သည် မရောက်လာသေး၍ တကယ်အရှိတရား မဟုတ်ချေ၊ အစစ်အမှန်မဟုတ်ဟု ဆို၏။ ဤအယူအဆကို အခြားသော ဗုဒ္ဓဘာသာ ဂိုဏ်းကွဲများဖြစ်ကြသော မဟာသံဃိကဂိုဏ်း၊ မဟိသာသကဂိုဏ်း၊ သုတ္တန္တိကဂိုဏ်းများကလည်း သစ္စာရှိစွာ ဆက်လက်စွဲကိုင်ကြသည်။

သဗ္ဗတ္ထိဝါဒဂိုဏ်းမှုကား ရှေးရိုးထေရဝါဒဂိုဏ်းမှ ပေါက်ဖွားခဲ့သော ကြောင့် အထက်ပါအဆိုများကို အပြင်းအထန် ကန့်ကွက်ကြ၏။ အတိတ်နှင့်အနာဂတ်သည်လည်း အစစ်အမှန်တရားဖြစ်၏။ အကြောင်းမူ ပစ္စုပ္ပန်သည် အတိတ်မှ ပေါက်ဖွားခဲ့ရ၏။ အနာဂတ်သည်လည်း ပစ္စုပ္ပန်၏ အကျိုးဆက်မျှသာ ဖြစ်သောကြောင့်တည်း။

ဇင်းပြင် အချိန်ကာလသုံးမျိုးသည် သီးခြားစီတည်၏ဟု ယူဆကြ၏။ အကြောင်းမူ - အတိတ်နှင့်အနာဂတ်သည် သီးသန့် ပရမတ္ထတရားများ မဟုတ်ကြပါမူ ကျွန်ုပ်တို့သန္တာန်၌ အတိတ်နှင့် အနာဂတ်ကို သိသော အသိစိတ် မဖြစ်နိုင်သောကြောင့်ဟု ဆိုကြသည်။

မဟာဝိဘာသာစာပေ၌ မှတ်တမ်းတင်ခဲ့သော ဆွေးနွေးဆုံးဖြတ်ချက်များအရပါမူ ကာလသုံးပါးကွဲပြားမှုနှင့် ထိုကာလသုံးပါးတို့၏ စစ်မှန်မှုကို လွန်စွာအလေးထားခဲ့သည်ကို တွေ့ရ၏။ သို့ရာတွင် ထိုကာလသုံးပါး၏ စစ်မှန်မှု ဆိုသည်မှာ ကာလသုံးပါးသည် အမြဲတည်သည်ဟု မဆိုလို၊ ကာလသည် မှီခိုစရာ အမာခံပစ္စည်းတစ်ခု ဖြစ်သည်ဟု မဆိုလို၊ အတိတ် အနာဂတ်၌ ရှိသော ရုပ်ဓာတ် နာမ်ဓာတ်များသည် ပစ္စုပ္ပန်အခိုက်မှာကဲ့သို့ အစစ်အမှန် တရားများ ဖြစ်ကြသည်ဟုသာ ဆိုလိုသည်။ ကာလတစ်ပါးမှ ကာလတစ်ပါးသို့ ကူးပြောင်းတည်တံ့နေသည်ဟု မဆိုလိုချေ။

ဤအကြောင်းအရာနှင့် ပတ်သက်၍ ဝသုဗန္ဓုသည် ဋီကာကျမ်းများမှ ဆွေးနွေးချက်လေးရပ်ကို ကိုးကားပြခဲ့၏။

**၁။ ဓမ္မတြာတ၏ ဆွေးနွေးချက် (မျိုးပြားသဘာဝတူ)**

အကျိုးတရား ကွဲပြားမှု, အမျိုးအစားကွဲပြားမှု ရှုထောင့်မှ ဆွေးနွေးချက်။

ဥပမာ - ရွှေစတစ်ခုကို ပစ္စည်းသုံးမျိုး ပြုလုပ်နိုင်၏။ ပုတီး, နားတောင်း, လက်ကောက်ဟု အမည်ကွဲသော်လည်း ထိုသုံးခုစလုံးသည် ရွှေ၏သဘာဝ အစစ်အမှန်ကိုမူ ဆက်လက် ထိန်းသိမ်းထား၏။

၂။ ဃောသက၏ဆွေးနွေးချက် (ဒြပ်များ သဘာဝတူ)

လက္ခဏာကွဲပြားမှု, အင်္ဂါကွဲပြားမှု ရှုထောင့်မှ ဆွေးနွေးချက်။

ဥပမာ - အလုပ်သမားသုံးဦးထံမှ တူညီသော လုပ်အား (လုပ်ဆောင်ချက်) ကို ရယူနိုင်၏။

၃။ ဝသုမိတြ၏ ဆွေးနွေးချက် (လုပ်ငန်း မတူ ဒြပ်တူ)

အနေအထား (နေရာ) မတူညီ ကွဲပြားမှုမှ ဆွေးနွေးချက်။

ဂဏန်းသင်္ချာအရာ၌ တစ်ခုတည်းသော ဂဏန်းသည် နေရာကို လိုက်၍ မတူညီသော တန်ဖိုးအမျိုးမျိုးကို ပြနိုင်၏။

ဥပမာ - တစ်ခုသင်္ချာပြသော တစ်ဂဏန်းတစ်ခုတည်းက (၁, ၁၀, ၁၀၀)ဟူသော ဂဏန်းသုံးခု၌ နေရာလိုက်၍ တန်ဖိုးချင်း မတူကြချေ။

၄။ ဗုဒ္ဓဒေဝ၏ ဆွေးနွေးချက် (ရှုထောင့်မတူ ဒြပ်တူ)

တော်စပ် ဆက်စပ်မှု, မတူညီမှုမှ ဆွေးနွေးချက်။

ဥပမာ - တစ်ဦးတည်းသော မိန်းမသည် တစ်ချိန်တည်းမှာပင် သမီး၊ ဇနီး၊ မိခင် ဖြစ်နိုင်၏။ မိခင်နှင့် ဆက်စပ်ပါက သမီးဟု ခေါ်ရ၏။ လင်နှင့် ဆက်စပ်ပါက ဇနီးဟု ခေါ်၏။ သားသမီးနှင့် ဆက်စပ်ပါက မိခင်ဟု ခေါ်သင့်၏။

ဝသုဗန္ဓုသည် နံပါတ် ၃ ဖြစ်သော ဝသုမိတြ၏ အယူအဆကို ပို၍ကြိုက်၏။ သူသည် အကြိုက်ဆုံး မဟုတ်သော်လည်း ဆွေးနွေးချက် လေးခုတွင် တတိယအချက်ကို အကောင်းဆုံးဟု ယူဆ၏။ ဤဆွေးနွေးချက်အရ ကာလသုံးပါး၏ တန်ဖိုးအသီးသီး မတူညီပုံကို အကြောင်းပြ၍ ရ၏။ အနာဂတ်ဆိုသည်မှာ လက်တွေ့အလုပ် မလုပ်သေးသော အခြေအနေတစ်ရပ် ဖြစ်၏။ ပစ္စုပ္ပန်ကာလသည် တကယ် အလုပ်လုပ်၍ လှုပ်ရှားနေသော အခြေအနေတစ်ခု ဖြစ်၏။ အတိတ်ကာလဆိုသည်မှာ လုပ်ငန်းလုပ်ဆောင်ချက်သည် အပြီးအဆုံးသို့ ရောက်သော အဆင့်

တစ်ခု ဖြစ်၏။ ကာလသုံးပါး၌ရှိသော အရာခပ်သိမ်း၊ တရားအားလုံး သည် အစစ်အမှန် ပရမတ္ထတရားများသာ ဖြစ်ကုန်၏။ ထို့ကြောင့် ပုံသေ နည်းအရ ကာလသုံးပါးသည် အစစ်အမှန်ဖြစ်၏။ ဓာတ်အားလုံး, တရား အားလုံး၏ အမာခံ အနှစ်သာရသည် မည်သည့်ခဏ၌မဆို အစစ်အမှန် တရားများသာ ဖြစ်ကြ၏။

သို့ရာတွင် ဝသုဗန္ဓုပြဆိုသော သဗ္ဗတ္ထိဝါဒဂိုဏ်း၏ အယူဝါဒကို ဗုဒ္ဓ၏ ပါဠိတော်မူရင်း၌ မတွေ့ရချေ။ ဤအချက်ကို အာဘိဓမ္မိကဂိုဏ်း၏ ဝိဘာသာကျမ်းများ၌သာ အသစ်အဆန်း ပြဆိုထားခြင်းဖြစ်၏။

အစွဲကြီးသော သဗ္ဗတ္ထိဝါဒဂိုဏ်း၏ အယူအဆသည် မူလဗုဒ္ဓဝါဒ ဖြစ်သော ခဏိကဝါဒမှ သွေဖည်ယိမ်းယိုင်သော်လည်း အစပိုင်း၌မူ အနိစ္စ ဒုက္ခ အနတ္တ လက္ခဏာရေး သုံးချက်မှ သိသာ ထင်ရှားလောက်အောင် သွေဖည်ခြင်း မရှိသေးချေ။ ထို့ကြောင့် သဗ္ဗတ္ထိဝါဒဂိုဏ်းက ယူဆသော ပရမတ်တရားသည် ခဏိကမျှသာ ဖြစ်၏။ ခဏိကတရားများ၏ အစဉ် အတန်းမျှသာဖြစ်၏။

ဗုဒ္ဓဝါဒ၌ ကြိယာ (ပြုခြင်း)သာ ရှိ၍ ကာရက (ပြုသူ) မရှိချေ။ သညာ (မှတ်ခြင်း)သာ ရှိ၍ မှတ်တတ်သူ မရှိ။ ထို့အတူ သိခြင်းသာ ရှိ၍ သိတတ်သောတရား (သိတတ်သူ) မရှိချေ။ စိတ်သည် အာရုံကို ခဏတာမျှသာ သိခြင်းဖြစ်၏။ အမြဲတည်နေသော အသိတရား (ဝိညာဏ်) မရှိချေ။ ခေတ်သစ် ရူပဗေဒပညာရပ်က ဖော်ပြသည့်အတိုင်းပင် ဗုဒ္ဓဝါဒ အရ မည်သည့်ဒြပ်ဝတ္ထု အမာခံတရားမျှ တစ်ခဏထက်ပို၍ ခဏနှစ်ခု ကြာအောင် ဆက်လက် မတည်ရှိနိုင်ချေ။ စိတ်သည် ခဏိကဖြစ်သော် လည်း အမှန်တရားဖြစ်၏။

## စကြဝဠာ၏ ဓမ္မများ (ဓမ္မ ၇၅-ပါး)

ဝသုဗန္ဓုသည် မိမိ၏ အဘိဓမ္မာကောသကျမ်း၌ စကြဝဠာ၏ အခြေ ခံဓမ္မများကို အသေးစိတ်ရှင်းပြထား၏။ သဗ္ဗတ္ထိဝါဒ ဟူသော အမည်၏

အနက်အဓိပ္ပာယ်မှာ (အားလုံးအရှိဝါဒ) အရှိတရားအားလုံးကို လက်ခံသည်ဟု ဆိုလို၏။ ရုပ်ရော, နာမ်ရော အရှိတရားဖြစ်၏။ ရုပ်မဟုတ်, နာမ်မဟုတ်သော တရားသည်လည်း အရှိတရားဖြစ်၏။ သို့ရာတွင် ဤသို့ အရှိတရားကို လက်ခံသည်ဟု ဆိုရုံမျှဖြင့် အတ္တကို လက်ခံသည်ဟု မဆိုလိုပါ။ ဇီဝကိုလည်းကောင်း၊ ဝိညာဉ်လိပ်ပြာကိုလည်းကောင်း၊ စကြဝဠာ၏ မူလပထမ အကြောင်းကိုလည်းကောင်း လက်ခံခြင်း မဟုတ်ပါ။ ဝသုဗန္ဓုသည် အတ္တ အယူဝါဒ ဝင်ရောက် စွဲကပ်လာမည်ကို စိုး၍ သူ၏ အဘိဓမ္မကောသကျမ်း နဝမပိုင်း၌ အနတ္တဝါဒ တစ်ခုတည်းကိုသာလျှင် အကျယ်တဝင့် ရေးသားခဲ့၏။

ဝသုဗန္ဓု၏ အဘိဓမ္မကောသကျမ်းက ပရမတ္ထဓမ္မ အရေအတွက်ကို အေဒီ ၈ ရာစု ရေးသော အရှင်အနုရုဒ္ဓ၏ အဘိဓမ္မတ္ထသင်္ဂဟကျမ်းလာ ပရမတ္ထဓမ္မများနှင့် နှိုင်းယှဉ်ကြည့်သင့်၏။ ဓမ္မပါလ (အေဒီ ၃၉၁) ရေးသော အဘိဓမ္မဟဒယကျမ်း၊ ဓမ္မတြာတ၏ သံယုတ္တအဘိဓမ္မဟဒယကျမ်းများနှင့်လည်း နှိုင်းယှဉ် ကြည့်သင့်၏။ ဟရိဝမ္မ ရေးသော 'သစ္စသိဒ္ဓိ' (ပြည့်စုံသော သစ္စာ) ကျမ်းနှင့်လည်း နှိုင်းယှဉ်ကြည့်သင့်၏။

သစ္စသိဒ္ဓိကျမ်းကို သုညဝါဒီနှင့် သုတ္တန္တိကဂိုဏ်းတို့က သင်ရိုးကျမ်းစာ ပြုလုပ်ထား၏။

အဘိဓမ္မကောသကျမ်း၏ အဘိဓမ္မာတရားများ အသေးစိတ်များကို နောက်ဆက်တွဲ (ခ) ၌ ရှုကြပါကုန်။



# သုတ္တန္တိကဂိုဏ်း

## (သစ္စသိဒ္ဓိဂိုဏ်း)

သာသနာတော်နှစ် (၇၉၄-၈၉၄) တွင် သုတ္တန္တိကဂိုဏ်းဝင် ဟရိဝမ္မ မည်သော ပုဂ္ဂိုလ်သည် သစ္စသိဒ္ဓိကျမ်းကို ရေးသားခဲ့၏။ ဤကျမ်းကို သုတ္တန္တိကဂိုဏ်းက သင်ရိုးကျမ်းပြုကြ၏။

သစ္စသိဒ္ဓိ = (သစ္စ + သိဒ္ဓိ)

(သိဒ္ဓိ = ပြီးပြည့်စုံသော + သစ္စ = အမှန်တရား)

ဘုရားဟောသော ပိဋကတ်တော်၏ အဓိပ္ပာယ်အမှန်ကို ရှင်းပြရန် ဤကျမ်းကို ရေးရသည်ဟု ကျမ်းဆရာက စကားပလ္လင်ခံခဲ့၏။ ဤကျမ်း ဆရာသည် ဝသုဗန္ဓုထက် နှစ်တစ်ရာခန့်စောသည်။ ဝသုဗန္ဓုသည် ကာလ ပြဿနာကို ဆွေးနွေးဖြေရှင်းရာ၌ သစ္စသိဒ္ဓိကျမ်း၏ အဆိုအမိန့်များကို ယူငင်သုံးစွဲထား၏။

သုတ္တန္တိကဂိုဏ်းသည် အဘိဓမ္မာကို လက်မခံချေ။ ထို့ကြောင့် ဟရိဝမ္မသည် သစ္စသိဒ္ဓိကျမ်း၌ အဘိဓမ္မကို ခုနစ်ကြိမ် ပယ်ချထားသည်ကို တွေ့ရ၏။

သာသနာနှစ် ၉၅၆ သို့ ရောက်သောအခါ ကုမာရဇီဝသည် သစ္စ သိဒ္ဓိကျမ်းကို တရုတ်ဘာသာ ပြန်ဆိုခဲ့၏။ တရုတ်ဘာသာဖြင့် ဤကျမ်းကို ဖွင့်ဆိုရေးသားကြရာ ၁၂ ကျမ်းခန့် ရှိ၏။ ဤသုတ္တန္တိက (သစ္စသိဒ္ဓိ)ဂိုဏ်း သည် ဂျပန်နိုင်ငံတွင် 'ဂျိုဂျစ်ဆုဂိုဏ်း'ဟု အမည်တွင်၏။

သဗ္ဗတ္ထိဝါဒဂိုဏ်းသည် ပုဂ္ဂလသုညတာ တစ်ခုကိုသာ လက်ခံ၏။ သုတ္တန္တိကဂိုဏ်းကမူ ပုဂ္ဂလသုညတာကိုသာမက ဓမ္မသုညတာကိုပါ ထည့် သွင်းဟောကြား၏။ ဗလာအိုးတစ်ခုအတွင်း၌ တစ်စုံတစ်ရာ ဘာမျှမရှိ၊ ဟာလာဟင်းလင်း အခေါင်းမျှသာ ဖြစ်နေခြင်းသည် ပုဂ္ဂလသုညတာနှင့်

တူ၏။ ခန္ဓာငါးပါးဖြင့် ဖွဲ့စည်းထားသော ဤခန္ဓာကိုယ်အတွင်း၌ ခိုင်မာသော အနှစ်သာရ (အတ္တ ဇီဝ) မရှိခြင်းသဘောကို ပုဂ္ဂလသုညတာဟု ဆိုလိုသည်။

တစ်ဖန် အိုးပုံသဏ္ဌာန်ဖွဲ့စည်းထားသော မဟာဘုတ် ရုပ်တရားများသည် အမြဲမတည် ပျက်စီးပြောင်းလဲနေသကဲ့သို့ သတ္တဝါနှင့် ဤစကြဝဠာကြီးကို ဖွဲ့စည်းထားသော ရုပ်တရား, နာမ်တရားများသည် မတည်မမြဲ ခဏတိုင်း ဖောက်ပြန်ပျက်စီးနေသောကြောင့် ဓမ္မသုညတာ (ခိုင်မာသောဓမ္မ မရှိခြင်း) မည်၏။

**သဗ္ဗသုညတာ။** ။အဆင်း, အသံ, အနံ့, အရသာ, အတွေ့အထိ ဟူသော အာရုံငါးပါး ရုပ်ဝတ္ထုများကို မြူမှုန်ငယ်များဖြစ်အောင် ခွဲစိတ်ရမည်။ ထို့နောက် ပို၍သိမ်မွေ့သော ပရမာဏုမြူဖြစ်အောင် ခွဲစိတ်ရမည်။ ထိုသို့ အဆင့်ဆင့် ထပ်မံ ခွဲစိတ် ကြိတ်ခြေရာ နောက်ဆုံး၌ ဘာမျှမရှိခြင်း သုညသဘောကို ရ၏။ ရုပ်တရား, နာမ် တရား အားလုံးသည် ကုန်ခန်း ပျက်စီးတတ်သော သဘောကြောင့် သုည သာဖြစ်၏။ အသင်္ခတတရားများသည်လည်း အစစ်အမှန်ရှိသော တရား များ မဟုတ်ကြချေ၊ သုညမျှသာ ဖြစ်၏။ ထိုသို့ ရုပ်နာမ်ဓမ္မ အားလုံး၏ ရှိခြင်းကို ငြင်းပယ်ထားသောကြောင့် ဤဝါဒကို 'နတ္ထိကဝါဒ'ဟု ဆို ကြ၏။ ကြွင်းမဲ့ဥဿုံ အလုံးစုံ ဘာမျှမရှိ၊ ဆိတ်သုဉ်းသောကြောင့် 'သဗ္ဗသုညတာဝါဒ'ဟု ခေါ်၏။

(သဗ္ဗ = အလုံးစုံ + သုညတာ = ဆိတ်သုဉ်းမှု = မရှိခြင်း)

သဗ္ဗသုညတာဝါဒသည် အရှိတရားအားလုံးကို ငြင်းပယ်လိုက်၏။ ထုတ်ပယ်လိုက်၏။ ထိုအခါ ဘာမျှမရှိခြင်းသဘောကို ရ၏။ သဗ္ဗသုညတာ-ကို ထိုးထွင်းသိရန်အတွက် တဏှာသုံးမျိုးကို ပယ်ခွာရမည်။

၁။ အမည်အပေါ်၌ တွယ်တာမှု တဏှာကို ပယ်ခွာရမည်။

၂။ တရားအားလုံး (သဗ္ဗဓမ္မ) အပေါ်၌ တွယ်တာမှု တဏှာကို ပယ်ခွာရမည်။

၃။ သုညတာတရားအပေါ်၌ တွယ်တာမှု တဏှာကို ပယ်ခွာရမည်။

အကြောင်းတရားများ ပေါင်းဆုံမိ၍ ဖြစ်ပေါ်နေသော သတ္တဝါသခ်ီရ အားလုံးကို ခေတ္တခဏ ယာယီအမည်ပေးထား၏၊ အစဉ်အမြဲ ပြောင်းလဲ ပျက်စီးနေသော တရားများကို နာမည်ဖြင့် သတ်မှတ်ခေါ်ဝေါ်ကြရ၏၊ နာမည်မျှသာဖြစ်သော ပုဂ္ဂိုလ် သတ္တဝါကို တွယ်တာခြင်းဖြင့် အကျိုးမရှိဟု သိရမည်၊ အမည်ပေါ်၌ တွယ်တာမှုကို ပယ်ခွာရမည်။

တစ်ဖန် ထိုနာမည်တည်ရာ သင်္ခတဓမ္မနှင့် အသင်္ခတဓမ္မတို့သည်လည်း သုညမျှသာဖြစ်သည်။ (သဗ္ဗဓမ္မသုညတာ) ထို့နောက် သုညသဘောကို သိသော စိတ်ဝိညာဏ်ကိုပါ ပယ်ရှားနိုင်ပါမှ သဗ္ဗဓမ္မသုညတာကို ရ၏။ ထိုစိတ်ဝိညာဏ်ကို နိရောဓသမာပတ်ဝင်စားခြင်းဖြင့် ချုပ်ငြိမ်းအောင် ပြုနိုင်၏။ ထိုအခါ သဗ္ဗဓမ္မသုညတာကို ရပြီဟု ဆိုအပ်၏။

ဓမ္မအားလုံးအပေါ်၌ တွယ်တာမှုတဏှာကို ပယ်ခွာနိုင်လျှင် ကိလေသာကုန်ခန်းခြင်းဖြစ်၍ ရဟန္တာအဖြစ်သို့ ရောက်၏။ ရဟန္တာသည် ပရိနိဗ္ဗာန်စံဝင်သောအခါ ဗုဒ္ဓအဖြစ်သို့ ရောက်သည်ဟု ယူဆကြသည်။ ဤသို့ ပရိနိဗ္ဗာန်စံဝင်သော ဗုဒ္ဓကို 'ဓမ္မကာယ'ဟု ခေါ်၏။ ဗုဒ္ဓ၏ အစစ်အမှန်ဆုံးသောကာယဟု ဆိုလို၏။

ဤသုတ္တန္တိကဂိုဏ်းသည် ပရမတ္ထတရားများကို ရေတွက်ပြရာ၌ သဗ္ဗတ္ထိဝါဒဂိုဏ်း၏ နောက်လိုက်ဖြစ်၏။ သဗ္ဗတ္ထိဝါဒ အဘိဓမ္မာနှင့် တူသည်က များ၏။ သုတ္တန္တိကဂိုဏ်းသည် အဘိဓမ္မာကို ငြင်းပယ်သည်ဆိုသော်လည်း အဘိဓမ္မာဂိုဏ်း၏ အရှိန်အဝါဩဇာကို မလွန်ဆန်နိုင်သဖြင့် နောက်ပိုင်းတွင် သဗ္ဗတ္ထိဝါဒ အဘိဓမ္မာကို အတုယူကာ ပရမတ္ထတရား ၈၄ ပါးကို ရေတွက်ပြရ၏။

ဤဂိုဏ်း၏ ပရမတ္ထဓမ္မ ၈၄ ပါးကို နောက်ဆက်တွဲ ဂ တွင် ရှုကြပါကုန်။

# ယောဂါစာရဂိုဏ်း

## (ဝိညာဏဝါဒ)

ဤဂိုဏ်းကို အကျင့်လမ်းစဉ်အရ 'ယောဂါစာရဂိုဏ်း'ဟု ခေါ်၍ အယူဝါဒရေးရာ 'ဝိညာဏဝါဒ'ဟု ခေါ်သည်။

ယောဂါစာရ = ယောဂ + အာစာရ၊

ယောဂ = စျာန်သမာဓိလုပ်ငန်း, သမထလုပ်ငန်း၊

အာစာရ = ကျင့်ကြံအားထုတ်မှု၊

စျာန်သမာဓိရရှိရေးကို အဓိကထား၍ ကျင့်သောဂိုဏ်းကို 'ယောဂါစာရဂိုဏ်း'ဟု ခေါ်သည်။

ဝိညာဏ်သာလျှင် အရှိတရားဖြစ်၍ ပြင်ပ ရုပ်ဝတ္ထုများသည် အမှန်တကယ်ရှိသော တရားများမဟုတ်ဟု ယူဆသောဝါဒကို 'ဝိညာဏဝါဒ'ဟု ခေါ်သည်။

ဤဂိုဏ်းကို စတင်တည်ထောင်သူ အသင်္ဂသည် မဟာယာနသမ္ပရိဂ္ဂဟကျမ်းနှင့် ယောဂါစာရဘူမိကျမ်းကို ရေးခဲ့၏။ ထိုကျမ်းအမည်ကို အစွဲပြု၍ 'ယောဂါစာရဂိုဏ်း'ဟု အမည်ရလေသည်။

အသင်္ဂ၏ညီတော် ဝသုဗန္ဓုသည် ဝိညတ္တိမတြတာသိဒ္ဓိကျမ်းကို ရေးခဲ့ရာ ထိုကျမ်းအမည်ကို အစွဲပြု၍ 'ဝိညတ္တိမတြတာဂိုဏ်း'ဟုလည်း ခေါ်ကြသည်။ ယင်းကျမ်းကို ဝေဒန္တကျမ်းများ၌ 'ဝိညာဏအတ္ထိတာမတြဝါဒ'ဟု ဖော်ပြကြသည်။

### ယောဂါစာရခေါင်းဆောင်များ

| | | |
|---|---|---|
| ၁။ မေတ္တေယျနာထ | သာသနာနှစ် | ၉၀၀ -ခန့်၊ |
| ၂။ အသင်္ဂ | ။ | ၁၀၀၀ -ခန့်၊ |
| ၃။ ဝသုဗန္ဓု | ။ | ၁၀၀၀ -ခန့်၊ |

| | | |
|---|---|---|
| ၄။ ထိရမတိ | ။ | ၁၁၀၀ -ခန့်၊ |
| ၅။ ဒိန္နာဂ | ။ | ၁၁၀၀ -ခန့်၊ |
| ၆။ ဓမ္မပါလ | ။ | ၁၂၀၀ -ခန့်၊ |
| ၇။ ဓမ္မကိတ္တိ | ။ | ၁၂၀၀ -ခန့်၊ |
| ၈။ သန္တရက္ခိတ | ။ | ၁၃၀၀ -ခန့်၊ |
| ၉။ ကမလသီလ | ။ | ၁၃၀၀ -ခန့်။ |

ယောဂါစာရဂိုဏ်းမှာ အသင်္ဂထေရ်၏ လက်ထက်၌ ဂိုဏ်းသီးခြား အဖြစ် ပေါ်ပေါက်ခဲ့ခြင်းဖြစ်၏။ အသင်္ဂထေရ်ကို တုသိတာနတ်ပြည်၌ စံနေတော်မူသော မေတ္တေယျဘုရားအလောင်းတော်က ဟောကြားသော တရားများကို အသင်္ဂက တစ်ဆင့် ပြန်လည်ဟောပြောပြသည်ဟု စကား စဉ် ပြောရိုးရှိ၏။ အမှန်စင်စစ် အသင်္ဂ၏ဆရာ မေတ္တေယျနာထကိုပင် ဘုရားလောင်းအဖြစ် တင်စားမြှောက်ပင့် ပြောဆိုကြခြင်း ဖြစ်ပေမည်။

အသင်္ဂနှင့် ညီတော် ဝသုဗန္ဓုတို့၏ လက်ထက်၌ ဂုတ္တမင်းက ဗုဒ္ဓ ဘာသာကို ချီးမြှင့်ထောက်ပံ့ခဲ့ကြသဖြင့် ဝိညာဏဝါဒသည် ထိပ်တန်း ရောက်အောင် ကြီးပွားခဲ့၍ သြဇာအာဏာအရှိဆုံးဖြစ်ခဲ့၏။ အကြောင်း မူ - ဂုတ္တမင်းများသည် ဗြာဟ္မဏဘာသာဝင်များဖြစ်ကြ၍ ဝိညာဏဝါဒ သည် ဗုဒ္ဓ၏ အနတ္တဒေသနာတော်ကို အတ္တဝါဒဖြစ်အောင် ပြောင်းလဲ ပြင်ဆင်ခဲ့ခြင်းကြောင့် ဖြစ်၏။ ဗုဒ္ဓကို မဟာဗြဟ္မာကြီးနှင့် တူညီအောင် ပြောင်းလဲ ပြင်ဆင်ရေးသား၍ ဗုဒ္ဓဝါဒနှင့် ဗြာဟ္မဏဝါဒကို ပူးပေါင်းရန် ကြိုးပမ်းသောကြောင့် ဗြာဟ္မဏဘာသာဝင် ဘုရင်များ၏ အားပေး ချီး မြှင့်မှု ခံရခြင်းဖြစ်ပေသည်။ ထို့ကြောင့် သာသနာ ၁၀၀၀ က ကုမာရ ဂုတ္တမင်းတည်ထောင်ခဲ့သော နာလန္ဒတက္ကသိုလ်ကြီးအား ဗုဒ္ဓသာသနာ တော်အလံ လွှင့်ထူထားသော်လည်း ဗြာဟ္မဏဝါဒ ဖြန့်ချိရာဌာနကြီး တစ်ခုသာ ဖြစ်ပေသည်။

ဝသုဗန္ဓု ကွယ်လွန်ပြီးနောက်ပိုင်း၌ ယောဂါစာရဂိုဏ်းသည် သုံး ဂိုဏ်းကွဲ၏။

၁။ ပထမဂိုဏ်းမှာ ဒိန္နာဂ၊ အဂေါတြ၊ ဓမ္မပါလတို့၏ ဂိုဏ်းဖြစ်၏။ တရုတ်ရဟန်းတော် ဟူယင်ဆန်၏ ဆရာဖြစ်သော နာလန္ဒတက္ကသိုလ် ကျောင်းအုပ်ကြီး သီလဘဒြသည် ဒိန္နာဂတို့၏ အဆက်အနွယ်ဖြစ်၏။ ဗုဒ္ဓနှာယခေါ် ဗုဒ္ဓလောဂျစ်ကို အထူး အလေးပေးကြ၏။

၂။ ဒုတိယဂိုဏ်းမှာ ဂုဏမတိနှင့် ထိရမတိတို့သည် ဝလဘိ တက္ကသိုလ်ကို ဗဟိုပြု၍ သာသနာပြုကြ၏။ တရုတ်ပြည်တွင် ရှေလွန် ဂိုဏ်းကို တည်ထောင်ထားသော ပရမတ္ထထေရ်သည် ဤဂိုဏ်းဝင်ဖြစ်၏။

၃။ တတိယဂိုဏ်းမှာ နန္ဒထေရ် ဖြစ်၏။ သူ၏ တပည့်အဆက် အနွယ်တို့မှာ ပရမတ္ထနှင့် ဇယသေနတို့ ဖြစ်၏။ ဇယသေနကား တရုတ် ရဟန်းတော် ဟူယင်ဆန်ကို ပြဿနာအချို့ ဖြေရှင်း ဟောကြားခဲ့သည်။ ဤဂိုဏ်းမှာ များစွာမထွန်းကားဘဲ မကြာမီ ကွယ်ပျောက်လေသည်။

## ယောဂါစာရ (ဝိညာဏဝါဒ) အဘိဓမ္မာ

၁။ တထတာ = နိဗ္ဗာန်။

(တထာ+တာ) တထာ=ထိုအတိုင်း ဒီအတိုင်း + တာ = သဘော။

တထတာ = ထိုအတိုင်းရှိသောသဘော၊ တစ်စုံတစ်ရာ ပြောင်းလဲ ခြင်းမရှိ၊ ထိုအတိုင်း တည်မြဲနေသောသဘောဟု ဆိုလိုသည်။ ကျွန်ုပ်တို့ နားလည်လွယ်အောင်ဆိုပါက တထတာသည် နိဗ္ဗာန်ဖြစ်သည်။ သို့ရာ တွင် ထိုနိဗ္ဗာန်သည် နာမ်တရားဖြစ်၏။ မဟာဝိညာဏ်ကြီးဖြစ်၏။ စကြ ဝဠာ အနန္တကောင်းကင်နှင့်အမျှ နာမ်ဝိညာဏ်ကြီးသည် အပြည့်တည်ရှိ နေ၏။ ထိုဝိညာဏ်သည် မိမိပင်ကိုသဘာဝအတိုင်း တည်ငြိမ်စွာ ရှိနေ ပါက 'တထတာ' ဟု ခေါ်ရ၏။ ထိုမဟာဝိညာဏ်ကြီးသည် မတည်မငြိမ် လှုပ်လှုပ်ရှားရှား ဖြစ်လာပါက 'စကြဝဠာလောကဓာတ်'ဟု ခေါ်ရ၏။ ထိုသို့ ဝိညာဏဓာတ်ကြီး လှုပ်ရှားလာသောအခါ သတ္တလောကနှင့် ဩကာသလောက ပေါ်ပေါက်လာ၏။ ထိုလောကဓာတ် စကြဝဠာကို 'ဓမ္မဓာတု'ဟု ခေါ်ကြ၏။

ယောဂါစာရ အဘိဓမ္မာအရ လောကနှင့် တထတာ (နိဗ္ဗာန်) သည် အခြေအနေ အခိုက်အတန့်မျှသာ ထူးခြားကွဲပြားနေ၏။ တစ်ခုတည်းသော မဟာဝိညာဏ်ကြီးသာလျှင် ဖြစ်၏။ လှုပ်ရှားနေသော မဟာဝိညာဏ်ကြီးသည် လောကဖြစ်၏။ လှုပ်ရှားချောက်ချားမှုမရှိဘဲ ပကတိတည်ငြိမ်နေသော မဟာဝိညာဏ်ကြီးသည် တထတာ (နိဗ္ဗာန်) ဖြစ်သည်ဟု ဆို၏။

၂။ တထာဂဘ = သတ္တဝါ။ ။တထတာတ်ကြီးမှ ပေါ်ထွက်လာသောကြောင့် သတ္တဝါကို တထာဂတဟု ခေါ်၏။

(တထာ = တထတာတ်မှ = အာဂတ = လာသူ)

တထတာသည် တထာဂတခေါ် သတ္တဝါ၏ ပဋိသန္ဓေတည်နေ ကိန်းဝပ်ရာ ဝမ်းကြာတိုက်နှင့်တူသောကြောင့် တထတာကို 'တထာဂတဂဗ္ဘ' ဟု ခေါ်ကြ၏။ (ဂဗ္ဘ = တိုက်ခန်း)

တစ်ဖန် သတ္တဝါသည် သံသရာ၌ ကျင်လည်ပြီးနောက် စင်ကြယ်သော ဝိညာဏ်အဆင့်သို့ ပြန်လည်ရောက်ရှိသောအခါ တထတာတ်အတွင်းသို့ ပြန်လည်ဝင်ရောက် ပေါင်းစပ် ရောနှောသွား၏။ (တထ = တထတာတ်သို့ + အာဂတ = လာသူ)

၃။ အာလယဝိညာဏ်။ ။တထတာဟု ခေါ်သော စင်ကြယ်သော မူလ ဝိညာဏ်သည် သတ္တဝါတစ်ဦးစီ၏ အတွင်း၌ ဝင်ရောက် တည်နေသောအခါ အာလယဝိညာဏ်ဟု ခေါ်၏။ အာလယဆိုသည်မှာ တည်ရာဌာန, သိုမှီးသိမ်းဆည်းရာ ဌာနဟု ဆိုလို၏။

အတိတ်ကပြုခဲ့ဖူးသော ကုသိုလ်ကံ, အကုသိုလ်ကံ စွမ်းအားများသည် ဗီဇအဖြစ်ဖြင့် အာလယဝိညာဏ်အတွင်း၌ တည်နေ၏။ ထိုဗီဇစွမ်းအားများသည် ပစ္စုပ္ပန်အခိုက်၌ အကျိုးတရားအဖြစ် ပေါ်ထွက်လာကုန်၏၊ ဖြစ်ပေါ်လာကုန်၏၊ ပစ္စုပ္ပန် ရုပ်နာမ်အဖြစ်ဖြင့် ဖြစ်ပေါ်ကြ

ကုန်၏။ ထိုသို့ ဖြစ်ပေါ်လာပြီးနောက် အနာဂတ်အတွက် စွမ်းအားဗီဇ ဓာတ်များကို အာလယဝိညာဏ်အတွင်း၌ သိုမှီး မြှုပ်နှံပေးအပ်၍ ထိုပစ္စုပ္ပန်တရားတို့သည် ချုပ်ငြိမ်းကုန်၏။

၄။ ဝိညာဏ်နှင့်အာရုံ။ ။အာလယဝိညာဏ်မှ ဝိညာဏ် ခုနစ်မျိုးနှင့် အာရုံခြောက်ပါးတို့ ပေါ်ထွက်လာကုန်၏။ ထိုအခါ အာလယဝိညာဏ်သည် တစ်ခုတည်းမှ နှစ်ခုအသွင်ကို ဆောင်လာ၏။ တစ်ပိုင်းမှာ အသိခံအာရုံ (= သိစရာ အာရုံ) ဖြစ်၏။ အခြားတစ်ပိုင်းမှာ ထိုအာရုံကို သိတတ်သော ဝိညာဏ်ဖြစ်၏။

ဝိညာဏ်သည် အာရုံကို ယူတတ်သောကြောင့် ဂါဟက မည်၏။ အာရုံသည် အယူခံရသောကြောင့် ဂါဟယမည်၏။

အာရုံသည် ဝိညာဏ်၏ မှီတည်ရာဖြစ်သောကြောင့် ဝိသယမည်၏။ ဝိညာဏ်သည် ထိုအာရုံ (ဝိသယ) အပေါ်၌ တည်တတ်သောကြောင့် ဝိသယီ မည်၏။

သိတတ်သော ဝိညာဏ်ကို ကတ္တား (ပြုလုပ်သူ) ဟု ခေါ်၍ အသိခံအာရုံကိုမူ ကံ (ခံရသူ) ဟု ခေါ်၏။

ထို့ကြောင့် ကတ္တားနှင့်ကံ၊ ဝိသယီနှင့်ဝိသယ၊ ဂါဟကနှင့်ဂါဟယ၊ ဝိညာဏ်နှင့်အာရုံ အစုံလိုက် အစဉ်အတိုင်းတပ်၍ ခေါ်ဝေါ်သုံးစွဲပုံကို နားလည်လောက်ပေပြီ။

၅။ ပဝတ္တိဝိညာဏ် ခုနစ်ပါး -

၁။ စက္ခုဝိညာဏ် = မြင်သိစိတ်၊
၂။ သောတဝိညာဏ် = ကြားသိစိတ်၊
၃။ ဃာနဝိညာဏ် = နံသိစိတ်၊
၄။ ဇိဝှါဝိညာဏ် = အရသာသိစိတ်၊
၅။ ကာယဝိညာဏ် = ထိသိစိတ်၊

ဤ ဝိညာဏ်ငါးပါးတို့သည် ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ ဟူသော (အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့အထိ) အာရုံငါးပါးကို အစဉ်အတိုင်း သိကြ၏။

၆။ ဆဋ္ဌဖြစ်သော မနောဝိညာဏ်သည်ကား ထိုဝိညာဏ်ငါးပါး၏ ဗဟိုချက်ဖြစ်၍ အထက်ပါ အာရုံငါးပါးစလုံးကို သိနိုင်၏။

၇။ သတ္တမဝိညာဏ်ကို ကိလိဋ္ဌ မနောဝိညာဏ်ဟု ခေါ်၏။ အကြောင်းမူ ဤဝိညာဏ်မှာ ကိလေသာတရားများနှင့် ယှဉ်တွဲနေသဖြင့် ညစ်နွမ်းနေ၏။ (ကိလိဋ္ဌ = ညစ်နွမ်းသော)။ ထို့ပြင် ဤသတ္တမဝိညာဉ်သည် အထက်ပါ အာရုံငါးပါးနှင့် ပတ်သက်ခြင်းမရှိ၊ အလွတ်ဖြစ်သော အတွေးအခေါ် အာရုံများကို စဉ်းစားစိတ်ကူး၏။

၆။ ဝိညာဏ်၏အပိုင်းလေးပိုင်း။ ။စက္ခုဝိညာဏ် အစရှိသော ဝိညာဏ်အသီးသီး၌ အစိတ်အပိုင်းလေးခုစီ ရှိကြ၏။

(က) လက္ခဏဘာဂ = အာရုံထင်လာသော အပိုင်း (ကံပိုင်း)။
(ခ) ဒဿနဘာဂ = အာရုံကို မြင်မှုအပိုင်း (ကတ္တားပိုင်း)။
(ဂ) သက္ခိကာရီဘာဂ = မြင်မှုကို သက်သေခံသော အပိုင်း။
(ဃ) အနုသက္ခိကာရီဘာဂ = ထိုသက်သေခံမှု မှန်ကြောင်း ထပ်ဆင့် သက်သေခံမှုအပိုင်း။

မှန်ထဲတွင် အရိပ်ထင်လာသကဲ့သို့ ပြင်ပရှိအာရုံ၏ ပုံတူရိပ်သည် ဝိညာဏ်၏ နံပါတ် (က)အပိုင်းသို့ ထင်ဟပ်လာ၏။ ထိုထင်ဟပ်လာသော အာရုံကို ရုပ်လုံးပီသ ရှင်းလင်းပြတ်သားအောင် ဒုတိယပိုင်း (ဒဿနဘာဂ) သည် အလင်းရောင် ထိုးပြ၏။ ထိုအခါ တတိယပိုင်း (သက္ခိကာရီဘာဂ) သည် သိရှိမှတ်တမ်းတင်လိုက်၏။ ထို့နောက် စတုတ္ထပိုင်း (အနု

သက္ခိကာရီဘာဂ)က ထပ်ဆင့် မှတ်တမ်းတင်၏။ ဤသို့ အပိုင်းလေးပိုင်း ရှိပုံကို အောက်ဖော်ပြပါ ဥပမာဖြင့် ရှင်းပြကြ၏။

စက္ကူတစ်ရွက်၏ ပမာဏကို သိရန် ပေတံဖြင့် ချ၍တိုင်းရာ စက္ကူ၏ အရွယ်ပမာဏကို တစ်ပေ, နှစ်ပေ စသည်ဖြင့် သိ၏။ တစ်ဖန် ပေတံသည် စံချိန်ကိုက် ပေတံဖြစ်ကြောင်း ထပ်ဆင့်အတည်ပြု၏။ ဤဥပမာ၌ စက္ကူသည် စိတ်ဝိညာဏ်၏ ပထမပိုင်းနှင့်တူ၏။ ပေတံသည် ဝိညာဏ်၏ ဒုတိယပိုင်းနှင့် တူ၏။ စက္ကူ၏အရွယ်ပမာဏကို သိရှိမှတ်သားခြင်းသည် ဝိညာဏ်၏ တတိယပိုင်းနှင့် တူ၏။ ပေတံကို စံချိန်ကိုက်ပေတံဟု သိခြင်းသည် ဝိညာဏ်၏ စတုတ္ထပိုင်းနှင့် တူ၏။

အထက်၌ ဖော်ပြခဲ့ပြီးသော ယောဂါစာရဂိုဏ်းကွဲ သုံးခုတွင် ဒိန္နာဂနှင့်ဂေါ်တြတို့သည် ဝိညာဏ်၏ စတုတ္ထပိုင်းကို လက်မခံကြချေ။ ရှေ့သုံးပိုင်းကိုသာ လက်ခံကြ၏။ ဓမ္မပါလနှင့် သူ၏အဆက်အနွယ် သီလဘဒြ (နာလန္ဒကျောင်းအုပ်)သည် ဝိညာဏ်၏ အပိုင်းလေးပိုင်းလုံးကို လက်ခံကြ၏။ သို့ရာတွင် အကြိမ်အားဖြင့် သုံးပိုင်း ခွဲ၍ အနုစိတ်အားဖြင့် လေးပိုင်းခွဲသည်ဟု ယူဆ၏။ ထိရမတိကမူ ဝိညာဏ်၌ အပိုင်းသုံးပိုင်း ရှိသော်လည်း ကံပိုင်း (အပိုင်း က-နှင့်ခ) မှာ ဝိညာဏ်မှ ထကြွပေါ် ထွက်လာသော မှားယွင်းစွာ ကြံစည်မှုမျှသာ ဖြစ်၏။ တတိယပိုင်းသည် တကယ့်အစစ်အမှန်တရားဖြစ်၏ဟု ဆို၏။

နန္ဒထေရ်ကမူ ကတ္တားပိုင်းနှင့် ကံပိုင်း အပိုင်း (က နှင့် ခ) နှစ်ခုသာရှိရာ ကံပိုင်း (အာရုံ)သည် ကတ္တားပိုင်း (ဝိညာဏ်)မှ ပေါ်ထွက်လာသောကြောင့် (ဝိညာဏ်) ကတ္တားပိုင်း အစစ်အမှန်ဖြစ်၏၊ ပဓာနဖြစ်၏ဟု ဆို၏။

အာလယဝိညာဏ်၌ စင်ကြယ် မြင့်မြတ်သော ဉာဏ်ပညာနှင့် ကိလေသာ အညစ်အကြေးတို့ ရောနှောပါဝင်နေရာ အချိန်ကြာလတ်သော် စင်ကြယ်သော ဉာဏ်ပညာပိုင်းသည် တဖြည်းဖြည်း အင်အားကောင်းလာ၍ ကိလေသာ အညစ်အကြေးများကို ဖယ်ထုတ်လိုက်သည်။ ထိုအခါ အာလယဝိညာဏ်သည် ဖြူစင်သွား၍ မူလတထတာ-နှင့် ပြန်လည်ရောနှော ပေါင်းစပ်သွား၏။ ထိုအခါ ဗုဒ္ဓအဖြစ်သို့ ရောက်ပြီဟု

ဆို၏။ ပရိနိဗ္ဗာန်စံသည်ဟု ဆိုကြ၏။ ယောဂါစာရဂိုဏ်းအလို ကိလေသာကို ပယ်ပြီးသောအဆင့်၌ ရဟန္တာဟု ခေါ်၍ ပရိနိဗ္ဗာန်စံဝင်သောအခါမှ ဗုဒ္ဓအဖြစ်သို့ ရောက်သည်ဟု ဆို၏။

ယောဂါစာရဂိုဏ်းအလို လောကဓာတ် စကြဝဠာကြီး၏ မူလပကတိအဆင့်၌ သိမ်မွေ့သော၊ မလှုပ်မယှက် တည်ငြိမ်နေသော သဘောကို 'တထတာ'ဟု အမည်ပေးထား၏။ ထိုတထတာကိုပင်လျှင် 'ဗုဒ္ဓ'ဟု ခေါ်၏၊ 'နိဗ္ဗာန်'ဟု ခေါ်ကြ၏။

ဤအယူဝါဒမှာ ဂျိန်းတို့၏ ကေဝလျဘုံနှင့် ဆင်၏။ ဟိန္ဒူတွေးခေါ်ရှင်ကြီး ရှံကရ (သင်္ကရ)၏ ဝေဒန္တဝါဒ၌ နိဂုဏာဗြဟ္မာနှင့် သဂုဏာဗြဟ္မာသည် ယောဂါစာရဂိုဏ်း၏ တထတာနှင့်အာလယဝိညာဏ်ကို အတုယူထားခြင်း ဖြစ်၏။

**အဒွယတာ (ဧကတ္တဝါဒ)**။ ။ဤယောဂါစာရဂိုဏ်းအလို ရုပ်တရားသည် တကယ်ရှိတာရားမဟုတ်၊ ဝိညာဉ်၏ စိတ်ကူးယဉ် ထင်မြင်ချက်မျှကို ရုပ်ဟု ခေါ်ကြရ၏။ ထိုသို့ ရုပ်နှင့် နာမ်ဟူ၍ နှစ်မျိုးမကွဲပြားသောကြောင့် (ဒွယ=နှစ်၊ အဒွယတာ= နှစ်မရှိသော သဘော) 'အဒွယတာဝါဒ'ဟု အမည်တွင်၏။ နာမ်ဝိညာဏ်တစ်ခုသာလျှင်ရှိသောကြောင့် ဧကတ္တဝါဒ မည်၏။ (ဧက = တစ်)

ပြင်ပ ရုပ်ဝတ္ထုများသည် တကယ်မရှိဘဲ စိတ်ကူးယဉ် ထင်မြင်ချက်သက်သက်မျှသာဖြစ်ပါမူ အဘယ့်ကြောင့် သတ္တဝါအသီးသီးသည် ရုပ်ဝတ္ထုတစ်ခုကို တူညီသောနေရာ၌ တူညီသောအချိန်တွင် တွေ့မြင်သိရှိကြရပါသနည်း၊ စိတ်၏ ထင်မြင်ချက်သက်သက်မျှသာ ဖြစ်ချေသော် တစ်ယောက်တစ်မျိုးစီ မြင်ကြမည် မဟုတ်ပါလော။

ဤပြဿနာကို အသူရကာယ် ဥပမာဖြင့် ဖြေရှင်းလိုက်၏။ ပြိတ္တာအသူရကာယ်တို့သည် ဂင်္ဂါမြစ်ရေကိုသောက်ရန် ကြိုးပမ်းရာ အပုပ်အစပ်အညစ်အကြေးများအဖြစ်ဖြင့် တွေ့မြင်ရ၍ မသောက်နိုင်ဖြစ်ကြရသည်။ ထိုပြိတ္တာအသူရကာယ်တို့သည် တူညီသော အကုသိုလ်ကံကြောင့် အမြင်

ချင်း တူညီကြရသည်။ ထို့အတူ သတ္တဝါတို့သည် တူညီသော အကုသိုလ်ကံကြောင့် စိတ်ကူးထင်မြင်ချက်ချင်း တူညီရလေသည်။ ပြင်ပ၌ အမှန်တကယ် ရှိသောကြောင့် အမြင်တူခြင်း မဟုတ်ဟု ရှင်းလင်းပြကြသည်။

**အတ္တဝါဒ။** ။ယောဂါစာရ ဂိုဏ်းခေါင်းဆောင် အသင်္ဂသည် အနတ္တသာသနာတော်၌ အတ္တဝါဒကို လိမ္မာပါးနပ်စွာ သွတ်သွင်းလာ၏။ ဗြာဟ္မဏနှင့် ဂျိန်းတို့၏ အတ္တအယူဝါဒနေရာ၌ အာလယဝိညာဏ်ကို ထည့်သွင်းလိုက်၏။ သတ္တမဖြစ်သော မနောဝိညာဏ်သည် အာလယဝိညာဏ်ကို ရှုမြင်ရာ အတ္တ, ဇီဝဟု ထင်မြင်ယူဆသည်ဟု ဆို၏။ အမြဲတည်သော နိစ္စ အတ္တကို အသွင်ပြောင်း လက်ခံခြင်းဖြစ်၏။

**ဝိညာဏဝါဒ။** ။တည်ငြိမ်နေသော ဝိညာဏ်သည် နိဗ္ဗာန်ဖြစ်၏။ လှုပ်ရှားနေသော ဝိညာဏ်သည် လောကဖြစ်၏။ ပြင်ပရှိ ရုပ်ဝတ္ထုများသည်လည်း စိတ်တွင်းမှာသာရှိ၍ စိတ်၏ ထင်မြင်ချက်မျှသာဖြစ်၏။ စိတ်ဖန်တီးချက်မျှသာဖြစ်၏။ တံလျှပ်ကို ရေထင်ရာ၌ တံလျှပ်၌ ရေလုံးဝမပါချေ၊ စိတ်က ဖန်တီးခြင်းမျှသာဖြစ်၏။

ဤဝါဒမှာ ကသိုဏ်းဝန်း နိမိတ်များကို အခြေခံ၏။ ကသိုဏ်းဝန်းတစ်ခုကို ကြာရှည်စူးစိုက် ရှုဖန်များလတ်သော် မျက်စိမှိတ်ထားသောအခါ၌လည်း ထိုကသိုဏ်း နိမိတ်စက်ဝိုင်းပုံသည် စိတ်ထဲတွင် ထင်ကျန်နေခဲ့၏။ ထိုအခါ ထိုကသိုဏ်းနိမိတ်ပုံသည် စိတ်ဖန်တီးချက်များသာဖြစ်တော့၏။ ဤအချက်ကို မှီ၍ ဝိညာဏဝါဒ ပေါ်ပေါက်ခဲ့၏။

အိပ်မက်မြင်မက်ခြင်းမှာ စိတ်ကူးကို စိတ်ကပြန်၍ မြင်ရခြင်း ဖြစ်သည် ဆို၏။ စိတ်တစ်ပိုင်းက ဖန်ဆင်း၍ စိတ်တစ်ပိုင်းက ကြည့်မြင်၏။ အိပ်ရာမှ နိုးသောအခါ ထိုအိပ်မက်အတွင်းရှိ အရာခပ်သိမ်းသည် အစစ်အမှန် မဟုတ်ဟု သိလေ၏။ ဤနည်းအတူ သတ္တဝါတို့သည် မိမိတို့စိတ်ကူးကို မိမိစိတ်က ပြန်၍ မြင်နေကြခြင်းဖြစ်၏။ အိပ်မက် မက်နေသူနှင့် တူ၏။ လောကုတ္တရာ ဉာဏ်အမြင်မှန်ကို ရသောအခါ ဤလောကသည် အစစ်အမှန် မဟုတ်ကြောင်း သိမြင်သည်ဟု ဆို၏။

ခရစ်ယာန်ဘုန်းကြီး ဘိရှော့ဘာကလေ၏ ဝိညာဏဝါဒ (Ideal-ism) သည် ယောဂါစာရဂိုဏ်း၏ ဝိညာဏဝါဒနှင့် ဆင်တူ၏။

## ဗုဒ္ဓ၏ ကာယသုံးပါး (တြိကာယ)

ဗုဒ္ဓမှာ ဓမ္မကာယ၊ သမ္ဘောဂကာယ၊ နိမ္မာနကာယ ဟူ၍ ကာယသုံးပါး ရှိ၏။

၁။ ဓမ္မကာယ = ပညာတစ်မျိုးတည်းဖြင့်သာ တည်ဆောက်ထားသော ကာယဖြစ်၏။ ဖြူစင်မြင့်မြတ်သော ဉာဏ်သက်သက်မျှကို ဓမ္မာကာယဟု ခေါ်၏။ ဓမ္မကာယသည် လွန်စွာ သိမ်မွေ့သဖြင့် ဗောဓိသတ္တ ဘုရားလောင်းများ၏ ဉာဏ်ဖြင့်ပင်လျှင် မတွေ့မမြင်နိုင်ချေ။

၂။ သမ္ဘောဂကာယ = ဈာန်ချမ်းသာ (ဖလသမာပတ်) ချမ်းသာကို ခံစားနေရသော ဗုဒ္ဓဖြစ်၏။ ဗုဒ္ဓ၏ သမ္ဘောဂကာယကို ဗောဓိသတ္တ ဘုရားလောင်းများသာလျှင် မြင်နိုင်ကြ၏။

၃။ နိမ္မာနကာယ = ဖန်ဆင်းထားသော ကာယ၊ သတ္တဝါအပေါင်းအား တရားဟော ချေချွတ်ခြင်း၊ ပူဇော်ခံခြင်းဖြင့် သတ္တဝါတို့ကို ကယ်တင်ရန် လူတို့မျက်စိဖြင့် တွေ့မြင်နေရသော သကျမုနိ ဂေါတမဘုရားသည် နိမ္မာနကာယဖြစ်၏။ လူသားတို့ကို ကယ်တင်ရန် မွေးဖွားခြင်း၊ သေဆုံးခြင်း၊ အစာမှီဝဲခြင်း စသည်တို့ကို ဟန်ဆောင်ပြုလုပ်ပြသည်။ တကယ့် ဘုရားအစစ်မှာ ဓမ္မကာယသာလျှင် ဖြစ်သည်ဟု ယူဆ၏။

ထေရဝါဒ၌ ဘုရားဟော ဒေသနာများကို ဓမ္မကာယဟု ဆိုလို၏။ ယောဂါစာရဂိုဏ်းကမူ တစ်ခဲနက် ဉာဏ်တုံးဉာဏ်ခဲကြီးဖြစ်သော တထတာ-ကိုသာ ဓမ္မကာယဟု ဆိုလိုကြ၏။

ယောဂါစာရဂိုဏ်း၏ အခြား တီထွင်ချက်တစ်ခုမှာ ဗောဓိသတ္တဘုရားလောင်းဝါဒ ဖြစ်၏။ လူတိုင်းသည် သတ္တဝါအပေါင်းကို သံသရာမှ

ကယ်တင်ရန် ဘုရားဆုပန်ကြရမည်။ မုဒိတာ, ဝိမလာ စသည်ဖြင့် ဘုရားလောင်း ကျင့်စဉ်ဆယ်ဆင့်ကို ဒသဘူမိကသုတ်၌ ဖော်ပြထား၏။

ဤသို့အားဖြင့် ယောဂါစာရဂိုဏ်း (ဝိညာဏဝါဒ)သည် မဟာယာနဝါဒအတွက် လမ်းခင်းပေးခဲ့၏။

အိန္ဒိယပြည်၌ တန္တရယာန, မန္တရယာန, ဝဇိရယာနတို့သည်လည်း ယောဂါစာရဂိုဏ်းမှ ပေါက်ပွားလာကြကုန်၏။ ယောဂါစာရ (ဝိညာဏဝါဒ) သည် တရုတ်ပြည်တွင် ရှေလွှန်ဂိုဏ်းနှင့် ဖရှင်ဂိုဏ်းတို့ကို ဖြစ်ပေါ်စေ၍ ဂျပန်ပြည်တွင် ဟိုဆိုဂိုဏ်းကို ဖြစ်ပေါ်စေ၏။

ယောဂါစာရဂိုဏ်း၏ အဘိဓမ္မာအရ ပရမတ္ထတရား ၁၀၀ ရေတွက်ပုံကို နောက်ဆက်တွဲ ယ ၌ ရှုကြပါကုန်။



# မဇ္ဈိမိကဂိုဏ်း

## (သုညဝါဒ)

မြတ်စွာဘုရား ဟောတော်မူသော မဇ္ဈိမပဋိပဒါကျင့်စဉ်မှာ ခန္ဓာကိုယ် ညှဉ်းပန်းမှု (အတ္တကိလမထ) အစွန်းတစ်ဘက်နှင့် ကာမဂုဏ်ချမ်းသာ ခံစားမှု (ကာမသုခလ္လိက) အခြားအစွန်းတစ်ဘက်၊ ထိုအစွန်းနှစ်ခု၏ အလယ်ဗဟိုရှိကျင့်စဉ်ကို ဆိုလို၏။

မဇ္ဈိမိကဂိုဏ်း၏ဝါဒမှာ သဿတနှင့် ဥစ္ဆေဒ၊ အတ္ထိနှင့်နတ္ထိ၊ အတ္တ နှင့်အနတ္တ အစွန်းနှစ်ဘက်၏ အလယ်ဗဟို၌ တည်၍ ထိုအစွန်းနှစ်ပါးကို ငြင်းပယ်၏။

ဗုဒ္ဓ၏ မဇ္ဈိမပဋိပါဒမှာ အကျင့်လမ်းစဉ်နှင့် ဆိုင်၍ ဤဂိုဏ်း၏ မဇ္ဈိမပဋိပဒါမှာ အတွေးအခေါ် အယူအဆပိုင်းနှင့် ဆိုင်၏။

ဤဂိုဏ်း၏ မဇ္ဈိမပဋိပဒါခေါ် အလယ်လမ်းမှန်ကို သိရန် ရရန်အတွက် ပတ်လည်ငြင်းပယ်နည်းကို အသုံးပြုရ၏။

**ပတ်လည်ငြင်းပယ်နည်း ၈ မျိုး (အဋ္ဌမုခပဋိက္ခေပ)**

၁။ ဥပ္ပါဒေါ = ဖြစ်ပေါ်ခြင်း (Production)
၂။ နိရောဓော = ချုပ်ငြိမ်းပျောက်ကွယ်ခြင်း (Extinction)
၃။ အာဂတိ = ဤဘုံ ဤဘဝ ဤဌာနသို့လာခြင်း (Coming)
၄။ ဂတိ = ဖယ်ခွာထွက်သွားခြင်း (Departure)
၅။ နိစ္စ = သဿတ = အမြဲတည်ရှိခြင်း (Permanence)
၆။ အနိစ္စ = မမြဲခြင်း၊ ပျက်စီးဖောက်ပြန်ခြင်း (Anihilation)
၇။ ဧကတ္တ = တစ်ခုတည်းအဖြစ်၊ ထပ်တူညီခြင်း (Unity)
၈။ နာနတ္တ = မတူကွဲပြားခြင်း၊ အသစ်ဖြစ်ခြင်း (Diversity)

အထက်ဖော်ပြပါ အချက်ရှစ်ချက်ကို အကြွင်းမဲ့ ငြင်းပယ်ရမည်။ သတ္တဝါတို့၏စိတ်သည် အယူဝါဒတစ်ခုကို ငြင်းပယ်လိုက်သောအခါ အခြား

အယူဝါဒတစ်ခုသို့ သွားရောက်ကပ်ငြိ တွယ်တာတတ်၏။ (န ဥပ္ပါဒေါ)= ဖြစ်ခြင်း မရှိဟု ငြင်းပယ်လိုက်သောအခါ မဖြစ်လျှင် ချုပ်ငြိမ်းမှု ရှိရမည်ဟု ချုပ်ငြိမ်းမှုကို စွဲကိုင်မိတတ်၏။ တစ်ခုငြင်းလျှင် တစ်ခုကို အလိုအလျောက် လက်ခံပြီးသား ဖြစ်တတ်လေသည်။

ဤမဇ္ဈိမိကဂိုဏ်း၏ ရည်ရွယ်ချက်မှာ တစ်စုံတစ်ခုကိုမျှ စွဲကိုင်ခြင်း၊ မှီခို အားထားခြင်း မပြုမိအောင် တွေ့သမျှ ပေါ်လာသမျှ အယူအဆ အစွဲအလမ်းများကို ဆက်တိုက်ငြင်းပယ်ရ၏။ ထိုသို့ ဆက်တိုက် ထပ်ကာ ထပ်ကာ ငြင်းပယ်သောအခါ အစွဲအားလုံး လွတ်ကင်း၍ နိဗ္ဗာန်အစစ် (သုညတာ)ကို သိမြင်လေတော့၏။

ထို့ကြောင့် -

၁။ န ဥပ္ပါဒေါ = ဖြစ်ခြင်း မရှိ။
၂။ န နိရောဓော = ချုပ်ငြိမ်းခြင်း မရှိ။
၃။ န အာဂတိ = လာရောက်ခြင်း မရှိ။
၄။ န ဂတိ = ထွက်ခွာသွားခြင်း မရှိ။
၅။ န နိစ္စ = မြဲသည်လည်း မဟုတ်။
၆။ န အနိစ္စ = မမြဲသည်လည်း မဟုတ်။
၇။ န ဧကတ္တ = တစ်ခုတည်းမဟုတ် ထပ်တူမညီချေ။
၈။ န နာနတ္တ = သီးခြားမဟုတ် အသစ်မဟုတ်။

ဤသို့ ဆက်ကာဆက်ကာ ငြင်းပယ်ရမည်။ အစွန်းတစ်ဘက်ကို ငြင်းပယ်သောအခါ အခြားအစွန်းတစ်ဘက်ကို လက်မခံမိစေရန် ထပ်ဆင့် ငြင်းပယ်နည်း (Negation of Negation) ကို အသုံးပြုရမည်။

၁။ ဖြစ်ပေါ်ခြင်းသဘောကို မဖြစ်ပေါ်ခြင်း ချုပ်ငြိမ်းခြင်းသဘောဖြင့် ငြင်းပယ်ရမည်။ (ဥပ္ပါဒသညာကို နိရောဓသညာဖြင့် ပယ်ပါ)

၂။ ချုပ်ငြိမ်းခြင်းသဘောကို လာရောက်ခြင်းသဘောဖြင့် ငြင်းပယ်ရမည်။

ဥပမာ - အပူစာတ်ငြိမ်းခြင်းဆိုသည်မှာ အအေးဓာတ် ဝင်လာခြင်းဟု သိမြင်ရမည်။ (နိရောဓသညာကို အာဂတိသညာဖြင့် ပယ်ရမည်။)

၃။ လာရောက်ခြင်းသဘောကို ထွက်ခွာသွားခြင်းသဘောဖြင့် ငြင်းပယ်ရမည်။

ဥပမာ - ဖန်ခွက်ထဲသို့ ရေဝင်လာခြင်းမှာ ဖန်ခွက်မှ လေထွက်သွားခြင်းမျှသာဖြစ်၏။ (အာဂတိသညာကို ဂတိသညာဖြင့် ပယ်ရမည်။)

၄။ ထွက်ခွာသွားခြင်း သဘောကို အမြဲတည်ရှိခြင်း သဘောဖြင့် ငြင်းပယ်ရမည်။ တကယ်အစစ်အမှန်တရားသည် လှုပ်ရှား ခြင်း၊ ရွေ့လျားခြင်း မရှိ၊ ကျောက်တောင်ထွတ်ကဲ့သို့ မလှုပ် မယှက် တည်နေ၏။ တစ်နေရာမှ တစ်နေရာသို့ ရွေ့လျားခြင်း မရှိ၊ အပေါ်ယံ အသွင်အပြင်များသာ ရွေ့လျားနေသည်ဟု ထင်ကြရ၏။

ဥပမာ - ရေလှိုင်းများ ရွေ့လျားနေသည်ကို ကြည့်၍ ရေထု ရေဒြပ်သားကို ရွေ့လျားနေသည်ဟု ထင်ရ၏။ အမှန်စင်စစ် လှိုင်းလုံးသာ ရွေ့လာ၍ ရေသည်ကား မူလနေရာမှာပင် တည်ရှိနေ၏။ ဤသဘောကို ကြည့်၍ ရွေ့လျားခြင်းသဘော (ဂတိ) ကို တည်ငြိမ်ခြင်း၊ တည်မြဲခြင်း သဘော (နိစ္စ = သဿတ)ဖြင့် ငြင်းပယ်ရမည်။ (ဂတိသညာကို နိစ္စသညာဖြင့် ပယ်ရမည်။)

၅။ တည်မြဲခြင်းသဘောကို မတည်မြဲခြင်း၊ ဖောက်ပြန်ပြောင်းလဲခြင်းသဘောဖြင့် ငြင်းပယ်ရမည်။

ရွှေလက်ကောက်ကို ရွှေဆွဲကြိုးပြုလုပ်ရာ၌ ရွှေသည် မိမိပင်ကိုယ်သဘာဝအတိုင်း တည်မြဲနေသော်လည်း လက်ကောက်သည်မူကား ပျက်စီးဖောက်ပြန်၍ ဆွဲကြိုးအဖြစ်သို့ ရောက်ရ၏။ ဤသို့ မြဲခြင်းသဘောကို မမြဲခြင်းသဘောဖြင့် ငြင်းပယ်ရမည်။ (နိစ္စသညာကို အနိစ္စသညာဖြင့် ပယ်ရမည်။)

၆။ မမြဲခြင်းသဘောကို ထပ်တူညီမျှသဘောဖြင့် ငြင်းပယ်ရမည်။

ဦးဘ၏ ရုပ်နာမ်တရားတို့သည် ခဏတိုင်းဖြစ်ချုပ်နေသည်၊ ငယ်ရာမှ ကြီးထွား၍ အိုမင်းလာသည်။ သို့ရာတွင် ယနေ့ ဦးဘမှာ မနေ့က ဦးဘပင် ဖြစ်၏။ ဤနှစ် ဦးဘမှာ မနှစ်က ဦးဘနှင့် တစ်ဦးတည်းသာ ဖြစ်၏။ ဤအချက်ကို ကြည့်ပါက ဦးဘသည် တစ်ဦးတည်းသာ ဖြစ်သည်။ ဤသို့ ထပ်တူညီမှု တစ်ခုတည်းအဖြစ်ကို ကြည့်၍ အနိစ္စသဘောကို ငြင်းပယ်ရမည်။ (ဧကတ္တသညာဖြင့် အနိစ္စသညာကို ငြင်းပယ်ရမည်။)

၇။ ထပ်တူညီမျှမှု တစ်ခုတည်းသဘောကို မတူညီ ကွဲပြားမှုဖြင့် ငြင်းပယ်ရမည်။

နွားနို့မှ ဒိန်ချဉ်ဖြစ်လာသည်ဆိုရာ၌ နွားနို့သည် ချိုဆိမ့်၍ ဒိန်ချဉ်ကား ချဉ်၏။ ဂုဏ်သတ္တိ အရည်အသွေး လုံးဝ မတူကြချေ။ ထို့ကြောင့် နွားနို့နှင့်ဒိန်ချဉ်သည် လုံးဝမတူ တစ်မူထူးခြားသော သီးခြားအရာဝတ္ထုများ ဖြစ်သည်။ တစ်ခုတည်း မဟုတ်ဟု မှတ်ရမည်။ (ဧကတ္တသညာကို နာနတ္တသညာဖြင့် ပယ်ရမည်။)

၈။ သီးခြားစီ မတူညီကွဲပြားမှုကို ကြောင်းကျိုးဆက် ဖြစ်ပေါ်မှုဖြင့် ငြင်းပယ်ရမည်။

သီးခြားကွဲပြားနေမှုသည်လည်း အလိုအလျောက် တည်နေကြသည် မဟုတ်၊ အကြောင်းထဲမှ အကျိုးပေါ်ထွက်လာခဲ့၏။ တစ်စုံတစ်ရာ အဆက်အစပ်မရှိဘဲ သီးခြားတည်ရှိနေသည် မဟုတ်၊ အကြောင်းကြောင့် အကျိုးဖြစ်ပေါ်လာခြင်းသည် သီးခြားစီ ကင်းလွတ်စွာ ရပ်တည်မှုကို ငြင်းပယ်၏။ (ဥပ္ပါဒသညာဖြင့် နာနတ္တသညာကို ပယ်ရမည်။)

## မှီခိုတရားနှင့် ဆန့်ကျင်ဘက် (နိဿိတနှင့်ပစ္စနိက်)

(Relativity + Contradiction) ဖြစ်ခြင်းနှင့် ချုပ်ခြင်းသည် အပြန်အလှန် မှီခိုနေ၏။ မကင်းတရားများ ဖြစ်ကြ၍ ဆန့်ကျင်ဘက်လည်း ဖြစ်ကြ၏။ ဖြစ်ပြီးနောက်မှ ချုပ်ရ၏။ မဖြစ်ဘဲလျက် မချုပ်နိုင်၊ ဖြစ်ခြင်း

ရှိမှသာ ချုပ်ခြင်းရှိနိုင်မည်။ တစ်ဖန် ချုပ်ခြင်းမရှိဘဲ ဖြစ်ခြင်း တစ်မျိုးတည်းသာ ရှိပါက ဆက်ကာ ဆက်ကာ ဖြစ်ပေါ်နေလျှင် နေရာမဆံ့၍ ကြာသော် ဖြစ်စရာနေရာ မရှိဖြစ်တော့မည်။ အဟောင်း အဟောင်းတို့ ချုပ်ငြိမ်း ပျောက်ကွယ်ပေးမှသာလျှင် အသစ်အသစ်တို့ ဖြစ်ခွင့်ရရှာတော့မည်။ ထို့ကြောင့် ချုပ်ခြင်းနှင့်ဖြစ်ခြင်းသည် အပြန်အလှန် မကင်းနိုင်ကြချေ။ (အဝိနာဘာဝ) အချင်းချင်း အပြန်အလှန် အမှီပြုနေရသည်။ (နိဿိတ)။

တစ်ဖန် ဖြစ်ခြင်းသဘောနှင့် ချုပ်ခြင်းသဘောသည် ဖြောင့်ဖြောင့်ဆန့်ကျင်ကြ၏။ (ပစ္စနိက်)အတူတကွ ပူးတွဲမရပ်တည်နိုင်၊ ဖြစ်နေစဉ် ချုပ်ပျက်သွားပါက ဖြစ်ခြင်း၏အဓိပ္ပာယ် ကင်းမဲ့သွားမည်။ ချုပ်ပျက်နေစဉ် ဖြစ်ပြပါက ချုပ်ပျက်ခြင်း၏ အဓိပ္ပာယ် ကင်းမဲ့သွားမည်။ (ဝါ) ဖြစ်နေစဉ် မချုပ်ပျက်နိုင်၊ ချုပ်ပျက်နေစဉ် မဖြစ်ပေါ်နိုင်။

ထို့ကြောင့် ဖြစ်ခြင်း (ဥပ္ပါဒ)နှင့် ချုပ်ပျက်ခြင်း (နိရောဓ)တို့သည် အချင်းချင်း မှီခိုဆက်စပ်၍ မကင်းတရား ဖြစ်သကဲ့သို့ အတူတကွလည်း ပူးတွဲ၍ မတည်ရှိနိုင်ချေ။

ဤသို့ ဆင်ခြင်စဉ်းစားလျက် (ဥပ္ပါဒနှင့်နိရောဓ) ဖြစ်ခြင်း၊ ချုပ်ပျက်ခြင်းနှင့် စပ်လျဉ်း၍ -

၁။ အတ္ထိ = ရှိသည်၊
၂။ နတ္ထိ = မရှိ၊
၃။ အတ္ထိ စ နတ္ထိ စ = မရှိတရှိ၊ ရှိ-မရှိ နှစ်ပါးစုံဟုတ်၏။
၄။ နေဝ အတ္ထိ န နတ္ထိ = ရှိ-မရှိ နှစ်ပါးစုံမဟုတ်-

ဟူသော အစွန်းလေးချက်မှ ရှောင်ထွက်ရမည်။ အဝိနာဘာဝ (မကင်းတရား) ရှုထောင့်မှ ကြည့်လျှင် 'အတ္ထိ - ရှိသည်'ဟု ဆိုရမည်။ ပစ္စနိက် (ဆန့်ကျင်ဘက်) ရှုထောင့်မှ ကြည့်လျှင် 'နတ္ထိ-မရှိ'ဟု ဆိုရမည်။ ထိုရှုထောင့်နှစ်မျိုးမှ တစ်လှည့်စီကြည့်လျှင် 'ရှိ-မရှိ နှစ်ပါးစုံ ဟုတ်သည်'

ဟု ဆိုရမည်၊ ထိုရှုထောင့်နှစ်မျိုးမှ တစ်ပြိုင်နက် ကြည့်သောအခါ 'ရှိ-မရှိ နှစ်ပါးစုံမဟုတ်'ဟု ဆိုရမည်။

ဤသို့ အစွန်းလေးချက်မှ လွတ်အောင် အရာရာကို ရှုဆင်ခြင် တတ်၊ ကြည့်တတ်သောအခါ သုညသဘောကို သိမြင်ရလေပြီ၊ ရရောက်လေပြီဟု ဆိုရမည်။

နိစ္စ, အနိစ္စ အစွန်းနှစ်ပါး၊ ဧကတ္တ, နာနတ္တ အစွန်းနှစ်ပါး၊ အာဂတိ, ဂတိ အစွန်းနှစ်ပါးတို့နှင့် စပ်လျဉ်း၍လည်း အထက်ဖော်ပြပါ မကောင်းတရား ရှုထောင့်, ဆန့်ကျင်ဘက်ရှုထောင့်တို့မှ ရှုမြင်သုံးသပ်၍ ရှိ-မရှိ အစွန်းလေးချက်မှ လွတ်အောင် ရှောင်ရမည်။ ဤသို့ အရာခပ်သိမ်းကို ရှုမြင် သုံးသပ်နိုင်လျှင် သုညတာကို ရပြီ, ရောက်ပြီဟု ဆိုရ၏။

ငြင်းပယ်နည်းနှင့် ဖွင့်ဆိုနည်း။ ။သိမ်မွေ့ခက်ခဲ နက်နဲသောတရားကို ရှင်းပြလိုသောအခါ ငြင်းပယ်နည်းကို အသုံးပြုလေ့ရှိ၏။ ဘုရားမပွင့်မီကပင် ယညဝါကျ ဆရာကြီးသည် ဗြိဟာဒ်အာရညက ဥပနိသျှဒ်ကျမ်း၌ ဗြဟ္မာဟူသည် ဤအရာမဟုတ်၊ ထိုအရာမဟုတ် 'န ဣတိ န ဣတိ'ဟု ငြင်းပယ်နည်းကို အသုံးပြုခဲ့၏။ ဤနည်းအတူ မဓျမိကဂိုဏ်းကလည်း ငြင်းပယ် (ပဋိက္ခေပ) နည်းကို အသုံးပြုခဲ့၏။ မိစ္ဆာဒိဋ္ဌိကို ငြင်းပယ်ပါက အလိုအလျောက် သမ္မာဒိဋ္ဌိ ဖြစ်တော့သည်။

ဤဂိုဏ်းသည် သာသနာပတိတ္ထိဝါဒများ၊ ဗြာဟ္မဏဝါဒများကို ငြင်းပယ်၏။ သာသနာတွင်း၌လည်း သဗ္ဗတ္ထိဝါဒစသော ဟီနယာနဂိုဏ်းများ၏ အယူဝါဒများကို ငြင်းပယ်၏။ မိမိဂိုဏ်းမှအခြားသော မဟာယာနဂိုဏ်း၏ အယူဝါဒများကိုလည်း ငြင်းပယ်၏။ ငြင်းပယ်နည်း (ပဋိက္ခေပ)ကို တွယ်တာ ငြိကပ်မှု ပင်လယ်၌ နစ်မြုပ်နေသော သတ္တဝါတို့ကို ကယ်တင်ရာ၌ သုံးရန် လိုအပ်၏။ (ငြင်းပယ်ခြင်းသည် ဘာကိုမျှ ရယူခြင်းမရှိသော ကြောင့် တွယ်တာမှု ကင်းရှင်း၏။)

နှုတ်ဖြင့် ငြင်းပယ်ခြင်း (ဝစီပဋိက္ခေပ)၏ အဆုံးသည် မဇ္ဈိမပဋိပဒါ (သုညတာ)၏ အရှက်ဦးဖြစ်၏။ သုညတာသည် အမှန်ဆုံးတရားဖြစ်၍ တစ်စုံတစ်ရာ အမှတ်အသား ထူးခြားချက်မရှိ။ ထိုသို့ထူးခြားသော အမှတ် (ဝိသေသလက္ခဏာ) ကင်းသောကြောင့် သုညတာကို ဖွင့်ဆိုရှင်းလင်း နည်းဖြင့် ပြရန် ခက်၏။ သုညတာသည် ဆန့်ကျင်ဘက် သဘောအားလုံး ကို ကျော်လွန်၏။

ထိုသို့ ဝိသေသလက္ခဏာမှ ကင်းသောတရားကို အမည်ပေးရန် မဖြစ်နိုင်။ သို့ရာတွင် ရှင်းလင်းဟောပြရန်အတွက် ယာယီ အခိုက်အတန့် အားဖြင့် အမည်ပေးထားရ၏။ သုညတာ ဟူ၍လည်းကောင်း၊ မဇ္ဈိမ ပဋိပဒါ ဟူ၍လည်းကောင်း ယာယီ အမည်ပေးထားရ၏။ ထိုသုညတာ၏ သဘောကို ပရမတ္ထသစ္စာ, သမ္မုတိသစ္စာ ဟူသော သစ္စာနှစ်ပါးဖြင့် ရှင်း လင်း ဟောကြားထား၏။

အမှန်သည် အလယ်တည့်တည့်။ ။အမှန်နှင့်အမှား နှစ်မျိုးကွဲပြား နေပါက ထိုအမှန်တရားသည် စစ်မှန်သောအမှန် မဟုတ်သေးချေ။ ယင်း၏ဆန့်ကျင်ဘက်အမှားသည် ယှဉ်ပြိုင် ရပ်တည်နေ၏။ ထိုအမှန်မျိုးကို ပဋိပက္ခရှိသော အမှန်ဟု ခေါ်၏။ အမှားဟူသရွေ့ အကြွင်းမရှိ ငြင်းပယ်လိုက်သောအခါ အမှန်တရား၏ ဆန့်ကျင်ဘက် မရှိတော့ချေ။ ထိုအမှန်မျိုးကို ပဋိပက္ခကင်းသော, ပြိုင် ဘက်ကင်းသော အမှန် (လောကုတ္တရာအမှန်)ဟု ခေါ်ရ၏။ အမှားအမှန် နှစ်မျိုးလုံးကို ငြင်းပယ်လိုက်သောအခါ သီးခြားကင်းလွတ်သော သစ္စာ (ပစ္စေကသစ္စာ= ကေဝလသစ္စာ) ပေါ်လာလေ၏။

'အမှန်သည် (မဇ္ဈိမ) အလယ်ဖြစ်၏။ အစွန်းနှစ်ခု၏ အလယ်သည် ပဋိပက္ခ မကင်းသော အလယ်ဖြစ်၏။ နှိုင်းယှဉ် ထောက်ဆ သိရသော ပညတ်သဘောမျှသာ ဖြစ်၏။ ပရမတ္ထသစ္စာ မဟုတ်သေးချေ။ အစွန်း နှစ်ခုလုံးကို လုံးဝဖယ်ရှား ငြင်းပယ်လိုက်သောအခါ ရလာသော အလယ် သည် အစွန်းလွတ်သော အလယ်ဖြစ်၏၊ ပဋိပက္ခကင်း၏၊ နှိုင်းယှဉ်

ထောက်ဆရခြင်း မရှိ။ အစွန်းနှစ်ဘက်ကို ပယ်ပြီးနောက် ရရှိလာသော အလယ် (မဇ္ဈိမ)သည် သီးခြား ကင်းလွတ်သော အလယ် (ပစ္စေကမဇ္ဈိမ, ကေဝလမဇ္ဈိမ) မည်၏။ ၎င်းသည် လောကီတရားတို့နှင့် မရောမယှက် သီးခြားတည်၏၊ မှီခိုကင်းမဲ့၏။ ထို (မဇ္ဈိမ) အလယ်ကို သစ္စာဟု ခေါ်၏။

## သစ္စာလေးဆင့်

အမှီခို ကင်းလွတ်၍ သီးသန့်ဖြစ်သော အလယ် (ပစ္စေကမဇ္ဈိမ)ကို 'ပစ္စေကသစ္စာ'ဟု ခေါ်၏။ ထိုပစ္စေကသစ္စာသည် သတ္တဝါတို့ နားလည်စေရန် အဆင့်နိမ့်၍ ရှင်းပြသောအခါ ခဏိကသဘောကို ဆောင်၍ သမ္မုတိသစ္စာ ဖြစ်လာ၏။ ဤနည်းအားဖြင့် သမ္မုတိသစ္စာနှင့် ပရမတ္ထသစ္စာတို့ကို အဆင့်ဆင့် ခွဲရ၏။

**ပထမအဆင့်။** ။ပုဂ္ဂိုလ်, သတ္တဝါ, သူတစ်ပါး, ယောကျ်ား, မိန်းမ မရှိဟု ငြင်းပယ်ရာ၌ ပုဂ္ဂိုလ်, သတ္တဝါရှိခြင်းသည် သမ္မုတိသစ္စာ မည်၏။ ပုဂ္ဂိုလ်, သတ္တဝါ မရှိခြင်းသည် ပရမတ္ထသစ္စာ မည်၏။

တစ်နည်းပြဆိုရပါမူ အနတ္တအမြင်ဖြင့် အတ္တအမြင်ကို ငြင်းပယ်ရာ၌ အတ္တအမြင်သည် သမ္မုတိသစ္စာမည်၏။ အနတ္တအမြင်သည် ပရမတ္ထသစ္စာမည်၏။

**ဒုတိယအဆင့်။** ။အတ္တနှင့် အနတ္တ အမြင်နှစ်မျိုးစလုံးကို ထပ်ဆင့်ငြင်းပယ်ရမည်၊ အတ္တအမြင်လည်း မှား၏၊ အနတ္တအမြင်လည်း မှား၏။ (နေဝ အတ္တ န အနတ္တ) ။ ထိုအတ္တ, အနတ္တအမြင်နှစ်ပါးစုံ မှားသည်ဟူသော အမြင်သစ်တစ်ခုဖြင့်သာ ထပ်ဆင့်ငြင်းပယ်ရ၏။ ထိုအခါ ရှေ့အမြင် နှစ်ခုသည် သမ္မုတိသစ္စာ မည်၏။ နောက် အမြင်သစ်သည်ကား ပရမတ္ထသစ္စာ မည်၏။

**တတိယအဆင့်။** ။အထက်ဖော်ပြပြီး အတ္တအမြင်၊ အနတ္တအမြင်၊ နေဝ အတ္တ န အနတ္တ-အမြင်တို့ကို ထပ်ဆင့်ငြင်းပယ်ရမည်။ ထိုအခါ ငြင်းပယ်ခံရသော ရှေး အမြင်ဟောင်းများသည် သမ္မုတိသစ္စာ မည်၏။ နောက် အမြင်သစ်သည် ပရမတ္ထသစ္စာ မည်၏။

**စတုတ္ထအဆင့်**။ ။အထက်ဖော်ပြပြီး အမြင်အားလုံးကို ထပ်ဆင့်ငြင်းပယ်ရမည်။ ထိုအခါ ရှေး အမြင်ဟောင်းများသည် သမ္မုတိသစ္စာ မည်၏။ နောက် အမြင်သစ်သည် ပရမတ္ထသစ္စာ မည်၏။

ဤနည်းအတိုင်း ဆက်ကာ ဆက်ကာ ငြင်းပယ်ရမည်။ အယူဝါဒ တစ်ခုကိုလည်းကောင်း၊ ဝါဒအများကိုလည်းကောင်း စွဲလမ်းမှု ရှိပါက ဤနည်းကို သုံး၍ ဆင့်ကဲဆင့်ကဲ ငြင်းပယ်ရမည်။ (Negation of Negation) ဆင့်ကဲငြင်းပယ်မှုသည်သာလျှင် ပစ္စေကသစ္စာ (ကေဝလသစ္စာ) တံခါးဝသို့ ပို့ပေးနိုင်၏။

ပစ္စေကသစ္စာ (ကေဝလသစ္စာ) ကို တွယ်တာ ကပ်ငြိခြင်းဖြင့် မရမရောက်နိုင်ချေ။ သမ္မုတိသစ္စာ ရောစပ်ပါဝင်နေမှုကို လုံးဝ ဖယ်ရှားပစ်နိုင်သည့်အထိ အတောမသတ် ဆက်လက်ငြင်းပယ်ရမည်။ ဤသို့လျှင် -

ဒွေဓာဝိတက္ကနည်း = နှစ်ဘက်တွေးကြံနည်း၊
ဒွယတာနုပဿနာ = နှစ်ဘက်ရှုမြင်နည်း၊
Dialectic = အညမညနည်းဗေဒဖြင့် -

ရအပ်, ရောက်အပ်သော နောက်ဆုံးအမှန်တရား (အန္တိမသစ္စာ) သည် ပစ္စေကသစ္စာ သီးသန့် ကင်းလွတ်သော အမှန်တရားမည်၏။

ထိုနောက်ဆုံး သစ္စာတရားကို ရရန်အတွက် အထက်၌ ဖော်ပြပြီး ဖြစ်သော ရှစ်ချက်သော ငြင်းပယ်နည်း (မဇ္ဈိမပဋိပဒါ)ကို အသုံးပြုရမည်။ (သို့မဟုတ်) သမ္မုတိသစ္စာ ပရမတ္ထသစ္စာ နှစ်ပါးဖြင့် တည်ဆောက်ထားသော မဇ္ဈိမပဋိပဒါနည်းကိုလည်း အသုံးပြုနိုင်၏။

## ပဒငါးခုနှင့်မဇ္ဈိမပဋိပဒါသုံးဆင့်

**ပထမ**။ ။သင်္ခါရလောက၏ ချုပ်ငြိမ်းမှု ဖြစ်ပေါ်မှုတို့ကို တကယ် အမှန်တရား (သစ္စာ)ဟု ယူဆခြင်း၊ တစ်ဖက်သတ်အမြင်သာ ဖြစ်၏။ ပြီးပြည့်စုံသောအမြင် မဟုတ်ချေ။

ထို့ကြောင့် လောကထဲမှာသာဖြစ်၍ သမ္မုတိသစ္စာမည်၏။

ဒုတိယ။ ။သင်္ခါရ လောက၏ ချုပ်ငြိမ်းမှု ဖြစ်ပေါ်မှုသည် အမှန် တကယ် မရှိဟု ယူဆခြင်းသည် ပရမတ္ထသစ္စာဖြစ်သော်လည်း တစ်ဖက် စွန်းရောက် အမှန်တရားဖြစ်၏။

တတိယ။ ။သင်္ခါရတရားတို့သည် ခေတ္တခဏ ယာယီအားဖြင့် ဖြစ်ပျက် သည်ဟု ယူဆလျှင် သမ္မုတိသစ္စာနယ်ပယ်မှ မဇ္ဈိမပဋိပဒါ မည်၏။

စတုတ္ထ။ ။သင်္ခါရလောကသည် ခေတ္တခဏ ယာယီအားဖြင့် ဖြစ်ပျက် ခြင်း မရှိဟု ယူဆလျှင် ပရမတ္ထသစ္စာနယ်မှ မဇ္ဈိမပဋိပဒါ မည်၏။

ပဉ္စမ။ ။ဖြစ်ခြင်း, ပျက်ခြင်းလည်း မရှိ၊ မဖြစ်ခြင်း, မပျက်ခြင်းလည်း မရှိဟု ယူဆခြင်းသည် သမ္မုတိသစ္စာ, ပရမတ္ထသစ္စာ, နှစ်ပါး စုံ စုပေါင်း၍ ရှင်းလင်းထုတ်ဖော် ဟောကြားအပ်သော မဇ္ဈိမပဋိပဒါ မည်၏။

ဤသည်တို့ကို ပဒ ငါးခုနှင့် မဇ္ဈိမပဋိပဒါ သုံးဆင့်ဟု ခေါ်၏။

သုည။ ။သုည၏ အဓိပ္ပာယ်မှာ ပဋိလောမအားဖြင့် မရှိခြင်း ဗလာ သဘောဖြစ်၏။ အနုလောမအားဖြင့်မူ သမ္မုတိပညတ်ဖြစ်၏။ ဝိသေသလက္ခဏာမှ ကင်းသောသဘောဖြစ်၏။ အမှီခို ကင်းလွတ်သော သဘော မဟုတ်ချေ။ အကြောင်းတရားတို့သည် စုပေါင်း ဖြစ်စေအပ် သော သင်္ခတတရားဖြစ်၏။ ဤဂိုဏ်းက လုံးဝ ဘာမှမရှိခြင်းကို သုညဟု မဆိုလိုချေ။

ဤအကြောင်းတရားတို့ကို ပေါင်းဆုံခြင်း (ကာရဏသမဝါယ)ကို မဇ္ဈိမပဋိပဒါဟု ခေါ်၏။ ထိုမဇ္ဈိမပဋိပဒါမှာ သီးခြား ဂုဏ်အရည်အချင်း များ မရှိ၊ သီးခြား အမှတ်အသား (ဝိသေသလက္ခဏာ) မရှိ၊ လောကီနှင့် လောကုတ္တရာ, ပညတ်နှင့် ပရမတ်, သင်္ခတနှင့်အသင်္ခတ အားလုံး တစ်ခု တည်းအဖြစ် ပေါင်းစည်း၍ ပြီးပြည့်စုံသော သဘာဝတရားကြီးကို မဇ္ဈိမ

ပဋိပဒါ (ဝါ) သုညဟု ခေါ်၏။ မဟာယာနဂိုဏ်းသားတို့၏ သုညမှာ သုညဟု ခေါ်ခြင်းထက် 'ဝ'ဟု ခေါ်ပါက ပိုမိုသင့်လျော်ပေမည်။

## သုညတာလေးမျိုး

၁။ ပုဂ္ဂလသုညတာ ॰ ပုဂ္ဂိုလ်သတ္တဝါ၏ မရှိခြင်း၊ ဆိတ်သုဉ်းခြင်းဟု ဆိုလို၏။ အတ္တမရှိ၊ အနတ္တမျှသာဟု ဆိုလို၏။ (ထေရဝါဒ အဋ္ဌကထာများ၌ အတ္တသုညဟု ခေါ်၏။)

၂။ သဘာဝသုညတာ ॰ ပရမတ္ထတရား အသီးသီးသည် ပြုပြင်စီမံတတ်သော ကိုယ်ပိုင်စွမ်းအားသတ္တိ (ကာရကသတ္တိ) မရှိခြင်း ဆိတ်သုဉ်းခြင်းဟု ဆိုလို၏။
(ထေရဝါဒ အဋ္ဌကထာများ၌ သင်္ခါရသုညဟု ခေါ်၏။)

၃။ ပရမတ္ထသုညတာ ॰ လောကီနယ်ကို လွန်မြောက်၏။ ဆန့်ကျင်ဘက် တရားအားလုံး စုပေါင်းထားခြင်းဖြစ်၏။
ဖြစ်ခြင်းနှင့် ပျက်ခြင်း၊
ရှိခြင်းနှင့် မရှိခြင်း၊
အမှားနှင့် အမှန်
ဤသို့ ဆန့်ကျင်ဘက်သဘောတို့ကို စုပေါင်းထား၏။

၄။ အစ္စန္တသုညတာ ॰ တစ်စုံတစ်ရာနှင့် ဆက်စပ်ခြင်းမရှိ၊ မှီခိုခြင်းမရှိ၊ သီးသန့် ကင်းလွတ်စွာ ရှိသော သုညသဘော ဖြစ်၏။ အထက်တွင် ဖော်ပြထားသော သုညသုံးမျိုးကို ငြင်းပယ်ခြင်းနှင့် ရရှိသော သုညဖြစ်၏။

(ထေရဝါဒ၌ ပထမနှင့်ဒုတိယ သုညနှစ်မျိုးသာ လက်ခံ၏။ တတိယနှင့်စတုတ္ထသုညမှာ မဟာယာနတို့၏ တီထွင်ချက်ဖြစ်၍ ထေရဝါဒ၌ လက်မခံ။)

မာယာဝါဒ။ ။လှည့်ပတ်ခြင်းကို 'မာယာ'ဟု ခေါ်၏။ မရှိသဘော သုညကိုပင် ရှိသယောင် လှည့်စားပြခြင်းသည် လောက၏မာယာဖြစ်၏။ လောကသည် မျက်လှည့်ပြပွဲနှင့် တူ၏။

ရတနကူဋသုတ်၌ မျက်လှည့်ဆရာ ဘဒြအား ဟောကြားပုံမှာ - "သတ္တဝါတို့၏ ပျော်ရွှင်ချမ်းမြေ့မှု ပီတိသုခသည်လည်းကောင်း၊ လောကီ အာရုံ ကာမဂုဏ်တို့သည်လည်းကောင်း အတိတ်က တည်းဟူသော မာယာ၏ လှည့်စားချက်သာ ဖြစ်၏။ ဓမ္မမာယာ,က သံယာဟု ထင် ယောင်မှားစေ၏။ ဗုဒ္ဓသည်လည်း မာယာ၏ လှည့်စားချက်မျှသာ ဖြစ်၏။ ခပ်သိမ်းသော သဘာဝတရားတို့သည် အကြောင်းညီညွတ်မှု (ကာရဏ သမဝါယ) မာယာ၏ လှည့်စားချက်မျှသာ ဖြစ်ကုန်၏။

မာယာဝါဒသည် သုညတာကို ရှင်းပြရာမှ ပေါ်ထွက်လာခြင်းဖြစ်၏။

လောကသည် ဘာမျှမရှိ သုညသာဖြစ်၏။ အမည်ဝေါဟာရမျှသာ ရှိ၏။ အရှိဟု ထင်ရခြင်းမှာ မာယာ၏ လှည့်စားချက်သာ ဖြစ်၏။

ချမ်းသာခြင်း နှင့် ဆင်းရဲခြင်း၊
နှောင်ဖွဲ့ခံရခြင်း နှင့် လွတ်မြောက်ခြင်း၊
ဖြစ်ခြင်း နှင့် ပျက်ခြင်း၊
ရွေ့လျားခြင်း နှင့် ရပ်တည်ခြင်း၊
ဒေသ နှင့် ကာလ -

၎င်းတို့သည် အပြန်အလှန်မှီခိုထောက်ထားနေကြ၍ စိတ်ကူး ကြံဆ ချက်သက်သက်မျှသာ ဖြစ်ကုန်၏။ ထိုသို့ ကြံစည် စိတ်ကူးခြင်းသည် မာယာသာလျှင် ဖြစ်၏။ ဤသို့ မရှိခြင်း သုညသဘောကို ရှင်းပြရာ၌ မာယာဝါဒကို အသုံးပြုကြ၏။

အေဒီ ၇ ရာစု၌ ဟိန္ဒူဘုန်းကြီး ရှံကရသည် ဤမာယာဝါဒကိုပင် ဟိန္ဒူဝါဒအသွင်ပြောင်းလဲခဲ့၏။

**ဝိညာဏဝါဒီနှင့် သုညဝါဒီ။** ။ဝိညာဏဝါဒအရ ရုပ်ဝတ္ထုများရှိ ကြောင်းကို (စိတ်က သိခြင်းဖြင့်) စိတ်က သက်သေခံ၏။ သို့ရာတွင် စိတ်ရှိကြောင်းကို အဘယ်အရာက သက်သေခံ မည်နည်း။ အမှောင်ခန်းတွင်းသို့ ဆီမီးကို သယ်ဆောင်သွားသောအခါ အခန်းထဲရှိ စားပွဲကုလားထိုင်တို့ ရှိကြောင်းကို ဆီမီးက ထွန်းပြနိုင်၏။

ထို့ပြင် ဆီမီးရှိကြောင်းကိုလည်း ထိုဆီမီးတောက်ကပင် ပြနိုင်၏။ ဤသို့ နှစ်ကိစ္စ ပြုလုပ်နိုင်သကဲ့သို့ ရုပ်ကို သိသော စိတ်ဝိညာဏ်သည် မိမိကိုယ်ကိုလည်း ပြန်လည်သိနိုင်ပါသည်ဟု ရှင်းပြကြ၏။

ဆီမီးသည် စားပွဲကုလားထိုင်ကို ထွန်းပြရာ၌ အပြခံအရာဝတ္ထုသည် ကြိုတင်ရှိနှင့်၏။ ထို့အတူ စိတ်သည် မိမိကိုယ်ကို ပြန်လည်၍ သိနိုင်ရန် ကြိုတင်ရှိနှင့်ပြီး ဖြစ်ရပေမည်။ သို့ရာတွင် စိတ်သည် ဖြစ်, ပျက် ခဏိကသဘောဖြစ်၍ ကြိုတင်၍ မတည်ရှိချေ။ ဖြစ်ပြီးနောက် ချုပ်ပျောက်တတ်သော စိတ်သည် မိမိကိုယ်ကို ပြန်၍မသိနိုင်ဟု သုညဝါဒီက ဆို၏။

'စားသည်'ဟု ဆိုရာ၌ စားတတ်သူ, စားစရာ, စားခြင်းကြိယာဟု သုံးမျိုးရှိ၏။ ထို့အတူ 'သိသည်'ဟု ဆိုရာ၌ သိတတ်သူ, သိစရာ, သိခြင်းကြိယာ ဟူ၍ သုံးမျိုးရှိရပေမည်။ ဝိညာဏဝါဒအရ သိစရာအာရုံ (ပြင်ပဝတ္ထု) မရှိဟု ဆို၏။ ထိုသို့ သိစရာမရှိလျှင် သိခြင်းဟူ၍ မရှိနိုင်။ သိတတ်သော စိတ်လည်း မရှိနိုင်၊ အာရုံမရှိလျှင် စိတ်မရှိနိုင်၊ စိတ်မရှိက အာရုံရှိ-မရှိ သက်သေအထောက်အထား မပြုနိုင်ချေ။ အာရုံဟူသည် စိတ်တစ်ခြမ်းကို အာရုံအဖြစ်ဖြင့် ခွဲထုတ်ထားသည်ဟု ဝိညာဏဝါဒီတို့က ဆိုခြင်းမှာ မဖြစ်နိုင်ချေ။

မည်သည့်အရာမျှ ရှိကြောင်းကို သက်သေအထောက်အထား မပြနိုင်။ ထို့ကြောင့် သုညသာ ဖြစ်ရမည်။ အကြောင်းနှင့်အကျိုးသည် အချင်းချင်း အပြန်အလှန် ငဲ့ကွက်နေ၏။ (အညမညအပေက္ခိတဗ္ဗ) ဓမ္မတရားတို့သည် ကိုယ်တိုင်လည်း မဖြစ်တတ်၊ သူတစ်ပါး အကူအညီကြောင့်လည်း မဖြစ်တတ်၊ သူတစ်ပါးကိုလည်း မဖြစ်စေတတ်၊ မိမိ သူတစ်ပါး နှစ်ပါးစုံကြောင့်လည်း မဖြစ်တတ်၊ အကြောင်းမဲ့သက်သက်ကြောင့်လည်း မဖြစ်တတ်၊ မဖြစ်လျှင် မပျက်၊ မပျက်လျှင် မဖြစ်၊ ဖြစ်ခြင်းနှင့် ပျက်ခြင်းသည် ဆန့်ကျင်ဘက်ဖြစ်၍ အတူတကွ မတည်နိုင်၊ အချင်းချင်း ပြန်လှန်မှီခိုနေရ၍ (အညမညအပေက္ခိတဗ္ဗ) သီးခြားစီ ကင်း၍လည်း မတည်နိုင်။ ကြံစည်မှု (ပရိကပ္ပ), လှည့်စားမှု (မာယာ)ကို ကျော်လွှားနိုင်ပါက

လောကသည် သုညသာဖြစ်ကြောင်း သိမြင်မည်ဟု ဆိုကြ၏။ သုညကို ဝေါဟာရစကားဖြင့် သရုပ်ပေါ်အောင် ပြောပြ၍ မရဟု ဆို၏။ ကိုယ်တိုင် ခံစားရသောအခါ သိနိုင်မည်ဟု ဆို၏။

ဤဂိုဏ်းက ယူဆသော သုညတာမှာ ဘာမျှမရှိခြင်းကို ဆိုလိုသည် မဟုတ်၊ စိတ်ကူးသက်သက်မျှသာ မဟုတ်၊ ကျွန်ုပ်တို့၏ စိတ်ဝိညာဏ်သည် အစွဲအလမ်းများဖြင့် ချွတ်မရအောင် ပေကျံနေသော စက္ကူကားချပ်ကြီးနှင့် တူ၏။ ထိုပေကျံသော ကားချပ်နေရာ၌ စက္ကူတစ်ချပ်ကို အစားထိုးပေးသကဲ့သို့ အစွဲအလမ်းကင်းသော သဘောတစ်ခု (သုည) ပေါ်လာအောင် ငြင်းပယ်နည်းကို အသုံးပြုထားသည်ဟု ဆို၏။

## သုညအကျိုး

ပုဂ္ဂိုလ်သတ္တဝါ မရှိခြင်း၊ အတ္တ မရှိခြင်း၊ ဆိတ်သုဉ်းခြင်း သဘောကို ဗုဒ္ဓကိုယ်တိုင် ဟောတော်မူခဲ့၏။ ရည်ရွယ်ချက်မှာ အတ္တအစွဲကို ပယ်ဖျက်ရန် ဖြစ်၏။ အတ္တစွဲမရှိက နိဗ္ဗာန်ကို သိမြင်ရန် ဖြစ်၏။

ထိုသုညသဘောကို မဓျမိက (မဇ္ဈိမိက)ဂိုဏ်းသားများက ထပ်မံချဲ့ထွင်ကြ၍ မလိုလားအပ်သော မာယာဝါဒ တန္တရဝါဒများဆီသို့ တစ်ဘက်စောင်းသွား၏။

ထိုမရှိခြင်းသဘော (သုည)ကို ဝဖြင့်သာ သင်္ကေတပြုလုပ်ရေးသားကြရာမှ ဂဏန်းသင်္ချာ၌ သုံးစွဲကြ၏။ ရှေးခေတ်က အနောက်တိုင်းသားတို့သည် သုညကို မတီထွင်တတ်သခြင့် X,C,L, စသည်ဖြင့် ရှုပ်ထွေးရှည်လျားစွာ ဂဏန်းများ ရေးသားခဲ့ကြရ၏။

အိန္ဒိယနိုင်ငံမှ တီထွင်လိုက်သော သုည ဝ သည် အေဒီ ၉၅၀ တွင် အီဂျစ်သို့ ရောက်၍ အာရဗီဘာသာဖြင့် "Shifr" ဟု ခေါ်၏။ သက္ကတဘာသာ "Shunya" မှ ပြောင်းလဲ၍ "Shifr" ဖြစ်၏။ ထိုမှတစ်ဆင့် ဂရိနိုင်ငံ၊ ရောမနိုင်ငံသို့ ရောက်၏။ လက်တင်ဘာသာဖြင့် "Cifra"ဟု ခေါ်၏။

အေဒီ ၁၁၅၀ တွင် ဥရောပတိုက်သို့ ရောက်၏။ အင်္ဂလိပ်ဘာသာဖြင့် သုညကို "Cypher" ဟု ခေါ်၏။

ထိုသုညကို ရရှိချိန်မှစ၍ စာရင်းအင်းပြုစုရာ၌လည်းကောင်း၊ ဂဏန်းသင်္ချာတွက်ရာ၌လည်းကောင်း လျင်မြန်စွာ တိုးတက်လာ၏။

Pyrrhon တတ္တဝါဒ။ ။သာသနာသက္ကရာဇ် ၂၀၀ ကျော်က ပေါ်ထွန်းခဲ့သော ဂရိလူမျိုး ပညာရှင်ကြီး Pyrrhon သည် သဗ္ဗညုတဉာဏ်ကို လက်ခံ၏။

သူ၏ဟောကြားချက်များမှာ တဏှာပေမမှ လွတ်မြောက်ရေးသည် ဘဝ၌ အကြီးဆုံး ရည်ရွယ်ချက်ဖြစ်၏။ အရာရာကို ဆုံးဖြတ်ချက် မချရ၊ အတည်ပြုချက် မလုပ်ရ၊ လျစ်လျူရှုမည်၊ မည်သည့်ဘက်မျှ မလိုက်ပါမိအောင် ထိန်းရမည်။ ဘက်လိုက်မှု မရှိရ၊ ငြိကပ်မှု မရှိရ၊ ငြင်းပယ်ခြင်းဖြင့်သာ သဘာဝအမှန်ကို သိနိုင်မည်။

အရာခပ်သိမ်းသည် ကွဲပြားခြင်းမရှိ။ (အဘေဒ)

ဝေါဟာရစကားဖြင့် ပြောပြ၍မရ (အနိဗ္ဗစနိယ)၊ မဇ္ဈိမကဝါဒနှင့် ဆင်တူသည်က များ၏။

Pyrrhon သည် Anaxarchos နှင့် အတူတကွ Alexander ၏ စစ်တပ်၌ လိုက်ပါသွားရာ အိန္ဒိယပြည်မှ ဤဝါဒကို ရခဲ့ဟန်တူ၏။ သို့ရာတွင် သူ၏ ဟောကြားချက်များ၌ အဟိံသစသော ဂျိန်းဝါဒများ ပါဝင်နေ၏။ တစ်ဖက်သား စိတ်မပင်ပန်းစေလိုသဖြင့် ကျမ်းမပြုခဲ့ဟု ဆို၏။ သူသည် အာရှတိုက်မှ အပြန်တွင် ဤဝါဒကို ဟောကြား၏။ ထို့ကြောင့် မဇ္ဈိမက သုညဝါဒသည် အသောကခေတ်မတိုင်မီကပင် ပေါ်ထွန်းနေပြီးဖြစ်ရပေမည်။ ထို့ပြင် ကထာဝတ္ထုကျမ်း၌လည်း သုညတာအကြောင်း ဆွေးနွေးသည်ကို တွေ့ရ၏။

# မဇ္ဈိမိကာသမိုင်းစဉ်

ကထာဝတ္ထုကျမ်း သုညတာကထာတွင် ခန္ဓာငါးပါး၏ အနတ္တသဘောကို ပရိယာယပန္နသုညတာဟု အမည်ပေး၍ နိဗ္ဗာန်၏ အနတ္တသဘောကိုမူ အပရိယာပန္နသုညတာဟု ခွဲခြားအမည်ပေးထား၏။ အန္ဓကဂိုဏ်းသား တို့က သုညတာမှန်သမျှကို သင်္ခါရတရား၌ အကျုံးဝင်သည့် (ပရိယာ ပန္န) ဟု ဆိုကြ၏။ နိဗ္ဗာန်ကို သင်္ခါရနယ်အတွင်း ပြန်လည်သွင်းရန် ကြိုးပမ်းခြင်းဖြစ်၏။

သုညဝါဒနှင့် မာယာဝါဒများသည် တတိယသင်္ဂါယနာတင်ခေတ် က ပေါ်ပေါက်သော်လည်း မဇ္ဈိမိကဂိုဏ်းမှာမူ သာသနာနှစ် ၇၀၀ ခန့်၌ စတင်ပေါ်ပေါက်ခဲ့သည်။

ဤဂိုဏ်းကို စတင်တည်ထောင်သူမှာ နာဂအဇ္ဇုနဖြစ်၏။ နဂါး ကိုးကွယ်သော အမျိုးဖြစ်၍ 'နာဂ'ဟု အမည်ပေးရ၏။ ခေါင်းပေါ်၌ မြွေဟောက်ပါးပျဉ်းမိုးလျက် မြွေဟောက်များ ရစ်ပတ်ထားသော နာဂ အဇ္ဇုန၏ ပုံတူရုပ်တုကို နာလန္ဒတက္ကသိုလ်ကျောင်းတော် အုတ်နံရံ၌ တွေ့မြင်ရ၏။ အဇ္ဇုနမှာ (ဖောက်ကြံ့) ထောက်ကြံ့ပင်ဟု ဆိုလို၏။ ထောက်ကြံ့ပင်ရိပ်၌ မွေးဖွား၍ 'အဇ္ဇုန'ဟု အမည်ပေးရ၏။ နာဂအဇ္ဇုန ပေါ်ပေါက်မည်ကို ဗုဒ္ဓဘုရားရှင်က ဗျာဒိတ်တော်ထားခဲ့သည် ဟူ၏။

နာဂအဇ္ဇုန၏ မွေးရပ်ဒေသမှာ ရှေးခေတ်အခေါ် ဝိဒဗ္ဘတိုင်း၊ ဤခေတ်အခေါ် ဒက်ကန်ကုန်းမြင့်ဒေသ၊ အမရဝတီနှင့် နာဂအဇ္ဇုန ကုဏ္ဍာမြို့အနီး၌ မွေးဖွားခဲ့သည်။ ရသာယနခေါ် အသက်ရှည်ဆေးကို တတ်ကျွမ်း၏၊ မန္တရား ဗေဒင်တတ်ကျွမ်း၏။

ဗုဒ္ဓသည် လူပြည်တွင် သာဝကလမ်းစဉ်ကိုသာ ဟောခဲ့၏။ ပါတာလ ခေါ် နဂါးပြည်တွင်မူ ပို၍ နက်နဲခက်ခဲသော ဗောဓိသတ္တလမ်းစဉ်နှင့် သုညဝါဒကို ဟောကြားခဲ့၏။ နာဂအဇ္ဇုနကို နဂါးပြည် ပါတာလနန်းတော်သို့ ပင့်ဆောင်၍ နဂါးမင်းက သုညဝါဒကို သင်ကြားပေးလိုက်၏။ ထို့ကြောင့် ဤဝါဒကို နာဂအဇ္ဇုနက ယူဆောင်ခဲ့သည်ဟု ဆိုကြသည်။

သဒ္ဓမ္မပုဏ္ဍရိကကျမ်းနှင့် ပညာပါရမီတာ ကျမ်းများမှာ ဤဂိုဏ်းအတွက် ပါဠိတော်များဖြစ်၏။

**နာဂအဇ္ဇုနပြုသောကျမ်းများ**

၁။ မဇ္ဈိမိကကာရိကာ = မဇ္ဈိမိကသတ္တ၊ မဇ္ဈိမပဋိပဒါခေါ် သုညဝါဒကို ဖွင့်ဆိုရှင်းလင်းပြသောကျမ်း ဖြစ်၏။

၂။ ယုတ္တိသဋ္ဌိကာသတ္တ၊ (ယုတ္တိ = ဆင်ခြင်အကြောင်းပြ+သဋ္ဌိ=၆၀) ယုတ္တိ (၆၀) ပါဝင်သော ကျမ်းဟုဆို လို၏။

၃။ ပမာဏဝိဒ္ဓံသန (ပမာဏ = မှန်ကန်ပြီဟု စံအဖြစ်ဖြင့် အများလက်ခံချက် + ဝိဒ္ဓံသန = ပယ်ဖျက်ခြင်း)

၄။ ဥပါယကောသလ္လ = (ဥပါယ = နည်းနာနယ + ကောသလ္လ = ကျွမ်းကျင်နိုင်နင်းမှု) ဤကျမ်းနှစ်ကျမ်းမှာ တက္ကဗေဒ လောဂျစ်နည်းများမှ မှားယွင်းပုံကို ပြဆို၍ ဆန့်ကျင်ဘက်ပေါ် အနိုင်ယူ ပြောဆိုနည်းများကို ပြထားသည်)

၅။ ဝိဂ္ဂဟဗျာဝတ္တနီ = (ဝိဂ္ဂဟ = အနက်အဓိပ္ပာယ်ဖွင့်ဆိုမှု၊ ဗျာဝတ္တနီ = လည်ခြင်း) သုညဝါဒကို တစ်ဖက်သားတို့ မဖျက်နိုင်အောင် အနက်အဓိပ္ပာယ် ရှင်းလင်းဖွင့်ဆိုထားသည်။

၆။ သုဟာဒယလေခ = (သုဟာဒယ = မိတ်ဆွေထံ + လေခ = စာရေးခြင်း)

ဤကျမ်း၌ နာဂအဇ္ဇုနသည် မိမိမိတ်ဆွေအား ပညတ်နှင့် ပရမတ်ခွဲခြားသင်ပြသည်။

## နာဂအဇ္ဇုန အဆက်အနွယ်

၁။ အရိယဒေဝ ။ (သာသနာနှစ် ၇၀၀-ကျော်) နာဂအဇ္ဇုန၏ တပည့်ကြီးဖြစ်၏။ သီဟဠပူရပြည်နယ်မှ ဘုရင့်သားတော် ဖြစ်၏။ ဗုဒ္ဓအယူဝါဒနှင့် ဟိန္ဒူအယူဝါဒ အားလုံးကို တတ်ကျွမ်း၏။ သုညဝါဒနှင့်ဆိုင်သော ကျမ်းလေးစောင်၊ တန္တရနှင့်ဆိုင်သော ကျမ်းခြောက်စောင် ရေးသားခဲ့၏။

၂။ ဗုဒ္ဓပါလိတ ။ (သာသနာနှစ် ၁၀၀၀-ခန့်) ပသင်္ဂိကဂိုဏ်းခေါ် မဇ္ဈိမိကဂိုဏ်းကို တည်ထောင်၏။

၃။ ဘာဝဝိဝေက ။ (သာသနာနှစ် ၁၀၀၀-ခန့်) သကတန္တရခေါ် ဂိုဏ်းကွဲတစ်ခု တည်ထောင်၏။

၄။ စန္ဒြကိတ္တိ ။ (သာသနာနှစ် ၁၀၀၀-ခန့်) နာဂအဇ္ဇုန ရေးသော မဇ္ဈိမိကသတ္တကျမ်း၏အဖွင့် ပသန္နပဒါကျမ်းကို ရေးသားခဲ့၏။ စန္ဒြကိတ္တိလက်ထက်၌ သုညဝါဒ အစွမ်းကုန်တိုးတက်ခဲ့သည်။

၅။ သန္တိဒေဝ ။ (သာသနာနှစ် ၁၂၀၀-ခန့်) သုရဋ္ဌပြည့်ရှင် ဘုရင့်သားတော်ဖြစ်၏။ တာရာဒေဝီမယ်တော် နတ်သမီး၏ တိုက်တွန်းမှုကြောင့် ထီးနန်းစွန့်၍ ရဟန်းပြုခဲ့သည်ဟု ဆို၏။

ဤသုညဝါဒကို တရုတ်ပြည်သို့ ကုမာရဇီဝက ပို့ဆောင်ဖြန့်ချိခဲ့သည်။

တရုတ်ပြည်တွင် တီယင်တိုင်းဂိုဏ်းနှင့် စံလွန်းဂိုဏ်းအမည်ဖြင့် တည်ရှိခဲ့သည်။ ဂျပန်ပြည်တွင် တင်ဒိုင်းဂိုဏ်း၊ နီချိရင်ဂိုဏ်း၊ စံလွန်း ဂိုဏ်းများအဖြစ် တည်ရှိသည်။

# မဟာယာနဂိုဏ်း

မဟာယာန = (မဟာ=ကြီးကျယ်သော + ယာန=ယာဉ်)

သတ္တဝါအားလုံးကို နိဗ္ဗာန်ရွှေပြည်အရောက် သယ်ယူပို့ဆောင်ပေးမည့် ကြီးကျယ်သောယာဉ်ဟု ဆိုလိုသည်။ မဟာယာနဝါဒမှာ တစ်ဦးတစ်ယောက်တည်း လွတ်မြောက်မှုသည် လွတ်မြောက်မှုအစစ် မဟုတ်ချေ။ တစ်လောကလုံး တစ်ယောက်မကျန် အကုန်အစင် လွတ်မြောက်ပါမှ လွတ်မြောက်မှုအစစ် ဖြစ်သည်ဟု ဆို၏။

မဟာယာနဂိုဏ်းသည် မဟာသံဃိကဂိုဏ်း၊ အန္ဓကဂိုဏ်းများမှ ပေါက်ပွားလာခဲ့၏။ ကနိရှကမင်း၏ သင်္ဂါယနာ၌ မဟာယာနဂိုဏ်းဝင်များ ပါဝင်ခဲ့သည်ဟု ဆို၏။ အမှန်စင်စစ် မဟာယာန၏ အယူအဆအချို့သည် တတိယသင်္ဂါယနာ အသောကခေတ် မတိုင်မီကပင် ရှိနှင့်လေပြီ။ ကထာဝတ္ထုကျမ်း၌ "ရဟန္တာသည် ညအခါ အိပ်ပျော်စဉ် သုက်လွှတ်သေး၏။ မာတုဂါမနှင့် မေထုန်မှီဝဲသေး၏" စသည့် ဝါဒများကို ကထာဝတ္ထုကျမ်း၌ ဆွေးနွေးဖော်ပြထားသည်ကို တွေ့ရ၏။ ရဟန္တာသည် ရာဂမကုန်သေး၊ ထို့ကြောင့် မောဟလည်း မကုန်သေး။ မောဟ မကုန်သဖြင့် တရားအားလုံးကို သိသူ (သဗ္ဗညု) မဖြစ်။ ကိလေသာ မောဟတရား ကုန်စင်ပါက အကြွင်းအကျန်မရှိ၊ အကုန်အစင် သိမြင်ရမည်။ ဗုဒ္ဓဘုရားသာလျှင် ကုန်စင်အောင် သိမြင်သောကြောင့် သဗ္ဗညုဖြစ်၏။ သဗ္ဗညုဖြစ်မှ ကိလေသာကုန်စင်သည်ဟု ယူဆကြ၏။

မဟာယာနတို့သည် သဘောတရားရေးအမြင် ခိုင်မာခြင်း မရှိပေ။ လိုက်လျောညီထွေ လုပ်တတ်၏။ တစ်နည်းဆိုသော် အညွှာလွယ်၏။

ဝိနည်းသိက္ခာပုဒ်များကို မလေးစား၊ လူ့ဝတ်ကြောင်နှင့် မထူးခြားလှချေ။ မိန်းမများ, စာမတတ်သူများ မင်္ဂဖိုလ်ရရေးကို ဦးစားပေး၏။ ထက်မြက်သော စာတတ်ပေတတ် ရဟန်းများ မင်္ဂဖိုလ်ရရန် မလွယ်ဟု ဆိုကြ၏။ နောက်ပေါ် ကျမ်းစာများကို အလေးထားကြ၏။ ဗုဒ္ဓကို တကယ့် လူသား စစ်စစ်မှ ကောင်းကင်ဘုံသို့ ပို့လိုက်ကြ၏။ ဗုဒ္ဓအစစ်သည် ဤလူ့ပြည်၌ ပဋိသန္ဓေမနေ။ ဖန်ဆင်းရုပ်ပွား (နိမ္မိတရုပ်)သာလျှင် လူ့ပြည်၌ ပဋိသန္ဓေနေဟန်၊ မွေးဖွားဟန်၊ တောထွက်ဟန်၊ တရားဟောကြားဟန်၊ ဆွမ်းစားဟန် စသည် ပြုမူ၏။ လူတို့မျက်စိ၌ တကယ့်လူသားဟု ထင်မှတ်စေ၏။

သာကီနွယ်ဖွား ဂေါတမဘုရားသည် နိဗ္ဗာန်ဘုံ၌ စံနေသော ဗုဒ္ဓအစစ်၏ ကိုယ်ပွားသာဖြစ်၏။ ဗုဒ္ဓ၏ ကာယသုံးပါးကို တီထွင်ဟောပြောကြ၏။

ဓမ္မကာယ၊ သမ္ဘောဂကာယ၊ နိမ္မာနကာယ ဟူ၍ သုံးမျိုးခွဲကြ၏။ (ဤကာယသုံးမျိုးကို ယောဂါစာရဂိုဏ်း၌ ရှင်းပြခဲ့ပြီ။) ဘုရားလောင်း (ဗောဓိသတ္တ)များကို တီထွင်ကြ၏။ ဗောဓိသတ္တဝါဒကို မဟာယာနသာမဟုတ်၊ ဟီနယာနဖြစ်သော သဗ္ဗတ္ထိဝါဒဂိုဏ်းကလည်း ဦးစားပေး၏။

သဗ္ဗတ္ထိဝါဒ အဘိဓမ္မာဖြစ်သာ အဘိဓမ္မကောသ၌ -

"သနားကရုဏာ ကင်းမဲ့သူတို့သည် သူတစ်ပါး၏ ဒုက္ခကို ကြည့်၍ အရသာယူတတ်ကြ၏။ ထိုနှင့် ဆန့်ကျင်ဘက်အားဖြင့် ဗောဓိသတ္တသည် သူတစ်ပါးအား ကူညီရခြင်း, ကယ်ဆယ်ရခြင်း, သူတစ်ပါးအတွက် ဒုက္ခခံရခြင်း၌ ပျော်မွေ့၏။ သံသရာဘဝအဆက်ဆက်က ဝါသနာထုံလာသော အတ္တအယူရှိသူသည် အနတ္တအသံကြားရက နားခါး၏။ ဗောဓိသတ္တသည်ကား အနတ္တအမြင်သန်နေကြသဖြင့် အတ္တစွဲနေသော သတ္တဝါအပေါင်းကို သနားကြင်နာ၏"ဟု ဖော်ပြထား၏။

ရဟန္တာသည် မိမိတစ်ဦးတည်း နိဗ္ဗာန်ဝင်၍ သူတစ်ပါးကို ချန်ပစ်ထားခဲ့၏။ ဤအချက်ကို ကြည့်၍ ငါ သူတစ်ပါး (အတ္တ ပရ) ခွဲခြားသော အမြင်ရှိနေသေးကြောင်း တွေ့ရ၏။ ထို့ကြောင့် ငါစွဲ (အတ္တ) ကို ကုန်စင်

အောင် မပယ်နိုင်။ ဗောဓိသတ္တ (ဘုရားအလောင်း) မူကား မိမိရော သတ္တဝါအားလုံးပါ မခွဲခြားဘဲ အတူတကွ နိဗ္ဗာန်သို့ တစ်ပြိုင်တည်း ရောက်စေရန် အားထုတ်နေ၏။

ပညာပါရမိတာကျမ်းမှ -

သာဝကယာနကျင့်စဉ်နှင့် ပစ္စေကဗုဒ္ဓယာနကျင့်စဉ်ကို လိုက်သူ တို့သည် ဤသို့ ကြံစည်၏၊ "ငါ တစ်ဦးတည်း ယဉ်ကျေးစေအံ့၊ ငြိမ်းချမ်းစေအံ့၊ နိဗ္ဗာန်ဝင်စေအံ့"ဟု ကြံစည်၏။ တစ်ကိုယ်တည်း ငြိမ်းချမ်းရေး နိဗ္ဗာန်ရရှိရေးအတွက် အားထုတ်ကုန်၏။

"ဗောဓိသတ္တ (ဘုရားလောင်း) ၏ စိတ်ထားမှာ ငါသည်လည်း နိဗ္ဗာန်ဝင်အံ့၊ သတ္တဝါ အသင်္ချေအနန္တကိုလည်း နိဗ္ဗာန်သို့ ပို့ဆောင် အံ့"ဟု ကြံ၏။

ဝဇိရသုတ္တကျမ်းမှ -

အို သုဘူတိ၊ ဗောဓိသတ္တသည် ဤသို့ ကြံ၏။ ဥခွံတွင်းရှိသတ္တဝါ, ဝမ်းဗိုက်အတွင်းရှိသတ္တဝါ, အညစ်အကြေး၌ ကပ်ရောက်ဖြစ်ပေါ် သောသတ္တဝါ, နတ်လူပြဟ္မာသတ္တဝါအားလုံးကို ငါသည် ဦးဆောင် ၍ နိဗ္ဗာန်သို့ ပို့အံ့၊ တစ်ဦးမျှ မကျန်စေရ၊ သတ္တဝါတို့ကို နိဗ္ဗာန်သို့ ပို့ဆောင်နေသော်လည်း သတ္တဝါဟု ထင်မြင်ယူဆပါက သဗ္ဗညုဗုဒ္ဓ မဖြစ်နိုင်ချေ။ (သဗ္ဗညု = ခပ်သိမ်းကုန်စုံအောင် သိသူ)

ကရုဏာစိတ်က သတ္တဝါဟု မြင်၍ ပညာက သတ္တဝါ မဟုတ်ဟု မြင်၏။

ဗောဓိသတ္တ (ဘုရားလောင်း) သည် သတ္တဝါတို့အပေါ်၌ သနား ကြင်နာလှသဖြင့် ဇာတိဒုက္ခ - (မွေးဖွားခြင်း)၊ မရဏဒုက္ခ - (သေခြင်း)မှ မကြောက်နိုင်ရှာဘဲ သံသရာစက်ဝိုင်းသို့ ဝင်ရောက်၍ ဆင်းရဲဒုက္ခခံရ၏။

မိမိတစ်ဦးတည်း နိဗ္ဗာန်သို့ ရောက်စေနိုင်မည့် ရဟန္တာကျင့်စဉ် (သာဝကယာန) နှင့် ဘုရားငယ်ကျင့်စဉ် (ပစ္စေကဗုဒ္ဓယာန)တို့ကို လုံးဝ

ပစ်ပယ်၍ ဘုရားလောင်းလမ်းစဉ် (မဟာယာန)တစ်ခုတည်းကို လက်ခံသူမှသာ မဟာယာနဂိုဏ်းဝင် ဖြစ်နိုင်၏။

ထို့ပြင် မဟာယာနတို့၏ တိုးချဲ့ထားသော အောက်ပါ အဘိဓမ္မာသဘောထားများကို လက်ခံမှသာလျှင် မဟာယာနဂိုဏ်းဝင် ဖြစ်နိုင်၏။

အာလယဝိညာဏ်, တထတာ, တထာဂတ, တထာဂတဂဗ္ဘ, ဓမ္မဓာတု ဤသဘောတရားများကို လက်ခံမှသာလျှင် မဟာယာနဂိုဏ်းဝင် ဖြစ်သည်။ သဗ္ဗတ္ထိဝါဒီ စသော ရှေးဟိုင်းဂိုဏ်းများသည် ဤသဘောတရားများကို လက်မခံကြသဖြင့် မဟာယာန မဖြစ်လာဘဲ ဟီနယာနဟု ကင်ပွန်းတပ်ခံကြရ၏။

အာလယဝိညာဏ်။ ။ အာလယဝိညာဏ်ဆိုသည်မှာ ထေရဝါဒ၌ ဖော်ပြထားသော ဝိညာဏ်ခြောက်ပါးထက် ပိုလွန်၍ နောက်ထပ်တိုးထားသော သတ္တမမြောက်ဝိညာဏ် ဖြစ်၏။ ကျွန်ုပ်တို့ ပြုသမျှသော ကုသိုလ်ကံ, အကုသိုလ်ကံ မျိုးစေ့များ၏ သိုမှီးသိမ်းဆည်းထားရာဌာနဟု ဆိုလို၏။ (အာလယ = သိုမှီးရာဌာန)

တထတာ။ ။အာလယဝိညာဏ်၏ တည်ရာမှီရာ မူရင်းအကြောင်းတရားမှာ တထတာ ဖြစ်၏။

နာမည်ပေးရန်လည်း ခက်ခဲ၍ အဓိပ္ပာယ်ဖွင့်ဆိုရှင်းပြရန် ခက်ခဲသော မူလဓာတ်ကြီးကို 'တထတာ' ဟု ခေါ်၏။

တထတာ = တထာ + တာ။

(တထာ=ထို့အတူ + တာ=သဘာဝစွမ်းအင်)

ထို့အတူ မူလရှိရင်းအတိုင်း, နဂိုရ်အတိုင်း ရှိ၍ တစ်စုံတစ်ရာ ပြောင်းလဲခြင်း မရှိ၊ မည်သည့်အချိန်မှာပင်မဆို ထို့အတူ ထိုအတိုင်းသာ ရှိနေ၏။ တထတာသည် မလှုပ်မယှက် တည်ငြိမ်နေ၏။ ထိုသို့ တည်ငြိမ်နေခိုက်၌ တထတာသည် တည်နေရာဒေသ မရှိ။ အာကာသအတွင်း၌ နေရာယူခြင်း မရှိ။ လှုပ်ရှား ပြောင်းလဲခြင်း၊ ဖြစ်ပျက်ခြင်းကင်းသဖြင့်

အတိတ် အနာဂတ် ပစ္စုပ္ပန် ကာလသုံးပါးမှ လွတ်၏။ ထိုသို့ ကာလနှင့် အာကာသမှ ကင်းလွတ်နေသဖြင့် ကျွန်ုပ်တို့ သိနားလည်ရန် ခက်ခဲ၏။ ပိုင်းခြားကန့်သတ်မှု မရှိသောကြောင့် ပုံသဏ္ဌာန် အရိပ်နိမိတ်လည်း မရှိ၊ အရောင်အဆင်းလည်း မရှိ၊ အနံ့အရသာ၊ အတွေ့အထိလည်း မရှိ။ ထို့ကြောင့် 'တထတာ' ခေါ်သော မူလဓာတ်ကြီးကို သိရန်မြင်ရန် ခက်၏။ တထတာကို 'ပရမတ္ထသစ္စာ'ဟု ခေါ်၏။ 'နိဗ္ဗာန်'ဆိုသည်မှာ တည်ငြိမ်သော တထတာကို ခေါ်သည်။

## လောကနှင့်နိဗ္ဗာန် ထပ်တူညီ၏

တထတာသည် တည်ငြိမ်သော အခြေအနေမှ ပြောင်းလဲ၍ မတည်မငြိမ် လှုပ်ရှားပြောင်းလဲလာသောအခါ သတ္တဝါ၏အသွင်ကို ဆောင်၏။ စင်ကြယ်သော အကြောင်းများက လှုပ်ရှားစေသောအခါ မြင့်မြတ်သော လူနတ်ပြဟ္မာ အသွင်ကို ဆောင်၏။ ယုတ်ညံ့သော အကြောင်းတရားက လှုပ်ရှားစေသောအခါ အနိမ့်စားသတ္တဝါ အသွင်ကို ဆောင်၏။ သက်ရှိသတ္တဝါသာမက သက်မဲ့ဟု ခေါ်နေကြသော သစ်ပင် တော တောင် ရေ မြေ အဇုမျိုးမှုန်တို့သည်လည်း တထတာ၏ အသွင်ပြောင်းလက္ခဏာတို့ ဖြစ်ကုန်၏။

မဟာယာနဝါဒအရ မြူမှုန်တို့သည်လည်း အနိမ့်စား သတ္တဝါတို့သာ ဖြစ်ကုန်၏။ ထို့ကြောင့် ရှိရှိသမျှ ရုပ်နာမ် သင်္ခါရဓမ္မ အားလုံးသည် တထတာခေါ် မူလဓာတ်ကြီး၏ အသွင်ပြောင်းများဖြစ်ကြ၍ တစ်ပြေးညီညာတူကြ၏။ ဉာဏ်ပညာ အနုအရင့်၊ အနည်းနှင့်အများမျှသာ ကွာခြား၏။ မိမိကိုယ်ကို တစ်လောကလုံးနှင့် ထပ်တူညီသည်ဟု မှတ်ယူရမည်။ ဗောဓိသတ္တ ဘုရားလောင်းသည် သတ္တဝါအားလုံးကို ပညာဉာဏ် အဆင့်မြင့်အောင် ဦးဆောင်မှုပေးရမည်။ ဉာဏ်ပညာကြီးမားသော ဗောဓိသတ္တဝါများက အနိမ့်စား သတ္တဝါများကို ဗောဓိသတ္တအဆင့် ရောက်အောင် ကယ်တင်ကြရမည်။ သတ္တဝါအားလုံး ဗောဓိသတ္တအဆင့် ရောက်ပြီးနောက် တစ်ပြိုင်နက်တည်း ဗုဒ္ဓအဖြစ်သို့ ရယူကြရမည်။ 'ဗုဒ္ဓဘုရား

ဖြစ်ခြင်း'ဆိုသည်မှာ တထတာ မူလဓာတ်အဖြစ်သို့ ပြန်လည်ရောက်ရှိကာ တည်ကြည်ငြိမ်သက်နေခြင်းပင် ဖြစ်၏။

တထတာသည် နိဗ္ဗာန်ဖြစ်၏၊ သဗ္ဗညုတ ဉာဏ်တုံးဉာဏ်ခဲကြီးလည်း ဖြစ်၏။ ဘုရားဖြစ်သည်ဆိုခြင်းမှာ ဉာဏ်တုံးဉာဏ်ခဲကြီး ဖြစ်သွားခြင်းပင် ဖြစ်၏။ (ဝါ) တထတာခေါ် မူလဓာတ် နိဗ္ဗာန်ဓာတ်ကြီး ဖြစ်သွားခြင်းကို ဘုရားဖြစ်သည်ဟု ဆိုလို၏။ မဟာယာနအလို ဗုဒ္ဓသည် ပရိနိဗ္ဗာန်စံပြီးမှသာ ဘုရားအစစ်ဖြစ်သည်ဟု ဆို၏။

ဖုန်မှုန့်, အဏုမြူမှုန့်ပါမကျန် တိရစ္ဆာန် လူ နတ် ဗြဟ္မာတစ်လောကလုံး ဘုရားဖြစ်ရမည်။ (ဝါ) သဗ္ဗညုဖြစ်ရမည်။ (ဝါ) ဉာဏ်တုံးဉာဏ်ခဲကြီးအဖြစ် ပြောင်းလဲပစ်ရမည်။ (ဝါ) တထတာခေါ် မူလဓာတ် နိဗ္ဗာန်ဓာတ်ကြီးအဖြစ်သို့ ပို့ဆောင်ပေးရမည်မှာ ဗောဓိသတ္တ ဘုရားလောင်းများ၏ တာဝန်ဖြစ်၏။ တစ်လောကလုံး ဘုရားမဖြစ်မချင်း ဗောဓိသတ္တသည် လူဝင်စား အကြိမ်ကြိမ်ဖြစ်၍ ကြိုးပမ်းအားထုတ်ကယ်တင်မည်။

ထို့ကြောင့် ဤလောကကို သမ္မုတိသစ္စာအမြင်ဖြင့် လောကဟုပင် မြင်ရမည်။ ပရမတ္ထသစ္စာအမြင်ဖြင့် ကြည့်ပါက 'တထတာ'ခေါ် နိဗ္ဗာန်အဖြစ်ဖြင့် မြင်ရမည်။

### တထာဂတနှင့်တထာဂတဂဗ္ဘ

တထာ + အာဂတ = (တထာ = တထတာ=မူလဓာတ်ကြီးမှ + အာဂတ=လာသူ)

တထာ + ဂတ = (တထာ = တထတာ=မူလဓာတ်ကြီးသို့ + ဂတ =သွားရောက်သူ)

'သတ္တဝါ' ဆိုသည်မှာ တထတာ-၏ အသွင်ပြောင်းမှုသာဖြစ်၍ တထတာ-မှ ပေါ်ထွက်လာသည်ဟု ဆိုလို၏။ တစ်နည်းအားဖြင့် လောကကြီးတစ်ခုလုံး ဆိတ်ငြိမ်၍ တထတာအဖြစ်သို့ ရောက်သောအခါ သတ္တဝါသည်လည်း တထတာ-အဖြစ်သို့ ရောက်သွား၏။ တထတာ-မှ ပေါ်ထွက်

လာသောကြောင့် 'တထာဂတ'ခေါ်၏။ တထတာ-သို့ ပြန်လည်ရောက်ရှိသွားသောကြောင့် 'တထာဂတ'မည်၏။

'တထာဂတ'ခေါ်သော သတ္တဝါ၏မူလအစ ကိန်းအောင်းရာတိုက်ခန်း (ဝမ်းဗိုက်) ဖြစ်သောကြောင့် တထတာသည် 'တထာဂတဂဗ္ဘ'မည်၏။

(ဂဗ္ဘ = ဝမ်းကြာတိုက် = တိုက်ခန်း)

မှတ်ချက်။ ။ထေရဝါဒ၌မူ မြတ်စွာဘုရားကို 'တထာဂတ'ဟု ခေါ်၏။ သာမန်သတ္တဝါကိုလည်း 'တထာဂတ'ဟု ခေါ်၏။

ဓမ္မဓာတု။ ။မလှုပ်မယှက် တိတ်ဆိတ်ငြိမ်သက်နေသော တထတာကို နိဗ္ဗာန်ဟု ခေါ်၏။ ထိုတထတာသည် လှုပ်လျက်ချောက်ချားလာသောအခါ လှုပ်ရှားမှု တစ်ခုစီကို သတ္တဝါတစ်ခုစီဟု ဆိုရ၏။ ထိုလှုပ်ရှားမှုများအားလုံးကို စုပေါင်း၍ 'စကြဝဠာလောကဓာတ်'ဟု ခေါ်ရ၏။ ထိုစကြဝဠာလောကဓာတ်ကြီးသည် 'ဓမ္မဓာတု'မည်၏။

လှုပ်ရှားလှိုင်းထနေသော တထတာကို 'ဓမ္မဓာတု'ဟု ခေါ်ရ၏။

စကြဝဠာအတွင်းရှိ ရုပ်နာမ်တို့သည် တစ်ပြိုင်နက်တည်း ဖြစ်ပေါ်ကြ၏။ ရုပ်နာမ်တရားတို့သည် အချင်းချင်း အပြန်အလှန် မှီခိုကြ၏၊ ငဲ့ကွက်ကြ၏၊ အချင်းချင်း အပြန်အလှန် သြဇာသက်ရောက်၍ ပျံ့နှံ့စိမ့်ဝင်တည်နေကြ၏။ ဤသို့အားဖြင့် စကြဝဠာလုံးဆိုင်ရာ စည်းကမ်းငါးချက်ကိုက်ညီသော စုပေါင်းဖွဲ့စည်းမှုကြီး ဖြစ်လာ၏။ တစ်ခုသော အရာသည် ကျန်သော အစိတ်အပိုင်းများနှင့် ကင်းလွတ်၍ မတည်နိုင်။ အားလုံးမှ တစ်ခုလျော့နေလျှင် မပြည့်စုံသဖြင့် အားလုံးအဖြစ်ဖြင့် မရပ်တည်နိုင်၊ အားလုံးနှင့်ကင်းလွတ်၍ တစ်ခုသည်လည်း မရပ်တည်နိုင်။

ဥပမာအားဖြင့် ဘီးတစ်ခုပြုတ်နေသော ကားကြီးသည် ပုံမှန်မရပ်နိုင်သကဲ့သို့ ကားမှလွတ်ကင်း၍ ထိုဘီးတစ်ခုသည် ပုံမှန် မရပ်တည်နိုင်ချေ။

ဤသို့ အစိတ်နှင့်အပေါင်း စည်းဝါးညီစွာပြည့်စုံသောအခါ စစ်မှန်သော စကြဝဠာတစ်ခုဟု ခေါ်ဆိုရ၏။ ထိုစကြဝဠာကို ပုဏ္ဍရိက (ကြာ

တိုက်) ဟု ခေါ်၏။ ထိုစကြဝဠာသည် စံပြဖြစ်၍ သတ္တဝါတို့သည် အချင်းချင်း အနှောင့်အယှက် အတားအဆီး မဖြစ်စေဘဲ ရပ်တည်နိုင်ကြ၏။

အရာခပ်သိမ်းသည် အချင်းချင်း အပြန်အလှန် မှီခိုငဲ့ကွက်၍ တစ်ပြိုင်နက် ဖြစ်ပေါ်မှုဟူသော အယူအဆသည် သတ္တဝါအစ ကမ္ဘာအစကို ရှာသောဝါဒထက် တစ်ဆင့်မြင့်၏။ ပရမတ္ထတရားအားလုံး စုပေါင်းညီညာ ရပ်တည်ရှင်သန်မှုကို ဖော်ပြနေ၏။

၁။ Philo of Origination = သတ္တဝါနှင့် ကမ္ဘာ့အစရှာသောဝါဒ၊

၂။ Philo of Totality = စုပေါင်းညီညာ တန်းတူရှင်သန်မှုကို ပြသောဝါဒ၊ နံပါတ် ၁ ဝါဒမှာ အနောက်တိုင်း ပညာရှင်တို့၏ လက်စွဲဖြစ်၏။ နံပါတ် ၂ မှာ မဟာယာန ဗုဒ္ဓဘာသာ၏ ရှင်းပြချက်ဖြစ်၏။ မဟာယာနအလို စကြဝဠာကို အဆင့်လေးဆင့် ခွဲရ၏။

ပထမအဆင့်။ ။တကယ့်ဘဝ၊ အစစ်အမှန်လောက၊ နေ့စဉ် တွေ့ထိနေရသော ပတ်ဝန်းကျင်လောက ဖြစ်၏။

ဒုတိယအဆင့်။ ။သဘာဝတရား၏ စည်းမျဉ်းဥပဒေသများ၊ နိယာမတရားများ၊ အတွေးအခေါ် စဉ်းစားဉာဏ်ဖြင့်သာ သိရ၏။

တတိယအဆင့်။ ။နိယာမတရားနှင့် လက်တွေ့ဘဝဆက်စပ်ခြင်း။

စတုတ္ထအဆင့်။ ။နိယာမတရားနှင့် လက်တွေ့ဘဝ အစစ်အမှန် လောကတို့ ညှိနှိုင်းပြီးနောက် ဟန်ချက်ညီညီ စည်းချက်ဝါးချက်ကိုက်နေသော ကမ္ဘာလောက၊ စည်းဝါးကိုက် ညီညွတ်နေသော လောကကို ဤခေတ်လူများ သိရန် ခက်၏။ အကြောင်းမူ ဤခေတ်၌ လူတစ်ဦးသည် တစ်ဦးအား ဆန့်ကျင်၏။ လူ့အဖွဲ့အစည်း အချင်းချင်းလည်း ဆန့်ကျင်နေ၏။ လူတန်းစားအချင်းချင်းလည်း ဆန့်ကျင်နေ၏။ စီးပွားရေး လုပ်

နေ်းများလည်း အချင်းချင်း ဆန့်ကျင်ဘက် အပြိုင်အဆိုင် ဖြစ်သည်ဟု လူအများက ယူဆနေကြ၏။

စကြဝဠာ၏ ထုံးတမ်းစဉ်လာ နိယာမသဘောတရားအရ ဆိုပါမူ လောကသည် အချင်းချင်း ညီညွတ် မျှတ၍ အဆင်ပြေနေရပေမည်။ အကြောင်းမူ -

၁။ အရာခပ်သိမ်းသည် တစ်ပြိုင်နက် အတူတကွ ဖြစ်ပေါ်ခဲ့၏။

၂။ အချင်းချင်း အရှိန်အဟုန်ဩဇာများ စိမ့်ဝင်ပျံ့နှံ့နေ၏။

၃။ အပြန်အလှန် ထပ်တူညီမှုရှိနေ၏။ မိမိတို့ အချင်းချင်း ဖွဲ့စည်းနိုင်ရန် မတူညီချက်များကို ဖယ်ထုတ်ကြ၍ တူညီသည့်ဘက်မှ ချဉ်းကပ်ကြ၏။

၄။ ရည်ရွယ်ချက် အောင်မြင်စေရန်အတွက် နောက်လိုက်နှင့် ဦးဆောင်သူတို့သည် အပေးအယူ မျှတနေ၏။

၅။ အရာခပ်သိမ်း၏ မူရင်းမှာ တထတာဖြစ်၍ ဇာစ်မြစ်တူ၏။

၆။ အကြောင်းကြောင့်ဖြစ်ရသော အကျိုးတရားချည်းသာ ဖြစ်ကြ၍ အချင်းချင်း အပြန်အလှန် မှီခိုရ၏။

၇။ အချင်းချင်း အပြန်အလှန် ဖြည့်စွက်ပေးနေကြ၏။

၈။ သတ္တဝါအားလုံး၌ ငုပ်လျှိုးနေသော ဗုဒ္ဓသဘာဝရှိကြ၏။

၉။ အမြင့်ဆုံးမှ အနိမ့်ဆုံးအထိ သတ္တဝါအားလုံးသည် တစ်ခုတည်းသော စက်ဝိုင်း၏ အစိတ်အပိုင်းများသာ ဖြစ်ကြ၏။

၁၀။ သတ္တဝါတို့၏ ကံအသီးသီးသည် အချင်းချင်း ရောင်ပြန်ဟပ်တုံ့ပြန်နေကြ၏။

ဥပမာ - ကြည့်မှန်များ ပတ်ပတ်လည်ထောင်ထားသော အခန်းတစ်ခုအတွင်း၌ လူတစ်ယောက်၏ အရိပ်သည် အဆင့်ဆင့် ပွားကာ ထောင်ပေါင်း များစွာသော လုံမှုများ ပေါ်နေ၏။ လူ၏ လှုပ်ရှားမှုသည် ထောင်ပေါင်း များစွာသော အရိပ်များကို လှုပ်ရှားစေ၏။

ဤအကြောင်းပြချက်များဖြင့် အဆင်ပြေ ညီညွတ် မျှတသော လောကတည်ဆောက်ရန် မဟာယာနဝါဒ,က ရည်ရွယ်၏။

## ကေတ္တနည်း ။ ထပ်တူပြုခြင်း

ဟီနယာနဂိုဏ်းသားများသည် သဘာဝတရားများကို ခွဲစိတ်လေ့လာမှုဖြင့်သာ ကျေနပ်ရောင့်ရဲနေ၏၊ ခွဲစိတ်ပြီး တရားများကို ပြန်လည်တွဲစပ် ပေါင်းစပ်ရန် စိတ်မကူးကြချေ။

မဟာယာနဂိုဏ်းသားများကမူ ဆန့်ကျင်ဘက် အယူအဆ နှစ်ခုကို အပြန်အလှန် ထပ်တူပြုရန် စိတ်ထက်သန်၏။ အုပ်စုနှစ်ခုသည် မိမိအယူအဆ အသီးသီးကို ပုံသေ စွဲကိုင်ထားကြပါက ထိုအုပ်စု နှစ်ခုမှာ ညီညွတ်ရေး မရနိုင်ချေ၊ ကွဲကြ ပြိုကြရုံသာ ရှိသည် ဆို၏။

မဟာယာန၏ သင်ကြားချက်မှာ သင်၏အယူအဆကို ခေတ္တခဏမျှ ဘေးချထားပါဦး၊ သင်ကိုယ်တိုင် တစ်ဘက်လူ၏ နေရာ၌ နေ၍ ကြည့်ပါ၊ ဤနည်းအတိုင်း အပြန်အလှန် သူ့ဘက်ကိုယ့်ဘက် မျှမျှတတ ကြည့် ပါက ကိုယ်ချင်းစာတရား ထွန်းကား၍ ညီညွတ်မှု ရနိုင်ပါသည်။ ဤကား သုညတာဂိုဏ်းက ဟောကြားသော အတ္တ (၄)ပယ်ပုံ ပထမအဆင့်တည်း။

"အပြန်အလှန် ထပ်တူပြုခြင်း" ဆိုသည်မှာ အပြန်အလှန် လေးစားခြင်း၊ သူ့ဘက်ကိုယ့်ဘက် ပြောင်းလဲကြည့်ခြင်း၊ အမြင်ချင်း ဖလှယ်ခြင်း ပင် ဖြစ်၏။

၁။ မတူသော အစိတ်အပိုင်းနှစ်ခုကို ပေါင်းစပ်လိုက်သောအခါ တစ်ခုတည်း ဖြစ်သွား၏။

ဥပမာ - ကြေးနီနှင့် သွပ်ကို ရောစပ်လိုက်သောအခါ ကြေးဝါ ဖြစ်သွား၏။ (ဒြပ်ကွဲနှစ်ခု ပေါင်းစပ်ခြင်း)

၂။ အမြင်အားဖြင့် အသွင်အားဖြင့် ကွဲပြားသော်လည်း ဒြပ်သားမှာ တစ်ခုတည်းဖြစ်၏။

ဥပမာ - ရွှေလက်ကောက်နှင့် ရွှေလက်စွပ်သည် အသွင်အပြင် အမြင်မှာ မတူကြသော်လည်း ဒြပ်သားမှာ ရွှေတစ်မျိုးတည်းသာ ဖြစ်၏။ (အသွင်ကွဲ + ဒြပ်တူခြင်း)

၃။ တစ်ခုတည်းသော အရာသည်ပင်လျှင် အခြေအနေ ကွဲပြားသဖြင့် နှစ်မျိုးဟု ထင်ရ၏။ အမှန်စင်စစ် တစ်ခုတည်းထပ်တူ ဖြစ်ကြ၏။ (အခိုက်အတန့်ကွဲခြင်း)

ဥပမာ - ရေနှင့်လှိုင်းသည် နှစ်ခုဟု ထင်ရသော်လည်း တစ်ခုတည်း ထပ်တူဖြစ်ကြ၏။ ရေဒြပ်သည်ပင်လျှင် လှိုင်းအသွင်ကို ဆောင်နေ၏။

ဤထပ်တူပြုနည်းဖြင့် အတ္တ (ငါ) စွဲကို ပယ်ဖျောက်နိုင်၏။ ငါသည် သူတစ်ပါးနှင့် ထပ်တူညီသွား၏။ ဆန့်ကျင်ဘက်အုပ်စုချင်း ကိုယ်ချင်းစာ တတ်၍ ညီညွတ်မှုရနိုင်၏။

လှုပ်ရှားမှု နှင့် ငြိမ်သက်မှု၊
ပြုလုပ်ခြင်း နှင့် မပြုလုပ်ခြင်း၊
စင်ကြယ်မှု နှင့် ညစ်နွမ်းမှု၊
ပြည့်စုံမှု နှင့် မပြည့်စုံမှု၊
တစ်ခု နှင့် အများ၊
ဝိသေသ နှင့် သာမည (ယေဘုယျ)၊
နိစ္စ နှင့် အနိစ္စ -

စသော ဆန့်ကျင်ဘက်သဘောများကို တစ်ခုတည်းဖြစ်အောင် ထပ်တူပြု၍ ရှုမြင်တတ်ရမည်။

ဤနည်းအတူပင် ဘဝသံသရာနှင့် နိဗ္ဗာန်ကို တစ်ခုတည်းအဖြစ် ထပ်တူပြု ရှုမြင်ကြသည်။

ဤကား မဟာယာနဂိုဏ်း၏ နည်းစနစ်တစ်ခုဖြစ်၏။ မဟာယာန တို့သည် ဤနည်းကို သုံး၍ ဗုဒ္ဓဝါဒနှင့် ဆန့်ကျင်ဘက် ဝါဒအားလုံးကို လည်း ထပ်တူညီပြုလုပ်၍ ဗုဒ္ဓဝါဒတွင်း သွတ်သွင်းခဲ့ကြသည်။ အဆိုးနှင့်

အကောင်း၊ အမှားနှင့်အမှန်ကို ရောမွှေခဲ့ကြသဖြင့် အမြိုက်သုဒ္ဓါ နတ်သြဇာထဲ၌ မစင်တစ်ပဲ သားရော, ဆွမ်းဆန်ထဲ ကြွက်ချေးရော ဖြစ်ခဲ့ရသည်။ သဘောထားကြီးကြီးဖြင့် လာသမျှ လက်သင့်ခံခဲ့ရာ နှလုံးကောင်းဝမ်းကြီး ဖြစ်ခဲ့ရသည်။ ကြာသော် ဗုဒ္ဓဝါဒမူရင်းပျောက်၍ ပုံပျက်ပန်းပျက် ဖြစ်လာရသည်။ ခေတ်အခြေအနေ, ပတ်ဝန်းကျင် အခြေအနေအရ လူများစု အကြိုက်လိုက်၍ ဗုဒ္ဓတရားတော်ကို ပြုပြင်ဖြည့်စွက်ကြရာ အဖာများ ဖုံးအုပ်သွား၍ မူရင်း ပျောက်ခဲ့ရသည်။ ဤအကြောင်းကို သံယုတ်ပါဠိတော် အာဏိသုတ်၌ "စည်ကြီး၏အပေါက်များကို သပ်ထိုး၍ ဖာထေးရာ ကြာသော် မူလသစ်သား မရှိတော့ဘဲ ဖာရာစပ်ရာများသာ ကျန်တော့ကြောင်း" မြတ်စွာဘုရားက ဥပမာပြဟောခဲ့သည်။

မြတ်စွာဘုရားသည် ပုဂ္ဂိုလ်ရေး မညီညွတ်မှုကို ညီညွတ်အောင် စေ့စပ်တော်မူ၏။ သတ္တဝါအချင်းချင်း ကိုယ်ချင်းစာနာ သနားတတ်ရန် ဟောတော်မူ၏။ သို့ရာတွင် အမှားနှင့် အမှန်၊ အကောင်းနှင့် အဆိုးကို မစေ့စပ်ခဲ့ချေ၊ ထပ်တူပြု မပေါင်းစပ်ခဲ့ချေ။ မလုပ်သင့် မလုပ်ထိုက်သော ကိစ္စသာဖြစ်၏။ သူခိုး ဓားပြနှင့် ဘုရားဒါယကာတို့ ထပ်တူမပြုသင့်ချေ။ အကုသိုလ်ကို ကုသိုလ်နှင့် ထပ်တူမပြုသင့်ချေ။ ထိုသို့ ပြုပါက လူအပေါင်းအား တွေဝေမိုက်မဲစေရာ ရောက်၏။

## ပညတ်နှင့်ပရမတ် (အတာနှင့်အနှစ်)

လူတို့သည် ပင်ကိုသဘာဝအားဖြင့် အကာထဲမှ အနှစ်ကို ရှာဖွေထုတ်ကြ၏။ အနိစ္စ (မမြဲ) တရားထဲမှ နိစ္စ (အမြဲ) တရားကို ရှာဖွေရန် ကြိုးပမ်းကြ၏။ ဤသို့ နိစ္စတရားတစ်ခုကို ရှာရာ၌ မအောင်မြင်ကြသဖြင့် နိစ္စတရားကို လူသား၏ အသိဉာဏ်ဖြင့် မသိနိုင်ဟု ဆိုကြပြန်၏။ သိအပ်သိနိုင်သော (ဉေယျဓမ္မ)တရားနှင့် မသိအပ် မသိနိုင်သော (အဉေယျဓမ္မ) တရားဟု နှစ်မျိုးခွဲ၍ နိစ္စတရားသည် ရှိသော်လည်း မသိအပ် မသိနိုင်ရာသောတရားဟု ဆိုကြ၏။ တစ်ဖန် ကျွန်ုပ်တို့ သိရှိသုံးဆောင်ခံစားရမည့် တရားနှင့် ကျွန်ုပ်တို့နှင့်မဆိုင် သူ့ဘာသာတည်ရှိနေသော တရားဟု နှစ်မျိုး

ခွဲကြပြန်၏။ နိစ္စတရားမှာ သဘာဝ တည်ရှိနေသော တရားဟု ဆိုကြ၏။

နိစ္စတည်နေသော အရှိတရားသည် တစ်ခုတည်း (ကေဝလ)သာဟု အချို့က ဆို၏။ အချို့က အရှိတရားသည် 'နှစ်ခု (ဒွယတာ)'ဟု ဆိုကြ၏။ အချို့က အရှိတရားသည် များစွာရှိသည့် (ပုထုတ္တ) ဟု ဆိုကြ၏။ အချို့က တစ်လောကလုံး နိစ္စအရှိတရားနှင့် ပြည့်နှက်နေသည့် (သဗ္ဗတ္ထ)ဟု ဆိုကြ၏။ မဟာယာနဝါဒအရ ခပ်သိမ်းသော တရားတို့၏ သဘာဝအမှန်နှင့် အခြေအနေအမှန်ကို သိလိုပါက အများထဲမှ တစ်ခုကို ရှာကြံခြင်း မပြုရ၊ ကွဲပြားမှုမှ တူညီချက်ကို ထုတ်မယူရ၊ လှုပ်ရှားမှုမှ တည်ငြိမ်မှုကို သီးခြားခွဲမယူရ၊ စစ်မှန်သော အခြေအနေ ဆိုသည်မှာ သီးသန့် ထူးခြားသော ဝိသေသအခြေအနေ မဟုတ်ချေ။ ထူးခြားမှုမရှိသော သာမည အခြေအနေသည်သာလျှင် စစ်မှန်သော အခြေအနေဖြစ်၏။ အမှန်တရားသည် အခိုင်အမာ အနှစ်သာရကင်းမဲ့သော အနိစ္စတရားပင်ဖြစ်သည်ကို တွေးခေါ်ရှင်များက လက်မခံနိုင်ကြချေ။

အပေါ်ယံ အသွင်အပြင် ပြောင်းလဲနိုင်၍ အမြဲတည်သော အခိုင်အမာ အနှစ်သာရ တစ်စုံတစ်ခုသည် ဤခန္ဓာကိုယ်အတွင်း၌ ရှိသည်ဟူသော အယူအဆသည် ပုထုဇဉ်လူသားတိုင်း၏ စိတ်ထဲ၌ ကိန်းအောင်းနေ၏။ သို့ရာတွင် ဗုဒ္ဓဘာသာဂိုဏ်းကွဲအားလုံးက အနှစ်သာရကင်းမဲ့သော အနိစ္စတရားသာ ရှိသည်ဟု လက်ခံကြသည်။

ဗုဒ္ဓဘာသာဝင်တို့ ပြောဆိုနေသော အစစ်အမှန် (ပရမတ်) တရားဆိုသည် လူမသိနိုင်သော သဘာဝများ မဟုတ်ကြချေ။ သာမန် သဘာဝအဖြစ်အပျက်ကိုပင် အစစ်အမှန် ပရမတ်ဟု ဆိုလို၏။

ပန်းပွင့်ကြွေကျခြင်းကိုသာ ရှုမြင်ခြင်းသည် အနိစ္စ သဘောကိုသာ တစ်ဖက်သတ် ရှုမြင်ရာ ရောက်၏။ ပန်းကြွေကျခြင်း၌ ပန်း၏ ပွင့်ခြင်းသဘောပါဝင်၏။ ပန်းပွင့်ခြင်း၌ ပန်းပွင့်ကြွေကျခြင်းကို ရှုမြင်တတ်ရမည်။ ဤသို့လျှင် ပန်း၏ပွင့်ခြင်းနှင့် ကြွေကျခြင်း (ဖြစ်ခြင်းနှင့် ပျက်

ခြင်း) တို့သည် ပူးတွဲတည်နေသော ဆန့်ကျင်ဘက် တရားနှစ်ခုဟု ဆို၏။ ဤကား အပြန်အလှန် ထပ်တူပြုနည်းဖြင့် ရှုမြင်သုံးသပ်ခြင်း ဖြစ်၏။ ဤနည်းကို ဘက်မလိုက်သော ရှုမြင်နည်း (မဇ္ဈိမပဋိပဒါ)ဟု ခေါ်၏။

ဤနည်းကို သုံး၍ လှုပ်ရှားခြင်းနှင့် ငြိမ်သက်ခြင်း၊ ပြုလုပ်ခြင်းနှင့် မပြုလုပ်ခြင်းတို့ကို ထပ်တူပြု၍ ရှုမြင်တတ်ရမည်။ ဝိသေသအခြေအနေ အကြောင်းတရားများကို သာမညအခြေအနေ, ယေဘုယျအခြေအနေမှ သီးခြားခွဲ၍ မမြင်သင့်ဟု ဆို၏။

## ဓမ္မကာယ=နိဗ္ဗာန်

မဟာယာနဂိုဏ်းအလို 'ဓမ္မကာယ'ဆိုသည်မှာ နိဗ္ဗာန်ဟု ခေါ်သော တထတာပင် ဖြစ်၏။ ထေရဝါဒဂိုဏ်းကမူ မြတ်စွာဘုရား ဟောကြားခဲ့သော သုတ် ဝိနည်း အဘိဓမ္မာ ပါဠိတော် ဒေသနာများကိုသာ 'ဓမ္မကာယ'ဟု ခေါ်၏။

(ဓမ္မ + ကာယ = ဓမ္မ-တရားတော် + ကာယ-အပေါင်းအစု)

ဗုဒ္ဓသည် ပရိနိဗ္ဗာန်စံတော်မူပြီးနောက်၌ ဓမ္မကာယဖြင့် ဆက်လက်တည်ရှိတော်မူသည်ဟု မဟာယာနဝါဒ,က ဆို၏။

## နိဗ္ဗာန်ဝါဒကွဲများ

ထေရဝါဒ၌ နိဗ္ဗာန်သည် အကြောင်းကင်းမဲ့သော အသခ်တဓာတ် ဖြစ်၏။ ရွေ့လျောပျက်စီးခြင်းမရှိ (အစ္စုတ)ဟု ဆို၏။ မီးပုံကြီး ငြိမ်းသွားသောအခါ ငြိမ်းပြီဟု သိရ၏။ ထိုငြိမ်းသွားသော မီးကား အဘယ်သို့ ရောက်သွားသနည်းဟု ဆက်လက်ကြံစည်ရန် မလိုတော့ချေ။ မီးငြိမ်းခြင်းသည် နောက်ဆုံးပန်းတိုင်ဖြစ်၍ ပန်းတိုင်ရောက်ပြီးပါက ဆက်လက်သွားရန် မလိုတော့ချေ။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံပြီးသည့်နောက်၌ မြတ်စွာဘုရားကို နတ် လူ ဗြဟ္မာတို့က မမြင်နိုင်တော့ချေ။

"ဥဒ္ဓံ ဇီဝိတပရိယာဒါနာ န နံ ဒက္ခန္တိ ဒေဝမနုဿာ။"

(သီလက္ခန်ပါဠိတော်၊ ၄၂)

ဘုရားရဟန္တာတို့ ပရိနိဗ္ဗာန်စံပြီးနောက်၌ ရှိသေးသလော၊ မရှိတော့ပြီလော ဟူသော မေးခွန်းများကို မြတ်စွာဘုရားသည် မဖြေဆိုဘဲ မမေးသင့်သော မေးခွန်းဟု ပယ်ချခဲ့၏။ (အဗျာကတသံယုတ်)

ဤမေးခွန်းသည် ပုဂ္ဂိုလ်သတ္တဝါကို တကယ့်အရှိတရားဟု ယူဆသူတို့၏ မေးခွန်းဖြစ်၏။ ပုဂ္ဂိုလ်သတ္တဝါ ဟူသည် ယခုလက်ငင်း ဉာဏ်ဖြင့် စစ်ဆေးကြည့်ပါက ပရမတ္ထအားဖြင့် အမှန်တကယ်မရှိ၊ ရှာမတွေ့ဖြစ်ချေ၏။ ထို့ကြောင့် "ဘုရားရဟန္တာတို့ ပရိနိဗ္ဗာန်စံပြီးနောက် ရှိ မရှိ" ဟူသော ပြဿနာသည် အတ္တအမြင် အတ္တဝါဒရှုထောင့်မှ ရှုမြင်နည်းဖြစ်၍ မေးခွန်းမှားသည်။ (ခန္ဓသံယုတ် ယမကသုတ်)

ဟီနယာန ဂိုဏ်းကွဲဖြစ်သော သဗ္ဗတ္ထိဝါဒဂိုဏ်းကမူ ရုပ်နာမ်ဓမ္မအားလုံး၏ စစ်မှန်သော အခြေအနေမှာ အနိစ္စသဘော၊ အနတ္တသဘောနှင့် နိဗ္ဗာန်ဖြစ်သည်ဟု ဆို၏။

သုတ္တန္တိက (သစ္စသိဒ္ဓိ)ဂိုဏ်း သုညဝါဒီများမှာ ရုပ်နာမ်ဓမ္မ အားလုံးသည် အမှန်တကယ်ရှိသော အရှိတရားများ မဟုတ်ကြချေ။ သုညမျှသာဖြစ်၏။ နိဗ္ဗာန်သည်လည်း သုညမျှသာဖြစ်၏ဟု ဆို၏။

မဓျမိက ဂိုဏ်းသားများကမူ ဘဝကို ငြင်းပယ်သော (ပဋိက္ခေပ) အမြင်ဖြင့် ရှုမြင်မှသာလျှင် အမှန်တရား (နိဗ္ဗာန်) ကို တွေ့ရှိနိုင်၏။ နိဗ္ဗာန်သည် သုညသာဖြစ်၏ဟု ဆို၏။

ဝိညာဏဝါဒဂိုဏ်းကမူ နိဗ္ဗာန်သည် သန့်ရှင်း တည်ငြိမ်သော ဝိညာဏ်တော်ကြီးသာ ဖြစ်၏ဟု ဆို၏။

မဟာယာနဝါဒအရ နိဗ္ဗာန်ဆိုသည်မှာ ဓမ္မကာယဖြစ်၏၊ ဗုဒ္ဓသဘာဝဖြစ်၏၊ သဗ္ဗညုဉာဏ်သား စစ်စစ်ဖြစ်၏။ ဓမ္မကာယအဖြစ်သို့ ရောက်ခြင်း (ဝါ) ဉာဏ်သက်သက်မျှသာ ရှိနေခြင်းကို 'ဗုဒ္ဓဘုရား ပရိနိဗ္ဗာန်စံသည်'ဟု ခေါ်ကြ၏။ ထို့ကြောင့် နိဗ္ဗာန်ကို 'မဟာပရိနိဗ္ဗာန်'ဟု ခေါ်ကြ၏။

## ကာလနှင့် အာကာသ

ကာလနှင့် အာကာသသည် အမြဲတည်ရှိ၏၊ အဆုံးအစမရှိ အနန္တဟု ကမ္ဘာ့တွေးခေါ် ရှင်ကြီးများက ယူဆကြ၏။ သို့ရာတွင် ဗုဒ္ဓဝါဒအရဆိုပါမူ ကာလနှင့် အာကာသသည် ပရမတ္ထအားဖြင့် ထင်ရှားမရှိချေ။ ရုပ်နာမ် ပရမတ္ထတရားတို့၏ ဖြစ်ခြင်း ပျက်ခြင်းကို အမှီပြု၍ ပစ္စုပ္ပန်ကာလ, အတိတ်ကာလ, အနာဂတ်ကာလဟူ၍ ခေါ်ဝေါ်ပညတ်ရ၏။ အမှန်စင်စစ် ကာလသည် နာမည်မျှသာ ရှိ၏၊ ပညတ်သာဖြစ်၏။ အာကာသသည်လည်း ရုပ်တရားကို အမှီပြု၍ စိတ်က ရှိသည်ဟု ထင်မြင်ယူဆခြင်းမျှသာ ဖြစ်၏၊ နာမည်မျှသာရှိ၏။ ကာလနှင့် အာကာသသည် အနန္တမဟုတ်ချေ။

ကာလနှင့် အာကာသသည် ရုပ်နာမ်သင်္ခါရကို မှီသော ပညတ်မျှသာဖြစ်၍ ရုပ်နာမ်တို့သည်လည်း အနိစ္စမျှသာ ဖြစ်၏။ ရုပ်နာမ် ချုပ်ငြိမ်းပါက ကာလနှင့်အာကာသလည်း ရှာမရတော့ချေ။ အာကာသနှင့် ကာလသည် အပြန်အလှန် မှီခိုနေကြ၏။ (Relative)

သတ္တဝါတိုင်း၌ ကာလအသီးသီး ရှိကြ၏။ လူတို့မှာ ပျမ်းမျှသက်တမ်းနှစ် ၅၀ ဟု ဆိုကြ၏။ ကြိုးကြာမှာ အနှစ်တစ်ထောင်၊ လိပ်မှာ အနှစ်တစ်သောင်း အသက်ရှည်သည် ဆိုကြ၏။ လူ့ပြည်ရှိကာလနှင့် နတ်ပြည်ရှိ ကာလမတူကြချေ။ လူ့ပြည်၌ အနှစ် ၅၀ သည် စတုမဟာရာဇ်နတ်ပြည်၌ တစ်ရက်တာမျှသာ ရှိ၏။

ခေတ်သစ် ရူပဗေဒပညာက အာကာသသည် အဖြောင့် မရှိ၊ ကောက်ကွေးနေသည်ဟုဆို၏။ ဤစကြဝဠာလောကဓာတ်ကို ကာလနှင့် အာကာသ လွှမ်းမိုးထား၏။ ထို့ကြောင့် ကျွန်ုပ်တို့၏ဘဝသည် ကာလနှင့် အာကာသနယ်ပယ်အတွင်း၌ မွေးခြင်း၊ သေခြင်း၊ ဖြစ်ခြင်း၊ ပျက်ခြင်းဟူသော တုန်လှုပ်သော လှိုင်းတစ်ခုမျှသာ ဖြစ်၏။ ဤစကြဝဠာကြီးသည် ဖြစ်ပျက်လှိုင်း သမုဒ္ဒရာမျှသာ ဖြစ်၏၊ လှုပ်ရှားနေသော ဘဝအစုအဝေးမျှသာ ဖြစ်၏။ တဏှာ၏ နယ်ပယ်အတွင်း၌ ရှိ၏။ မိမိဘဝကို မိမိပင် ဖန်တီး၏၊ ကျိုးကြောင်းဆက်စပ် ဖြစ်ပေါ်နေ၏။

အထက်၌ ဖော်ပြပြီးသော စကြဝဠာလောကဓာတ်နှင့် ဆန့်ကျင်ဘက်ဖြစ်သော သဘောသည် နိဗ္ဗာန်မည်၏။

နိဗ္ဗာန်သည် ကာလနှင့် အာကာသကင်းမဲ့သော နယ်ပယ်ဖြစ်၏၊ ပြုပြင်ဖန်တီးမှုကင်း၏၊ အကြောင်းတရားကို မှီခိုခြင်းမရှိ၊ ဖြစ်ခြင်း ပျက်ခြင်း မရှိသဖြင့် လှိုင်းဂယက်ကင်းသော ရေပြင်သဖွယ်ဖြစ်၏၊ လွတ်မြောက်သော နယ်ဖြစ်၏။ (ဝိမုတ္တိ) နဂိုမူလအတိုင်း ရှိ၏။ (တထတာ = ဣတ္ထတ္တတာ)၊ ဗုဒ္ဓသဘာဝဖြစ်၏၊ မဟာပရိနိဗ္ဗာန်ဟု ခေါ်၏။

မဟာယာနဂိုဏ်း၏ မဟာပရိနိဗ္ဗာနသုတ်၌ နိဗ္ဗာန်ကို ဖွင့်ဆိုပုံမှာ သင်္ခါရလောကသည် အနိစ္စ ဒုက္ခ အသုဘ အနတ္တဖြစ်၍ နိဗ္ဗာန်သည် နိစ္စ သုခ သုဘဟုသာ ဆိုနိုင်၏၊ အတ္တဟု မဆိုနိုင်ချေ။ နိဗ္ဗာန်သည်လည်း အနတ္တသာလျှင် ဖြစ်ကြောင်းကို "သဗ္ဗေ ဓမ္မာ အနတ္တာ"ဟု ဘုရားဟောပါဠိအထောက်အထား ,ရှိလေပြီ။

မဟာယာနအလို ဗုဒ္ဓသည် ပရိနိဗ္ဗာန်စံပြီးသောအခါ သဘာဝကာယ (ဓမ္မကာယ) အဖြစ်ဖြင့် တည်ရှိ၍ လူသားအပေါင်းကို ကယ်တင်ရန် လိုအပ်သောအခါ လူ့ပြည်၌ ပြန်လည်၍ ဝင်စားဦးမည်။ လူသား၏ အသွင်ကို ယူဦးမည်ဟု ဆိုသည်။

ဝိညာဏဝါဒဂိုဏ်းကမူ ပရိနိဗ္ဗာန်စံပြီးသော ဗုဒ္ဓသည် အကြောင်းတရားတို့မှ လွတ်ကင်းသောကြောင့် မွေးခြင်း, သေခြင်း မရှိ လူ့အသွင်ကို ပြန်၍ မယူတော့ချေ၊ သို့ရာတွင် နိဗ္ဗာန်သို့ ရောက်ပြီးသော ဗုဒ္ဓဘုရားသည် မဟာကရုဏာတော်ဖြင့် သတ္တဝါတို့၏ ဆင်းရဲဒုက္ခကို သနားကြင်နာမြဲ ကြင်နာတော်မူ၏။

မဟာယာနဂိုဏ်း၏ ဝိသေသလက္ခဏာများမှာ -

၁။ ဗုဒ္ဓ၏ ကာယသုံးပါး၊

၂။ ဗောဓိသတ္တ ဘုရားလောင်းဝါဒ၊

၃။ တထတာနှင့် ဓမ္မဓာတ်အဖွဲ့ (နိဗ္ဗာန် = လောက)၊

၄။ အာလယဝိညာဉ်၊ [illegible]

၅။ မြူမှုန်များ, တိရစ္ဆာန်များ၌ ဗုဒ္ဓသဘာဝ (ဘုရားဖြစ်မည့် အလားအလာ) အနည်းနှင့်အများ ပါဝင်၏။

ဤသို့စသည်ဖြင့် အထက်၌ ရှင်းပြခဲ့သော အယူအဆများကို လက်ခံယုံကြည်သောဂိုဏ်းသည် မဟာယာနဂိုဏ်းဖြစ်၏။ သဗ္ဗတ္ထိဝါဒ ဂိုဏ်းမှာ အထက်ပါ သဘောတရားများ လက်မခံသဖြင့် ဟီနယာနဟု အမည်ပေးခံရ၏။



# မဟာယာန - ဟီနယာန - ထေရဝါဒ

ထေရဝါဒကား မြတ်စွာဘုရား ပါဠိတော်များကို ပြင်ဆင် ဖြည့်စွက်ခြင်း၊ နုတ်ပယ်ခြင်း မပြုဘဲ မူရင်းအတိုင်း ထိန်းသိမ်းခဲ့သော ပင်မ ဗုဒ္ဓဘာသာ ဖြစ်၏။

ခေတ်နှင့်အညီ, ပတ်ဝန်းကျင်နှင့်အညီ လိုလျှင် လိုသလို၊ မလိုလျှင် မလိုသလို ပြင်ဆင် ဖြည့်စွက် နုတ်ပယ်လိုကြသော ရဟန်းဆိုးများကို ဒုတိယသင်္ဂါယနာပွဲ၌ ပထမဦးစွာ ကမ္ဘဝါစာဖတ်၍ နှင်ထုတ်ခဲ့ပေပြီ။ အသောကခေတ်၌လည်း သဗ္ဗတ္ထိဝါဒဂိုဏ်း စသည်တို့ကို ပရဝါဒီအဖြစ် ဖြင့် မေးမြန်းစိစစ်၍ နှင်ထုတ်ခဲ့လေပြီ။

ထိုသို့ နှင်ထုတ်ခံရသော ရဟန်းဆိုးများမှာ အင်အားကောင်းလာ၍ သာသနာနှစ် ၆၀၀ ခန့်တွင် ထေရဝါဒရဟန်းများသည် အိန္ဒိယတောင်ပိုင်း ပင်လယ်ကမ်းရိုးတန်းတစ်လျှောက်၌သာ အနည်းငယ် ကြွင်းကျန် တော့၏။ အိန္ဒိယတစ်ပြည်လုံးကို အထက်၌ နှင်ထုတ်ခံခဲ့ရသော ရဟန်း ဆိုးအများစုက လွှမ်းမိုးသွားလေပြီ။

မဟာယာနအတွေးအခေါ် အယူအဆများသည် သာသနာအနှစ် ၆၀၀ ခန့်မှ စ၍ တဖြည်းဖြည်းပေါ်ပေါက်လာ၏။ ထိုအချိန်မှစ၍ မဟာ ယာနနှင့်ဟီနယာန ဝါဒချင်း ငြင်းခုံဆွေးနွေးမှုများမှာ အထက်ပါ နှင်ထုတ် ခံရဟန်းများ အချင်းချင်းဖြစ်ကြသည်။ ထေရဝါဒ ပင်မဗုဒ္ဓ သာသနာ တော်ကြီးနှင့် တစ်စုံတစ်ရာ ဆွေးနွေးငြင်းခုံမှု မရှိတော့ချေ။ အကြောင်းမူ တတိယသင်္ဂါယနာတင်ခေတ်က အပြတ်စာရင်း ရှင်းပြီးဖြစ်၍ ဆွေးနွေး ရန် မလိုတော့ချေ။ ထို့ကြောင့် ကျွန်ုပ်တို့ ထေရဝါဒ အဋ္ဌကထာ, ဋီကာ များ၌ ဝိညာဏဝါဒ, တန္တရ မဟာယာနဝါဒတို့ကို တစ်စုံတစ်ရာမျှ ဖော်ပြ ခြင်း မပြုခဲ့ကြခြင်းဖြစ်၏။

မဟာယာန (ဘုရားလောင်း) လမ်းစဉ်နှင့် ဟီနယာန (သာဝက) လမ်းစဉ် သူ့မှန်,ကိုယ်မှန် ငြင်းခုံကြခြင်းသည် မဟာသံဃိကဂိုဏ်း၊ အန္ဓက ဂိုဏ်း (ပုဗ္ဗသေလိယ အပရသေလိယ) စေတိယဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်း၊ သုတ္တန္တိကဂိုဏ်း၊ ယောဂါစာရဂိုဏ်း၊ မဇ္ဈိမိကဂိုဏ်း စသော နှင်ထုတ်ခံ ရဟန်းများ အချင်းချင်း ဆွေးနွေးငြင်းခုံချက်များ ဖြစ်ကြ၏။

ထို့ကြောင့် မဟာယာနဝါဒသစ်, အယူအဆသစ်ကို လက်မခံသော သဗ္ဗတ္ထိဝါဒဂိုဏ်းသားများ, သုတ္တန္တိကဂိုဏ်းနှင့် ဝိညာဏဝါဒဂိုဏ်းသား အချို့တို့ကို ဟီနယာနဟု အမည်ပေးလေသည်။

မဟာယာနနှင့် ဟီနယာန ဂိုဏ်းကွဲချိန်၌ ထေရဝါဒမှာ အိန္ဒိယ ပြည်တွင် မရှိတော့ပြီ။ သီဟိုဠ်နှင့် သုဝဏ္ဏဘူမိ သထုံပြည်တို့၌သာ ကျန်ရှိ တော့၏။ ထို့ကြောင့် မဟာယာန, ဟီနယာန အမည်များသည် ကျွန်ုပ်တို့ ထေရဝါဒ ဗုဒ္ဓသာသနာနှင့် တတိယသင်္ဂါယနာကပင် လမ်းခွဲခဲ့ကြပြီဖြစ်၍ ထေရဝါဒနှင့် လုံးဝမဆိုင်ချေ။ သဗ္ဗတ္ထိဝါဒ, သုတ္တန္တိကစသော ဂိုဏ်းများ နှင့်သာ ဆိုင်၏။ ဤအကြောင်းကို သေချာစွာ မသိသော ပုဂ္ဂိုလ်များက ထေရဝါဒကို 'ဟီနယာန'ဟု လွဲမှားခေါ်နေခြင်းဖြစ်၏။

အချို့သော ထေရဝါဒ ရဟန်းများသည်ပင်လျှင် နိုင်ငံခြားသားတို့ ပြောစကား နားယောင်၍ မိမိတို့ ထေရဝါဒကို 'ဟီနယာန'ဟု ခေါ်နေကြ သည်မှာ ဝမ်းနည်းဖွယ်ရာ ကောင်းလှပေသည်။

◆◆◆◆◆◆◆◆



# တန္တရယာန

တန္တရ၏ အနက်အဓိပ္ပာယ်မှာ 'ဉာဏ်ပညာ' ဟု အဓိပ္ပာယ်ရ၏။ ဂါထာမန္တရားများသည် လောကီဉာဏ်ပညာမှ စ၍ လောကုတ္တရာဉာဏ်ပညာအထိ ရရှိစေနိုင်သောကြောင့် 'တန္တရ'ဟု ခေါ်ရ၏။

တန္တရ = ဉာဏ်ပညာ-ဉာဏ်ပညာရကြောင်း မန္တန်စသည်။

ယောဂါစာရဂိုဏ်းက ဝိညာဏ်ကို ဦးစားပေး၍ ဝိညာဏ်တိုးတက်အောင် ဘာဝနာပွားနည်းများကို အရေးထားဖော်ပြရာမှ တန္တရဝါဒ အမျိုးမျိုး ပေါ်လာသည်။ ဓာရဏီခေါ်သော ပရိတ်အမျိုးမျိုးနှင့် မန္တန်များ၊ 'မဏ္ဍလ'ခေါ် စက်ဝိုင်းထွင်းရှိ ရုပ်ပုံများ၊ တြိဂံပုံစသော အင်းကွက်များသည် သမာဓိလုပ်ငန်း၌ အရေးပါလာ၏။

တန္တရဝါဒကို လူပရိသတ်ရှေ့တွင် ဆွေးနွေးလေ့ မရှိချေ။ မိမိတို့ သဘောတူသူအချင်းချင်း အုပ်စုငယ်များဖွဲ့၍ အုပ်စုငယ်များအတွင်း၌ တိုးတိုးတိတ်တိတ် တီးတိုးပြောဆိုကြရသည်။ မယုံကြည်သူများနှင့် မဆွေးနွေး၊ ပွင့်ပွင့်လင်းလင်း ပြောတတ်သူများကို အဝေးက ရှောင်လေ့ရှိကြ၏။ ဆရာလုပ်သူသည် လူထုပရိသတ်ရှေ့၌ လူကြား၍ ကောင်းမည့် ဘုရားစကား, တရားစကားများ ပြော၍ မိမိတပည့်ရင်း လူယုံတော်များကိုသာ လျှို့ဝှက်ပညာရပ်များကို သင်ကြားပေး၏။ များသောအားဖြင့် ဆရာနှင့် တပည့် တစ်ဦးချင်း ပညာလွှဲအပ်လေ့ရှိ၏။ အာဏာလွှဲအပ်ပေးလေ့ရှိကြသည်။

လျှို့ဝှက်မှုကို ပို၍ ကျစ်လျစ်သိပ်သည်းစေရန် လျှို့ဝှက်သင်္ကေတစကားလုံးများ, ခြေဟန်လက်ဟန်များ, အထိမ်းအမှတ်များကို အသုံးပြုကြ၏။ ဤလျှို့ဝှက် သင်္ကေတများကို တန္တရဂိုဏ်းဝင် အချင်းချင်းသာ အဓိပ္ပာယ်ဖော်ထုတ်နိုင်ကြ၏။ ဤဂိုဏ်းဝင်တို့ ပြောသော စကားလုံး

များကို တိုက်ရိုက်အဓိပ္ပာယ် အဖြောင့်မယူရပေ၊ ထွက်ရပ်ပေါက် (သိဒ္ဓိပေါက်) ပုဂ္ဂိုလ်ကြီးသည် မိမိထံ ဆည်းကပ်လာသူများအား မအေး, နှမ ဆဲချင်ဆဲပေလိမ့်မည်။ ထိုသို့ ဆဲလိုက်သော ထိုဂိုဏ်းဝင် ပုဂ္ဂိုလ်များက အဓိပ္ပာယ်တစ်မျိုး ကောက်ယူကြရသည်။

ဥပမာ = ဓားနဲ့ထိုးဟု ဆရာကြီးကပြောလိုက်လျှင် 'ဓား'မှာ စနေနံဖြစ်၍ 'ထိ'ကို ဆိုလို၏။ ဓားနဲ့ ထိုးလျှင် ပေါက်မည်။ ထို့ကြောင့် ဓားနဲ့ထိုးဟု ပြောခြင်းသည် သိန်းထိပေါက်မည်ဟု အဓိပ္ပာယ်ကောက်ကြခြင်းမျိုး ဖြစ်၏။ ၃၂ ကောင် အတိတ်ကောက်သကဲ့သို့ ထိုဂိုဏ်းဆရာကြီးတို့၏ စကားကို အဓိပ္ပာယ်မှန်အောင် ကောက်ယူရန် ခက်ခဲလှ၏။

ကျွန်ုပ်တို့ငယ်စဉ်က မိခင်ဖြစ်သူသည် နွားပျောက်သဖြင့် နတ်ကတော်ကို ဆန်တစ်ပြည် ငွေတစ်မတ်ဆက်၍ မေး၏။ ထိုအခါ ကိုကြီးကျော် ပူးဝင်လာ၍ ပျောက်သောနွားမှာ ရွာ၏အရှေ့ဘက်တွင် ရှိသည်ဟု ဆို၏။ နတ်ကတော် ဟောသည့်အတိုင်း ရွာ့အရှေ့ဘက်သို့ သွားရောက်ရှာကြရာ မတွေ့သဖြင့် ရွာ့အနောက်ဘက်သို့ လှည့်သွားသောအခါ ပျောက်သော နွားကို ရွာ၏အနောက်ဘက်တွင် တွေ့ရ၏။ ထိုအခါ နတ်ကတော်ကြီးက "နတ်ဟောတဲ့ စကားကို တိုက်ရိုက်အဓိပ္ပာယ် မယူရ အရှေ့ဆိုရင် အနောက်လို့ သမသတ်ယူရတယ်"ဟု ဖြေရှင်းချက်ပေးလေသည်။

ဤကား စုန်း၊ နတ်၊ တစ္ဆေ၊ ကဝေ၊ အောက်လမ်း၊ အထက်လမ်း ဟူသော တန္တရဝါဒ၏ မတိကျ, မရေရာပုံ ဖြစ်ပါသည်။

တန္တရဝါဒ၌ နတ်အမျိုးမျိုး, မယ်တော် နတ်သမီးအမျိုးမျိုးကို လက်ခံထား၍ ထိုနတ်တို့၏ အကူအညီကြောင့် နတ်ကိုးကွယ်မှုများ, မန္တန် ရွတ်သူများသည် သိဒ္ဓိအမျိုးမျိုး, တန်ခိုးအမျိုးမျိုး ရနိုင်သည်ဟု ယုံကြည်ကြသည်။

တန္တရအယူဝါဒမှာ ဗုဒ္ဓဘာသာဝင်များက စတင် တီထွင်ခဲ့ခြင်း မဟုတ်ချေ။ ကမ္ဘာဦးလူပေါ်စကပင် တန္တရဝါဒများ ပေါ်ခဲ့၏။ မန္တရားကို ရွတ်ဖတ်ခြင်းဖြင့် မကောင်းဆိုးဝါးများ ကြောက်လန့်သည်။ ဘေးအန္တရာယ်

ကင်း၍ ကောင်းကျိုးချမ်းသာ တိုးပွားနိုင်သည် ဟူသော ယူဆချက်သည် ကမ္ဘာဦးမှ စ၍ ယနေ့တိုင်အောင် လူသားတို့၏ အသည်းနှလုံး၌ ကိန်းဝပ်လျက် ရှိ၏။ စက်မှုလက်မှု တိုးတက်နေသော အနောက်တိုင်းနိုင်ငံများတွင် စိန့်ခေါ် ရဟန္တာပုံ စသည်တို့ကို အန္တရာယ်ကင်း အဆောင်ကောင်း အဖြစ်ဖြင့် အသုံးပြုနေကြဆဲ ဖြစ်၏။

ထို့ကြောင့် မတိုးတက်သေးသော တောင်ပေါ်သားများမှ စ၍ တိုးတက်ပြီဟု ဆိုနေကြသော ဒုံးပျံစီးသူအထိ မန္တန်နှင့် အဆောင်ဩဇာရိပ်မှ မလွတ်နိုင်ကြသေးချေ။ တန္တရဝါဒသည် မှေးမှိန်ခြင်းနှင့် ထွန်းတောက်ခြင်းသာ ကွာခြားမှုရှိ၍ မည်သည့်ခေတ်, မည်သည့် တိုင်းပြည်တွင်မျှ လုံးဝ ကွယ်ပျောက်ခြင်း မရှိခဲ့ချေ။ လူရှိနေသမျှ တန္တရဝါဒ ရှိနေဦးမည်သာဖြစ်၏။

တန္တရဝါဒမှာ လျှို့ဝှက်တီးတိုးဝါဒဖြန့်ရသဖြင့် လွတ်လပ်မှုနည်းပါးလေလေ တန္တရဝါဒ ပို၍ ထွန်းကားပျံ့နှံ့လေလေ ဖြစ်၏။

ရှေးခေတ် သမိုင်းအစက စိုက်ပျိုးစားသူတို့သည် မိုးကို အားထားကြရ၏၊ မြစ်ရေလျှံခြင်းကို ကြောက်ကြ၏၊ မိုးကြိုးနှင့် မုန်တိုင်းကို ကြောက်ကြ၏။ သီးနှံအထွက်ညံ့မည်ကို ကြောက်ကြ၏။ ထိုအခါ သက်ဆိုင်ရာ မိုးနတ်၊ မြစ်စောင့်နတ်၊ မုန်တိုင်းနတ် စသည်ကို ပူဇော်ကြရ၏။ စစ်ပွဲတွင် အနိုင်ရရန် စစ်နတ်ကို ပူဇော်ကြရ၏။ ထိုသို့ ပူဇော်ရာ၌ သက်ဆိုင်ရာ နတ်၏ ဂုဏ်ထူးများ၊ တန်ခိုးများကို ချီးကျူးဖွဲ့ဆို၍ တင်မြှောက်ကြရ၏။ ထိုနတ်သီချင်းများသည် ကာလကြာရှည်သော် ဂါထာမန္တရားများဖြစ်လာကြ၏။ ထိုဂါထာမန္တရားများ ရွတ်လျှင် နတ်များက ကူညီစောင်မကြသည်ဟု ယူဆကြ၏။ ထို့ပြင် ကျွဲ နွား ဆိတ် ကြက် ဝက်တို့ကို သတ်ဖြတ်၍ နတ်တင်ကြရ၏၊ ယဇ်နတ်ပူဇော်ကြရ၏။ လူကိုပင် သတ်၍ ယဇ်နတ်ပူဇော်ကြရ၏။ စုန်း နတ် တစ္ဆေ အစွဲများ လွှမ်းမိုးခဲ့၏။

**ဗြာဟ္မဏတန္တရ။** ။ထိုကမ္ဘာဦးလူသားတို့၏ အယူဝါဒကို အိန္ဒိယပြည်တွင် ဟိန္ဒူ ဗြာဟ္မဏတို့က အမွေဆက်ခံ၍ တန္တရကျမ်းအမျိုးမျိုးကို ရေးသားကြ၏။ ဟိန္ဒူ တန္တရကျမ်းများမှာ ကုဏ္ဍာလိနီ

တန္တရ၊ ယောဂိနီ တန္တရ၊ ကုလာဝဏ္ဏ တန္တရ၊ ဂုတ္တသာမနေတန္တရ၊ ရူဒြ ယမလ၊ ဗြဟ္မယမလ စသည်တို့ ဖြစ်ကြ၏။

ဤတန္တရခေါ် စုန်းတစ္ဆေ မှော်ဝိဇ္ဇာအတတ်များကို ဗုဒ္ဓက ပယ်စွန့်တော်မူကြောင်းကို ဗြဟ္မဇာလသုတ် မဟာသီလခန်း၌ ပြထားသည်။ မဂ် ဖိုလ် နိဗ္ဗာန်ရောက်ကြောင်း တရားလမ်းနှင့် ဖီလာကန့်လန့်ဖြစ်၍ 'တိရစ္ဆာနဝိဇ္ဇာ'ဟု မြတ်စွာဘုရားက အမည်ပေးခဲ့၏။

မြတ်စွာဘုရားနှင့်တကွ ရဟန္တာထေရ်ကြီးများက စုန်းကဝေ မှော်ပညာတို့ကို ပယ်ဖျက်တားမြစ်ခဲ့သော်လည်း ခေတ္တမျှသာ မှေးမှိန်သွား၏။ သာသနာနောက်ပိုင်းတွင်မူ ဗြာဟ္မဏတို့သည် သာသနာတွင်းဝင်လာ၍ တန္တရအကျင့်, ယောဂအကျင့်များကို ရဟန်းဝတ်ဖြင့် ကျင့်သုံးကြရာ တန္တရဝါဒသည် ဗုဒ္ဓဝါဒကို မှီကပ်လာ၏။ ကြာသော် တန္တရဝါဒလွှမ်းမိုး၍ ဗုဒ္ဓဝါဒ ကွယ်ပလေ၏။ ဂါထာမန္တရားရွတ်ခြင်း၊ အင်းချခြင်းတို့ဖြင့် လောကီသိဒ္ဓိပေါက်ရုံမျှမက နိဗ္ဗာန်မဂ်ဖိုလ်ကိုပင် ရနိုင်သည်ဟု အခိုင်အလုံ ကျမ်းဂန်များ ရေးသားကြလေသည်။

ဗြာဟ္မဏတို့သည် ရှိဝနတ်ဘုရားကြီး၏လိင် (ယောကျ်ားအင်္ဂါဇာတ်)ကို ရှိခိုးပူဇော်ကြ၏။[၁] ရှိဝနတ်မင်းကြီး၏ တန်ခိုးသတ္တိကို (ရှတ်ကတိ)ဟု ခေါ်၏။ ရှိဝနှင့် သတ္တိကို တခြားစီခွဲခြားလိုက်သောအခါ ရှိဝမှာ အဖိုဓာတ်ဖြစ်ပြီး သတ္တိသည် အမဓာတ်ဖြစ်၍ ရှိဝ၏ မိဖုရားကြီး ဖြစ်လာ၏။ ထိုနတ်မိဖုရားကို မဟာဒေဝီဟု ခေါ်၏။ မဟာမာတာ (မယ်တော်ကြီး) ဟုလည်း ခေါ်၏။ အောင်မဲညိုပွင့်အဆင်းကဲ့သို့ နက်ပြာရောင်ရှိသောကြောင့် 'ဥမာ'ဟု ခေါ်၏။ ကြောက်မက်ဖွယ်အသွင်ကို ယူ၍ ရန်သူများကို တိုက်ခိုက်သောအခါ ဒုရဂါဟု ခေါ်၏။ အသားမည်းနက်သောကြောင့် ကာလီနတ်သမီးဟုလည်း ခေါ်၏။ အောက်လမ်းဆရာတို့ မှော်သွင်းသောအခါ လူသားဖြင့် တင်မြှောက်ပသခံယူချိန်တွင် ကြောက်မက်ဖွယ် ကြမ်းကြုတ်သော အသွင်ရှိ၍ စဏ္ဍီဟု ခေါ်၏။ ဘေရဝီဟုလည်း ခေါ်၏။

---

မှတ်ချက်

၁။ သိဝလိင်္ဂါဒိပူဇနတ္ထာယ ဝါ ကာဃစိပိ ပုပ္ပံ ဒါတုံ န ဝဋ္ဋတိ (ဝိ၊ ၄၊ ၂ ၂၀၉)

သာသနာ ၁၄၀၀ ခန့်က ရေးသားသော အိန္ဒိယပြဇာတ်တစ်ခု တွင် ရှိဝ (သိဝ) ဂိုဏ်းသား မှော်ဆရာဖြစ်သော ဘေရဝါနန္ဒ သီဆိုသော သီချင်း -

"အရက်ကြိုက်၍ မိန်းမကြိုက်သော ငါတို့က အင်အားကောင်း ၏။ မောက္ခ (လွတ်မြောက်မှု) ရရေးအတွက် ပျော်ရွှင်စွာ ကကြပါ စို့၊ ငါသည် ကြောက်စရာ ယဇ်ပလ္လင်သို့ မိန်းမငယ်ကို ခေါ်ဆောင် လာ၏။ ဗိရှုဏု, ဗြဟ္မာစသော အခြားဘုရင်များက ယဇ်ပူဇော် မှုဖြင့်လည်းကောင်း၊ ဝေဒဖြင့်လည်းကောင်း၊ စျာန်ဖြင့်လည်း ကောင်း နိဗ္ဗာန်ရနိုင်သည်ဟု ဟောကြ၏။ ဥမာ၏ ချစ်လင် ရှိဝ သည် အရက်, မိန်းမ, ပျော်ပွဲ နိဗ္ဗာန်တို့ကို ပေးပါလော့၊ ဤလမ်းစဉ် တို့ကို ရှိဝသာလျှင် ဟောကြားတတ်၏။

ထို့ပြင် ဘဝဘူတိရေးသော မာလတီမာဓဝပြဇာတ်၌ 'အဃောရ ယဏ္ဍာ' အမည်ရှိသော မှော်ဆရာကြီးသည် ဇာတ်လိုက်မင်းသမီး မာလတီကို သတ်၍ စဏ္ဍီနတ်သမီးအား ယဇ်ပူဇော်ရန် ပြုလုပ်ကြပုံကို ရေးသားထား၏။

ဤသို့ စုန်း, တစ္ဆေ, ကဝေ, မှော်, ဇော်ဂနီ (ယောဂိနီ) ပညာရပ်များ၌ အယူသီးနေသော ဗြာဟ္မဏမျိုးနွယ် ရဟန်းများသည် ဗုဒ္ဓတန္တရကို တီထွင်ကြ၏။

ဗုဒ္ဓတန္တရ။ ။ဗြာဟ္မဏတို့၏ သတ္တိ (ရှတ်ကတိ) ကိုးကွယ်မှုသည် ဗုဒ္ဓ ဘာသာအတွင်း ဝင်ရောက်လာ၏။ သတ္တိကို 'မာယာ'ဟု ခေါ်၏။ သတ္တိခေါ် မာယာကလူကို သံသရာထဲ၌ ချုပ်နှောင်ထား၏။ ထိုမာယာ၏ ချုပ်နှောင်မှုမှ လွတ်မြောက်အောင် ကယ်နိုင်သူမှာ ပညာ သာလျှင်ဖြစ်၏။ သတ္တိခေါ် မာယာကို ပညာဖြစ်အောင် ပြောင်းလဲ ပေးရမည်။

မာယာသည် ပညာဖြစ်လာသောအခါ သတ္တဝါသည် သံသရာမှ လွတ်၏။

ဗြာဟ္မဏတန္တရ။ ။ကူလစူဠာမဏိတန္တရကျမ်း၌ ရှိဝနှင့်သတ္တိ ပေါင်းဆုံလျှင် လောကကို ဖန်ဆင်းပြီး ဖြစ်တော့၏။ ဗုဒ္ဓတန္တရ၌မူ ဖန်ဆင်းခြင်း၏ ဆန့်ကျင်ဘက် သုညတာသို့ ရောက်ရန် ကြိုးစားရ၏။ သုညတာသည် မဖန်ဆင်းမီ မူလရှိရင်း ပင်မ ဓာတ်သဘော ဖြစ်၏။ ဗုဒ္ဓတန္တရ၏ ရည်ရွယ်ချက်မှာ သုညတာသို့ ပြန်သွားရန် ဖြစ်၏။ သုညတာကို သိမှုသည် ပညာမည်၏။

မေတ္တာမပါသော ပညာသည် ဖျက်ဆီးမှုသို့ ဦးတည်၏။ ပညာမပါသော မေတ္တာသည် မျက်ကန်းအချစ်ဖြစ်၍ အန္တရာယ်များ၏။

**ပညာပါရမိတာနတ်သမီး။** ။မေတ္တာတရား (အချစ်) ကို ယောကျ်ား (ပုလ္လိင်) အဖြစ် တင်စား၍ ပညာကို မိန်းမ (ဣတ္ထိလိင်) အဖြစ် တင်စားလိုက်၏။ မေတ္တာနှင့် တွဲစပ်ထားသော ပညာသည် အမြင့်မြတ်ဆုံး ဉာဏ်ဖြစ်၏။ ဤအဓိပ္ပာယ်ကို သရုပ်ဖော်ရန် မေတ္တာဓာတ် အမြင့်မားဆုံးအချိန် ဖို-မ နှစ်ဦး စပ်ယှက်နေဟန်ကို ဖော်ပြကြသည်။ ဤစုံတွဲပုံကို မဟာမုဒြာဟု ခေါ်၏။ ကမ္မဋ္ဌာန်းထိုင်ရာ၌ ဤစုံတွဲပုံ ရုပ်တုကို ကြည့်၍ အာရုံနိမိတ်ယူကြရ၏။

ဗုဒ္ဓ (ဖိုဓာတ်) သည် ပညာ (မဓာတ်)နှင့် ပေါင်းစပ်လိုက်သောအခါ တစ်ခုတည်း ဖြစ်လာ၏။ လင်နှင့်မယားသည် ထိုအချိန်၌ တစ်စိတ်တစ်ဝမ်းတည်း ပေါင်းစပ်သွား၏။ ဤသို့ ပေါင်းစပ်သွားခြင်းသည် အမြတ်ဆုံး ချမ်းသာ (မဟာသုခ) ဖြစ်၏။ ဤသို့လျှင် မေတ္တာကို ကိုယ်စားပြုသော ဗောဓိသတ္တ ရုပ်တုသည် ပညာနတ်သမီးရုပ်ကို ပွေ့ဖက်ထားသည့်ပုံကို ထုလုပ်ကြ၏။ ပညာပါရမိတာကျမ်းမှာ ပညာပါရမီကို ဖွဲ့ဆိုထားသော ကျမ်းဖြစ်၏။ ထိုပညာပါရမိတာကျမ်းကိုပင် နတ်သမီးအဖြစ် တင်စား၍ ဗောဓိသတ္တ၏ ရင်ခွင်၌ရှိသော နတ်သမီးကို ပညာပါရမိတာ နတ်သမီးဟုလည်း ခေါ်ကြ၏။ ထိုစုံတွဲ ပွေ့ဖက်နေပုံကို တိဘက်ပြည်၌ များစွာ ထုလုပ်ကိုးကွယ်ကြ၍ တိဘက်ဘာသာဖြင့် Yabyum ဟု ခေါ်ကြ၏။ (ယာဘ = မေထုန်မှီဝဲမှု) ပညာပါရမိတာ နတ်သမီးသည် မဟာယာန

တို့၏ ပထမဦးဆုံး ဖန်တီးလိုက်သော နတ်သမီးကြီးဖြစ်၏။ ပညာပါရမိကိုလည်းကောင်း, ပညာပါရမိတာကိုလည်းကောင်း, မန္တန်ကိုလည်းကောင်း, နတ်သမီးကိုလည်းကောင်း, ပညာပါရမိတာဟု ခေါ်၏။ ပညာပါရမိတာသုတ်၌ ပညာကို သဗ္ဗဗုဒ္ဓမာတား-ဘုရားအားလုံး၏ မယ်တော်ဟု တင်စားရေးခဲ့၏။ ပညာပါရမိတာ,က ဗုဒ္ဓကို မွေးထုတ်သည်ဟု တင်စား၏။ ထိုနတ်သမီးသည် ဗုဒ္ဓနှင့်တန်းတူ နေရာယူလာ၍ ရုံခါ အပေါ် စီးယူ၏။ ဘယ်ဘက်လက်ရှိ ကြာပန်းပေါ်၌ ပိဋကသုံးပုံရှိ၏။

ပညာကို အပျိုစင်မိခင်ဟု တင်စားကြ၏။

မြေထဲပင်လယ်၌ Sophia (ပညာ) ကို အပျိုစင်မိခင်ဟု တင်စားပြောကြ၏။

ထိုမှ တစ်ဆင့်တက်၍ ဇိုရိုအက်စတာဘာသာ တည်ထောင်သူကို အပျိုစင်မိခင်က မွေးဖွားသည်ဟု ဆိုကြ၏။

ယေရှုခရစ်တော်ကို မေရီ အပျိုစင်မိခင်က မွေးဖွားသည်ဟု ဆိုကြသည်။

ဂျာမန်တွေးခေါ်သူ ပညာရှင်ကြီးကန့်ကို "အဘယ့်ကြောင့် အိမ်ထောင် မပြုသလဲ"ဟု မေးရာ "အကျွန်ုပ်မှာ အမြဲတမ်း ဘဝသခင်မ (ဇနီး) ရှိပါသည်" ဟု ဖြေ၏။ သူ၏ဇနီးမှာ မက်တာဖိဇစ် ဖြစ်၏။

တာရာဒေဝီ။ ။ပညာပါရမိတာနတ်သမီးနောက် ဒုတိယ အထင်ရှားဆုံးမှာ တာရာ မယ်တော်နတ်သမီး ဖြစ်၏။ တာယတိ ရက္ခတီတိ တာရာ။ တာယတိ ရက္ခတိ-စောင့်ရှောက်၏။ ဣတိ တသ္မာ- ထို့ကြောင့်၊ တာရာ-တာရာ မည်၏။

တာရာနတ်သမီးသည် ကူညီမစတတ်၏၊ ဘေးရန်မှ ကာကွယ်၏၊ အလိုဆန္ဒဖြည့်တတ်၏။ ပညာပါရမိတာကို ပညာရှိ ရဟန်းတော်များက ဖန်တီး၍ တာရာမယ်တော်ကိုမူ လူထုက ဖန်တီး၏။ အဝလောကိတေသရ ဘုရားလောင်းသည် အမျိုးသမီးအသွင်ကို ဆောင်၍ တာရာဒေဝီကို

အမည်ခံသည်ဟု ဆိုကြသည်။ ဘဂဝတီ-ဘုရားမဟု ခေါ်၏။ ရှေးခေတ်က အိန္ဒိယဘုရင်များနှင့် တရုတ်ဘုရင်များ၏ နန်းတော် မိဖုရားဆောင်များတွင် ဘုရားလောင်း ယောက်ျားပုံစံများကို ကိုးကွယ်ခွင့်မရချေ။ ထိုမိဖုရား မောင်းမမိသံတို့ ကိုးကွယ်ရန်အတွက် အဝလောကိတေသရ ဘုရားအလောင်း နတ်သားကို တာရာဒေဝီဘုရားမ (ဘဂဝတီ)အဖြစ်သို့ ပြောင်းလဲပေးလိုက်၏။

အဝလောကိတေသရ၏ မျက်ရည်အိုင်တွင် ပေါက်လာသော ကြာပွင့်မှ တာရာဒေဝီကို မွေးဖွားလာသည်ဟု ဆိုကြ၏။

အပျိုစင်ရုပ်သွင်၊ အဘွားအိုအသွင်၊ ကြောက်မက်ဖွယ် ဘီလူးမ အသွင်ဟု အသွင်အမျိုးမျိုး ပြောင်းလဲနိုင်၏။

သာသနာနှစ် (၁၂၀၀) ခန့်က သူရဒ္ဓပြည့်ရှင် ဘုရင့်သားတော်တစ်ပါးသည် တာရာဒေဝီ၏ တိုက်တွန်းမှုကြောင့် ထီးနန်းစွန့်၍ ရဟန်းပြုသည်ဟု ဆိုကြ၏။

တိဘက်ဘုရင် Srong Tsen Gampo (သာ-၁၁၉၄)မှာ မိဖုရားနှစ်ပါးရှိ၏။ တစ်ပါးမှာ တရုတ်ဘုရင့်သမီးတော်ဖြစ်၍ တာရာဖြူဟု ခေါ်၏။ အခြားတစ်ပါးမှာ နီပေါဘုရင့်သမီးတော်ဖြစ်၍ တာရာစိမ်းဟု ခေါ်ကြ၏။

> အုမ် လောစနေ သုလောစနေ တာရေ တာရဿဝေ သဗ္ဗသတ္တာ-
> နုကမ္ပိနိ သဗ္ဗသတ္တဥတ္တာရိဏိ၊ သဟဿဘုဇေ သဟဿနေတ္တေ။
> (အဋ္ဌဥတ္တရသတကထုတိဂါထာ၊ ၂၆)

လောစနေ၊ မျက်စိအမြင်ရှိသော။ သုလောစနေ၊ လှပတင့်တယ်သော မျက်လုံးရှိသော။ တာရဿဝေ၊ ပွဲသဘင်၏ ကြယ်တာရာသဖွယ်ဖြစ်သော။ သဗ္ဗသတ္တာနုကမ္ပိနိ၊ သတ္တဝါအားလုံးကို အစဉ်သနားတတ်သော။ သဗ္ဗသတ္တဥတ္တာရိဏိ၊ သတ္တဝါအားလုံးကို သံသရာဝဲဩဃမှ ကူးမြောက်စေတတ်သော။ သဟဿဘုဇေ၊ လက်ရုံးတစ်ထောင်ရှိသော။ သဟဿနေတ္တေ၊ မျက်လုံးတစ်ထောင်ရှိသော။ တာရေ၊ အို-တာရာဒေဝီနတ်သမီး။

**ဗီဇအက္ခရာများ။** ။ဘုရားအလောင်း နတ်သား, နတ်သမီးတို့သည် ဗီဇအက္ခရာမှ ထွက်ပေါ်လာကြ၏။ အရိမေတ္တယျ ဘုရားအလောင်းမှာ ဗီဇအက္ခရာမှာ 'မမ်' ဖြစ်၏။ တာရာဒေဝီ၏ ဗီဇ အက္ခရာမှာ 'တံ'ဖြစ်၏။ အဝလောကတေသရ၏ ဗီဇအက္ခရာမှာ 'ဟရိ' ဖြစ်၏။

**တာရာဒေဝီပူဇော်ပုံ။** ။ရှေးဦးစွာ တာရာဒေဝီ၏ ရုပ်တုရှေ့၌ ထိုင်၍ ဘုရားငါးဆူနှင့် ဘုရားလောင်းနတ်သားများ၊ တာရာဒေဝီ အပါအဝင် ဘုရားလောင်း နတ်သမီးများကို ရှိခိုးကန်တော့ ရမည်။ ထို့နောက် မေတ္တာ စသော ဗြဟ္မစိုရ်တရားလေးပါးကို ပွားရမည်။ ငါသည် အစမူလကပင် စင်ကြယ်သည်ဟုမှတ် ယူ၍ ဘာဝနာပွားရမည်။ အောက်ပါ ဂါထာမန္တန်ကို ရွတ်ရမည်။

"အုမ် သဘာဝသုဒ္ဓေါ သဗ္ဗဓမ္မသဘာဝသုဒ္ဓေါ အဟံ"

အဟံ၊ ငါသည်။ သဘာဝသုဒ္ဓေါ၊ မူလသဘာဝအတိုင်း စင်ကြယ်၏။ သဗ္ဗဓမ္မသဘာဝသုဒ္ဓေါ၊ ခပ်သိမ်းသော တရားသဘောအားဖြင့် စင်ကြယ်၏။

ထို့နောက် တစ်လောကလုံးသည် ဘာမျှမရှိ၊ သုညသာ ဖြစ်သည်။ ငါနှင့် သုညလောကသည် ထပ်တူဖြစ်သည်ဟု အောက်မေ့ ဆင်ခြင်၍ အောက်ပါ ဂါထာမန္တန်ကို ရွတ်ရမည်။

"အုမ် သုညတာဉာဏဝဇိရသဘာဝတ္တကော အဟံ"

အဟံ ငါသည်။ သုညတာဉာဏဝဇိရသဘာဝတ္တကော၊ သုညတာ ကို သိသော ဉာဏ်တည်းဟူသော စိန်ဖြင့် ပြုလုပ်ထားသော ကိုယ် ခန္ဓာရှိ၏။

တစ်ဖန် လပြည့်ဝန်းမှ ထွက်ပေါ်လာသော ဗီဇအက္ခရာ 'တံ'ကို ရွတ် ဖတ်၍ တာရာဒေဝီသည် ငါ၏နှလုံးအိမ်၌ တည်သည်ဟု ရှုမှတ်ပွားများ ပြီးနောက် အောက်ပါ ဂါထာမန္တန်ကို ရွတ်ဆိုပွားများရမည်။

"အုမ် တာရေတု တာရေတု တာရေ သွာဟ"

(တာရေ၊ အိုတာရာဒေဝီ။ တာရေတု တာရေတု၊ သံသရာဝဲဩဃမှ ငါ့ကို ကူးမြောက်ပါစေလော့၊ သွာဟ၊ ကောင်းကျိုးချမ်းသာမင်္ဂလာနှင့် ပြည့်စုံပါစေသတည်း။)

မိမိအပါအဝင် တစ်လောကလုံးကို သုညအဖြစ်သို့ ရောက်စေ၍ သုညထဲ၌ နတ်သမီးကို ဖန်ဆင်းယူ၏။ ထိုနတ်သမီးသည် မိမိကိုယ်တိုင်ပင် ဖြစ်သည်ဟု ထပ်တူပြုပွားများရ၏။ ထိုအခါ လက်အနေအထားကို ဥပ္ပလမုဒြာခေါ် ကြာငုံသဏ္ဍာန် ပြုလုပ်ထားရမည်။ လက်ဝါးနှစ်ဖက်ကို ပူးကပ်၍ လက်အုပ်ချီဟန်ထားရမည်။ လက်သူကြွယ် နှစ်ချောင်းကို အတွင်းသို့ ကွေးညွှတ်ဝှက်ထားရမည်။ လက်ညှိုးနှစ်ချောင်းကို လက်မထိပ်နှစ်ခုပေါ်သို့ ကွေးထိထားရမည်။ လက်သန်းနှင့် လက်ခလယ်တို့ကို ဖြောင့်မတ်စွာ ရှိစေရမည်။

ထိုအခါ မိမိကိုယ်တိုင် တာရာဒေဝီ ဖြစ်လာ၍ ဗောဓိသတ္တအဖြစ်ကို ရ၏။

အခြားသော ဘုရားလောင်း နတ်သား, နတ်သမီးများကို ပူဇော်ရာ၌လည်း အစီအရင် အနည်းငယ်မျှသာ ကွဲ၏။

မိမိအပါအဝင် တစ်လောကလုံးကို သုညဖြစ်အောင် ရှုမှတ်ပြီးသောအခါ သုညထဲမှ ဘုရားလောင်းကို စိတ်ဖြင့် ဖန်ဆင်းယူရ၏။ ထိုဘုရားလောင်းကို ပူဇော်သူနှင့် ထပ်တူပြု၍ ပူဇော်သူကိုယ်တိုင် ချက်ချင်းလက်ငင်း ဘုရားလောင်းအဖြစ်ကို ရအောင် ပြုလုပ်သောနည်း ဖြစ်၏။

ဤနည်းမှာ သမထထိုင်နည်းတစ်ခု ဖြစ်၏။ ဤခေတ်၌လည်း အချို့သော တရားအားထုတ်သူ ယောဂီများသည် ဘုရားဆင်းတုများကို ကြည့်၍ ဘာဝနာပွားရာ ယောဂီကိုယ်တိုင် ဘုရားဖြစ်နေသည်ကို တွေ့ကြုံကြရ၏။ သမထအာရုံအတွင်း၌ ဘုရားဆင်းတုနှင့် မိမိသည် နှစ်ခုမကွဲပြားတော့ဘဲ တစ်ခုတည်းဖြစ်နေသဖြင့် 'ငါကိုယ်တိုင် ဘုရားဖြစ်

နေပါပေါ့လား'ဟု ဝမ်းသာအားရ ဖြစ်တတ်၏။ ဆရာကောင်း မတွေ့ပါက ထိုယောဂီမျိုးမှာ စိတ်ဓာတ်မူမမှန် ဖြစ်သွားတတ်လေသည်။ ထိုသို့ဖြစ်ရခြင်းမှာ ဘုရားအာရုံပြုရာ၌ ဂုဏ်တော်သို့ မရောက်ဘဲ ပုံတော်တွင်သာ ရပ်နေသောကြောင့် ဖြစ်၏။ တန္တရယာန ဘာဝနာပွားနည်းသို့ လွဲမှားရောက်ရှိသွားခြင်းဖြစ်ကြောင်းကို သတိပြုသင့်လေသည်။

ဝဇီရတာရာ။ ။ဝရဇိန်စိန်ကဲ့သို့ မာကျောသော တာရာဒေဝီနတ်သမီးဟု ဆိုလို၏။ ဝဇီယာနဂိုဏ်းသားတို့က ထပ်ဆင့်တီထွင်ခြင်းဖြစ်၏။ ဝဇီရတာရာ၏ ရုပ်တုကို ကြာပွင့်ကြာငုံအတွင်း၌ ထုလုပ်ကိုးကွယ်ကြ၏။

မာတုမဏ္ဍလမဇ္ဈဋ္ဌံ၊ တာရာဒေဝိံ ဝိဘာဝယေ။
အဋ္ဌဗာဟုံ စတုဝက္တံ၊ သဗ္ဗာလင်္ကာရဘူသိတံ။
ကနကဝဏ္ဏနိဘံ ဘဗ္ဗံ၊ ကုမာရိလက္ခဏုဇ္ဇလံ။
ပဉ္စဗုဒ္ဓမဟာမကုဋိ၊ ဝဇီရသူရိယာဘိသေကဇံ။
နဝယောဗ္ဗန္နကဝဏ္ဏိယံ၊ စလကနကကုဏ္ဍလံ။
ဝိသုပဒုမာသမာသိနံ၊ ရတ္တပ္ပဘာဝိဘူသိတံ။
ဝဇီရပါသတထာသင်္-သဝရောဒျတဒက္ခိဏံ။
ဝဇီရင်္ကုသဥပ္ပလဓနု-တဇ္ဇနီဝါမဓာရိဏိံ။
ဝဇီရပလ္လင်္ကယောဂေန၊ သာဓယေ ဘုဝနတ္တယံ။

(သာဓနမာလာ-နှာ-၁၇၉)

မာတုမဏ္ဍလမဇ္ဈဋ္ဌံ၊ မယ်တော်နတ်သမီး ရှစ်ယောက်၏ အလယ်၌ တည်သော။ တာရာဒေဝိံ၊ ဝဇီရတာရာဒေဝီကို။ ဝိဘာဝယေ၊ ထင်ရှားအောင် ပြဆိုရာ၏၊ အဋ္ဌဗာဟုံ၊ လက်ရှစ်ဘက်ရှိ၏။ စတုဝက္တံ၊ မျက်နှာလေးဘက်ရှိ၏။ သဗ္ဗာလင်္ကာရဘူသိတံ၊ တန်ဆာမျိုးစုံဖြင့် ဆင်ယင်အပ်၏။

ကနကဝဏ္ဏနိဘံ၊ ရွှေအဆင်းကဲ့သို့ ဝါဝင်း၏။ ဘဗ္ဗံ၊ ကျက်သရေရှိလှပေ၏။ ကုမာရိလက္ခဏာဇုဋ္ဌလံ၊ အပျိုစင်လက္ခဏာ စုံလင်စွာဖြင့် တောက်ပ၏။ ပဉ္စဗုဒ္ဓမဟာမကုဋ္ဌိ၊ ဝေရောစန အစရှိသော ဘုရားငါးဆူ ပုံတော်ပါသော မကိုဋ်ကို ဆောင်း၏။ ဝဇိရသူရိယာဘိသေကဇံ၊ ဝဇိရနတ်သားနှင့် သူရိယနတ်သားတို့ ဘိသိက်ရေစင်သွန်းဖျန်းမှုကြောင့် ဖြစ်ပေါ်လာသော နတ်သမီးဖြစ်၏။

နဝယောဗ္ဗနကဏ္ဏိယံ၊ အမြဲတမ်း အပျိုစင်အသစ်စက်စက်အသွင်ကို ဆောင်၏။ စလကနကကုဏ္ဍလံ၊ လှုပ်ရှားနေသော ရွှေနားတောင်းကို ပန်ဆင်၏။ ရတ္တပ္ပဘာဝိဘူသိတံ၊ အနီရောင်ဖြင့် တင့်တယ်စွာ တန်ဆာဆင်အပ်သော။ ဝိသုပဒုမာသမာသိနံ၊ ကမ္ဘာလောကတည်းဟူသော ကြာပန်းထက်၌ နေ၏။

ဝဇိရပါသတထာသခ်သဝရောဒျတ ဒက္ခိဏံ၊ ညာဘက် လက်လေးဘက်၌ ဝရဇိန်လက်နက်, ကျော့ကွင်း, ခရုသင်း, အရှိန်ပြင်းသော မြားတို့ကို ကိုင်ဆောင်၏။ ဝဇိရကုံသဥပ္ပလဓနုတဋ္ဋနီ ဝါမဓာရိဏိ၊ ဘယ်ဘက်လက်၌ ဝရဇိန်လက်နက်, ချွန်း, ကြာပန်း, လေးတို့ကို ကြောက်မက်ဖွယ် ကိုင်ထား၏။ (ဝါ) ခြိမ်းခြောက်သောလက်ညှိုးရှိ၏။ ဝဇိရပလ္လက်ယောဂေန၊ စိန်ကဲ့သို့ခိုင်မြဲစွာ ထက်ဝယ်ဖွဲ့ခွေထိုင်နေခြင်း (ဝဇိရပလ္လင်)ဖြင့်။ ဘုဝနတ္တယံ၊ လောကသုံးပါးကို။ သာဓယေ၊ အောင်နိုင်ရာ၏။

**မဟာပတိသရာဒေဝီ။** ။မဟာပတိသရာ၊ မဟာသတသ ပမဒ္ဒိနီ၊ မဟာဂန္တာနုသာရိဏီ၊ မဟာမာယူရီ၊ မဟာသိတဝတီ ဟူသော အစောင့်အရှောက် နတ်သမီး ငါးယောက်ရှိ၏။ နိုင်ငံတော်ကိုလည်းကောင်း၊ ကျေးရွာကိုလည်းကောင်း ကာကွယ်စောင့်ရှောက်၏၊ ဝတ်မွတ်ခေါင်းပါးခြင်းမှလည်းကောင်း၊ ရောဂါမှလည်းကောင်း ကာကွယ်၏။

ထိုနတ်သမီး ငါးပါးတွင် မဟာပတိသရာဒေဝီသည် ထင်ရှား၏။ အသားရောင် ဝါ၏၊ မျက်နှာသုံးခုရှိ၏။ မျက်နှာတစ်ခုလျှင် မျက်လုံး သုံးလုံးစီရှိ၏။ အနက်ရောင်နှင့် အဖြူရောင် မျက်နှာများရှိ၏။ လက်ဆယ်ဘက်ရှိ၏။ ညာဘက်လက် ငါးဘက်သည် သန်လျက်, ဝရဇိန်, မြားကိုင်၍ ဆုပေးဟန်၊ ထီးကိုင်လျက် ရင်ဘတ်ဖိထားဟန် ဖြစ်ကြ၏။ ဘယ်ဘက်လက် ငါးဘက်၌ လေး, အလံ, ရတနာစီခြယ်သော ရောင်လျှံ ရဲတင်း, ခရုသင်းတို့ကို ကိုင်ထား၏။ မကိုဋ်၌ ရတနသမ္ဘဝဘုရားပုံရှိ၏။ ရင်စည်း (ဘော်လီ)မှာ အနက်ရောင် ဖြစ်၏။ အပေါ်ရုံမှာ အနီရောင်ဖြစ်၏။ ခြေတစ်ဖက်ကို ခွေ၍ တစ်ဖက်ကို ချထိုင်သော လလိတမုဒြာဖြင့် ထိုင်၏။ နတ်ဝတ်တန်ဆာ ဆင်ထား၏။

**နီရာတမာဒေဝီ။** ။ အတ္တအမာခံ အနှစ်သာရသဘောကို သက္ကတဘာသာဖြင့် အာတမာ ဟုခေါ်၏။ ထိုအာတမာ မရှိခြင်းကို နီရာတမာ (အနတ္တ)ဟု ခေါ်၏။ နီရာတမာသည် သုညတာပင်ဖြစ်၏။ ဗောဓိသတ္တသည် နီရာတမာနှင့် ပေါင်းစည်းသွားသောအခါ အိုနာ သေ ဒုက္ခမှ လွတ်သော မဟာသုခဘုံကို ရောက်၏။ နီရာတမာ (အနတ္တ) ကို ဒေဝီနတ်သမီး ပြု၍ တင်စားကိုးကွယ်ကြ၏။ ဗောဓိသတ္တဘုရားလောင်းသည် နီရာတမာဒေဝီ၏ ရင်ခွင်သို့ ဝင်၍ ဖက်ထားပုံကို ထုလုပ်ကြ၏။

အက္ခောဘဘုရားမှ မွေးဖွားသဖြင့် သရဖူတွင် အက္ခောဘ ဘုရားပုံပါ၏။ ဘယ်ဘက်လက်က ဓားရှည်ကို ကိုင်၍ လူသေကောင်ပေါ်တွင် ရပ်လျက် ရှိ၏။

**မာရိစီဒေဝီ။** ။ အရုဏ်ဦးနတ်သမီးဖြစ်၏။ ဝက်ခုနစ်ကောင် ဆွဲထားသော ရထားကို စီး၏။ ဝေရောစနဘုရား၏ မိဖုရား (သတ္တိ) ဖြစ်၏။

ထို့ပြင် ဓူပါ၊ ပုပ္ဖာ၊ ဂန္ဓာ၊ ဒီပါ စသော ဘုရားလောင်းနတ်သမီးများစွာ ရှိသေး၏။

**ပဏ္ဏသဝရီဒေဝီ။** ။ ပဏ္ဏ = သစ်ရွက် + သဝရ = လူရိုင်းမျိုး။ တောင်ပေါ်သား လူရိုင်းမျိုးတို့ ကိုးကွယ်သော နတ်သမီးဖြစ်၏။ မျက်နှာသုံးခုနှင့် လက်ခြောက်ဘက်ရှိ၏။ ထိုနတ်သမီးခြေရင်း၌ ဆင်ဦးခေါင်းနှင့် လူကိုယ်ပါသော (ဂဏေသ) နတ်သည် မှောက်လျက်လဲနေပုံ ပါရှိ၏။

## ဘုရားလောင်းနတ်သားများ

**အရိမေတ္တယျဘုရားလောင်း။** ။ ယခုလက်ရှိသာသနာတော်မှာ ဂေါတမဘုရားရှင်၏ သာသနာတော် ဖြစ်၏။ အရိမေတ္တယျမှာ နောင်တွင် ပွင့်တော်မူမည့် ဘုရားဖြစ်၍ တုသိတာနတ်ပြည်၌ စံနေတော်မူကြောင်းကို ထေရဝါဒဘက်က လက်ခံထား၏။

မဟာယာနဗုဒ္ဓဝင်ဖြစ်သော လလိတဝိတ္ထာရကျမ်း၌ -

'ဂေါတမ ဘုရားအလောင်းတော် သေတကေတု နတ်သားသည် လူ့ပြည်သို့ သက်ဆင်း၍ ပဋိသန္ဓေယူခါနီး၌ တုသိတာနတ်ပြည်ရှိ နတ်အပေါင်း ငိုကြွေးနေသည်ကို ဤသို့ နှစ်သိမ့်စကားဆို၏။ "သင်နတ်အပေါင်းတို့အား အရိမေတ္တေယျ ဘုရားအလောင်းနတ်သားသည် တရားဟောတော်မူလိမ့်မည်"ဟု မိန့်တော်မူ၏။ မိမိ၏လက်တော်ဖြင့် မေတ္တေယျဘုရားအလောင်းတော်၏ ဦးခေါင်းတော်ကို ကိုင်၍ 'သင်နတ်သားသည် ငါ၏အခြားမဲ့၌ ဘုရားဖြစ်လတ္တံ့သော ယောကျ်ားမြတ်တည်း"ဟု မိန့်တော်မူ၏။ (လလိတဝိတ္ထာရ-၇၀)

အရိမေတ္တယျ ဘုရားအလောင်းပုံ၏ မကိုဋ်တော်တွင် စေတီပုံ ပါရှိ၏။ ထိုစေတီမှာ ဗုဒ္ဓဂယာအနီး ကုက္ကုဋပါဒတောင်ပေါ်ရှိ ထူပါရုံစေတီဖြစ်သည်။ ထိုစေတီအတွင်း၌ ကဿပဘုရားရှင် ကိန်းအောင်းလျက် ရှိ၏။ အရိမေတ္တယျ ဘုရားအလောင်းသည် ဘုရားဖြစ်ချိန်တန်၍ လူ့ပြည်သို့ သက်ဆင်းသောအခါ ထိုစေတီသို့ သွားလတ္တံ့၊ ထိုစေတီတော်အတွင်းမှ ကဿပဘုရားရှင် ထွက်လာ၍ သပိတ်သင်္ကန်း ပရိက္ခရာများ ပေးအပ်ချီးမြှင့်လိမ့်မည်ဟု တန္တရကျမ်းများက ဆိုကြ၏။

အရိမေတ္တေယျပူဇော်ပုံ။ ။ ပူဇော်သူသည် မိမိကိုယ်တိုင် အရိမေတ္တေယျ ဘုရားလောင်းဖြစ်သည်ဟု အောက်မေ့ယူဆရမည်။ မိမိ၌ မျက်စိသုံးလုံး ရှိသည်။ မျက်နှာသုံးဘက်ရှိသည်။ ညာဘက်မျက်နှာ၌ အပြာရောင်, ဘယ်ဘက်မျက်နှာမှာ အဖြူရောင်ဖြစ်၏။ လက်လေးဘက်ရှိသည်။ တိရစ္ဆာန် တစ်ကောင်ပေါ်၌ ထိုင်လျက် လက်နှစ်ဖက်ကို ဈာန်ဝင်စားဟန်ပြုထားသည်။ အခြားလက်ယာဘက်မှာ ဆုပေးဟန် (ဝရဒမုဒြာ) ဖြစ်၏။ အခြား လက်ဝဲလက်မှာ ကံ့ကော်ပန်းပွင့်ညာကို ကိုင်ထား၏။ ဤသို့ မိမိကိုယ်ကို ဘုရားလောင်းနှင့် တပ်တူပြု၍ ဘာဝနာပွားရမည်။

အဝလောကိတေသရ ဘုရားအလောင်း။ ။(အဝလောကိတ=ကြည့်သူ + ဣဿရ= အစိုးရသူ) သတ္တဝါတို့ကို ကြည့်ရှုစောင့်ရှောက်သူ၊ အစိုးရသူဟု ဆို၏။ ဟိန္ဒူနတ်ဘုရားဖြစ်သော ရှိဝကို 'ဣဿရ=မဟေသရ'ဟု ခေါ်၏။ ဣဿရအမည်ကို ပူးတွဲသုံးထားသည်။ ရှိဝနတ်မင်း ဣဿရကို ပုံစံပြောင်း၍ အဝလောကိတေသရ ဘုရားလောင်းဟု မဟာယာနတို့က အမည်ပေးထားခြင်းဖြစ်၏။

အမိတာဘာဘုရားနှင့် ကြင်ရာတော် 'ပါဏ္ဍရာ'ဘုရားမတို့မှ မွေးဖွား၏၊ ကရုဏာတရား၏ ရုပ်သွင်ဖြစ်၏။ ကရဏ္ဍဗျူဟာကျမ်း၌ အဝလောကိတေသရ ဘုရားလောင်းသည် သတ္တဝါတို့ကို သနားငဲ့ညာ၍ နိဗ္ဗာန်ကို မယူဘဲ နေကြောင်း ဖော်ပြထား၏။

ထိုဘုရားလောင်းသည် လောကတွင် ရှိရှိသမျှ သတ္တဝါအရာအပေါင်းတို့ ဗောဓိဉာဏ်ကို မရသေးသမျှ ကာလပတ်လုံး နိဗ္ဗာန်သို့ စံဝင်ကူးပြောင်းရန် ငြင်းဆန်တော်မူလေသည်။ ထိုငြင်းဆန်ပုံနှင့် ပတ်သက်၍ ဝတ္ထုတိုကလေးတစ်ခု တွေ့ရှိရသည်။

"အလောင်းတော် အဝလောကိတေသရသည် ရှေးဘုရားလောင်းတော်တို့ သဘာဝအတိုင်း ဘုရားအလောင်းတော်တို့ ကျင့်သုံးဖြည့်ကျင့်

ရာ ပါရမီအဝဝတို့ကို ကျင့်သုံးဖြည့်ကျင့်ပြီးနောက် နိဗ္ဗာန်သို့ ကူးပြောင်းမည့်ဆဲဆဲတွင် ရှိရှိသမျှ စကြဝဠာအပေါင်းတို့မှ မိုးဟိန်းသံနှင့်တူသော အသံကြီးတစ်သံ ထွက်ပေါ်လာလေသည်။ ထိုအသံကြီးကို ကြားရသော အခါ အလောင်းတော် နတ်သားက ထိုအသံသည် အခြားမဟုတ်၊ ငါသည် နိဗ္ဗာန်သို့ ဝင်တော့မည့် အကြောင်းကို ဖန်ဆင်းထားသော အရာဟူသမျှ ကျောက်ဆောင် ကျောက်ခဲ သစ်ပင် ပိုးမွှား တိရစ္ဆာန် သားရဲတိရစ္ဆာန် လူသတ္တဝါမှစ၍ တစ်လောကလုံးရှိ သက်ရှိသက်မဲ့ အပေါင်းတို့သည် သိရှိရသည်နှင့်တစ်ပြိုင်နက် ပူဆွေး ငိုကြွေး မြည်တမ်းကြသော အသံဖြစ်ရာသည်။ ထို့ကြောင့် ၎င်းတို့ကို တစ်ဦးမကျန် နိဗ္ဗာန်သို့ မပို့ဆောင်နိုင်သေးမီစပ်ကြား ငါသည်လည်း နိဗ္ဗာန်သို့ မဝင်သေး၊ ၎င်းတို့ကို တရားဓမ္မဟောကြားစောင့်ရှောက်၍ နိဗ္ဗာန်သို့ ပို့ဆောင်ပြီးမှ ငါသည် နိဗ္ဗာန်သို့ ဝင်တော့မည်”ဟူ၍ လောလောဆယ် ဝင်ရောက်မည့် နိဗ္ဗာန်ကို စွန့်လွှတ်တော်မူသည်။

ဂေါတမဘုရားနှင့် အရိမေတ္တေယျ ဘုရားနှစ်ဆူ၏ အကြား၌ ကြားကာလတွင် တာဝန်ယူ၍ သတ္တဝါတို့ကို စောင့်ရှောက်၏။

သတက္ခရိဘုရားလောင်း၊ လောကေသရဘုရားလောင်း၊ သီဟနဒဘုရားလောင်း၊ လောကနာထဘုရားလောင်း၊ ခသပ္ပဏဘုရားလောင်း၊ ဟလာဟလဘုရားလောင်း စသည်ဖြင့် နာမည်အမျိုးမျိုးနှင့် ရုပ်သွင် ၁၀၈ မျိုးရှိ၏။

အဝလောကိတေသရသည် မိမိကိုယ်ကိုမိမိ ပြောင်းလဲပြီးလျှင် မိဘမဲ့သော ကလေးတို့အတွက် မိမိသည်ပင်လျှင် အမိအဖဖြစ်သည် ဟူ၍လည်းကောင်း၊ မျက်စိလည်လမ်းမှား ချောက်ကမ်းပါးကျနေသော သူတို့အတွက် မိမိသည် ယာဉ်ထိန်းလမ်းပြအသွင်ဖြင့် ကိုယ်ထင်ပြ၍ ထိုသူတို့အား ခေါ်ယူ ကယ်တင်ပြီးလျှင် သွားလိုရာအရပ်သို့ လွယ်လင့်တကူ သယ်ယူပို့ဆောင်သော ယာဉ်ထိန်းသဖွယ်ဖြစ်၏ဟူ၍လည်းကောင်း၊ ဟိန္ဒူသိဝမဟေသရဂိုဏ်းသားတို့အတွက် သူပင် အရှင်မဟေသရ ဖြစ်

သည်ဟူ၍လည်းကောင်း၊ ဗိသနိုးဂိုဏ်းသားတို့အတွက် သူပင် ဗိသနိုး ဘုရားဖြစ်သည်ဟူ၍လည်းကောင်း၊ ထောင်ကျ အကျဉ်းခံနေရသူတို့ အတွက် သူပင် ကယ်တင်နိုင်သူတစ်ဦးဖြစ်သည်ဟူ၍လည်းကောင်း၊ ထို နည်းတူပင် ငရဲကျနေသူတို့အတွက် သူပင် ကယ်တင်နိုင်သူတစ်ယောက် ဖြစ်သည်ဟူ၍လည်းကောင်း ယူဆကြစေသည်။ အနောက်နိုင်ငံသို့ လှမ်း၍ ကြည့်လိုက်ပြန်သော် သူသည် ခရစ်တော်နှင့်တူမျှသည်ဟု အချို့ သုတေသီ ပညာရှိကြီးတို့က ယူဆကြသည်။

အရှေ့ဘက် တရုတ်ပြည်၊ ဂျပန်ပြည်များ၌ သူပင် ကွမ်းယင်ကွမ်း နန်ဟူ၍ အမျိုးမျိုး ရုပ်ပြောင်းရုပ်လဲ ပြုလုပ်ပြီးလျှင် မဟာယာဉ်ဂိုဏ်း ဗုဒ္ဓဘာသာအလိုအားဖြင့် ဘုရားတစ်ဆူနှင့်တစ်ဆူကြား သူပင် ကရုဏာ မေတ္တာတော်ရှင်အနေနှင့် လောကကို အမြဲစောင့်ရှောက်လျက် ရှိသော ဘုရားလောင်းတစ်ဆူ ဖြစ်လေသည်။ ထိုဘုရားလောင်းပင် ကျွန်တော် တို့၏ မြန်မာနိုင်ငံ သရေခေတ္တရာ, ပုဂံတို့၌ လောကနာထ အမည်နှင့် တစ်ခေတ်က ထင်ရှားခဲ့သော ဘုရားလောင်းတစ်ဆူ ဖြစ်ကြောင်းများကို ပုဂံခေတ် ပန်းချီများ၌ တွေ့ရ၏။

သာဓနမာလာ၌ သာဓန ၃၁ မျိုးအားဖြင့် အဝလောကိတေသရ ဘုရားလောင်း၊ သို့မဟုတ် လောကေသရ ဘုရားလောင်းကို ပုံအမျိုးမျိုး ခွဲ၍ ထုတ်ဖော်ရေးသားထားသည်။ သို့သော် ထိုဘုရားအလောင်း၏ ပုံ တော်တို့မှာ တစ်ရာ့ရှစ်မျိုး ခွဲခြားလျက်ရှိ၏။ ထိုတစ်ရာ့ရှစ်မျိုးစလုံးကိုပင် ဆေးရေးရုပ်ပုံသဏ္ဌာန်ဖြင့် နီပေါနယ် ခတ္တမန္ဒူမြို့ရှိ မစ္ဆာန်ဒါဝိဟာရ ကျောင်းပတ်လည်သုံးဘက်၌ သစ်သားမှန်ကူကွက်ပုံများတွင် ဖော်ပြ ထားသည်။ ထိုပုံများကို ကူးယူ၍ ပညာရှိကြီး ဘီနွိုင်တော့ချ် ဘဋ္ဋာ စရိယသည် အိန္ဒိယ ပဋိမာသိပ္ပံကျမ်း နောက်ဆက်တွဲ၌ ဖော်ပြထား၏။

**အဝလောကိတေသရ ရှိခိုးပုံ။**

ဣဒ္ဓိဗလပါရမိဂတော၊ ဝိပုလဉာဏဥပါယသိက္ခိတော။
သဗ္ဗတ္ထဒသဒိသိလောကော၊ သဗ္ဗခေတ္တေသု အသေသံ ဒိဿတေ။

သဗ္ဗဂုဏာသ ပါရမိံ ဂတော၊ သဗ္ဗသတ္တဒယာမေတ္တာလောစနော။
ဂုဏာဘူတမဟာဂုဏောဒဓိ၊ ဝန္ဒနီယော အဝလောကိတေသရော။

ယော သော အနုကမ္ပကော လောကော၊
ဗုဒ္ဓေါ ဟေဿတိ အနာဂတဒ္ဓနိ။
သဗ္ဗဒုက္ခဘယသောကနာသကံ၊
ပဏာမာမိ အဝလောကိတေသရံ။
(သဒ္ဓမ္မပုဏ္ဍရိကသုတ္တ၊ ကဏ္ဍ-၂၄၊ ဂါထာ ၁၈၊ ၂၆၊ ၂၇။)

ယော အဝလောကိတေသရော၊ အကြင် အဝလောကိတေသရ သည်။ ဣဒ္ဓိဗလပါရမိဂတော၊ တန်ခိုးအားဖြင့် တစ်ဖက်ကမ်းခတ် အောင် ပြည့်စုံ၏။ ဝိပုလဉာဏာဥပါယသိက္ခိတော၊ ကြီးကျယ်သော ဉာဏ်ပညာဥပါယ်ကို သင်ကြားတတ်မြောက်ပြီးဖြစ်၏။ သဗ္ဗတ္ထ ဒသဒိသိလောကော၊ အရပ်ဆယ်မျက်နှာလုံး၌ တည်ရှိ၏။ သဗ္ဗ ခေတ္တေသု၊ ခပ်သိမ်းသော စကြဝဠာ ဗုဒ္ဓခေတ်တို့၌။ အသေသံ၊ အကြွင်းမဲ့။ ဒိဿတေ၊ ထင်၏။

သဗ္ဗဂုဏာသ၊ ဂုဏ်အားလုံး၏။ ပါရမိံ၊ ပြည့်စုံခြင်းသို့ (အထွတ် အထိပ်သို့)။ ဂတော၊ ရောက်၏။ သဗ္ဗသတ္တဒယာမေတ္တာလော စနော၊ သတ္တဝါအားလုံး၌ သနားချစ်ခင်သော မျက်လုံးရှိ၏။ ဂုဏာ ဘူတမဟာဂုဏောဒဓိ၊ ဂုဏ်သက်သက်ဖြစ်သော ဂုဏ်တို့၏ တည် ရာ သမုဒ္ဒရာဖြစ်၏။ ဝန္ဒနီယော၊ ရှိခိုးထိုက်၏။ အနုကမ္ပကော၊ အစဉ်သနားတတ်၏။

သော၊ ထိုဘုရားလောင်းသည်။ အနာဂတဒ္ဓနိ၊ နောင်အခါ၌။ ဗုဒ္ဓေါ၊ ဘုရားစစ်စစ်သည်။ ဟေဿတိ၊ ဖြစ်လတ္တံ့။ သဗ္ဗဒုက္ခဘယသောက နာသကံ၊ ခပ်သိမ်းသော ဆင်းရဲခြင်း ဘေးရန်စိုးရိမ်မှုတို့ကို ပယ်ဖျက် တတ်သော။ အဝလောကိတေသရံ၊ အဝလောကိတေသရ ဘုရား လောင်းကို။ ပဏာမာမိ၊ ရှိခိုးပါ၏။

အဝလောကိတေသရ၏ ခန္ဓာကိုယ်သည် မိုင်ပေါင်း အသချေ်ရှစ်သိန်းရှိ၏၊ မွေးညင်းပေါက်တစ်ခုသည် စကြဝဠာလောကဓာတ်တစ်ခုကို ဖုံးအုပ်နိုင်၏၊ နေနှင့်လသည် သူ၏ မျက်လုံးနှစ်ခုဖြစ်၏။ သူ၏ပါးစပ်မှ ကမ္ဘာ့လေထု ပေါ်ထွက်လာ၏။ ကမ္ဘာမြေကြီးသည် သူ၏ ခြေဖဝါးဖြစ်၏။ ဟိန္ဒူတို့ ကိုးကွယ်သော ဗြဟ္မာကြီးနှင့် တစ်ထပ်တည်း တူနေ၏။

**လောကနာထ ဘုရားလောင်း။** ။လောကနာထသည် အဝလောကိတေသရ၏ ကိုယ်ပွားတစ်ခု ဖြစ်၏။ လက်ယာလက်သည် ဆုပေးနေဟန် ဝရဒမုဒြာ ဖြစ်၏။ လက်ဝဲလက်က ကြာပန်းကို ကိုင်ထား၏။ သရဖူ၌ အမိတာဘာ ဘုရားပုံတော် ပါရှိ၏။ ဟရီဟူသော ဗီဇအက္ခရာမှ ပေါ်ထွက်လာ၏။

တာရာဒေဝီဘုရားလောင်း နတ်သမီး၊ ဟယဂီဝ ဘုရားလောင်း နတ်သားတို့နှင့် ပူးတွဲပူဇော်လေ့ရှိကြ၏။

ရံခါ လောကနာထဘုရားလောင်းကို အရိမေတ္တယျ၊ ခိတိဂဗ္ဘ၊ ဝဇိရပါဏိ၊ ခဂဗ္ဘ၊ ဝိသကမ္ဘင်၊ သမန္တဘဒြ၊ မဥ္ဇုဃောသ၊ ဂဂနဂဥ္ဇ ဘုရားလောင်း နတ်သားများခြံရံလျက် ပူဇော်ကြ၏။ ထို့ပြင် ဓူပါ, ပုပ္ဖာ, ဂန္ဓာ, ဒီပါဟူသော ဘုရားလောင်းနတ်သမီးများ ခြံရံပူဇော်ကြသည်။ အထက်ပါ ဘုရားလောင်း နတ်သားနှင့် နတ်သမီးများမှာ အဝလောကိတေသရ၏ ကိုယ်ခွဲများဖြစ်ကြ၏။

လောကနာထ ဘုရားလောင်းပူဇော်မှုသည် ပုဂံပြည်တွင် ခေတ်စားခဲ့ပုံ ရ၏။ အနော်ရထာမင်းကြီးကိုယ်တိုင် ပြုလုပ်သော လောကနာထ အုတ်ခွက်ဘုရားများကို တွေ့ကြရသည်။

**ဟယဂီဝ ဘုရားလောင်း နတ်သား။** ။ဟယ=မြင်း + ဂီဝ=လည်ပင်း၊ မြင်းခေါင်းနှင့် လူ့ကိုယ် တွဲစပ်ထားသည်။ လက်နှစ်ဘက်၌ လှံတံ (တုတ်ရှည်)ကို ကိုင်ထား၏။ ကျားရေကို ဝတ်ဆင်၏။ အဝလောကိတေသရ၏ ကိုယ်ပွားဖြစ်၏။

ခိတိဂဗ္ဘ ဘုရားလောင်းနတ်သား။ ။ကလသာ (ရေချမ်း)အိုးကို ကိုင်လျက် ဘေးမဲ့ပေးနေဟန် (အဘယမုဒြာ) ဖြစ်သည်၊ အစိမ်းရောင်ခြယ်ရ၏၊ အဝလောကိတေသရ၏ ကိုယ်ပွားဖြစ်၏။

ဝဇိရပါဏိ ဘုရားလောင်း။ ။ဝရဇိန်လက်နက် မိုးကြိုးသွားကို ကိုင်လျက် ဆုပေးနေဟန် (ဝရဒမုဒြာ)ဖြစ်၏၊ အဖြူရောင်ခြယ်ရ၏၊ အဝလောကိတေသရ၏ ကိုယ်ပွားဖြစ်၏။

ခဂဗ္ဘ ဘုရားလောင်း။ ။စိန္တာမဏိ ကျောက်မျက်ရွဲကို ကိုင်လျက် ဆုပေးနေဟန် (ဝရဒမုဒြာ) ဖြစ်၏၊ အနီရောင်ခြယ်ရ၏၊ အဝလောကိတေသရ၏ ကိုယ်ပွားဖြစ်၏။

ဂဂနဂဥ္ဇ ဘုရားလောင်း။ ။ကြာပန်းကို ကိုင်လျက် ဆုပေးနေဟန် (ဝရဒမုဒြာ) ဖြစ်၏၊ အနီရောင်ခြယ်ရ၏၊ အဝလောကိတေသရ၏ ကိုယ်ပွားဖြစ်၏။

ဝိသကမ္ဘင် ဘုရားလောင်း။ ။ပတ္တမြားကျောက်ကို ကိုင်လျက် ဆုပေးနေဟန် (ဝရဒမုဒြာ) ဖြစ်၏၊ မီးသွေးရောင်ခြယ်ရ၏။

သမန္တဘဒြ ဘုရားလောင်း။ ။ကြောင်မျက်ရွဲတင်ထားသော ကြာပန်းကို ကိုင်လျက် ဆုပေးနေဟန် (ဝရဒမုဒြာ) ဖြစ်၏၊ အဝါရောင်ခြယ်ရ၏။

သီဟနာဒ လောကေသရ။ ။အဝလောကိတေသရ၏ကိုယ်ပွားတစ်ခု ဖြစ်၏။ ဤဘုရားလောင်းပုံကို ပွဲတင်ပသ၍ နူနာကို ကုပေးနိုင်၏။

အတ္တာနံ့ သီဟနာဒလောကေသရရှုပံ ဘာဝယေ သေတဝဏ္ဏံ၊ တိနေတ္တံ ဇဋာမကုဋိနံ နိဘူသဏံ ဗျဂ္ဃစမ္မပါဝုတံ သီဟာသနဋ္ဌံ မဟာရာဇလီလံ စန္ဒာသနံ စန္ဒပဘံ ဘာဝယေ။

ဒက္ခိဏော သိတဖဏီဝေဋ္ဌိတံ တိသူလံ သေတံ ဝါမေ နာနာ သုဂန္ဓိကုသုမပရိပူရိတပဒုမဘာဇနံ ဝါမဟတ္ထဥဋ္ဌိတပဒုမောပရိ ပဇ္ဇလိတခဂ္ဂံ။ (သာဓနမာလာ နှာ-၆၃)

အတ္တာနံ၊ မိမိကိုယ်ကို။ သေတဝဏ္ဏံ၊ အဖြူရောင်ရှိသော။ သီဟ နာဒလောကေသရရှုပံ၊ သီဟနာဒလောကေသရ၏ ရုပ်သွင် ထင်မြင် လာအောင်။ ဘာဝယေ၊ သမထဘာဝနာ ပွားများရာ၏။ တိနေတ္တံ၊ မျက်လုံးသုံးလုံးရှိ၏။ ဇဋာမကုဋိနံ၊ ဆံကျစ်မကိုဋ်ရှိတို့ကို။ နိဘူသဏံ၊ တန်ဆာဆင်ခြင်းမရှိ။ ဗျဂ္ဃစမ္မပါဝုတံ၊ ကျားရေကို ခြုံထား၏။ သီဟာသနဋ္ဌံ၊ ခြင်္သေ့ပေါ်၌ ထိုင်၏။ ဝါ၊ ခြင်္သေ့ခံပလ္လင်ပေါ်၌ ထိုင်၏။ မဟာရာဇလီလံ၊ ဘုရင်ကဲ့သို့ တင့်တယ်စံပယ်၏။ စန္ဒာသနံ၊ လဝန်း ပေါ်၌ တည်၏။ စန္ဒပဘံ၊ လရောင်ကဲ့သို့ တောက်ပ၏ ဟူ၍။ ဘာဝယေ၊ ပွားများရာ၏။

ဒက္ခိဏော၊ ညာဘက်၌။ သိတဖဏီဝေဋ္ဌိတံ၊ မြွေဟောက် ရစ်ပတ် နေ၏။ တိသူလံ၊ ခက်ရင်းသုံးခွကိုင်ထား၏။ သေတံ၊ အဖြူရောင်ရှိ၏။ ဝါမေ၊ ဘယ်လက်၌။ နာနာသုဂန္ဓိကုသုမပရိပူရိတပဒုမဘာဇနံ၊ အထူးထူးသော နံ့သာပန်းတို့ဖြင့်ပြည့်သော ကြာပန်းပုံ ကြုတ်ရှိ၏။ ဝါမဟတ္ထဥဋ္ဌိတပဒုမောပရိ လက်ဝဲလက်မှ ထွက်ပေါ်တက်သွားသော ပဒုမ္မာကြာပွင့်ထက်၌။ ပဇ္ဇလိတခဂ္ဂံ၊ အရောင်တလက်လက် တောက်ပ သော သံလျက်ရှိ၏။

**မဉ္ဇူသီရိ ဘုရားလောင်း။** ။မဉ္ဇူသီရိဘုရားလောင်း အကြောင်းကို သဃမှုပုရာဏ်ကျမ်း၌ ဤသို့ ပြဆိုထား ၏။ မဉ္ဇူသီရိဘုရားလောင်းသည် တရုတ်ပြည်ရှိ ပဉ္စသီသ Wu Tai ခေါ် အထွတ်ငါးခုရှိသော တောင်ပေါ်တွင် နေတော်မူသည်။ ထိုမဉ္ဇူသီရိသည်

ရဟန်းတစ်ပါးဖြစ်၍ ဓမ္မာကာရမင်းက ကိုးကွယ်သည်။ မင်းကောရာဇ်၏ သားတော်ဖြစ်သည်ဟု ဆိုကြသည်။ တစ်နေ့သ၌ ကြာပန်းထက်မှ မိးရောင်လျှံပုံသဏ္ဌာန်ကို ဆောင်လျက် နီပေါပြည် ကာလိဟရဒ ရေအိုင်တွင် အာဒိဗုဒ္ဓဖြစ်တော်မူသော သယမ္ဘူဘုရား ထွက်ပေါ်လာလေသည်။ နတ်တို့ ကြွေးကြော်လာသည်ဟု သတင်းရရှိသဖြင့် မိမိ၏ကြင်ယာတော်နှစ်ပါးနှင့် မြောက်မြားစွာသော တပည့်အပေါင်းတို့ ခြံရံလျက် အရှင်မဥ္ဇုသီရိသည် ရုတ်ခြည်း နီပေါပြည်သို့ ထွက်ခွာသွားတော်မူလေသည်။ ၎င်းနှင့်အတူ တရုတ်ပြည် ဘုရင်မင်းမြတ် ဓမ္မာကာရလည်း ပါသွားတော်မူသည်။ ထိုဘုရားပေါ်ရာ အိုင်နားသို့ ရောက်သောအခါ ရေပြင်ကျယ်ကြီးပတ်လည်ဝိုင်းနေသဖြင့် ဘုရားအနီးသို့ မချဉ်းကပ်နိုင်ဘဲ အဝေးက ဖူးမြော်ရလေသည်။

သို့သော် အလွှန်ခက်ခက်ခဲခဲနှင့် ကြံဆောင်၍ ထွက်ပေါ်နေသော ရောင်လျှံတော်အနီးသို့ ချဉ်းကပ်လျက် ပူဇော်သက္ကာရ ပြုလုပ်ပြီးလျှင် လွယ်လင့်တကူနှင့် ၎င်းအနီးသို့ ချဉ်းကပ်နိုင်ရန် မည်သို့ ပြုလုပ်ဆောင်ရွက်ရပါမည်နည်းဟု အကြံတော်ရှိလေသည်။ ထို့နောက် အကြံပေါ်လာပြီးလျှင် ထိုပေါ်လာသည့်အကြံအတိုင်း တောင်ဘက်တွင် ဝန်းရံလျက်ရှိနေသော တောင်တန်းကို မိမိတွင် ကိုင်ဆောင်လျက်ပါလာသောဓားဖြင့် ခုတ်လိုက်ရာ တောင်တန်းလည်း ပြတ်ကွဲ၍ သွားလေ၏။ ထိုအခါ ရေအလျဉ်သည် တောင်ဘက်သို့ စီးဆင်းသွားပြီးလျှင် ထိုရေပြင်သည် ကုန်းမြေပြင် ဖြစ်သွားလေသည်။ ထိုတောင်ကြားကို ယနေ့တိုင် နီပေါတောင်ကြားဟူ၍ ခေါ်လျက်ရှိလေသည်။ ထိုတောင်ကြားမှ ဗာလ်မထီမြစ်သည် စီးဆင်းလျက်ရှိလေသည်။ ၎င်းကို ကောဋ္ဌဘာရီ (ဓားဖြတ်) ဟူ၍လည်း ခေါ်ဆိုကြသည်။

ထိုမီးလျှံကို ပူဇော်သောအနေဖြင့် အရှင်မဥ္ဇုသီရိသည် ထိုနေရာ၌ ကျောင်းတော်တစ်ဆောင် ဆောက်လုပ်လှူဒါန်းပြီးလျှင် ကျောင်းတော်၏ အနီး တောင်ဘက် တောင်ထိပ်ပေါ်၌ မိမိနေထိုင်ရန် ကျောင်းသခ်မ်းတစ်ဆောင် ဆောက်လေသည်။ ထိုကျောင်းကို ယခုထက်တိုင် မဥ္ဇုပဋ္ဋနာဟု

ခေါ်ဆိုကြသည်။ နောက်ဆုံး၌ မိမိနှင့် အတူပါလာသော တရုတ်ဘုရင် ဓမ္မာကာရကိုလည်း နီပေါဘုရင် ခန့်အပ်လေသည်။ ထိုကိစ္စတို့ကို ပြုလုပ်ဆောင်ရွက်ပြီး မဉ္ဇုသီရိသည် မိမိနေရပ်သို့ ပြန်ကြွသွားပြီး မျှားမကြာမီပင် လူအဖြစ်ကို စွန့်၍ ဗောဓိသတ္တ ဘုရားလောင်းဘဝသို့ ကူးပြောင်းလွတ်မြောက်တော်မူသည်။ မဉ္ဇုသီရိသည် သိမ်မွေ့လှ၏။ ကြာပန်းနှင့် စာအုပ်ကို ကိုင်ထား၏။ အမိတာဘာဈာနီဗုဒ္ဓမှ မွေးဖွား၏။ အချို့က အက္ခောဘဘုရားမှ မွေးဖွားသည်ဟု ဆို၏။ အချို့က ဈာနီဗုဒ္ဓငါးဆူမှ မွေးဖွားသည်ဟု ဆို၏။

မဉ္ဇုသီရိတိ အာဒိကံ တံ နိကာယနာမံ။ (မူလဋီကာ၊ ဒု-တွဲ၊ ၄၈)

မဉ္ဇုသီရိ ဘုရားလောင်းအဖြစ်သို့ ရောက်သည်ဟူသော အယူဝါဒမှာ အဝလောကိတေသရ ဘုရားလောင်းဝါဒဖြစ်ပေါ်လာသည့်နောက် အတော်နှောင်းမှ ထွက်ပေါ်လာဟန်တူသည်။ သို့သော် ထိုဘုရားလောင်းနှစ်ပါးတို့၌ အထူးခြားနားချက်မှာ မဉ္ဇုသီရိသည် လူ့ဘဝမှ ဘုရားလောင်းဘဝသို့ ကူးပြောင်းရောက်ရှိသွားခြင်းဖြစ်သည်။ အဝလောကိတေသရဘုရားလောင်းမှာမူ လူတို့၏ စိတ်ဓာတ်မှ ဖြစ်ပေါ်လာခြင်းဖြစ်၏။

သာဓနမာလာတွင် မဉ္ဇုသီရိဘုရားလောင်းကို ကိုးကွယ်ပူဇော်နည်းမှာ သာဓနပေါင်း (၉၃) မျိုးရှိ၏။ မဉ္ဇုသီရိ၏အမည်မှာ (၁၄) မျိုးရှိ၏။ ၎င်းတို့မှာ ဝဇီရဿရ၊ မဉ္ဇုဃောသ၊ အရပစန၊ မဉ္ဇုကုမာရ စသည်တို့ဖြစ်ကြ၏။

**မဉ္ဇုဃောသ ဘုရားလောင်း။** ။မဉ္ဇုသီရိ ဘုရားလောင်း၏ ကိုယ်ပွားဖြစ်၏၊ ရွှေအဆင်းရှိ၏၊ ဓားလွယ်တစ်ဖက်၊ စာအုပ်တစ်ဖက် ကိုင်ထား၏။

**အရပစန ဘုရားလောင်း။** ။အရ = ရန်သူ + ပစန = ပူလောင်စေသူ = ဖျက်သူ။ မဉ္ဇုသီရိ၏ ရုပ်သွင်တစ်မျိုး ဖြစ်၏။ ညာဘက်က သန်လျက်၊ ဘယ်ဘက်က စာအုပ်ကို ကိုင်၏။ ယျော်တေ

အနီရောင်ကို ဝတ်၏။ ဝဇီရခေါ်သော တင်ပျဉ်ခွေနည်းဖြင့် ကြာပွင့်နှစ်ထပ်ပေါ်၌ ထိုင်၏။

ခဂ္ဂပေါတ္ထကစာရိတံ၊ အာကုဥ္စိတပဥ္စစီရံ။
ရတ္တဝတ္ထယုဂယုတံ၊ သိင်္ဂီရဝေသမာရိတံ။
မှိတကသိတဝဒနံ၊ သသက် ကန္တတုလျသောဘံ။
ဝိသုဒလ ကမလဋ္ဌ ဗဒ္ဓပလ္လင်္ကံ၊
သဗ္ဗောနုဘာဝအရပစန ရူပအတ္တာနံ ဣက္ခတေ။
(သာဓနမာလာ၊ နှာ-၁၂၁)

ကုဝေရနှင့် ဇမ္ဘာလနတ်များ။ ။ဥစ္စာဓနံ ပေါကြွယ်ဝရေးအတွက် ကုဝေရနတ်မင်းနှင့် ဇမ္ဘာလနတ်တို့ကို ကိုးကွယ်ပသကြ၏။ ဇမ္ဘာလနတ်၏ မိဖုရားမှာ ဝသုဓရာ ဖြစ်၏။

ဗောဓိသတ္တခြောက်ပါး။ ။အထက်ဖော်ပြပါ ဘုရားလောင်းများအပြင် ဘုရားလောင်း ခြောက်ပါး ရှိသေး၏။ ၎င်းတို့မှာ -

၁။ သမန္တဘဒ္ဒ = ထက်ဝန်းကျင်မှ ကောင်းမြတ်သူ၊
၂။ ဝဇီရပါဏိ = ဝရဇိန်ကိုင်သူ၊
၃။ ရတနာပါဏိ = ရတနာ (ကျောက်)ကိုင်စွဲသူ၊
၄။ ပဒုမပါဏိ = ပဒုမ္မာကြာကိုင်သူ၊
၅။ ဝိသုပါဏိ = ကမ္ဘာလောကစာတ်ကို ကိုင်ထားသူ၊
၆။ ယဏ္ဍာပါဏိ = ခေါင်းလောင်းကိုင်သူ -

ဟူ၍ ဘုရားလောင်းခြောက်ပါး ရှိ၏။

ထိုဘုရားလောင်းခြောက်ပါးကို အောက်ဖော်ပြပါ ဈာနီဗုဒ္ဓ ခြောက်ပါးမှ မွေးဖွားသည်။ (ဝါ) ဖန်ဆင်းစေလွှတ်သည်။

**ဈာနီဗုဒ္ဓများ**

၁။ ဝေရောစန = ရောင်ခြည်တော်ဖြင့် တင့်တယ်သောဘုရား၊
၂။ အက္ခောဘ = မတုန်လှုပ် မချောက်ချားသော ဘုရား၊
၃။ ရတနသမ္ဘဝ = ရတနာကျောက်မှ ပေါ်ထွက်သော ဘုရား၊
၄။ အမိတာဘာ = အနန္တ အရောင်အလင်းရှိသော ဘုရား၊
၅။ အမောဃသိဒ္ဓိ = မရှုံးနိုင်, အမြဲ ရန်အောင်သော ဘုရား၊
၆။ ဝဇိရသတ္တ = ဝရဇိန် လက်နက်စွဲကိုင်သော ဘုရား။

ထို ဈာနီဗုဒ္ဓတို့သည် အထက်၌ဖော်ပြထားသော ဘုရားလောင်း ခြောက်ပါး၏ ဖခမည်းတော်များ ဖြစ်ကြ၏။ ခြောက်ခုမြောက် ဝဇိရသတ္တ ဘုရားကို နီပေါပြည်၌ ကိုးကွယ်၏။

အမိတာဘာနှင့် ဝေရောစနဘုရားကို ဂျပန်ပြည်နှင့် တရုတ်ပြည် တွင် ကိုးကွယ်သူ ပေါများ၏။ အဆိုပါ ဈာနီဗုဒ္ဓဘုရားများသည် ပါရမီ ဖြည့်ကျင့်ရန် မလိုချေ။ မူလအလိုအလျောက် ဘုရားဖြစ်ပြီး၍ အာဒိဗုဒ္ဓ မည်၏။ လူ့ပြည်သို့ တရားဟော ဆင်းကြွခြင်း မရှိ၊ မိမိတို့ကိုယ်စား သတ္တဝါတို့ကို ကယ်တင်ရန် ဘုရားလောင်းများ စေလွှတ်ကြ၏။

ဝေရောစန၊ ရတနသမ္ဘဝ၊ အမိတာဘာ၊ အမောဃသိဒ္ဓိ၊ အက္ခောဘ ဟူသော ဈာနီဗုဒ္ဓငါးဆူတို့၏ အရောင်အဆင်းနှင့် လက်နေဟန် မုဒြာကို အောက်ပါဂါထာအတိုင်း အစဉ်အတိုင်း သိပါလေ။

ဝဏ္ဏာ တေသံ သေတော ပီတော၊ ရတ္တော ဟရိတမေစကာ၊
ဗောဓျင်္ဂီ ဝရဒေါ ဈာနံ၊ မုဒြာ အဘာယ ဘူဖဿာ။
(ဘဋ္ဋာစရိယ၏ အိန္ဒိယ ပဋိမာသိပ္ပံကျမ်း)

တေသံ၊ ထိုဘုရားငါးဆူတို့၏။ ဝဏ္ဏာ၊ အဆင်းတို့ကား။ သေတော၊ အဖြူရောင် လည်းကောင်း၊ ရတ္တော၊ အနီရောင်လည်းကောင်း။ ဟရိတမေစကာ၊ အစိမ်းရောင်နှင့် အနက်ရောင်တို့လည်းကောင်း ဖြစ်ကုန်၏။ မုဒြာ၊ လက်အနေအထားတို့သည်။ ဗောဓျင်္ဂီ၊ ဓမ္မစကြာ

တရားဟောဟန် ဗျာချာနမုဒြာလည်းကောင်း။ ဝရဒေါ၊ ဆုပေးဟန် ဝရဒမုဒြာလည်းကောင်း။ ဈာန်၊ ဈာန်ဝင်စားဟန် ဈာနမုဒြာ လည်းကောင်း။ အဘယဘူဖဿာ၊ ဘေးမဲ့ပေးဟန် အဘယမုဒြနှင့် မြေကြီးကို ထိဟန် ဘူဖဿမုဒြာလည်းကောင်း ဖြစ်ကုန်၏။

ဈာနီဗုဒ္ဓ ငါးဆူတို့တွင် ဝေရောစနဘုရားကို အလယ်မှာ ထား၍ ကျန် ဘုရားလေးဆူတို့မှာ အရပ်လေးမျက်နှာကို အစိုးရ၏။ အချို့က ဝေရောစနသည် ကျန်ဘုရားလေးဆူ၏ မူလဘူတဖြစ်၍ မဟာဝေ ရောစနဟု ခေါ်၏။ ကျန်သော ဘုရားလေးဆူသည် မဟာဝေရောစနမှ ထွက်ပေါ်လာခဲ့သည်။

အမိတာဘာ ဘုရားသည် အနောက်အရပ်ကို အစိုးရ၏။ အနောက် အရပ်၌ အမိတာဘာ ဘုရား၏ သုခဘုံ နတ်ပြည်ရှိသည်ဟု ဆိုကြ၏။ အမိတာဘာနှင့် ဝေရောစနဘုရားများ အကြောင်းကို ဂျပန် ဗုဒ္ဓဘာသာ အခန်း၌ အကျယ်ဖတ်ရှုကြပါကုန်။

**ဘိသိက်သွန်း ရေဖျန်းမင်္ဂလာ။** ။တန္တရဝါဒသည် လျှို့ဝှက်ဝါဒဖြစ်၍ မိမိဘာသာ စာဖတ်ရုံမျှဖြင့် နား မလည်နိုင်၊ ကိုယ်တိုင်ကျင့်သုံး အားထုတ်၍လည်း မရနိုင်၊ ဆရာက လက် ထပ်သင်ပြမှသာ ရ၏။ ဆရာက ပညာရပ်ပေးမှ ပညာရ၏။ ဤခေတ်၌ လည်း ပယောဂပညာများကို ဆရာက အာဏာလွှဲအပ်မှသာ ရ၏။

တန္တရဂိုဏ်း၌ ဆရာသည် ဗုဒ္ဓဖြစ်၏။ ဆရာဖြစ်သူက ရေစင် သွန်းဖျန်း (ဘိသိက်သွန်း) ပေးမှ တပည့်ဖြစ်သူသည် ပညာဉာဏ်အဆင့် တိုးတက်၍ ဗုဒ္ဓအဖြစ်သို့ ရောက်၏၊ ဗောဓိစိတ္တဘိသိက်ဟု ခေါ်၏။

အိန္ဒိယဘုရင်များနှင့် မြန်မာဘုရင်များသည် မိမိတို့ဘာသာ ထီးနန်း သိမ်းပိုက်၍ တိုင်းပြည်အုပ်ချုပ်ရုံမျှဖြင့် ဘုရင်အစစ် မဖြစ်သေးချေ။ ပုဏ္ဏားတော်တို့က ဘိသိက် (ရေစင်)သွန်းပေးပါမှ ဘုရင်အစစ်ဖြစ်၍ ဘုန်းတန်ခိုးအာဏာ တိုးတက်သည်ဟု ယူဆကြ၏။ ခရစ်ယာန် ဘက်ပတစ် ဂိုဏ်း၌လည်း ဤသို့ရေဖျန်းမင်္ဂလာ ပြုလုပ်လေ့ရှိကြ၏။

ဝဇီရယာန။ ။ဝဇီရမှာ စိန်ဟု ဆိုလို၏။ မကြေမပျက်နိုင်သော သဘော ရှိသည်။ စိန်သည် အရာရာတိုင်းကို ဖောက်ထွင်းနိုင်၏။ စိန်သည် ကြည်လင်တောက်ပ၏၊ မာကျော၏။

တစ်နည်းအားဖြင့် မိုးကြိုးလက်နက်ကို ဝဇီရဟု ခေါ်၏။ ထက်မြက် ပြင်းထန်၏။ မိုးကြိုးဒဏ်ကို မည်သည့်အရာမျှ မခံနိုင်။

ထို့ကြောင့် နိဗ္ဗာန်ကို စိန်နှင့်ဥပမာပြု၍ မကြေမပျက်အောင် ပြုလုပ် ပေးသော လမ်းစဉ်ကို ဝဇီရယာနဟု ခေါ်၏။ ခန္ဓာကိုယ်ကို နတ်ပြည်သို့ ပို့ပေးမည့် ယာဉ်ကြီးဖြစ်စေ၏။

အမိတာဘာ၏ နတ်ပြည်၌ ကိုယ်ခန္ဓာသည် နာရာယန၏ စိန်ကဲ့သို့ မာကျောလိမ့်မည်။ (သုခဝတီဗျူဟာသုတ်)

ဝဇီရယာနကို (သာသနာ ၁၁၄၄-၁၁၉၄) ဒုတိယနာဂအဇ္ဇုနက တီထွင်၏။ အိန္ဒိယအရှေ့ပိုင်းဒေသများ၊ ဘင်္ဂါလနယ်၊ အာသံတောင်တန်း နှင့် အိန္ဒိယအနောက်ပိုင်း ပက်ရှဝါတို့၌ ဤဝါဒထွန်းကား၏။

---

**မ–သုံးလုံး**

ဝဇီရယာနဂိုဏ်းသည် မ-သုံးလုံး ကျင့်ဝတ်ကို လိုက်နာ၏။

၁။ မ = မဇ္ဇ- သေရည်အရက် မူးယစ်ဆေးဝါး၊

၂။ မ = မံသ - အသား အမဲ သားငါး၊

၃။ မ = မေထုန - မေထုန်မှီဝဲမှု၊

တန္တရအနွယ်ဖြစ်သော ဝဇီရယာန ရဟန်းများသည် အယုတ်အညံ့ ဆုံး အလုပ်များကို ကျူးလွန်ကြ၍ မှန်မြတ်သော လုပ်ငန်းဖြစ်အောင် ကျမ်းဂန်များ ရေးသားကြ၏။

ဝဇီရယာနကျမ်းများမှာ -

၁။ သိရိသမဇ္ဇခေါ် ဂုယှသမဇ္ဇ (နာဂအဇ္ဇုန)၊

၂။ သာဓနမာလာ၊

၃။ ဉာဏာသိဒ္ဓိ၊

၄။ ပညောပါယ ဝိနိစ္ဆယသိဒ္ဓိကျမ်း (အနင်္ဂဝဇိရ) - စသော ကျမ်းများဖြစ်၏။

အထက်ပါကျမ်းများက မသုံးလုံး ကျင့်စဉ်ကို ထောက်ခံချီးကျူးထား၏။ ဂုယှသမဇ္ဇကျမ်း၌ လူသတ်မှု၊ လိမ်လည်မှု၊ ခိုးမှုနှင့် သူတစ်ပါးမယား ကြာခိုမှုများကို ထောက်ခံ အားပေးထား၏။ ဗုဒ္ဓဝါဒနှင့် ဖြောင့်ဖြောင့် ဆန့်ကျင်ဘက်ဖြစ်လေပြီ။ ဤအယူအဆများမှာ ရှေးဟောင်းဟိန္ဒူဝါဒ များမှလည်းကောင်း၊ တိုင်းရင်းသား လူရိုင်းလေ့များမှလည်းကောင်း ကူးစက် ဝင်ရောက်လာကြခြင်း ဖြစ်၏။

တန္တရဝါဒနှင့် လက်ဝဲ လက်ယာ ခွဲထား၏။ မြန်မာနိုင်ငံ၌ လက်ဝဲ လမ်းကို အောက်လမ်းဟု ခေါ်၍ လက်ယာလမ်းကို အထက်လမ်းဟု ခေါ်ကြ၏။

လက်ယာခေါ် အထက်လမ်းများ အကျင့်သီလ ထိန်းသိမ်းကြ၏။ သိကြား ဗြဟ္မာ စသော အထက်နတ်များကို ပူဇော်ကြ၏။ ဂုဏ်တော်များ, ပရိတ်များ, မန္တန်များကို ရွတ်ဖတ်ပွားများကြ၏။

ကာမဂုဏ်အချစ်၊ မိမိကိုယ်ကို ချစ်ခြင်း၊ မယားချစ်၊ ဥစ္စာချစ်တို့ သည် မေတ္တာအစစ်ဖြစ်ရန် လမ်းစဖြစ်၏။ အချစ်စိတ်ကို မဖိနှိပ်ရ၊ အားပေးအားမြှောက်ပြု၍ မေတ္တာအစစ်ဖြစ်အောင် ပြောင်းလဲယူရမည်။ ကာမဂုဏ်သည် လွတ်မြောက်မှု၏ ပန်းတိုင်ဖြစ်၏ဟု ဆို၏။

ဟဌယောဂ။ ။တန္တရဝါဒီတို့သည် ဟဌယောဂကျင့်စဉ်များကို လက်ခံကြ၏။ ခန္ဓာကိုယ်၌ အာရုံကြော ထောင်ပေါင်းများစွာရှိ၏။ သွေးကြောနှင့်လေကြော များစွာရှိ၏။

အသက်ဇီဝ၏ ဗဟိုချက်များ (အကြောဆုံ) ကို စက္ကဟု ခေါ်၏။ ပဒုမဟုလည်း ခေါ်၏။ (စက္က=စက်ဝိုင်း၊ ပဒုမ=ကြာ) အောက်ဆုံး စက္က သည် ချက်ပတ်လည်၌ တည်၏။ ဒုတိယစက္ကသည် နှလုံးအိမ်ဖြစ်၏။

တတိယစက္ကသည် လည်ပင်းအောက်နား (အသက်ရှူပြွန်) ၌ တည်၏။ စတုတ္ထစက္ကသည် ဦးခေါင်းမှ တည်၏။

အရေးကြီးသော အကြောမကြီးသုံးသွယ်သည် ချက်တိုင်မှ ဦးခေါင်းသို့ သွယ်တန်းထား၏။ ဘယ်ဘက်အကြောကို ပညာကြောဟု ခေါ်၏။ ညာဘက်အကြောကို ဥပါယကုသလကြောဟုခေါ်၏။ အလယ်ကြောကို သုသမကြော ဟု ခေါ်၏။

ယောဂီသည် လျှို့ဝှက်အကျင့်ဖြင့် ချက်တိုင် (နာဘိစက္က) ၌ ညာကြောနှင့်ဘယ်ကြောကို ပေါင်းစပ်ပေးလိုက်လျှင် (ဗောဓိစက္က) ဉာဏ်အထူးကို ရ၏။ ထိုသို့ ဘယ်ညာအကြောကြီးများကို ပေါင်းစပ်၍ အောက်အဆင့်စက္ကများကို ဦးခေါင်းငယ်ထိပ်သို့ ရောက်အောင် ရွှေ့ယူနိုင်လျှင် သဗ္ဗညုဘုရား ဖြစ်လေပြီ။ သုခအထွတ်အထိပ်ကို ရသည်ဟု ဆိုကြ၏။



# မန္တရယာန

မန္တရ ＝ ဂါထာမန္တရား＝မန္တန်။ ။တန္တရဂိုဏ်းအားလုံး၌ မန္တန်ကို အသုံးပြုကြ၏။ ဘေးရန်အန္တရာယ် ကာကွယ်ရန်အတွက်လည်းကောင်း၊ လောကီအကျိုးစီးပွား တိုးတက်ရေး အတွက်လည်းကောင်း ရှေးအစဉ်အလာကပင် မန္တန်ကို အသုံးပြုခဲ့ကြသည်။ စက်မှုမထွန်းကားမီက အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီ၊ ရုရှားစသော နိုင်ငံကြီးများ၌လည်း မန္တန်ကို အသုံးပြုခဲ့ကြသည်။

ရောဂါသည်လည်းကောင်း၊ ဘေးအန္တရာယ်သည်လည်းကောင်း၊ ဆိုးကျိုးများသည်လည်းကောင်း နတ်ဆိုး ဂြိုဟ်ဆိုးများကြောင့်ဖြစ်သည်ဟု လူများစုက ယုံကြည်ကြသည်။ မန္တန်ကား အသံပင်ဖြစ်၏။ မန္တကို ဌာန်ကရိုဏ်းကျကျ ရွတ်ပါက ထွက်ပေါ်လာသောအသံကြောင့် မကောင်းဆိုးရွားများ ထွက်ပြေးသည်ဟု ယူဆကြသည်။

တရုတ်ဘုန်းတော်ကြီး Hiuentsang ဟူယင်ဆင်သည် တရုတ်ပြည်မှ အိန္ဒိယပြည်သို့ သွားရာ ဂိုဘိသဲကန္တာရကြီးကို အဖော်မပါ တစ်ကိုယ်တည်း ဖြတ်ကူးရ၏။ ဘီလူးယက္ခများက အသွင်အမျိုးမျိုးဖြင့် ချောက်လှန့်ကြ၏။ မှင်စာငယ်တစ်ကောင်သည် တရုတ်ဘုန်းကြီးကို ရှေ့နောက်ဝဲယာလှည့်ပတ်၍ ရစ်ရန်ကြိုးစား၏။ (မှင်စာသုံးပတ်ရစ်မိပါက သေသည်ဟု ဆိုကြသည်) တရုတ်ဘုန်းကြီးသည် ကွမ်ရင် (တရုတ်နတ်)ကို နာမည်ခေါ်၍ တမ်းတသော်လည်း မှင်စာငယ်မှာ ပျောက်မသွားချေ။ ပညာပါရမိတာသုတ်ကို ရွတ်ဆိုသောအခါ ချက်ချင်းပင် မှင်စာပျောက်သွားသည်ဟု မှတ်တမ်းတင်ထား၏။

ထေရဝါဒ ဗုဒ္ဓဘာသာ၌လည်း ပရိတ်ကြီး (၁၁)သုတ်စသော မန္တန်များကို လက်ခံ ယုံကြည်ကြ၏။ မြတ်စွာဘုရား ကိုယ်တော်တိုင်လည်း သတ္တဝါတို့ ကောင်းကျိုးချမ်းသာအလို့ငှာ ပရိတ်တော်များကို ဟောကြား

ထားခဲ့၏။ ပရိတ်တော်များသည် မကောင်းကျိုးများကို ပပျောက်စေ၍ ကောင်းကျိုးရစေနိုင်ပုံကို မိလိန္ဒပဥှာပါဠိတော် စာမျက်နှာ (၁၅၂)၌ ပြဆိုထား၏။

ပရိတ်ရွတ်သူ နာသူတို့သည် ယုံကြည်စွာ ရွတ်ဆိုနာယူပါက လိုအပ်သော အကျိုးပြီးစီး၏။ အတိတ်က အကုသိုလ်ကံ အားကြီးသူအားလည်းကောင်း၊ ယခုပစ္စုပ္ပန်၌ ကြီးလေးသော အပြစ်ကျူးလွန်သူအားလည်းကောင်း ပရိတ်၏အကျိုးကို မခံစားရဟု ပြဆိုထားပါသည်။

မန္တရယာနက ပြဆိုသော မန္တန်မှာ ဤဘဝ လောကီ ကောင်းကျိုးချမ်းသာကိုမျှသာမက မန္တန်ရွတ်ရုံဖြင့် နိဗ္ဗာန်ရနိုင်၏၊ နတ်ပြည်ရောက်နိုင်၏၊ မဂ်ဉာဏ်ဖိုလ်ဉာဏ် ရနိုင်၏။ မန္တန်ပရိတ်များ ရွတ်ရုံဖြင့် ပြုမိသမျှမကောင်းမှု အကုသိုလ်ကံများ ပပျောက်၏။ ငရဲကျမည့်ဘေးမှ လွတ်၏။ အကုသိုလ်မှ ရှောင်၍ ကုသိုလ်ပြုရန် မလို၊ သီလစောင့်ရန် မလို၊ မန္တန်ရွတ်ရုံမျှသာ လို၏။ ဤသို့ ကုသိုလ်ကံ အကုသိုလ်ကံများကို ပယ်ဖျက်သောကြောင့် မန္တရယာန မန္တန်ဝါဒကို ထေရဝါဒက ရှုတ်ချပစ်ပယ်ခြင်းဖြစ်သည်။

ထေရဝါဒ၌ အသုံးပြုသော ပရိတ်များသည် ဘုရားရဟန္တာတို့၏ သီလတန်ခိုး, မေတ္တာကရုဏာတန်ခိုးကို မှုတည်၍ သစ္စာဆိုခြင်းဖြစ်၏။ မိမိ၏ သီလ မေတ္တာ သစ္စာကို မှုတည်၍ ဓိဋ္ဌာန်ပြု၏။ မန္တရယာန၌ မန္တန်အသုံးပြုပုံမှာ အကျင့်ပျက်မှု ကိုယ်ကျိုးရှာမှုကို ဦးစားပေး၏။

ထေရဝါဒနှင့် မန္တရယာနတို့ ပရိတ်အသုံးပြုပုံခြားနားချက် မြင်အောင် ကြည့်တတ်ဖို့ လိုပါသည်။ ဤထူးခြားချက်ကို မမြင်သော ပညာမဲ့သူတို့သည် ပရိတ်ကြီး (၁၁) သုတ်ကို မန္တရယာနနှင့် တန်းတူထား၍ ရှုတ်ချ နေကြခြင်းသည် မဟာအမှားဖြစ်သည်။

မန္တန်ဝါဒကို မဟာဝေရောစနသုတ်၌ ဤသို့ ပြဆိုထား၏။

ဗုဒ္ဓနှင့် ဗောဓိသတ္တတို့၏ သီလကို ကျေးဇူးတင်လော့၊ အံ့သြဖွယ်ရာ အစွမ်းသတ္တိသည် မန္တန်ထဲ၌ ရှိ၏။ မန္တန်ကို ရွတ်ဆိုခြင်းဖြင့် အနန္တ

ကောင်းကျိုးကို ရ၏။ အကြံအစည်အောင်ရခြင်းမှာ မန္တန်၏ စင်ကြယ်မှု ကြောင့် ဖြစ်၏။ ဗုဒ္ဓက သိမ်မွေ့နက်နဲသော ဩဇာကို မန္တန်ထဲ၌ ထည့် သွင်းခဲ့၏ဟု ဆို၏။

မူလက ရှည်လျားသော သုတ်များကို မန္တန်အဖြစ် အသုံးပြုရွတ်ဆို ကြ၏။ ကြာသော် ထိုသုတ်များကို အတိုချုံး၍ ဓာရဏီခေါ် ပရိတ်များ တီထွင်လာကြ၏။ ဘိုတိုနှင့် ရွတ်ဖတ်ရလွယ်စေ၏။ တစ်ဖန် ပရိတ်များ တိုစေရန် အစအက္ခရာ တစ်လုံးသာ ယူ၍ မန္တန်ပြုလုပ်ကြ၏။

ဥပမာအားဖြင့် ဘုရားဂုဏ်တော် အစအဆုံးရွတ်နေလျှင် ကြာမည် စိုး၍ 'က္ကတိပိ သော'မှ 'က္က' တစ်လုံး ယူ၏။ တရားဂုဏ်တော် အစအဆုံး ရွတ်နေလျှင် ကြာမည်စိုး၍ 'သွာက္ခာတော'မှ 'သွာ' တစ်လုံးကို ယူ၏။ သံဃာ့ဂုဏ်တော် 'သုပ္ပဋိပ္ပန္နော'မှ 'သု' တစ်လုံးကို ယူ၏။ 'က္က-သွာ-သု' ဟု ဆိုပါက ရတနာသုံးပါးဂုဏ်တော်အားလုံး ရွတ်ဖတ်ပြီးဖြစ်တော့သည် ဟု ဆို၏။

နတ်သားခေါ်သော မန္တန်ဖြစ်ပါက 'တုံ၊ ဖတ်' အသံဖြင့် ဆုံးရ၏။ နတ်သမီးခေါ်သော မန္တန်ဖြစ်ပါက 'သွာဟ' ဆုံး၏။ အထီးအမ မခွဲသော နတ်ဖြစ်ပါက (နမာဟ = နမော) ဟု ဆိုရ၏။

"အုမ် မဏိ ပဒ္မေ ဟုံ"။

မဏိ၊ ပတ္တမြားသည်။ ပဒ္မေ၊ ကြာပွင့်ထဲ၌။ ဟုံ၊ ရှိပေ၏။

ဤမန္တန်သည် အဝလောကိတေသရကို ပူဇော်သော မန္တန်ဖြစ်၏။ တိဘက်တွင် ဤမန္တန်ကို ပါးစပ်ဖြင့် ရွတ်ရုံဖြင့် အားမရချေ။ ရွတ်နိုင်သမျှ ကုသိုလ်ရ၏။ ထို့ကြောင့် စာရွက်တွင် ထိုမန္တန်ကို ရေး၍ လှည့်ကြ၏။ ကျောက်ဆောင်တိုင်း၌ ထိုမန္တန်ကို ရေးကြ၏။ လေတိုက်သောအခါ၌ လည်သော စကြာဘီးများတွင်လည်းကောင်း၊ ရေအားဖြင့် လည်သော ဘီးများတွင်လည်းကောင်း ဤမန္တန်ကို ရေးထား၏။ ထိုဘီးလည်တိုင်း ပြုလုပ်သူမှာ မန္တန်ရွတ်ပြီး ဖြစ်၍ ကုသိုလ်ပွားသည်ဟု ယုံကြည်ကြ၏။

ထိုမှတစ်ဆင့် စမအင်းများ၊ ပိဋကမျှော်အင်းများ ပေါ်ပေါက်လာကုန်၏။ ဗျည်း ၃၃ လုံးကို အင်းချ၍ မန္တန်စုတ်၍ ပြာချသောက်က ပိဋကမျှော်အောင်၍ ပိဋကသုံးပုံကို မကျက်ဘဲ အလွတ်ရ၍ မသင်ဘဲ ဖြန်းဖြန်းကွဲတတ်သည်ဟု ဆို၏။

**မန္တန်ရွတ်နည်း** -

၁။ အသက်အောင့်ထားခြင်း စသော အသက်ရှူမှုအစီအရင် စနစ်တကျ ရှိရ၏။

၂။ အသံထွက်မှန်ကန်၍ မာန်ပါရမည်။

၃။ ဗုဒ္ဓကို အာရုံပြုထားရမည်။

၄။ သက်ဆိုင်ရာ ကန်တော့ပွဲများ (ပန်းနံ့သာ အုန်း ငှက်ပျော) ပြင်ဆင်၍ နတ်ယကာပေးရမည်။

၅။ မုဆိုးထိုင်နည်း၊ စအိုဝကို ဖနောင့်ပိတ်ထိုင်၊ ခြေစုံရပ်၊ လက်မကို လက်သီးဆုပ်အတွင်းမှာ ထား၍ ဆုပ်ခြင်းစသော ကိုယ်အနေအထားများ၊ ဖနောင့်ပေါက်ခြင်း၊ ဘယ်လက်ဝါးတွင် ညာလက်ဖနောင့်ပွတ်ခြင်းစသော ဟန်အမူအရာများလည်း စနစ်တကျ မှန်ကန်စေရမည်။

ဤသို့ အင်္ဂါအချက်အလက် စုံလင်ပါက လိုရာဆန္ဒ ပြီးပြည့်စုံနိုင်သည် ဟု ယူဆကြ၏။

**မုဒြာများ။** ။မုဒြာဆိုသည် လက်နေ လက်ထားဟန်၊ ခြေနေ ခြေထား ဟန်တို့ကို ဆိုလို၏။

၁။ ဗျာချာနမုဒြာ = ဓမ္မစကြာတရားဟောဟန်။

ဘယ်ညာ လက်နှစ်ဖက်ကို ရင်ဘတ်ရှေ့၌ထား၍ ညာလက်ညှိုးနှင့် လက်မက ဘယ်လက်ညှိုးကို ကိုင်၍ ရေတွက်ပြနေပုံ ဖြစ်၏။

၂။ ဝရဒမုဒြာ = ဆုပေးဟန်။

လက်ဝါးကို ပက်လက်လှန်ထား၏။ မတ်ရပ်တော်ပုံ၌ လက်ဝါးကို ကြည့်သူဘက်သို့ ပြထားသည်။ (ဝရ=ဆု + ဒ=ပေးခြင်း။)

၃။ အဘယမုဒြာ = ဘေးမဲ့ပေးဟန်။

လက်ကို အပေါ်သို့ တံတောင်ဆစ်ချိုး ကွေးမြှောက်၍ လက်ဝါးကို ရှေ့ဘက်သို့ လှည့်ထား၏။ လက်ဝါးသည် ရင်ဘတ်ရှေ့၌ ရှိ၏။ (အ-မရှိ + ဘယ-ဘေး)။

၄။ ဈာနမုဒြာ = ဈာန်သမာပတ်ဝင်စားဟန်။

တင်ပျဉ်ခွေထိုင်လျက် လက်ဝါးနှစ်ဖက်ကို လှန်ထား၍ ဘယ်လက်ဝါး ပေါ်၌ ညာလက်ဝါး ထပ်တင်ထားသည်။ လက်မထိပ်နှစ်ခု ထိနေသည်။

၅။ ဘူဖဿမုဒြာ = မြေကို သက်သေညွှန်းဟန်။

တင်ပျဉ်ခွေထိုင်၍ ညာဘက်လက်ဝါးသည် မှောက်လျက် ဒူးပေါ် တင်ထားသည်။ လက်ညှိုးတော်သည် စမ္မခဏ် (အောက်ခံပလ္လင်) ကို ထိနေသည်။ (ဘူ-မြေကြီး + ဖဿ-ထိခြင်း။)

၆။ လလိတမုဒြာ = တင့်တယ်စံပယ်ဟန်။

ဘယ်ခြေကို တင်ပျဉ်ခွေ၍ ညာခြေကို အောက်သို့ဆန့်ထုတ် တွဲလဲချ ထားသည်။ များသောအားဖြင့် ခုံအမြင့်မှာ ထိုင်သောအခါ အသုံးပြု သည်။ ဘုရားလောင်းနတ်သားရုပ်ကို လလိတမုဒြာဖြင့် ထုကြ၏။

အခြားသော မုဒြာအမျိုးပေါင်း ၂၀၀ ကျော်ရှိသော်လည်း ကျယ် အံ့စိုး၍ မပြတော့ပြီ။ အကျယ်ကို အလိုရှိပါက ပဋိမာသိက္ခာဝလိကျမ်းနှင့် ဆရာဦးစံထွန်းမှတ်ဝင်း၏ မြန်မာ့ရိုးရာ ပဋိမာသိပ္ပံ ပညာစာတမ်း၌ ကြည့်လေကုန်။

**မဏ္ဍလများ။** ။'မဏ္ဍလ'ဆိုသည်မှာ အသိုင်းအဝိုင်းဖြစ်၏။ တစ်နည်းဆိုသော် လောကဓာတ်တစ်ခုကို ချုံး၍ ရေးဆွဲထားသော ပန်းချီကား ဖြစ်၏။ မဏ္ဍလများကို အဝတ်ပေါ်၌လည်းကောင်း၊ စက္ကူပေါ်၌လည်းကောင်း နံရံ၌လည်းကောင်း ရေးဆွဲကြ၏။ မြေကြီးပေါ်၌မူ အရောင်ဆိုးထားသော ဆန်ဖြင့် ရေးခြယ်၏။ သတ္တုပြားနှင့် ကျောက်တုံးများပေါ်၌လည်း မဏ္ဍလများ ရေးထွင်းကြ၏။ တန္တရဂိုဏ်းအသီးသီး၌ မဏ္ဍလတစ်မျိုးစီ ရှိကြ၏။

မဏ္ဍလများတွင် ဘုရားလောင်းပုံနှင့် အခြံအရံ ဘုရားလောင်းနတ်သားပုံ၊ နတ်သမီးပုံများ ရေးဆွဲကြ၏။ အချို့ပုံ၌ 'အုမ်' စသော အက္ခရာများကို သက္ကတစာလုံးဖြင့် ရေးကြ၏။ ရံခါ မြင်းမိုရ်စကြဝဠာ တော တောင်သမုဒ္ဒရာတို့ကို ချုံး၍ ရေးဆွဲကြ၏။ အချို့မဏ္ဍလများ၌ ဗုဒ္ဓနှင့် ဗောဓိသတ္တများသာမက တော, တောင်, ပင်လယ်များ, တစ္ဆေ, သရဲဘီလူးပုံများ, တိတ္ထိပုံများ စုံလင်စွာ ထည့်၍ ရေးဆွဲကြ၏။

ထိုမဏ္ဍလများကို မမှိတ်သော မျက်စိဖြင့် ကြည့်၍ အာရုံပြုကာ သမထဘာဝနာပွားရ၏။ မိမိနှင့် စကြဝဠာကို သုညဖြစ်အောင် ရှု၍ ဗောဓိသတ္တနှင့် ထပ်တူပြု ပွားများရမည်။ စိတ်ရောဂါအထူးကု ဆေးရုံတစ်ခုမှ ဆရာဝန်ကြီး စီဂျေဂျုန့်က ပြောသည်မှာ "သူ၏လူနာ စိတ္တဇဝေဒနာသည်များသည် စက်ဝိုင်းနှင့်လေးထောင့်ပုံများ ရေး၍ အရုပ်ကားများ ရေးခြစ်ကြရာ တန္တရဂိုဏ်းက အသုံးပြုသော မဏ္ဍလများနှင့် ဆင်တူသည်"ဟု ဆို၏။

မဟာယာနတို့၏ ဓာရဏီပိဋကနှင့် မဥ္ဇုသီရိ မူလကပ္ပကျမ်းများတွင် မန္တန်များ၊ ဓာရဏီပရိတ်များ၊ မုဒြာများ၊ မဏ္ဍလများအကြောင်းများစွာ ဖော်ပြထား၏။



# သဟဇ ယာန

သဟဇ = (သဟ=အတူတကွ + ဇ=ဖြစ်ခြင်း)

ဓမ္မကာယဟု ခေါ်သော ဝိညာဏစာတ်နှင့် ဓမ္မကာယဟု ခေါ်သော ရုပ်ဓာတ်တို့သည် အတူတကွ တစ်ပြိုင်နက်ဖြစ်ခြင်းကို သဟဇဟု ခေါ်၏။ ဤဝါဒအရ ရုပ်နှင့်နာမ်သည် ခွဲမရအောင် တွဲနေသည်။ အတွင်းအနှစ်သာရနှင့် ပြင်ပအသွင်သည် ခြားနားချက်မရှိအောင် ထပ်တူညီနေ၏။ နိဗ္ဗာန်ရရန် ကျင့်ကြံ အားထုတ်ဖို့ မလိုချေ။ သတ်မှတ်ထားသော အစီအရင်များကို တိတိကျကျ လိုက်နာရမည်၊ မန္တရယာနနှင့် အားလုံးလိုလို တူညီ၏။

လက်ယာလမ်း မန္တရဝါဒနှင့် သဟဇယာနမှ စျင်ဗုဒ္ဓဝါဒ ပေါ်ပေါက်သည်ဟု ယူဆကြ၏။

## ဗုဒ္ဓတက္ကသိုလ်ကျောင်းတော်ကြီးများ

သာသနာနှစ် ၁၀၀၀ ကျော်မှစ၍ အိန္ဒိယပြည်တွင် နာလန္ဒတက္ကသိုလ်၊ ဝိက္ကမသီလာတက္ကသိုလ်၊ ဝလဘီတက္ကသိုလ်၊ ဩဒန္တပူရိတက္ကသိုလ်၊ သောမရူပမတက္ကသိုလ်၊ ဇဂဒ္ဒလတက္ကသိုလ် စသည်ဖြင့် ဗုဒ္ဓဘာသာဝင်ဘုရင်များနှင့် ဟိန္ဒူဘုရင်များ အားပေးထည်ထောင်ခဲ့သော တက္ကသိုလ်ကျောင်းကြီးများ ပေါ်ထွန်းခဲ့၏။ တရုတ် ဂျပန်နှင့် အင်ဒိုချိုင်းနား ဒေသသို့ ဤတက္ကသိုလ်များမှ ပညာစုံဖြန့်ချိခဲ့၏။ သာသနာနှစ် (၁၃၀၀) နောက်ပိုင်း၌မူ ဤကျောင်းတော်ကြီးများသည် ဝဇိရယာန ဖြန့်ချိရာ ဗဟိုဌာနများ ဖြစ်လာ၏။

နာလန္ဒတက္ကသိုလ်မှာ။ ။နာမည်ကျော်ကြား လူသိများခဲ့၏။ သာသနာနှစ် (၁၀၀၀) ကျော်က ကုမာရဂုတ္တမင်းက စတင်တည်ထောင်ခဲ့၏။ မဟာယာန စာပေများကို ဗြာဟ္မဏတို့၏ ဝေဒ

စာပေနှင့် တွဲဖက်သင်သည်။ တရုတ်ဘုန်းကြီး ဟူယင်ဆင်နှင့် အိချင်တို့က နာလန္ဒတက္ကသိုလ်အကြောင်း မှတ်တမ်းတင်ခဲ့ကြသည်။ စာသင်သား ရဟန်းတစ်သောင်းနှင့် စာချဆရာတော် တစ်ထောင့်ငါးရာစီ ရှိသည်ဟု ဆို၏။ ဖလ်မှန် အုတ်ကြွပ်များဖြင့် မိုးထား၍ နံရံနှင့် ခန်းဆီးများကို ပုလဲ ပတ္တမြား ကျောက်မျက်ရတနာတို့ဖြင့် စီခြယ်ထား၏။ ပိဋကတိုက်ကြီးများမှာ ကျောင်းဝင်းပတ်လည်၌ရှိ၍ အထပ်ကိုးထပ်ပင် ရှိသည်ဆို၏။ သာသနာနှစ် ၁၇၀၀ ကျော် တူရကီအနွယ်ဝင် မဟာမေဒင်တို့သည် နာလန္ဒကျောင်းတော်ကို စစ်တပ်ဖြင့် ဝန်းရံ၍ ကျောက်မျက်ရတနာများကို လုယက်ယူကြ၏။ ရဟန်းများကိုသတ်ရာ တစ်သောင်းကျော် သေသော-ဟူ၏။

တူရကီရာဇဝင် ဆရာမိန်ဟဇဒ် (Minhazad) ရေးသားသော Tavakata Linasiti အမည်ရှိ စာအုပ်၌ ရဟန်းထောင်ပေါင်းများစွာ အရှင်လတ်လတ် မီးရှို့သတ်ခံရသည်။ ပိဋကတိုက်ကြီးများကို မီးလောင်ရာ လပေါင်းများစွာ ကြာသည်ဟု ဖော်ပြထား၏။

**ဝလဘီတက္ကသိုလ်မှာ။** ။ အိန္ဒိယအနောက်ပိုင်းတွင်ရှိ၍ သဗ္ဗတ္ထိဝါဒ ဟီနယာနစာပေကို သင်ကြားပေး၏။ နာလန္ဒတက္ကသိုလ်နှင့် အပြိုင်ဖြစ်၏။

**ဝိက္ကမသီလာတက္ကသိုလ်ကို။** ။ပါလမင်းဆက်၌ တည်ထောင်၏။ ဘင်္ဂလားဒေ့ရှ်နိုင်ငံ၌ ဂင်္ဂါမြစ်၏ ညာဘက်ကမ်း၌ ရှိ၏။ နေရာအတိအကျ ရှာမတွေ့သေးချေ။ ဤတက္ကသိုလ်ကျောင်းအုပ် ဆရာတော်ကြီးတစ်ပါးဖြစ်သာ အတိဆာခေါ် ဒီပင်္ကရ ဉာဏသည် ဩဒန္တပူရိတက္ကသိုလ်၌ ပညာသင်ခဲ့၏။

အတိဆာသည် သုဝဏ္ဏဒွိပခေါ် အင်ဒိုနီးရှားသို့ သွားရောက်၍ ဆရာတော် စန္ဒြကိတ္တိထံ၌ တန္တရမန္တရ ပညာများကို လေ့လာသင်ယူခဲ့သည်။ ဦးသက်တင် ရေးသော ကျိုက်ခေါက် ဘုရားသမိုင်းတွင်မူ အတိဆာခေါ်

ဒီပင်္ကရဉာဏသည် မြန်မာပြည် ပဲခူးသို့ လာ၍ တန္တရမန္တရပညာများ သင်ရသည်ဟု ဖော်ပြထား၏။ ဝိက္ကမသီလ တက္ကသိုလ်ကျောင်းထွက်များကို ပဏ္ဍိတဘွဲ့ပေး၏။

အတိဆာသည် တိဘက်ဘုရင်၏ ပင့်ဖိတ်ချက်အရ တိဘက်သို့ ကြွ၍ သာသနာပြု၏။ တိဘက်တွင် ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာ ပြုလုပ်၏။ တိဘက်လာမာ ဗုဒ္ဓဝါဒကို စတင်ထည်ထောင်ခဲ့၏။

သာနာနှစ် ၁၇၄၁ တွင် ဘီဟာနယ်ကို မဟာမေဒင်များ သိမ်း၍ ရဟန်း အပြောင်ရှင်းပွဲ ပြုလုပ်ရာ ဤတက္ကသိုလ်မှ သံဃာအများစု အသတ်ခံကြရ၏။

**ဇဂဒ္ဒလတက္ကသိုလ်ကို။** ။ရာမပါလမင်း တည်ထောင်၏။ ရာမပါလ မင်း (သာသနာ ၁၆၅၈-၁၆၇၄) သည် ဂင်္ဂါ မြစ်နှင့် ကရဘိုအာမြစ်အဆုံ၌ မြို့သစ်တည်၍ ရာမာဝတီဟု သမုတ်၏။ မြို့တော်အနီး၌ ဇဂဒ္ဒလတက္ကသိုလ်ကြီး တည်ဆောက်၏။ နှစ် (၁၀၀) ကျော်ခန့်အကြာ မဟာမေဒင်တို့ သိမ်းပိုက်သဖြင့် သက်ဖိုးမရှည်ပါချေ။

**ဩဒန္တပူရိတက္ကသိုလ်မှာ။** ။ပါလမင်းဆက် မတိုင်မီကပင် သံဃာ တစ်ထောင်ကျော်ရှိသော ကျောင်းတိုက်ကြီးဖြစ်၏။ သို့ရာတွင် ပါလမင်းများ၏ ထောက်ပံ့မှုကြောင့် တက္ကသိုလ် အဆင့်မီလာ၏။ မဟာမေဒင်တို့ သိမ်းသောအခါ ဤတက္ကသိုလ်မှ ရဟန်း အများသည် တိဘက်သို့ ပြေးကြရ၏။

◆◆◆◆◆◆◆◆



# အိန္ဒိယပြည်၌ ဗုဒ္ဓသာသနာ ကွယ်ပုံ

အိန္ဒိယပြည်၌ ဗုဒ္ဓသာသနာကွယ်ရခြင်း၏ အကြောင်းများကို စိစစ် ဝေဖန်ရသော် အောက်ပါအချက်ကြီး သုံးချက်ကို တွေ့ရ၏ -

၁။ ရဟန်းတော်များဘက်မှ အားနည်းချက်၊

၂။ ဟိန္ဒူဗြာဟ္မဏတို့၏ အတွင်းအပြင် တိုက်ခိုက်မှု၊

၃။ တူရကီအနွယ်တို့ တိုက်ခိုက်မှု -

ဟူ၍ အဓိကအချက်ကြီး သုံးချက်ကို တွေ့ရလေသည်။

## ရဟန်းတော်များဘက်မှ  အားနည်းချက်

သာသနာတော်နှစ် (၅၀၀) ကျော်မှ စ၍ အိန္ဒိယပြည်တွင် သီလ သမာဓိနှင့် ပြည့်စုံသော ရဟန်းကောင်း ရဟန်းမြတ်များ မရှိသလောက် ရှားပါးလာလေပြီ။ ထေရဝါဒီရဟန်းများမှာ အိန္ဒိယတောင်ပိုင်း၌သာ အနည်းငယ် ကျန်တော့၏။ အများစုဖြစ်သော ထိုခေတ် အိန္ဒိယသံဃာထုကြီးမှာ မဟာသံဃိကဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်း၊ အန္ဓကဂိုဏ်း၊ စေတိယဂိုဏ်း အစရှိသော ပင်မဗုဒ္ဓသာသနာတော်၏ ဆူးငြောင့်ခလုတ် ရဟန်းဆိုးများသာ ဖြစ်ကြ၏။

ရဟန်းကောင်းများမှာ မိမိတရားကိုသာ မိမိဘာသာကျင့်နေသဖြင့် လူသိနည်းကြ၏၊ လူပြိန်းလူများစုကို မစည်းရုံးနိုင်ချေ။ ရဟန်းဆိုးများမှာမူ ဟောပြောစည်းရုံးမှု လူမှုဆက်ဆံရေးများဖြင့် စည်းရုံးကြရာ နောက်လိုက် ဒါယကာ ဒါယိကာမ များပြားနေ၏။ ကြာသော် ရဟန်းကောင်းများမှာ ဆက်လက် မနေနိုင်တော့ဘဲ ရှောင်ခွာသွားကြရသည်။

ရဟန်းဆိုးများသည် ရှေးဦးစွာ ဒုတိယ သင်္ဂါယနာခေတ်က ဝိနည်းသိက္ခာပုဒ် ကျင့်ဝတ်များကို ပြင်ဆင်နုတ်ပယ်ကြသည်။ စည်းကမ်းတင်းကျပ်မှုကို လျှော့ရန် ကြိုးပမ်းခဲ့ကြသည်။

တတိယသင်္ဂါယနာတင်ခေတ်၌ အယူဝါဒနှင့်ဆိုင်ရာ အဘိဓမ္မာ သဘော တရားများကို ရဟန်းဆိုးများက ပြင်ဆင်ကြပြန်သည်။ တတိယ သင်္ဂါယနာ၌မူ သာသနာတွင်းရှိ ရဟန်းဆိုးများ အန္တရာယ်နှင့် သာသနာ ပြင်ပ ဗြာဟ္မဏ, ဂျိန်း စသည်တို့၏ အန္တရာယ်ကြောင့် ကိုးတိုင်းကိုး႒ာန သာသနာပြုစေလွှတ်၍ ဗုဒ္ဓသာသနာတော်ကို နယ်လေးရပ်သို့ ဖြန့်ထား ခဲ့၏။

သို့သော်လည်း ပင်မ ဗုဒ္ဓသာသနာတော် သွားလေရာသို့ ရဟန်းဆိုး များက တစ်ပါတည်းကပ်လိုက်ကာ သာသနာဖျက်ကြလေသည်။ ကနိရှက မင်းလက်ထက် သင်္ဂါယနာတင်သော အချိန်အထိမူ ထေရဝါဒမှ နှင် ထုတ်ခံရသော ဂိုဏ်းကွဲများမှာ ပြောပလောက်အောင် အကျင့်သီလ မပျက်ကြသေးချေ။ သို့သော် အကျင့်ပျက်လမ်းစဉ်ကို တတိယ သင်္ဂါယနာ ခေတ်ကပင် အစပျိုးနေကြပြီ။ လက်တွေ့အကောင်အထည် မဖော်ရဲသေး သော်လည်း အနည်းစု အသိုင်းအဝိုင်း၌မူ သဘောတရားအဖြစ် ဆွေးနွေး နေကြလေပြီ။

ပထမဦးဆုံး သာသနာတော်အားနည်းအောင် ပြုသူများမှာ ဒုတိယ သင်္ဂါယနာခေတ်က မဟာသံဃိကတို့ ဖြစ်ကြ၏။ မဟာသံဃိကတို့သည် ဘုရားဟောကို ဖျက်၍ ပါဠိတော်အသစ်များ ရေးကြ၏။ သုတ် ဝိနည်း အဘိဓမ္မာတို့ကို မကြိုက်ရာ ဖယ်ထုတ်၍ မိမိတို့ကြိုက်ရာ ဖြည့်စွက် ထည့်ကြကုန်၏။

မဟာယာနအဆင့်သို့ ရောက်လာသောအခါ ပါဠိတော်များကို နှစ် ပိုင်းခွဲလိုက်ကြ၏။ ဟီနယာနပိဋကနှင့် မဟာယာနပိဋကဟု ခွဲခြား၏။ ဘုရားဖြစ်ပြီးစ မိဂဒါဝုန်တော၌ ဟောကြားခဲ့သော ဓမ္မစကြာတရား စသည်တို့သည် လူညံ့လူဖျင်းများ၊ သာဝကလမ်းစဉ် လိုက်လိုသူများ အတွက် ဟောကြားခြင်းဖြစ်၍ ဟီနယာနပိဋကဟု ဆိုကြ၏။

ဉာဏ်ပညာထက်မြက်သူတို့သာ နားလည်နိုင်သော ခက်ခဲနက်နဲ သော ဘုရားလောင်းလမ်းစဉ်ကိုမူ ရာဇဂြိုဟ်ပြည် ဂိဇ္ဈကုဋ်တောင်၌

ဟောခဲ့သည်ဟု ဆို၍ ဂိဇ္ဈကုဋ်၌ ဟောသော ဒေသနာများမှာ မဟာ ယာနပိဋက ဖြစ်၏။

မဟာဝတ္ထု၊ လလိတဝိတ္ထာရ၊ ပညာပါရမိတာသုတ်၊ လင်္ကာဝတာရ သုတ်၊ သန္ဓိနိမ္မောစနကျမ်း၊ အဘိသမယာလင်္ကာရကျမ်း၊ သဒ္ဓမ္မပုဏ္ဍရိက သုတ် စသည်တို့မှာ မဟာယာနတို့အတွက် ပါဠိတော်များဖြစ်၏။

မဟာယာနဂိုဏ်းမှာ ယောဂါစာရဂိုဏ်းနှင့် မဇ္ဈိမိကဂိုဏ်းနှစ်ခုမှ ပေါ်ထွက်လာခဲ့ခြင်းဖြစ်၏။ ဝိညာဏဝါဒနှင့် သုညဝါဒ အဘိဓမ္မာများ ပေါ်ခဲ့ ၏။ အတ္တတစ်ဖြစ်လဲ အာလယဝိညာဏ်ကို ဝိညာဏဝါဒ,က ထည့်သွင်း ခဲ့၏။

ယောဂါစာရဂိုဏ်းဝင် ရဟန်းများသည် တက္ကဗေဒကို တီထွင်လိုက် စားကြရာ သုတ် ဝိနည်း အဘိဓမ္မာများကို မသင်ကြတော့ဘဲ တက္ကဗေဒ ကျမ်းများကိုသာ ရဟန်းများ သင်ယူကြတော့သည်။

မဇ္ဈိမိကဂိုဏ်းမှာ နာဂအဇ္ဈုနကလည်း သုညဝါဒကို တီထွင်ဟော ပြော၏။ နဂါးပြည်မှ ပါဠိတော်အသစ်အဆန်းများ ရခဲ့သည်ဆို၍ ဝါဒ သစ်တီထွင်ဟောပြော၏။ သူ၏ဝါဒအရ နိဗ္ဗာန်နှင့်သံသရာကို တစ်ခု တည်းအဖြစ် ပေါင်းစပ်လိုက်ရာ သံသရာမှ လွတ်မြောက်ရေး "သံသာရ ဝဋ္ဋဒုက္ခတော မောစနတ္ထာယ" ရည်ရွယ်ချက်ကို အဓိပ္ပာယ်ကင်းမဲ့စေ ပြန်သည်။ တန္တရမန္တန်များကိုလည်း နာဂအဇ္ဈုနတို့ခေတ်ကပင် လိုက် စားကြ၏။

သာသနာနှစ် တစ်ထောင်ကျော်သောအခါ ဝဇိရယာနခေါ် အကျင့် ပျက် ရဟန်းယုတ်များ ပေါ်လာ၏။ သင်္ကန်းဝတ်၍ ရဟန်းဟုဆိုသော် လည်း အမှန်စင်စစ် ရဟန်း မဟုတ်တော့ချေ။ လူယုတ်မာ အောက်လမ်း ဆရာကြီးများသာ ဖြစ်ကြသည်။

နတ်ရုပ်၊ ဘီလူးရုပ်၊ လူခေါင်းခွံ၊ ဂါထာမန္တန်စသည်တို့ဖြင့် အသိ ဉာဏ်နည်းသူတို့ကို ချောက်လှန့် စားသောက် အမြတ်ထုတ်သူများဖြစ်၏။

"မဟာယာနတရားတော်ကို ဉာဏ်ပညာကြီးသူများအတွက် ဂိဇ္ဈကုဋ်တောင်၌ သီးသန့် ဟောတော်မူသည်" ဟူသော နည်းကို အတုယူ၍ 'ဝဇိရယာနတရားထူးကို အိန္ဒိယတောင်ပိုင်း ဓညကဋကအရပ်၌ မှော်အတတ်ပညာ သီးသန့် ဒေသနာတစ်ရပ်ကို ဟောတော်မူသည်"ဟု ဆိုကြလေကုန်၏။

ဤမျှ အဆင့်အတန်း နိမ့်သွားရခြင်းကား အဘယ့်ကြောင့်နည်း။ ဗုဒ္ဓသာသနာတော်ကို စင်ကြယ်အောင် အာဏာစက်ဖြင့် ဆောင်ရွက်မည့် သာသနာပြုမင်းကောင်း မရှိခြင်းမှာ အကြောင်းတစ်ရပ်ပင် ဖြစ်၏။ အသောကခေတ်နောက်တွင် အိန္ဒိယဘုရင်များသည် ဗုဒ္ဓသာသနာတော်ကို ထောက်ပံ့ရုံမျှသာ ထောက်ပံ့ခဲ့ကြ၏။ သာသနာသန့်ရှင်းရေးကို မဆောင်ရွက်ခဲ့ကြချေ။ လျစ်လျူရှု၍ မဆိုင်သလိုနေခဲ့ကြသည်။ စာရိတ္တကောင်းမွန်ရေးသည် အဆန်လမ်းဖြစ်၍ တမင်အားထုတ်မှရ၏။ အကျင့်ပျက်ခြင်းသည် အစုန်လမ်းဖြစ်၍ တစ်စုံတစ်ရာ အားစိုက်ရန်မလိုချေ။ ရေစုန်မျှောချရုံသာဖြစ်၏။ ထို့ကြောင့် အကျင့်စာရိတ္တကောင်းမွန်ရေးကို နမူနာစံပြကျင့်နေကြသော ရဟန်းကောင်းများကို အကာအကွယ်ပေး၍ အကျင့်ပျက်ရေး ဦးတည်နေသော ရဟန်းဆိုးများကို နှိပ်ကွပ်ဖယ်ရှားခြင်းသည် ဘုရင်တို့၏ တာဝန်ဖြစ်၏။

ဥပမာ - ကောက်ပဲသီးနှံသည် တမင်တကာ စိုက်ပျိုးရ၏။ မြက်ပင်ပေါင်းပင်များကို မည်သူမျှ စိုက်ရန် မလို၊ အလေ့ကျပေါက်ကြ၏။ သီးနှံစားလိုသော လယ်သမားသည် ကောက်ပင် ပဲပင်တို့ကို မြေဩဇာကျွေး၍ ပေါင်းပင်၊ မြက်ပင်တို့ကို ဖယ်ရှားရ၏။

ထို့အတူ အရက်သေစာသောက်ခြင်း၊ ကာမဂုဏ်လိုက်စားခြင်း၊ စုန်း၊ နတ် တစ္ဆေ ယုံကြည်ကိုးကွယ်မှုများသည် ကမ္ဘာဦး လူရိုင်းခေတ်ကပင် စတင်ခဲ့၍ မည်သူမျှ အားပေးချီးမြှောက်ရန် မလိုချေ။

ထို့ကြောင့် ရဟန်းဆိုးများကို နှိပ်ကွပ်မည့် သာသနာပြုမင်း မရှိခြင်းသည် အိန္ဒိယပြည်တွင် ရဟန်းဆိုးများ လွှမ်းမိုးလာခြင်း အကြောင်းတစ်ခု ဖြစ်ပေ၏။

[illegible]

## ဗြာဟ္မဏတို့၏ ထိုးနှက်ချက်

ထို့ပြင် ဗြာဟ္မဏတို့သည် အသောကခေတ်က အနှိမ်ခံကြရ၍ ဗုဒ္ဓဘာသာအပေါ်၌ ရန်ငြိုးဖွဲ့ကြ၏။ သာသနာအတွင်းသို့ ဝင်၍ ပါဠိ၊ အဋ္ဌကထာများကို ယူကြပြီးနောက် ပိဋကကျမ်းစာများ အသစ်တီထွင်ရေးသား၍ ဘုရားဟောတရား ပြုလုပ်ကာ လှည့်လည်ဟောပြောကြ၏။ မဟာယာနဝါဒများ၊ တန္တရ မန္တရဝါဒများမှာ ထိုဟိန္ဒူဗြာဟ္မဏတို့က ရဟန်းအသွင်ယူကာ တီထွင် ဟောပြောကြခြင်းဖြစ်၏။

မဟာယာနဂိုဏ်းက ဗုဒ္ဓကို ထာဝရတန်ခိုးရှင်ဟု ဆို၏၊ ကမ္ဘာကို အုပ်စိုးသူဖြစ်၏၊ ဆုလာဘ်ချီးမြှင့်နိုင်၏ဟု ဆိုသည်။ သာကီဝင်မျိုး ဂေါတမဘုရားသည် ကောင်းကင်ဘုံမှ အာဒိဗုဒ္ဓက စေလွှတ်ခြင်းဖြစ်၏။ ကျင့်ကြံအားထုတ်ရန် မလိုတော့ဘဲ ဆုတောင်းရုံမျှ၊ ရှိခိုးရုံမျှဖြင့် နိဗ္ဗာန်ရသည်ဟု ဆိုကြသည်။

သဒ္ဓမ္မပုဏ္ဍရီကသုတ်နှင့် ဂဏ္ဍဗျူဟာသုတ်များ၌ ဗုဒ္ဓသည် လူသားမဟုတ်၊ ကောင်းကင်ဘုံမှ နတ်ဘုရားဖြစ်သည်ဟု ဆို၏။ ဗုဒ္ဓဝါဒီတို့သည် ဖန်ဆင်းရှင် ဗြဟ္မာ (ဣဿရ) ကို လက်မခံကြချေ။ သို့ရာတွင် ဗုဒ္ဓကို လွန်စွာ ကြည်ညိုကြောင်း သိထားသော ဗြာဟ္မဏပုဏ္ဏား ရဟန်းများက "ဗုဒ္ဓသည် လူသားမဟုတ်၊ မြင့်မြတ်သော ကောင်းကင်ဘုံမှ နတ်ဘုရားကြီးဖြစ်သည်"ဟု ဟောပြောကြ၏။ ဗုဒ္ဓဘာသာဝင် လူများစုကမူ သဒ္ဒါလွန်နေကြ၍ ကိုယ့်ဘုရားကို နတ်အဖြစ် မြှင့်တင်သည်ကို ကျေနပ်နေကြ၏။

တဖြည်းဖြည်း ဂေါတမဗုဒ္ဓသည် ကမ္ဘာကို ဖန်ဆင်းသူဖြစ်သည်ဟု ဆိုကြ၏။ ထိုမှတစ်ဆင့်တက်၍ ဖန်ဆင်းရှင် ဗြဟ္မာဗိဿနိုးနှင့် ဂေါတမဗုဒ္ဓကို ပူးပေါင်းလိုက်ကြသည်။ အမည်သာကွဲ၍ ဘုရားတစ်ဆူတည်း အတူတူဟု ဆိုကြသည်။

တစ်ဖန် ဂေါတမဗုဒ္ဓသည် ဗိဿနိုးနှင့် တန်းတူ မဟုတ်တော့ဘဲ ဗိဿနိုးဝင်စားသူ၊ ဗိဿနိုး၏ ကိုယ်ပွား တစ်ထောင်အနက် ကိုယ်ပွား

'အဝတာရ' တစ်ခုမျှသာ ဆို၍ အောက်တစ်ဆင့် နိမ့်လိုက်သည်။ (အဂ္ဂနိပူရာဏ်ကျမ်းနှင့်ဝရာဟပူရာဏ်ကျမ်း)

နောက်ဆုံး၌ ဂေါတမအမည်ပင် မေ့ပျောက်ကာ မဟေသရခေါ် ဣဿရတစ်ဖြစ်လဲ အဝလောကိတေသရနှင့် အစားထိုးကြ၏။ ထိုဘုရားလောင်းနတ်သားအဖြစ်မှ တစ်ဖန် မိန်းမအသွင်ပြောင်းကာ တာရာဒေဝီစသည် နတ်သမီးများ ဖြစ်ကြကုန်၏။ ကာလီစသော ယက္ခိနီများဖြင့် အစားထိုးပြန်၏။ ဝေရောစန, အမိတာဘာ စသော မော်ဘုရားကြီးများပေါ်လာသောအခါ ဗုဒ္ဓဟူသည် သာကီဝင်မင်းသား ဂေါတမဗုဒ္ဓ မဟုတ်တော့ချေ။ မော်ပညာပိုင်စိုးသော နတ်ကြီးတစ်ပါးမျှသာ ဖြစ်သွားလေတော့၏။

ဤကား ဟိန္ဒူဗြာဟ္မဏတို့ အတ္တဝါဒ, ဗြဟ္မာဝါဒကို ဗုဒ္ဓဝါဒတွင်းသို့ လိမ္မာပါးနပ်စွာ သွတ်သွင်းခဲ့ပုံရသည်။ ဗုဒ္ဓဝါဒနှင့်လည်း မတူ၊ ဟိန္ဒူဝါဒနှင့်လည်း အတိအကျမတူသော မဟာယာနဝါဒကို တဖြည်းဖြည်းချင်း တီထွင်ခဲ့ကြ၏။ နှစ်ပေါင်း (၅၀၀) ခန့်ကြာသောအခါ မဟာယာနနှင့် ဟိန္ဒူဝါဒတို့ ခွဲမရအောင် ချွတ်စွပ်ထူလာလေ၏။

နောက်ဆုံး၌ ဟိန္ဒူ ဗြာဟ္မဏတို့၏ တန္တရဝါဒကိုပင် ဗုဒ္ဓဝါဒ တံဆိပ်ခတ်နှိပ်ပေးလိုက်၏။

တန္တရဝါဒမှာ အရက်နှင့်မိန်းမကို ရှေ့တန်းတင်၏၊ စုန်း ကဝေ တစ္ဆေ ပယောဂ အင်းအိုင် ခါးလှည့် လက်ဖွဲ့ မန္တန်တို့ကို ဗုဒ္ဓဝါဒဆိုင်း ဘုတ်အောက်သို့ ရွှေ့ထားလိုက်ကြသည်။

ထို့ပြင် ဗြာဟ္မဏတို့သည် ဘာသာရေး၊ ပညာရေး၊ စီးပွားရေးတို့၌ အပေါ်စီးရယူထားသည်မှာ ဗုဒ္ဓဘုရားမပွင့်မီ နှစ်ပေါင်း လေးထောင် ခန့်က စခဲ့သည်ဟု ဆိုကြသည်။ ခတ္တိယနွယ်ဝင်တို့သည် စစ်ရေးနှင့် အုပ်ချုပ်ရေးကို တာဝန်ယူခဲ့ကြ၏။ ခတ္တိယမျိုးနွယ်နှင့် ဗြာဟ္မဏမျိုးနွယ် တို့သည် ခေတ်အဆက်ဆက်က အားပြိုင်ခဲ့ရာ ရံခါ ခတ္တိယက အပေါ်စီး ရ၏။ ရံခါ ဗြာဟ္မဏက အပေါ်စီးရ၏။ ရံခါ အဝေတည့်၍ ညီညွတ်မျှတ ခဲ့သည်လည်းရှိ၏။

ဗြာဟ္မဏနှင့် ခတ္တိယတို့၏ ပဋိပက္ခသဘောကို အောက်ပါ ကောက်နုတ်ချက်များအရ သိရှိနိုင်ပါသည်။

အို - အရှင်ဂေါတမ၊ ဤလောက၌ ခတ္တိယမျိုး၊ ဗြာဟ္မဏမျိုး၊ ဝေဿမျိုး၊ သုဒ္ဒမျိုး ဟူ၍ မျိုးနွယ်ကြီးလေးခုရှိ၏။ ထိုလေးမျိုးတို့တွင် ခတ္တိယမျိုး၊ ဝေဿမျိုး၊ သုဒ္ဒမျိုးတို့သည် ဗြာဟ္မဏမျိုး၏ အလုပ်အကျွေးတို့သာ ဖြစ်ကုန်၏။ (ပုဏ္ဏားလုလင် - အမ္ဗဋ္ဌသုတ်)

အမျိုးအနွယ်တို့ကို ပြန်လှန်ဆင်ခြင်အောက်မေ့သော လူအပေါင်းတွင် ခတ္တိယမျိုးသည် အမြတ်ဆုံးဖြစ်၏။ (ဂေါတမဗုဒ္ဓ အမ္ဗဋ္ဌသုတ်)

ခတ္တိယမျိုးနွယ်တို့၏ လက်ရုံးအားကိုး စစ်အင်အားသုံးမှုသည် စက်ဆုပ်ဖွယ်ရာတည်း။ ဗြာဟ္မဏတို့ဘက်မှ ရန်ငြိုးဖွဲ့ခြင်းသည်လည်း စက်ဆုပ်ဖွယ်တည်း။ ဤသို့ ရန်ငြိုးဖွဲ့မှုကြောင့် ဤဘေးအန္တရာယ် ပေါ်လာ၏။ ခတ္တိယကလည်း မနိုင်၊ ဗြာဟ္မဏကလည်း မနိုင်၊ မည်သူမျှ မိမိ၏ဆန္ဒအတိုင်း မဖြစ်ချေ။

(မဟာဘာရတ၊ သန္တိပဗ္ဗ၊ ၇-၅-၂၄)

ဤသို့ အမျိုးအနွယ်၏ ဇာတိမာန်နှင့် စပ်လျဉ်း၍ အငြင်းပွားခဲ့ကြသော်လည်း ပညာရေးရာ, အယူဝါဒရေးရာတို့၌ ခတ္တိယသည် ဗြာဟ္မဏကို ဆရာတင်ခဲ့၏။ ဗုဒ္ဓဘုရားပွင့်တော်မူလာသောအခါ ဗြာဟ္မဏတို့၏ ဇာတ်ခွဲခြားမှုကိုလည်းကောင်း၊ မွေးရာပါ အခွင့်ထူးများကိုလည်းကောင်း မမှန်ကန်ကြောင်း ဝေဖန် ဟောကြားခဲ့၏။ ထို့ကြောင့် ဗြာဟ္မဏ ပုဏ္ဏားတို့သည် ဗုဒ္ဓနှင့် ဗုဒ္ဓတပည့်များအပေါ် အငြိုးကြီးခဲ့လေသည်။

ဗြာဟ္မဏတို့၏ ဝါဒမှာ အတ္တဝါဒဖြစ်၏။ လူသည် စကြဝဠာလုံးဆိုင်ရာ မဟာအတ္တကြီးမှ ပေါက်ဖွားခဲ့၏။ ထိုသို့ ပေါက်ဖွားခဲ့ရာ ဗြာဟ္မဏမျိုးက ပါးစပ်မှ ပေါ်ထွက်ခဲ့၏၊ အမြတ်ဆုံးဖြစ်၏။ ခတ္တိယမျိုးမှာ လက်မောင်းမှ ပေါ်ထွက်ခဲ့သဖြင့် စစ်တိုက်ရန် တာဝန်ရှိ၏။

ဝေသျှမျိုးသည် ဝမ်းဗိုက်မှ ပေါ်ထွက်ခဲ့၍ ကုန်သည် လယ်လုပ် တာဝန်ရှိ၏။ သုဒ္ဒခေါ်သော အောက်တန်းလွှာများမှာမူ ထိုမဟာအတ္တကြီး၏ ခြေထောက်မှ ပေါ်ထွက်ခဲ့သဖြင့် အယုတ်ညံ့ဆုံးဖြစ်၏။ သုဒ္ဒမျိုးသည် ဗြာဟ္မဏ၏ အစေခံမျှသာ ဖြစ်ရမည်။

(ဣရုဗေဒ - ပုရိသသုတ္တနှင့် ဘဂဝဒ်ဂီတာ)

ဗုဒ္ဓမြတ်စွာသည် အနတ္တ-အတ္တမရှိဟု ဟောကြားလေရာ ဗြာဟ္မဏတို့ ကိုးကွယ်အားထားရာ မဟာအတ္တကြီး ပြိုပျက် ပျောက်ကွယ်လေတော့၏။ ထိုအတ္တကို ထိခိုက်ခြင်းကြောင့် ဗြာဟ္မဏတို့ ဆတ်ဆတ်ခါ နာကြည်းလေသည်။ ဗြဟ္မာခေါ် အတ္တကြီးသာမရှိပါက ဗြာဟ္မဏမျိုး၏ မွေးရာပါ အခွင့်ထူးကြီး လက်လွတ်ဆုံးရှုံးရပေတော့မည်။

ထို့ပြင် အသောကမင်းကြီးလက်ထက်၌ ဗုဒ္ဓဘာသာ တစ်ရှိန်ထိုး စည်ပင်ပြန့်ပွား၍ အိန္ဒိယတစ်ပြည်လုံး သင်္ကန်းအဝါရောင် ဖုံးလွှမ်းခဲ့သည်။ ထိုအခါ အသောကမင်းကြီးက သတ္တဝါသတ်၍ ယဇ်ပူဇော်မှုကို ရှုတ်ချခဲ့သည်။ အာဏာဖြင့် ပိတ်ပင်ခဲ့သည်။ ဗြာဟ္မဏမျိုးသည် အလုပ်လုပ်ကိုင် မစားရချေ။ အလှူခံခြင်းဖြင့်လည်းကောင်း၊ ယဇ်ပူဇော်ပေး၍ ပူဇော်ခရယူခြင်းဖြင့်လည်းကောင်း အသက်မွေးရ၏။ သတ်ဖြတ်၍ ယဇ်မပူဇော်ရဟု ပိတ်ပင်လိုက်ခြင်းသည် ဗြာဟ္မဏတို့ ဝမ်းဗိုက်ကို တိုက်ရိုက်ထိခိုက်လေတော့သည်။

"တိရစ္ဆာန်တို့ကို သတ်၍ ယဇ်ပူဇော်မှုကို ပြုသည့် ဝေဒ (ဗြာဟ္မဏစာပေ) ကို ရှုတ်ချတော်မူသော အို ဗုဒ္ဓမြတ်စွာဘုရား"

(ဂီတာ-ဂေါဝိန္ဒ-၁၊ ၉)

သို့ကြောင့် အသောကမြေးတော်လက်ထက်၌ ဗြာဟ္မဏမျိုး 'ပုရှာမိတြသုင်'အမည်ရှိ ဗိုလ်ချုပ်ကြီးက ဘုရင်ကို သတ်၍ အာဏာသိမ်းလိုက်လေသည်။

ထိုသို့ ဗြာဟ္မဏတို့ အာဏာရလာသောအခါ နွားသတ်, မြင်းသတ်၍ ယဇ်ပူဇော်မှုများကို အကြီးအကျယ် ပြန်လည်ပြုလုပ်ကြ၏။ သာသနာ

တော်နှစ် ၁၀၀၀ ကျော် ဂုတ္တမင်းများလက်ထက်၌ပင် သွေးချောင်းစီး ယဇ်ပူဇော်ပွဲကြီးများ ပြုလုပ်ကြသည်။

ထိုသုင်္ဂမင်းများ လက်ထက်၌ အိန္ဒိယပြည် မြောက်ပိုင်း၌ ရဟန်းသံဃာများ မနေနိုင်၍ ထွက်ပြေးကြရ၏။

သဗ္ဗတ္ထိဝါဒဂိုဏ်းသည် မထုရာအနီးရှိ ဥရုမုဏ္ဍာတောင် (ဂေါဝဒ္ဓနတောင်) သို့ ရွှေ့၏။

ထေရဝါဒကား အိန္ဒိယတောင်ပိုင်း ဆံချီသို့ ရွှေ့၏။

သာသနာနှစ် ၈၅၀ ခန့်တွင် ကလိင်္ဂတိုင်းကို ဟိန္ဒူ ဗြာဟ္မဏဘာသာဝင် ဘုရင်တို့က တိုက်ခိုက်သဖြင့် ဗုဒ္ဓဘာသာဝင် ဂုဟသီဟမင်း စစ်ရှုံး၏။ သမီးတော် ဟေမမာလာနှင့် တူတော် ဒန္တမင်းသားတို့သည် ဗုဒ္ဓစွယ်တော်ကို ဝှက်၍ သယ်ယူကာ သီဟိုဠ်သို့ ထွက်ပြေးတိမ်းရှောင်ကြရ၏။ ထိုအချိန်တွင် ဗုဒ္ဓဂယာရှိ မဟာဗောဓိပင်ကို ဟိန္ဒူဘာသာဝင်မင်းများက အကြိမ်ကြိမ် ခုတ်ထစ် တူးဖြို မီးရှို့ပစ်ကြ၏။ ဗုဒ္ဓဘာသာဝင်ဘုရင်များက ဗောဓိပင်အစား ပြန်စိုက်ကြပြန်၏။ ဗြာဟ္မဏဘုရင်တို့က ဗောဓိပင်ကို ခုတ်ထစ် နုတ်ပစ်ကြပြန်၏။ နောက်ဆုံးတွင် နေရာပါ ကွယ်ပျောက်စေရန် မြေများဖြင့် ဖို့ပစ်ကြ၏။ ယခုလက်ရှိ ဗုဒ္ဓဂယာဗောဓိပင်မှာ လွန်ခဲ့သော အနှစ်တစ်ရာကျော်က စိုက်ပျိုးထားသော အပင်ဖြစ်၏။

(ဒါဋ္ဌာဓာတုဝင်နှင့် မေဃဝတီ ဦးနာရဒ၏ ဗုဒ္ဓသမိုင်းမှ)

သာသနာတော်နှစ် ၁၂၀၀ ကျော်သောအခါ ကေရလာပြည်နယ်မှ 'ရှံကရ' အမည်ရှိသော ဗြာဟ္မဏပညာရှိတစ်ယောက် ပေါ်ထွက်လာ၏။ သူသည် ဗုဒ္ဓဘာသာရဟန်းတော် ဒိန္နာဂ, ဓမ္မကိတ္တိတို့ ရေးသော တက္ကဗေဒကျမ်းများကို တတ်ကျွမ်း၏။ ထို့ကြောင့် သူသည် တက္ကဗေဒနည်းကျ စကားစစ်ထိုးရာ၌ လိမ္မာကျွမ်းကျင်၏။ ဗုဒ္ဓဘာသာဝင် ယောဂါစာရဂိုဏ်းနှင့် မဇ္ဈိမိကဂိုဏ်းမှ အတွေးအခေါ် သဘောတရားများကို ယူ၍ အတ္တဝါဒ, ဗြာဟ္မဏဝါဒ, ဣဿရနိမ္မာနဝါဒကို ယုတ္တိရှိအောင် ပြုပြင်ရေးသား၏။ ကွဲပြား၍ ဆန့်ကျင်ဘက်ဖြစ်နေကြသော အတ္တဝါဒဆိုင်ရာ

ကျမ်းများ၊ ဥပနိသျှဒ်ကျမ်းများကို ရှေ့နောက် ညီညွတ်အောင် အဓိပ္ပာယ် ဖွင့်ဆို၍ အဋ္ဌကထာ (ဘာသျှ) ကျမ်းများ ရေး၏။ ဗုဒ္ဓဘာသာ သံဃာ့အဖွဲ့ အစည်းများကို အတုယူ၍ ဟိန္ဒူဘုန်းကြီး (သညာသီ) များကို ကျောင်း တိုက်များ၌ တစုတဝေးတည်းနေစေ၍ စနစ်တကျ စာသင်ပေးစေသည်။ ရှံကရသည် ကေရလာပြည်နယ်, တမီလ် စသော အိန္ဒိယတောင်ပိုင်း ဘုရင်များကို ဗြာဟ္မဏသာသနာ့ ဒါယကာပြုစေ၏။ ရှံကရသည်ကား သာသနာပိုင် ရဟန်းမင်းပြု၏။ ဤခေတ်မှာပင် ရှံကရဂိုဏ်း၌ ဂိုဏ်းချုပ် သည့် ရှံကရဘွဲ့အမည်ကို ခံ၍ မင်းခမ်းမင်းနားကို အသုံးပြုနေလေ သည်။

ထိုပုဏ္ဏားပညာရှိ ရှံကရသည် ဗုဒ္ဓဘာသာရဟန်းများနှင့် ဝါဒယှဉ် ပြိုင်ရာ ဗုဒ္ဓဘာသာရဟန်းများ ရှုံးနိမ့်ပါလျှင် ဗုဒ္ဓဘာသာစွန့်၍ ဟိန္ဒူ ဘာသာသို့ ကူးပြောင်းစေ၏။ ထိုသို့ မကူးပြောင်းပါက ထောပတ်ပွက် ပွက်ဆူနေသော ဒယ်အိုး၌ နှစ်သတ်လေသည်ဟု ဆိုကြသည်။ ထိုအချိန် တွင် အိန္ဒိယတောင်ပိုင်းရှိ ဗုဒ္ဓဘာသာရဟန်းများမှာ ကျမ်းဂန်စာပေ တတ်မြောက်သူ၊ ထက်မြက်သူများ မဟုတ်ကြ၍ ရှံကရအား အရှုံးပေးကြ ရလေသည်။

ဗုဒ္ဓဘာသာဝင် ရဟန်းများသည် ဝဇိရယာနဂိုဏ်းဝင်များ ဖြစ် ကြ၍ အရက်နှင့် မေထုန်ကို သုံးဆောင်နေကြရာ ရှံကရနှင့် ယှဉ်ပြိုင်ဝံ့သူ မရှိချေ။ ထို့ကြောင့် အိန္ဒိယပြည်တောင်ပိုင်း၌ သာသနာနှစ် ၁၃၀၀ ခန့်မှ စ၍ ဗုဒ္ဓဘာသာဝင် ရဟန်းများ မရှိတော့ချေ။

(မာဝေ၏ သက်ရဒိသာဝိဇယကျမ်း ၁-၉၃)

ဗုဒ္ဓဂယာ မဟာဗောဓိစေတီပတ်လည်၌ သီဝနတ်ဘုရား၏ ယောက်ျား အင်္ဂါ ဇာတ်ပုံ (သီဝလိင်္ဂ) ၁၄ ခုကို ရှံကရက စိုက်ထူခဲ့လေသည်။ အရှင်အရိယာဓမ္မကမူ ရှံကရသည် ဗုဒ္ဓဘာသာ ရဟန်းဘဝမှ ပါရာဇိက ကျ၍ နှင်ထုတ်ခံရသဖြင့် သာသနာတော်ကို ရန်ငြိုးဖွဲ့ ဖျက်ဆီးသည်ဟု ဆို၏။

## တူရကီအနွယ်တို့၏ တိုက်ခိုက်မှု

သာသနာတော်နှစ် ၁၇၀၀ ကျော်တွင် အိန္ဒိယပြည်မြောက်ပိုင်းကို တူရကီနွယ်ဝင် မဟာမေဒင်တို့ အုပ်စိုး၏။ ဟိန္ဒူဘာသာ, ဂျိန်းဘာသာ, ဗုဒ္ဓဘာသာ ကျောင်းကန်ပုထိုးများ လုယက်ဖျက်ဆီးခံရ၏။ ရဟန်းသံဃာများ သတ်ဖြတ်ခံရ၏။ ဟိန္ဒူဘုန်းကြီးများနှင့် ဂျိန်းဘုန်းကြီးများမှာ အဝတ်ဖြူဝတ်ခြင်းကြောင့် လူဝတ်ကြောင်နှင့် အသွင်အပြင် မခြားနားသဖြင့် လူများစုထဲ၌ ရောနှောပုန်းနေခြင်းဖြင့် လွတ်မြောက်ကြ၏။

ဗုဒ္ဓဘာသာ ရဟန်းတော်များမှာမူ ပြောင်လက်နေသော ဦးပြည်းခေါင်းတုံးနှင့် အဝါရောင်သင်္ကန်းဝတ်၍ မြို့ရွာပြင်ဘက်တွင် ကျောင်းတိုက်ကြီးများ၌ တစုတဝေးတည်းရှိနေရာ မဟာမေဒင် မြင်းစီးစစ်သားများက ရုတ်တရက် လာရောက် ဝိုင်းဝန်း သတ်ဖြတ်သောအခါ ပြေးမလွတ်ကြတော့ချေ။

ပစ္စည်းဥစ္စာရတနာများမှာ ကျောင်းကန်ဘုရားများ၌ အစုလိုက်အပုံလိုက် ရှိနေရာ မဟာမေဒင် စစ်သားများသည် မြို့မဝင်မီ ဘုန်းကြီးကျောင်းကို အလျင်ဦးအောင် သိမ်းပိုက်ကြသည်။

အိန္ဒိယပြည်မြောက်ပိုင်းရှိ ဟိန္ဒူဘုရင်တို့မှာလည်း စစ်သည်သူရဲကောင်းထက် မှော်ပညာ (တန္တရ) တန်ခိုးများကို ပို၍အားထားကြ၏။ ဩဒန္တပူရီမြို့၌ ဟိန္ဒူဘုရင်သည် စစ်သည်အင်အား အပြည့်အစုံရှိပါလျက် မှော်ဆရာတန္တရ ဂိုဏ်းဘုန်းကြီးများ၏ တန်ခိုးကို ယုံကြည်အားကိုး၍ ခုခံတိုက်ခိုက်ရန် အားမထုတ်ချေ။ တူရကီနွယ်ဝင် မိုဟာမက် ဘိန်ဗခတိယာရ်သည် မြင်းစီးစစ်သားနှစ်ရာမျှဖြင့် တစ်ပြည်လုံးကို ဝင်ရောက်သိမ်းပိုက်လိုက်၏။ ဩဒန္တပူရီတက္ကသိုလ်မှ မှော်ဆရာဘုန်းကြီးများသည် အသတ်ခံကြရပြီး အချို့လောက်သာ နီပေါနှင့်တိဘက်သို့ ထွက်ပြေးလွတ်မြောက်ကြ၏။

ဘာသာရေး၌ ဦးဆောင်မှုပေးမည့်သူ ရဟန်းများ မရှိသောအခါ သာမန်ဗုဒ္ဓဘာသာဝင် လူဝတ်ကြောင်များမှာ ဟိန္ဒူဘာသာ လူမျိုးစုအထဲ ရောနှော ပျောက်ကွယ်သွားကြ၏။ ကြွင်းကျန်သော ဗုဒ္ဓဘာသာ ကျောင်း

ကန်, စေတီများမှ အချို့ကို မဟာမေဒင်များက အပိုင်ယူကြ၍ အများ စုကိုမူ ဟိန္ဒူဘုန်းကြီးများက အပိုင်စီးကြ၏။ ဗုဒ္ဓဘာသာတို့၏ စေတီကို ဖုံးအုပ်၍ ဟိန္ဒူဘုရားကျောင်းများ တည်ကြသည်။

မဟာမေဒင် နှိပ်စက်မှုကြောင့် ဗုဒ္ဓဘာသာတစ်ခုတည်းသာ ကွယ် ပ၍ အဘယ့်ကြောင့် ဂျိန်းနှင့် ဟိန္ဒူဘာသာတို့ မကွယ်ပလေသနည်း။

အိန္ဒိယမြောက်ပိုင်းကို မဟာမေဒင်က အုပ်စိုးသော်လည်း မဟာ ရဋ္ဌပြည်နယ်၊ တမိလ်ပြည်နယ်၊ ကေရလာပြည်နယ် အစရှိသော အိန္ဒိယ တောင်ပိုင်းတွင် ဟိန္ဒူဘာသာဝင်, ဂျိန်းဘာသာဝင် သိန်းပေါင်းရာနှင့်ချီ၍ ကျန်ရှိနေရာ ပြန်လည်အသက်ဆက်ရန် မခဲယဉ်းချေ။ ဂျိန်းဘာသာသည် အတ္တဝါဒကိုသာ လက်ခံထား၍ ဟိန္ဒူဗြာဟ္မဏတို့နှင့် လက်တွဲနိုင်သဖြင့် ပြန်လည်အသက်ဆက်နိုင်ခဲ့သည်။

ထို့ပြင် ဗုဒ္ဓဘာသာသည် အိန္ဒိယပြည်တွင် စတင်ပေါ်ထွန်းခဲ့သော် လည်း လူမှုဆက်ဆံရေး ဥပဒေများသည် ဟိန္ဒူဘာသာက ပြဋ္ဌာန်းထား သည့်အတိုင်း ဖြစ်ရ၏။ ဗုဒ္ဓဘာသာသည် လူမှုရေး ယဉ်ကျေးမှုအဖြစ်သို့ ရောက်အောင် မထိုးဖောက်နိုင်ခဲ့ချေ။ အိမ်ထောင်ရေး ဥပဒေများ, အမွေဆက်ခံမှုများကို ဗုဒ္ဓဟောတော်မူသည့်အတိုင်း လက်ခံကျင့်သုံးမှု မပြုနိုင်ခဲ့ကြချေ။ ယောက်ျားကလေး အရွယ်ရောက်ပါက ရှင်ပြုခြင်း၊ သေဆုံးသောအခါ သရဏဂုံတင်ခြင်း စသော ယဉ်ကျေးမှု ဓလေ့ထုံးစံ များကို ဟိန္ဒူဗြာဟ္မဏ ဆရာကြီးတို့၏ နေရာ၌ ဗုဒ္ဓဘာသာ ရဟန်းတော် များက နေရာယူ အစားမထိုးနိုင်ခဲ့ချေ။ ထိုသို့ ဗုဒ္ဓဘာသာ ကိုယ်ပိုင်ယဉ် ကျေးမှုတစ်ခုအဖြစ် မတည်ဆောက်နိုင်ခဲ့သဖြင့် ဗုဒ္ဓဘာသာဝင် လူထု သည် ဟိန္ဒူတို့နှင့် ယဉ်ကျေးမှုဓလေ့ထုံးစံ တူနေသောကြောင့် ဟိန္ဒူများ အကြား၌ အလွယ်တကူ ရောနှော ပျောက်ကွယ်သွားခြင်း ဖြစ်ပေသည်။

(၁၉၇၃ - ခုနှစ် စက်တင်ဘာလထုတ် မဟာဗောဓိမဂ္ဂဇင်းမှ ရာဟုလာ သံကစ္စည်း၏ ဆောင်းပါးနှင့် မေယဝတီ ဦးနာရဒ၏ ဗုဒ္ဓသမိုင်း၊ အာရ်အာရ် ဒိဝါကရ၏ ဘဂဝန်ဗုဒ္ဓ စသည်တို့မှ)

## ဟိန္ဒူတို့အား ကျေးဇူးပြုခဲ့ပုံ

သာသနာတော်နှစ် ၁၂၀၀ ခန့်တွင် ဂေါဋပါဒ (ဂေါဍပါဒ) မည်သော ဗြာဟ္မဏဆရာကြီးသည် နာဂအဇ္ဇုန ဟောကြားခဲ့သော မာယာဝါဒ၊ အဇာတိဝါဒ ခေါ် သုညဝါဒကို ဟိန္ဒူအဘိဓမ္မာအဖြစ် စတင် အသုံးပြု၏။ မဏ္ဍုကဥပနိသျှဒ်၏အဖွင့် ဂေါဋပါဒကာရိကာကျမ်း၌ စတင် အသုံးပြုသည်ကို တွေ့ရ၏။

ဂေါဋပါဒ၏ မြေးတပည့် ရှင်္ကရ လက်ထက်၌မူ ဗုဒ္ဓအဘိဓမ္မာနှင့် တက္ကဗေဒကို ဟိန္ဒူဘာသာအတွင်းသို့ ပြောင်းလဲထည့်သွင်းနိုင်ခဲ့သဖြင့် ဟိန္ဒူဘာသာသည် အတွေးအခေါ်ပိုင်း သဘောတရားပိုင်း၌ အဆင့်အတန်းမြင့်သွားသည်။ ဒဏ္ဍာရီပုံဝတ္ထုအဆင့်မှ ယုတ္တိယုတ္တာ ဆင်ခြေဆင်လက်ပြနိုင်သည့်အဆင့်သို့ တက်လှမ်း၏။ ဗုဒ္ဓဘာသာ ပညာရှင်တို့၏ ဝေဖန်မှုကို ကြံ့ကြံ့ခံနိုင်အောင် ယုတ္တိအထောက်အထားများဖြင့် အတွေးအခေါ်တစ်ရပ်ကို တည်ထောင်ခဲ့သည်။ ဟိန္ဒူအတွေးအခေါ်ကို အတုံးလိုက် အတစ်လိုက် အကြမ်းစား အတွေးအခေါ်မှ သိမ်မွေ့နူးညံ့သော သဘောတရားရေးအဆင့်သို့ ပြောင်းလဲစေခဲ့သည်။

ဟိန္ဒူဘုန်းကြီးများ စနစ်တကျ ဖွဲ့စည်းနေထိုင်မှုနှင့် ပညာသင်ပေးရာ ကျောင်းတိုက်ကြီးများ တည်ထောင်ခဲ့ခြင်းမှာ ဗုဒ္ဓဘာသာကို အတုယူ၍ လုပ်ကိုင်ခဲ့ခြင်းဖြစ်သည်။

အထူးခြားဆုံးအချက်မှာ နွားများ၊ မြင်းများသာမက လူကိုပင် သတ်၍ ယဇ်ပူဇော်နေကြသော ဗြာဟ္မဏတို့ကို သက်သတ်လွတ်စားအောင် ဗုဒ္ဓဝါဒက ပြုပြင်ပေးနိုင်ခဲ့သည်။ သာသနာနှစ် (၁၀၀၀) ကျော်အထိပင် ဗြာဟ္မဏတို့သည် သတ်ဖြတ် ယဇ်ပူဇော်မှုကို ကျင့်သုံးလာခဲ့ကြသော်လည်း နောက်ပိုင်း၌မူ ရက်စက်ကြမ်းကြုတ်မှုဖြင့် လူထု ကြည်ညိုမှုကို မရနိုင်ကြောင်း သိနားလည်လာကြသဖြင့် ဝါဒရေးရာပြောင်းလဲပစ်လိုက်သည်။ အသက်သတ်ရန် မဆိုထားဘိ အသားကိုပင် မစားဘဲ သက်သတ်လွတ်စားရန် ဟိန္ဒူခေါင်းဆောင်များက ပြောဟော လှုံ့ဆော်ကြသည်။

ဟာသဝဒ္ဓမာနဘုရင်သည် တစ်နိုင်ငံလုံး အသားမစားရန် အမိန့် ထုတ်ပြန်ခဲ့သည်။ နောက်ပိုင်း၌ ဟိန္ဒူခေါင်းဆောင်များ၏ ဟောပြောမှု ကြောင့် ယခုအချိန်အထိ အိန္ဒိယပြည်သူအများစုသည် အသားစားရှောင် ကြဉ်မှုကို ဆက်လက်ကျင့်သုံးနေကြသည်။

ယခင်က ဗြာဟ္မဏ ဘာသာရေးအရ တစ္ဆေ သရဲတို့ကို အသားစိမ်း ကျွေးခဲ့ကြသည်ကိုလည်း ယခုအခါ မပြုလုပ်ကြတော့ချေ။

## ဂေါတမဘုရားပေးသော အမျိုးသမီးအခွင့်အရေး

ဟိန္ဒူထုံးစံအရ ယောကျ်ားသေ၍ မုဆိုးမ ဖြစ်သွားပါက ထိုမိန်းမ သည် ယောကျ်ားသင်္ဂြိုဟ်သော မီးပုံထဲသို့ ခုန်ဆင်းသေရသည်။ ထိုသို့ မသေဝံ့ပါက ယောကျ်ားအပေါ် သစ္စာမဲ့သူဖြစ်၍ လူ့ပတ်ဝန်းကျင်မှ ဝိုင်းကြဉ်ခံရသည်။ ယောက္ခမအိမ်မှ နှင်ထုတ်ခံရသည်။ မိဘများက လည်း ရှက်သဖြင့် လက်မခံ၊ မုဆိုးမခမျာ လေလွင့်ပျက်စီးရတော့သည်။

အကယ်၍ မိဘဆွေမျိုးအိမ်၌ လက်ခံထားပါကလည်း ကျက်သရေ တုံးသော မင်္ဂလာမရှိသော မိန်းမကြီးဖြစ်၍ ခေါင်းတုံးရိတ်ထားရသည်။ အိမ်ရှိ အောက်ခြေသိမ်းအလုပ်များ လုပ်ရ၍ အကြွင်းအကျန်ကိုသာ စားရရှာသည်။

ဤသို့ တရားမျှတမှုမရှိသော ဓလေ့ထုံးစံများကို ဗုဒ္ဓဘာသာပညာ ရှင်တို့၏ ဝေဖန်မှုကြောင့် နောက်ပိုင်း၌ ပယ်ဖျက်၍ ထိုမုဆိုးမကို ကျန် ရစ်သူ ညီအစ်ကိုများက မယားအဖြစ် လက်ထပ်ယူ၍ လုပ်ကျွေး စောင့် ရှောက်လာကြသည်။

သို့ရာတွင် ဗုဒ္ဓဘာသာဝင် အမျိုးသမီးများကဲ့သို့ ယောကျ်ားများနှင့် ရင်ပေါင်တန်း၍ စီးပွားရှာလုပ်ကိုင်နိုင်သော အခွင့်အရေးများ မရရှိကြ သေးချေ။ မိန်းမဖြစ်သူသည် မိမိလင်မှတစ်ပါးသော ယောကျ်ားများနှင့် စကားမပြောရ။ ထို့ကြောင့် ဟိန္ဒူအမျိုးသမီးတစ်ဦးအနေဖြင့် ဈေးရောင်း

ဈေးဝယ် မပြုနိုင်တော့ချေ။ အိမ်တွင်းလုပ်ငန်းမျှသာ လုပ်ကြရသည်။ ထို့ကြောင့် ယောက္ခမနှင့် လင်ယောကျ်ားတို့၏ နှိပ်စက်သမျှကို အမျိုးသမီး ထုကြီးမှာ ခေါင်းငုံ့ခံနေကြရတော့သည်။ ယောကျ်ားများနှင့် ရင်ပေါင် တန်း၍ ရောင်းဝယ်လုပ်ကိုင်နေသော မြန်မာအမျိုးသမီးများကို အိန္ဒိယ သားများ မြင်ရသောအခါ အလွန်ခေတ်မီနေသော အမျိုးသမီးများပါ တကားဟု အံ့သြကြသည်။

ထို့ပြင် သားသမီးမမွေးပြန်ပါကလည်း ယောကျ်ား၏ စွန့်ပစ်ခြင်းခံ ကြရ၏။ တစ်ဖန် လင်ရဖို့အရေးမှာလည်း မလွယ်ကူလှချေ။ ဖခင်နှင့် မောင်ဖြစ်သူတို့သည် သမီးအတွက်၊ နှမအတွက် လင်ဝယ်ပေးရန် ငွေစု ကြရ၏။ အောက်တန်းစာရေးအဆင့်မျှကို ရရန် တစ်သောင်းအထက်မှာ ရှိ၏။ အရာရှိအဆင့်ကို ရဖို့ရန်မှာ သိန်းဂဏန်းအထိ ပေးနိုင်ပါမှ သမီး လင်ရပေမည်။ မောင်ဖြစ်သူများမှာ နှမကို လင်ပေးစားပြီးမှ အိမ်ထောင် ပြုကြရ၏။ အချို့သော အိမ်ထောင်ရှင် ဖခင်များမှာ သမီးအတွက် လင် ဝယ် မပေးနိုင်သဖြင့် မိမိကိုယ်ကို သတ်သေကြသော သတင်းများကို အိန္ဒိယသတင်းစာများ၌ တွေ့နေရ၏။

ရှေးခေတ် တရုတ်ပြည်တွင်လည်း လူမှုရေး၌ ကွန်ဖြူးရှပ်ဝါဒ လွှမ်းမိုးထားသဖြင့် ဗုဒ္ဓဝါဒကို လူမှုရေး၌ လက်တွေ့ မကျင့်သုံးနိုင်ခဲ့ချေ။ တရုတ်အမျိုးသမီးများမှာ အမွေဆက်ခံမှုအခွင့်အရေးများ တန်းတူညီမျှ မရကြချေ။ ထိုနည်းအတူ အာရှအလယ်ပိုင်းနှင့် ဥရောပတိုက်စသော နိုင်ငံများ၌လည်း အမျိုးသမီးများမှာ လူ့အခွင့်အရေး တန်းတူညီမျှ မရရှာ ကြချေ။

ဗုဒ္ဓဘာသာကို လူမှုကျင့်ဝတ်အဖြစ် ကျင့်သုံးသော ဗုဒ္ဓဘာသာနိုင်ငံ များ၌မူ အမွေဆက်ခံခွင့်၊ ပစ္စည်းပိုင်ဆိုင်ခွင့်၊ လက်ထပ်ခွင့်၊ ကွာရှင်း ခွင့်များ တန်းတူညီမျှ ရရှိခံစားကြရသည်။ ဤကား ဂေါတမဗုဒ္ဓ ပေးခဲ့ သော အမျိုးသမီး အခွင့်အရေးဖြစ်၍ အမျိုးသမီးထုကြီးက ဂေါတမ ဘုရားရှင်အား နေ့စဉ် ရှိခိုးဦးတိုက်သင့်ပေသည်။

## ဇာတ်ခွဲခြားမှု နည်းပါးလာခြင်း

ဟိန္ဒူပြဟ္မဏတို့က ဇာတ်ခွဲမှုကို ပြုလုပ်နေကြစဉ် ဗုဒ္ဓဘာသာဝင်များက လူတန်းစား မခွဲခြား, လူမျိုး မခွဲခြားဘဲ တစ်ပြေးညီစွာ တန်းတူဆက်ဆံခဲ့ကြ၏။ ဤအချက်ကို အတုယူ၍ အချို့ ဟိန္ဒူခေါင်းဆောင်များက ဇာတ်ခွဲခြားမှုကို ပယ်ဖျက်လိုကြ၏။ ခရစ်သက္ကရာဇ် (၁၁၀၀) ခန့်၌ တမိလ်စာရေး ဆရာကြီး ကပိလ၊ တေလဂူ စာရေးဆရာ ဝေမန၊ ကနာရစာရေးဆရာ ဘသဝတို့က ဇာတ်ခွဲခြားမှုကို ရှုတ်ချရေးသားခဲ့ကြ၏။

နောက်ပိုင်း၌ လိင်္ဂယတ်ခေါ်သော စီရသိဝဂိုဏ်းသည် ပြာဟ္မဏတို့၏ မြင့်မြတ်မှုကို လုံးဝအသိအမှတ်မပြုတော့ချေ။ ရာမနုဇာ၏တပည့် ဗိဿနိုးဂိုဏ်းသားများကလည်း ဟိန္ဒူဘုရားကျောင်းသို့ ဇာတ်နိမ့်များ မလာရ ဟူသော တားမြစ်ချက်တို့ကို လျော့ပေါ့လာကြသည်။

ပညာရှိ ဘာသာရေးခေါင်းဆောင်ကြီးများဖြစ်ကြသော ကဗိရဂုရုနာနတ်၊ ဂန္ဒီတို့ကလည်း ဇာတ်ခွဲခြားမှု မပြုကြရန် ဟောပြောကြ၏။ သို့သော်လည်း ယနေ့ အိန္ဒိယပြည်တွင် ဇာတ်ခွဲခြားမှုကား အားကောင်းနေဆဲပင် ဖြစ်သည်။



# တရုတ်ပြည်

## ဗုဒ္ဓသာသနာသမိုင်း

တရုတ်မှတ်တမ်းများအရ သာသနာနှစ် ၃၂၇ ကပင် ဗုဒ္ဓတရားတော်များကို ဟောပြောဖြန့်ချိရာ အိန္ဒိယရဟန်းတော်များသည် ရှင်စီ (Shensi) မြို့တော်သို့ ရောက်ရှိလာခဲ့ကြသည်။ သာသနာ ၄၂၂ တွင် ရွှေဆင်းတုတစ်ဆူကို တရုတ်ပြည်သို့ ပင့်ခဲ့သည်ဟု ဆိုကြ၏။

သာသနာနှစ် ၆၀၀ ခန့်၌ တရုတ်ဘုရင် မင်တီသည် ဘုရားဟောပါဠိတော်များကို စုဆောင်း၍ သာသနာပြု ရဟန်းကောင်းများ ပင့်ဆောင်ရန်အတွက် သံအဖွဲ့တစ်ခုကို အိန္ဒိယနိုင်ငံသို့ စေလွှတ်၏။ အိန္ဒိယအလယ်ပိုင်းသား အရှင်ကဿပမာတင်္ဂသည် ဤသံအဖွဲ့နှင့် အတူတရုတ်ပြည်သို့ ကြွ၍ အရေးကြီးသော ပါဠိတော်များ၏ အခန်းပေါင်းနှစ်ခန်းကို တရုတ်ဘာသာ ပြန်ဆိုပေးခဲ့၏။ ထိုအရှင်သည် လိုယန် (Loyang) မြို့၌ ကွယ်လွန်၏။

သာသနာနှစ် ၉၀၀ ခန့်၌ တရုတ်ပြည်သူလူထုသည် ဗုဒ္ဓဘာသာကျင့်ဝတ်များကို စတင် လက်ခံကျင့်သုံးလာ၏။ သာသနာ ၈၇၉ ၌ချောင်တိုင်းပြည် ဘုရင့်သားတော်သည် မိမိလူပျိုတော်များကို ဥပုသ်စောင့်ခွင့်ပြုသည်။ ထိုခေတ်၌ တရုတ်ပြည်မြောက်ပိုင်းတွင် ဘုန်းကြီးကျောင်းများ ဆောက်လုပ်ကြ၍ လူဦးရေ ဆယ်ပုံ ကိုးပုံက ဗုဒ္ဓဘာသာကိုကိုးကွယ်ကြ၏။

သာသနာနှစ် ၉၀၀ နှင့် ၁၂၀၀ အကြား၌ တရုတ်ဘုရင်များ၏ပင့်ဖိတ်မှုကြောင့် အိန္ဒိယမှ ကုမာရဇီဝ၊ ဗောဓိဓမ္မ ပရမတ္ထ စသောရဟန်းတော်များ ကြွလာ၍ သာသနာပြုကြ၏။ တရုတ်ပြည်မှလည်း ဖာဟိယန်, ယွန်ချွမ်, အိချင်စသော တရုတ်ရဟန်းတော်များသည် အိန္ဒိယပြည်သို့ ကိုယ်တိုင်သွားရောက် ပညာသင်ယူ၍ ပိဋကစာပေများကိုတရုတ်ပြည်သို့ သယ်ယူခဲ့ကြ၏။

ကနဦးအစ၌မူ တရုတ်ပြည်သို့ ဗုဒ္ဓဝါဒရောက်ခါစဖြစ်၍ ဂိုဏ်းကွဲမှု မရှိသေးချေ။ နောက်ပိုင်း၌ အိန္ဒိယပြည်မှ ဗုဒ္ဓဝါဒအမျိုးမျိုးနှင့် အကျင့်အမျိုးမျိုးကို သိလာကြသောအခါ ဂိုဏ်းကွဲမှုများ ဖြစ်ပေါ်လာ၏။ ထိုဂိုဏ်းကွဲများသည် တရုတ်ပြည်မြောက်ပိုင်းနှင့် တောင်ပိုင်းသို့ တဖြည်းဖြည်း ပျံ့နှံ့လာလေ၏။

၁။ ပိတန်ဂိုဏ်း (ဟီနယာန)

အဘိဓမ္မာကို တရုတ်အသံထွက်ဖြင့် ပိတန်ဟုခေါ်၏။ သာသနာ ၉၂၇ တွင် ဝိဘာသာကျမ်းများကို တရုတ်ဘာသာပြန်ပြီးသောအခါ ပိတန်(အဘိဓမ္မာ)ဂိုဏ်း ပေါ်ထွန်းလာ၏။ ဝသုဗန္ဓု၏ အဘိဓမ္မကောသ ကျမ်းကို တရုတ်ဘာသာပြန်ပြီးသောအခါ ကောရှဂိုဏ်းပေါ်လာ၍ ပိတန် ဂိုဏ်း ကွယ်ပျောက်သည်။

၂။ ကောရှဂိုဏ်း = ချူရှေးဂိုဏ်း (ဟီနယာန)

အဘိဓမ္မာကောသကျမ်းကို အဖျားဆွတ်၍ ကောရှဟု ခေါ်၏။ သာသနာ ၁၁၀၇-၁၁ တွင် အိန္ဒိယမှ ကြွလာသော ပရမတ္ထထေရ်သည် ကောရှကျမ်းကို တရုတ်ဘာသာ ပြန်ဆိုခဲ့၏။ သာသနာ ၁၁၉၄-၈ တွင် ဟူယင်ဆင်က ထပ်မံ၍ တရုတ်ဘာသာပြန်ဆိုပြီးနောက်၌ ချူရှေးဆွန် ခေါ် ကောရှဂိုဏ်း ပေါ်လာသည်။ ဤဂိုဏ်း၌ ထင်ရှားသော ဆရာတော်များမှာ ကိနှင့်ချီချောင်း စသည် တို့ဖြစ်ကြ၏။

ဤဂိုဏ်းနှစ်ခုမှာ သဗ္ဗတ္ထိဝါဒဂိုဏ်း၏ အဆက်အနွယ်များဖြစ်ကြ၏။

၃။ သစ္စသိဒ္ဓိဂိုဏ်း = ချင်ရှီးဂိုဏ်း (ဟီနယာန)
= သုတ္တန္တိကဂိုဏ်း (သုညဝါဒ)

သာသနာနှစ် ၉၅၅-၆ တွင် ကုမာရဇီဝသည် သစ္စသိဒ္ဓိကျမ်းကို တရုတ်ဘာသာပြန်ဆိုရာ တရုတ်ပြည်၌ လူကြိုက်များ၍ ခေတ်စား၏။ အိန္ဒိယပြည်ရှိ သုတ္တန္တကဂိုဏ်း၏ အဆက်အနွယ်ဖြစ်၏။

၄။ ရှေလွှန်းဂိုဏ်း (မဟာယာနတစ်ပိုင်း)

= ယောဂါစာရ (ဝိညာဏဝါဒ)

သာသနာနှစ် ၁၀၀၀ က အသင်္ဂသည် မဟာယာနသမ္ပရိဂ္ဂဟကျမ်းကို ရေးခဲ့၏။ ထိုကျမ်းကို သာသနာနှစ် ၁၀၇၅ တွင် ဗုဒ္ဓသန္တထေရ်က တရုတ်ဘာသာပြန်၏။ သာသနာ ၁၁၀၇ တွင် ပရမတ္တထေရ်က ထပ်မံ၍ တရုတ်ဘာသာ ပြန်၏။ ပရမတ္တထေရ်ကား ဥဇ္ဇေနီပြည်သားဖြစ်၍ ဝလဘီတက္ကသိုလ်၌ ပညာဆည်းပူးခဲ့၏။ သာသနာ ၁၀၉၂ ကာလတွင် တရုတ်ပြည်သို့ ကြွလာ၍ ပါဠိတော် ၃၂ ကျမ်းကို တရုတ်ဘာသာပြန်ဆို၏။ ထို့ပြင် တရုတ်ဘာသာဖြင့် ကျမ်းပေါင်းလေးဆယ်ရေးခဲ့ရာ အတွဲပေါင်း နှစ်ရာရှိ၏။ ကော့ရှဂိုဏ်းနှင့် ရှေလွှန်းဂိုဏ်းကို ပရမတ္တထေရ်က ထည်ထောင်ခဲ့၏။ သာသနာ ၁၁၉၂-၃ တွင် ဟွူယင်ဆင်က မဟာယာနသမ္ပရိဂ္ဂဟကျမ်းကို တရုတ်ဘာသာ ထပ်မံပြန်ဆို၏။ ဟွူယင်ဆင်၏ တပည့် ကွေယိချီ ၁၁၇၆-၁၂၂၆ သည် (Fa Hsiaing) ဖစီယန်ဂိုဏ်းကို တည်ထောင်ရာ ရှေလွှန်းဂိုဏ်းအပေါ် လွှမ်းမိုးသွား၏။

၅။ စံလွှန်းဂိုဏ်း (မဟာယာနတစ်ပိုင်း)

မဇ္ဈိမိက = သဗ္ဗသုညတာ = ပဋိစ္စပ္ပဝါဒ

တရုတ်ဘာသာ စံမှာ မြန်မာလို ၃ ဟု ဆိုလို၏။ ကျမ်းသုံးကျမ်းကို မှီငြမ်းထား၍ တည်ထောင်သောကြောင့် စံလွှန်းဂိုဏ်း (တိဂန္ထ) ဂိုဏ်းဟု ခေါ်၏။

ကျမ်းသုံးကျမ်းမှာ -

၁။ မဇ္ဈိမိကသတ္ထ၊

၂။ ဒွါဒသဒွါရ (ဒွါဒသနိကာယသတ္ထ)

၃။ သတသတ္ထ တို့ဖြစ်၏။

၁။ မဇ္ဈိမိကကျမ်းကို နာဂအဇ္ဇုန ရေးသားခဲ့သည်။ သဗ္ဗတ္ထိဝါဒနှင့်ပုထုတ္တဝါဒကို ငြင်းပယ်၍ ကေတ္တဝါဒကို ထည်ထောင်ခဲ့၏။ သာသနာ

၉၅၃ တွင် ကုမာရဇီဝက တရုတ်ဘာသာပြန်ခဲ့၏။ ဤကျမ်းမှာ သက္ကတဘာသာဖြင့် မူရင်းအတိုင်း ရှိသေး၏။

၂။ ဒွါဒသဒွါရကျမ်းကို နာဂအဇ္ဈုနပင် ရေးသည်။ (ဒွါဒသ=၁၂ + ဒွါရ = တံခါးပေါက်) တံခါး ၁၂ ပေါက်ကျမ်းဟု ဆိုလို၏။ အခန်းပေါင်း ၁၂ ခုရှိ၏။ မဟာယာနဝါဒ၌ အားနည်းချက်များကို ပြင်ဆင်ဖာထေးထား၏။ သက္ကတမူရင်း မရှိတော့ပြီ၊ တရုတ်ဘာသာပြန်သာ ရှိနေ၏။

၃။ သတသတ္ထကျမ်းကို နာဂအဇ္ဈုန၏တပည့် အရိယဒေဝ ရေးသည်။ ဂါထာတစ်ရာ ရှိ၏။ ဗြာဟ္မဏတို့၏ အမှားများကို ထောက်ပြဝေဖန် ထား၏။

ကုမာရဇီဝသည် ထိုကျမ်းများကို ဘာသာပြန်ဆို၍ တပည့်ကြီးများဖြစ်သော တာအိုရှင်း၊ တန်ချီ၊ ဆင်းလန်တို့အား ပေးအပ်ခဲ့၏။ တပည့်ကျော် ဆင်းလန်က သစ္စသိဒ္ဓိဂိုဏ်းမှ ခွဲ၍ စံလွန်းဂိုဏ်းကို စတင်တည်ထောင်၏။

ချီစံ (သာသနာ ၁၀၉၃-၁၁၆၇) သည် စံလွန်းဂိုဏ်းသစ်ကို တည်ထောင်၏။ ချီစံသည် မဇ္ဈိမိကသတ္ထကျမ်း၊ ဒွါဒသဒွါရကျမ်း၊ သတသတ္ထကျမ်း၊ သဒ္ဓမ္မပုဏ္ဍရီကသုတ်၊ မဟာပညာပါရမိတာသုတ်၊ မဟာသုခဝတိသုတ်၊ အမိတာယုဈာနသုတ်၊ ဝဇိရစ္ဆေဒိကာသုတ်၊ သုဝဏ္ဏပ္ပဘာသသုတ်၊ မေတ္တေယျသုတ်တို့၏ အဖွင့်ကျမ်းများကို တရုတ်ဘာသာဖြင့် ရေးသားပြုစုခဲ့ရာ အတွဲပေါင်း ၁၂၀ ရှိသည်။

ရှိရွှန်ဂိုဏ်းမှာ ဤဂိုဏ်း၏ ကျမ်းသုံးကျမ်း၌ ပညာပါရမိတာကို ထပ်မံဖြည့်စွက်၍ ကျမ်းလေးကျမ်း (စတုဂန္ထ)ဂိုဏ်း တည်ထောင်ခြင်းဖြစ်၍ ကြာရှည်မခံချေ။

စံလွန်းဂိုဏ်း၏ အဘိဓမ္မာနှင့် ယဉ်ကျေးမှုသည် နှစ်ပေါင်း ၈၀၀ ခန့်ကြာအောင် တရုတ်ပြည်ကို ကျေးဇူးပြုခဲ့၏။ ဤခေတ်၌မူ မရှိတော့ပြီ။

## ၆။ တိလွန်းဂိုဏ်း (မဟာယာန)

အိန္ဒိယပြည်မှကြွလာသော ဗောဓိရုစိ၊ ရတနမတိ၊ ဗုဒ္ဓသန္တ မထေရ် သုံးပါးသည် ဒသဘူမိကာသုတ်ကို (သာသနာ ၁၀၅၂-၆) တွင် တရုတ်ဘာသာပြန်ဆိုခဲ့၏။ တိလွန်းဂိုဏ်းမှာ တောင်ပိုင်း, မြောက်ပိုင်းကွဲလာ၏။ တရုတ်ပြည်မြောက်ပိုင်း လိုယန်းမြို့သား တာအိုချွန်သည် ဗောဓိရုစိ၏ တပည့်ဖြစ်၍ လူထုအပေါ်၌ များစွာသြဇာညောင်း၏။

ရတနမတိ၏တပည့် ဟူယီကွမ်သည် တရုတ်ပြည်တောင်ပိုင်း၌ နေ၍ လူကြည်ညိုသူ များ၏။ မြောက်ပိုင်းဂိုဏ်းကို ဥတ္တရာပထသာခါဟု ခေါ်၏။ တောင်ပိုင်းဂိုဏ်းကို ဒက္ခိဏာပထသာခါဟု ခေါ်၏။

ဝသုဗန္ဓုရေးသားသော ဒသဘူမိတသုတ်၌ ဝိညာဏ်ခြောက်ပါးနှင့် အာလယဝိညာဏ် ဆက်သွယ်ပုံကိုလည်းကောင်း၊ အာလယဝိညာဏ်နှင့် တထတာခေါ် တထာဝတဂဗ္ဘနှင့် ဆက်သွယ်ပုံကိုလည်းကောင်း တိကျပေါ်လွင်စွာ မပြဆိုခဲ့ချေ။ ဤအချက်ကိုမှုတည်၍ ဗောဓိရုစိနှင့် ရတနမတိတို့ အယူအဆကွဲကြ၏။

ဗောဓိရုစိက အာလယဝိညာဏ်သည် အစစ်အမှန် အရှိတရား မဟုတ်မူ၍ အာလယဝိညာဏ်နှင့် တထတာသည် သီးခြားစီဟု ယူဆ၏။

ရတနမတိက အာလယဝိညာဏ်သည် အစစ်အမှန်တရားဖြစ်၍ တထတာနှင့် ထပ်တူညီသည်ဟု ဆို၏။

ဗောဓိရုစိ၏တပည့် တာအိုချွန်တည်ထောင်သော မြောက်ပိုင်းဂိုဏ်းသည် လွန်စွာကြီးပွားခဲ့၏။ တပည့်ကြီးတစ်ထောင်ကျော်ရှိ၏။ ချင်မင်းဆက်နှင့် ဆူယီမင်းဆက်တွင် သူကောင်းပြု၍ ဘုရင့်ကိုးကွယ်ခံရ၏။ သို့ရာတွင် နောက်ဆက်တပည့်များ ညံ့၍ ကြာရှည်မတည်ချေ။

ရတနမတိ၏တပည့် ဟူယီကွမ်တည်ထောင်သော တောင်ပိုင်းဂိုဏ်းသည် ဆက်လက်ကြီးပွား၏။ နောက်ပိုင်း၌ ဤဂိုဏ်းမှ ခေါင်းဆောင် တူရှန် (Tu Shun)သည် ဟွာယင်ဂိုဏ်းကို တည်ထောင်၏။

တိလွန်းဂိုဏ်းကို ဟွာယင်ဂိုဏ်းက မျိုသွား၏။

၇။ ဟွာယင်ဂိုဏ်း ▫ အဝင္ရံသကဂိုဏ်း (မဟာယာန)

ဤဂိုဏ်းကို တည်ထောင်သူမှာ တူရှန် (Tu Shun) ခေါ် ဖရှန် (Fa Shun) ဖြစ်၏။ ဘုန်းကြီးဘွဲ့မှာ ဖရှန်ဖြစ်၍ မိဘမျိုးရိုးမှာ 'တူ'ဖြစ်၏။ နှစ်ခု ပေါင်း၍ တူရှန်ဟု ခေါ်၏။

အဝင္ရံသက၏ အနက်အဓိပ္ပာယ်မှာ ပန်းကုံးဟု ဆိုလိုသည်။ တရုတ်လို ဟွာယင်၊ ဂျပန်လို ကီဂွန်ဟု ခေါ်၏။ အဝင္ရံသကကျမ်းမှာ တရုတ်ဘာသာဖြင့် အတွဲ ၈၀-မူ၊ အတွဲ ၆၀-မူ၊ အတွဲ ၄၀-မူ ဟူ၍ သုံးမူရှိ၏။ ပထမနှင့် ဒုတိယမူမှာ သက္ကတမူရင်း ရှာမတွေ့ချေ။ အတွဲ ၄၀-မှာမူ သက္ကတမူရင်း တွေ့ရ၍ ဂဏ္ဍဗျူဟာဟု ခေါ်၏။ ထိုကျမ်းကို ယခုအခါ ဂျပန်၌ ထုတ်ဝေလိုက်လေပြီ။

ထိုကျမ်း၌ သုဓနမည်သော လုလင်တစ်ယောက်၏ ဘုရားဖူး လှည့်လည်သွားပုံကို ဖော်ပြထား၏။ ဗုဒ္ဓနှင့်စပ်ဆိုင်သည့် မြင့်မြတ်သော ဌာနကြီး ၅၃ ဌာနကို ဖော်ပြထား၏။ ဘုရားဖူးလှည့်လည်ခြင်း၏ ရည်မှန်းချက်ပန်းတိုင်မှာ နိဗ္ဗာန်ကို ရရန် ဖြစ်၏။

အိန္ဒိယပြည်၌ ဝင္ရံသကဂိုဏ်းဟု သီးခြားမရှိသော်လည်း သုဓနလုလင်၏ ဘုရားဖူးလည်သော ခရီးစဉ်ကိုမူ ဒိဗျာဝါဒနကျမ်း၌ ဖော်ပြထား၏။ ဂျာဝါးကျွန်း၌ သုဓန၏ခရီးစဉ်ကို ရုပ်လုံးဖြင့် သရုပ်ဖော်ထား၏။

အဝင္ရံသကသုတ်သည် ဗုဒ္ဓကိုယ်တိုင် သဗ္ဗညုတဉာဏ်ကို ရပြီး နောက် ပထမဦးဆုံးဟောသော တရားဖြစ်၍ လွန်စွာ ခက်ခဲနက်နဲ၏။ ဗောဓိသတ္တမျာသာ နားလည်နိုင်၏။ လူသာမန်တို့အနေဖြင့် နားမလည်နိုင်ဟု ဆိုသည်။ ဤသုတ်ကို ဟောပြီးနောက်မှ လူသာမန်တို့အတွက် နိကာယ်လေးရပ်ကို ဟောကြားသည် ဆို၏။

ဤသုတ်၌ မှော်ပညာတန်ခိုးများကို ပိုင်ဆိုင်သော မဟာဝေရောစန ဘုရားအကြောင်း ဖော်ပြထား၏။

## မဉ္ဇုသီရိ

ဂန္ဓာဗျူဟာကျမ်း၌ ဗောဓိသတ္တ (ဘုရားလောင်း) မဉ္ဇုသီရိသည် တရုတ်ပြည် ချင်လျန် (Wu Tai) တောင်ပေါ်၌ အမြဲနေ၍ မပြတ်တရား ဟောနေသည်ဟု ဖော်ပြထား၏။ (ချင်လျန်တောင်ကို ယခုအခါ ဝူတိုင်း တောင်ဟု ခေါ်၏။ တောင်ထိပ်ငါးခု ပဥ္စသိခဟု အဓိပ္ပာယ်ရ၏။)

ဝူတိုင်းတောင်ပေါ်၌ အဝဋ္ဋံသက ကျောင်းတော်ကြီး ရှိ၏။ ထို ကျောင်း၌ မဉ္ဇုသီရိဘုရားလောင်း ရုပ်ထုထား၏။ (မဉ္ဇုသီရိဘုရား လောင်းအကြောင်းကို အထက်တစ်နေရာ၌ ဖော်ပြထားပါသည်။)

မဉ္ဇုသီရိ ကိုးကွယ်မှုသည် သာသနာနှစ် ၇၀၀၀ မတိုင်မီက တရုတ်ပြည်နှင့် အိန္ဒိယပြည်တို့တွင် စတင်ခဲ့၏။ သာသနာ ၁၀၂၁ ၌ တရုတ်မင်းသား တစ်ပါးသည် မဉ္ဇုသီရိဘုရားလောင်းကို ဖူးတွေ့လို၍ ဝူတိုင်းတောင်ပေါ်သို့ တက်ပြီး မိမိကိုယ်ကို မီးရှို့သေဖူး၏။

တရုတ်မင်းဆက်များတွင် ချင်မင်းဆက်မှာ ချင်လျန်တောင်ကို အစွဲ ပြု၍ အမည်မှည့်ခြင်းဖြစ်၏။ ယခုခေတ်၌ ချင်လျန်ခေါ် ဝူတိုင်းတောင် သည် ဗုဒ္ဓဘာသာအတွက် မြင့်မြတ်သော နေရာတစ်ခုဖြစ်၏။

မဉ္ဇုသီရိကို သက္ကတအသံထွက်ဖြင့် မံဂျုရှရီဟု ခေါ်၏။ ထိုမံဂျုရှရီ ဘုရားလောင်းကို အစွဲပြု၍ တရုတ်ပြည်နောက်ဆုံးမင်းဆက်မှာ (မန်ဂျူး) မန်ချူးမင်းဆက်ဟု တွင်၏။ နီပေါဘုရင့်ထံမှ တရုတ်ဘုရင်များထံ ပေး သော စာထဲ၌ တရုတ်ဘုရင်ကို 'ရှရီရှရီ-မံဂျုရှရီ'ဟု ခေါ်ဝေါ်သုံးနှုန်း ထား၏။

### တူရှန်

ဟွာယင်ဂိုဏ်းကို စတင်ထည်ထောင်သော တူရှန်သည် မဉ္ဇုသီရိဝင် စားသူဟု ဆိုကြ၏။ ဟန်မင်းဆက်တွင် တိုင်စွန်း (Tai Tsung) ဘုရင်က နန်းတော်သို့ ပင့်၍ 'ဘဒ္ဒန္တရာဇဟာဒယ'ဘွဲ့တော် ဆက်ကပ်ခဲ့၏။

(ရာဇ = မင်း + ဟာဒယ = အသည်းနှလုံး)

တူရှန်၏တပည့်ကြီးမှာ ချိယင် (၁၁၅၆-၁၂၁၂) ဖြစ်၏။ ချိယင်၏ တပည့် ကိုရီးယားပြည်သား အိရှင်သည် ကိုရီးယားပြည်သို့ သာသနာ ၁၂၁၂ တွင် ပြန်၍ ဟွာယင် (အဝဋံသက) တရားဟောကြား၏။

တတိယမြောက်ဂိုဏ်းချုပ် (၁၁၈၇-၁၂၅၆) ဖစံ (Fa Tsang) ကား အဝဋံသကဂိုဏ်း စာပေများကို ပြုစုခဲ့လေ၏။ သာသနာ ၁၂၂၄ တွင် အိန္ဒိယရဟန်းတော် ဒိဝါကရ ကြွလာ၍ အတွဲလေးဆယ်ရှိသော ဂဏ္ဍဗျူဟာသုတ်ကို ယူဆောင်လာ၏။ သုခနေလုလင် ဘုရားဖူးလှည့်လည်သော အခန်းကို တရုတ်ဘာသာပြန်ရန် ဖစံက တောင်းပန်၏။ တစ်ဖန် ခိုတန်ပြည်သား သိက္ခာနန္ဒ (၁၁၉၆-၁၂၁၄) သည် အတွဲ ၈၀ ရှိသော အဝဋံသကကျမ်းကို ယူလာသောအခါ ဖစံသည် ထိုကျမ်းဘာသာပြန်မှု၌ ကူညီခဲ့၏။

ထို့ပြင် ဖစံသည် အိန္ဒိယပြည်တွင် ခရီးလှည့်လည်ခဲ့သော အိချင် (I Ching) (၁၁၇၉-၁၂၅၇) အားလည်းကောင်း၊ တရုတ်ပြည်တွင် (၁၂၃၃-၅)ခုနှစ်များက သီတင်းသုံးနေသော အရှင်ဒေဝပညာအားလည်းကောင်း ဘာသာပြန်လုပ်ငန်း၌ ကူညီခဲ့၏။ အေဒီ ၇၀၄ သာသနာ ၁၂၄၈ တွင် Userper ဘုရင်မ (Wu Hou) ဝူဟောင်းထံကြွ၍ တရားတော် ဟောကြား၏။ တရုတ်ဘာသာဖြင့် ကျမ်းများရေးသားခဲ့ရာ အမျိုးပေါင်း ၁၈ မျိုးရှိ၍ ဖစံအား (ပညာရှိတို့၏ဦးခေါင်း) ဘွဲ့နှင့် ကူအိုအိ KUO I (တစ်နိုင်ငံတွင် တစ်ယောက်) ဘွဲ့များကို ဆက်ကပ်လှူဒါန်း၏။

တရုတ်ပြည်၌ ဗုဒ္ဓသာသနာ ထွန်းတောက်ချိန်က အယူအဆများ စွာ ရှုပ်ထွေးခဲ့၏။ ဤဂိုဏ်းက ဗုဒ္ဓဝါဒငါးမျိုး ခွဲပြထား၏။

၁။ ဟီနယာနဝါဒ၊

၂။ အခြေခံ မဟာယာနဝါဒ၊

၃။ အန္တိမ မဟာယာနဝါဒ၊

၄။ ဖြတ်လမ်း မဟာယာနဝါဒ၊

၅။ စက်ဝိုင်း မဟာယာနဝါဒ ဟူ၍ ငါးမျိုးရှိ၏။

## ၁။ ဟီနယာနဝါဒ

ဤဂိုဏ်းသည် နိကာယ် (အာဂမ)လေးရပ်ကို သင်ကြား၏။ အတ္တဇီဝကို ငြင်းပယ်၏။ ပုဂ္ဂလသုညတာကို လက်ခံ၏။ စိတ် စေတသိက် ရုပ်တရားများကို တကယ့်အရှိတရားများဟု ယူဆ၏။ သဗ္ဗဓမ္မသုညတာကို နားမလည်သူများ ဖြစ်ကြ၏။

အဆင့်နိမ့်သဖြင့် ဟီနယာနဟု ခေါ်ရ၏။ အိန္ဒိယပြည်တွင် သဗ္ဗတ္ထိဝါဒ ဝေဘာသိကဂိုဏ်း၊ တရုတ်ပြည်၌ ကောရှဂိုဏ်း၊ ဂျပန်ပြည်၌ ကုရှဂိုဏ်းတို့ ဖြစ်၏။

## ၂။ အခြေခံ မဟာယာနဝါဒ

ဤဝါဒမှာ နှစ်ပိုင်းကွဲပြီး တစ်ပိုင်းမှာ ဝိညာဏဝါဒဖြစ်၍ တစ်ပိုင်းမှာ သုညဝါဒဖြစ်လာ၏။

ဝိညာဏဝါဒမှာ အိန္ဒိယပြည်တွင် ယောဂါစာရဂိုဏ်း၊ တရုတ်ပြည်တွင် ရှေလွန်းဂိုဏ်း၊ ဂျပန်ပြည်တွင် ဟိုဆိုဂိုဏ်းများ ဖြစ်ကြ၏။ သုညဝါဒမှာ အိန္ဒိယပြည်တွင် မဇ္ဈိမိကဂိုဏ်း၊ တရုတ်ပြည်တွင် စံလွန်းဂိုဏ်း၊ ဂျပန်ပြည်တွင် စံရွန်ဂိုဏ်းတို့ ဖြစ်ကြ၏။

ဝိညာဏဝါဒမှာ အာလယဝိညာဏ်ဖြင့် ကြောင်းကျိုး ဆက်စပ်ပြထား၍ ဓမ္မနှင့် နိယာမကို သီးခြားစီခွဲထား၏။ တစ်ခုတည်းဖြစ်အောင် ပေါင်းစပ် မပြနိုင်ခဲ့ချေ။ အမျိုး (ဂေါတ္တ) ငါးပါးကို သီးခြားစီယူထားသဖြင့် လူတိုင်း ဗုဒ္ဓဖြစ်နိုင်သည် ဟူသော သဘောတရားကို လက်မခံသဖြင့် မဟာယာန မဖြစ်နိုင်။

မဇ္ဈိမိကဂိုဏ်းကမူ (အလက္ခဏာ) မိမိကိုယ်ပိုင် လက္ခဏာ မရှိခြင်းကို အခြေပြု၍ သုညကို လက်ခံ၏။ အတ္တနှင့် အနတ္တကို ထပ်တူပြု၏။ သတ္တဝါတိုင်း ဘုရားဖြစ်နိုင်သည်ဟု ဆို၏။ ထို့ကြောင့် ဤဂိုဏ်းသည် မဟာယာနဖြစ်ရန် ရှေ့သို့ တစ်ဆင့်တက်လာ၏။

## ၃။ အန္တိမ မဟာယာနဝါဒ

ဤဝါဒမှာ တထတာကို လက်ခံသည်။ သဘာဝဓမ္မ အားလုံးသည် ပျက်စီးပျောက်ကွယ် မသွားဘဲ အံမြဲတစေ ပုံသေတည်ရှိနေသည်ဟု ယုံကြည်၏။ သဒ္ဓါဥပ္ပါဒကျမ်း၊ မဟာပရိနိဗ္ဗာနသုတ်၊ လင်္ကာဝတာရသုတ်တို့၌ လာရှိသည့်အတိုင်း သတ္တဝါတိုင်း၌ ဗုဒ္ဓသဘာဝ ပါရှိသည်ဟုဆို၏။

တရုတ်ပြည်တွင် တီယင်တိုင်းဂိုဏ်း၊ ဂျပန်ပြည်တွင် တင်ဒိုင်းဂိုဏ်းတို့ ဖြစ်ကြ၏။ သဘာဝတရား (ဓမ္မ) နှင့် နိယာမသဘောတရားသည် နှစ်ခုမပြား တစ်သားတည်း တစ်ခုတည်းသောဖြစ်သည် ဆို၏။ တထတာခေါ် တထာဂတဂဗ္ဘဖြင့် ကြောင်းကျိုးဆက်ပြ၏။

## ၄။ ဖြတ်လမ်း မဟာယာနဝါဒ

သူတစ်ပါးက ဟောကြားဆုံးမနည်းပြရန်မလို၊ မိမိအလိုလို ရုတ်တရက် ဗောဓိဉာဏ်ကို ရသော နည်းဖြစ်၏။

တရုတ်ပြည်၌ ချန်၊ ဂျပန်ပြည်၌ ဈင် (ဇင်) ဂိုဏ်းများ ဖြစ်၏။ ဤဂိုဏ်းမှာ ကြောင်းကျိုးဆက် နိယာမကို ကိုယ်ပိုင် မတီထွင်ခဲ့ချေ။

## ၅။ စက်ဝိုင်း မဟာယာနဝါဒ

ဧကယာနဝါဒဖြစ်၏။ ယာနအားလုံးမှာ ထပ်တူညီကြ၍ ယာနတစ်ခုတည်းသာဟု ဆိုကြ၏။ အထက်၌ ဖော်ပြခဲ့သော ယာန အားလုံးသည် ဧကယာနခေါ် အဝဋံသက တရားတော်၏ ဂိုဏ်းကွဲများဖြစ်သည် ဆို၏။ ဘုရားဟော တရားတော်ကို နှစ်ပိုင်းခွဲ၏။

က။ သမာပတ်ပြင်ပ၌ ဟောသောတရား နိကာယ် လေးရပ်နှင့် ပိဋကတ်သုံးပုံ၊

ခ။ သမာပတ်အတွင်း၌ ဟောသောတရား = အဝဋံသကတရားတော်။

မြတ်စွာဘုရားသည် သဗ္ဗညုတဉာဏ်တော်ကို ရတော်မူပြီးနောက် မဟာဗောဓိပင်ရင်း၌ သာဂရမုဒြာသမာဓိစျာန်ကို ဝင်စားစဉ် အဝဋံသက

တရားကို ဟောတော်မူ၏။ ထိုစျာန်သမာပတ်အတွင်း၌ ၄၅ ဝါအတွင်း ဟောတော်မူမည့် တရားများနှင့် ချွေချွတ်ရမည့် ဝေနေယျ သတ္တဝါ အပေါင်းကို ဆင်ခြင်သုံးသပ်တော်မူ၏။ ဥပမာအားဖြင့် ကြည်လင်ငြိမ် သက်နေသော ပင်လယ်ရေပြင်၌ ရုပါရုံပုံသဏ္ဌာန်အားလုံး လာရောက် ထင်ဟပ်နေသကဲ့သို့တည်း။

စကြဝဠာလောကဓာတ်၌ ဒြပ်ဝတ္ထုဟူ၍ မရှိ၊ ဂုဏ်သတ္တိ စွမ်းအား သက်သက်မျှသာ ရှိ၏။ ထိုစွမ်းအားများသည် စုပေါင်း၍ ညီညွတ်မျှတစွာ တည်နေသည်ဟု ဆို၏။

ဤဝါဒကို တရုတ်ပြည်တွင် ဟွာယင်ဂိုဏ်း၊ ဂျပန်ပြည်တွင် ကီဂွန်း ဂိုဏ်းတို့က လက်ခံကြသည်။

လူတို့သည် အချို့က သဘောတရားရေးရာဘက်၌ လွန်ကဲစွာ ဂရု စိုက်၏။ အချို့က သဘောတရားမပါဘဲ လက်တွေ့ကိုသာ ပဓာနထား ကြ၏။ ထိုနှစ်မျိုးကို ညှိနှိုင်းပေးရန် လိုအပ်၏။

တကယ့်လူ့ဘဝ၌ အလေ့အကျင့်ထုံးစံများသည် ဆန့်ကျင်ဘက်ဖြစ် နေကြ၏။ အဖြစ်အပျက် အချင်းချင်းလည်း ဆန့်ကျင်နေ၏။ လုပ်ငန်း အချင်းချင်း၊ ပုဂ္ဂိုလ်အချင်းချင်း၊ လူတန်းစားအချင်းချင်း၊ လူမျိုးအချင်း ချင်း၊ တိုင်းပြည်အချင်းချင်း ဆန့်ကျင်နေကြ၏။ ပဋိပက္ခဖြစ်နေကြ၏။ ဤသို့ တသီးတခြားစီ တကွဲတပြားစီဟူသော (ဘေဒ = နာနတ္တ = ပုထု သုတ္တ) အမြင်ဖြင့် သုံးသပ်ရုံမျှဖြင့် အကုသိုလ်အပြစ် ကင်းစင်မသွားနိုင်။ ဒုစရိုက်ကင်းသော အကောင်းချည်း ဖြစ်မလာနိုင်ချေ။ ဥပမာအားဖြင့် ဓားပြများကို စုပေါင်းလိုက်ရုံမျှဖြင့် တစ်လောကလုံး အကောင်းဖြစ် မသွား နိုင်ချေ။ ဤဆန့်ကျင်ဘက် သဘောများကို ပြေလည်စေရန်, အားလုံး ချောမောစေရန်အတွက် အပြန်အလှန် မှီခိုသော (အညမညနိဿိတ) လောကတစ်မျိုး ဖန်တီးပေးရန် လိုအပ်၏။ ဤသို့ အစစ အဆင်ပြေ ညီညွတ်မျှတသော လောကကို စံပြလောကဟု ခေါ်၏။ စံပြလောက တစ်ခု တည်ထောင်ရန်အတွက် နိယာမဆယ်ပါးကို ချမှတ်ထား၏။

## နိယာမ ဆယ်ပါး

### ၁။ စုပေါင်းနိယာမ

ရုပ်နာမ်ဓမ္မတို့သည် တစ်ပြိုင်နက် ဖြစ်ပေါ်ကြ၍ အချင်းချင်း အပြန်အလှန် အမှီသဟဲပြုနေကြ၏။ သဘာဝတရားများ အားလုံးသည် ကာလအားဖြင့်လည်းကောင်း၊ ဌာနအားဖြင့်လည်းကောင်း ဆက်စပ်မှု ရှိနေ၏။ အတိတ် အနာဂတ် ပစ္စုပ္ပန် ဟူသော ကာလသုံးပါးသည် တသီး တခြားစီဟု ဆိုရသော်လည်း အချင်းချင်းဆက်စပ်နေ၏။ ထိုသို့ သီးခြားစီ ဖြစ်နေသော တရားများကို ယေဘုယျရှုထောင့်မှ ခြုံငုံရှုမြင်သုံးသပ်၍ သဘာဝဓမ္မ တစ်ခုတည်းအဖြစ် စုပေါင်း ရှုမြင်ရမည်။ (ဝါ) အာလယ ဝိညာဏ် တစ်ခုတည်းသို့ ရုပ်နာမ်အားလုံးကို စုပေါင်းရမည်။

### ၂။ အတားအဆီးမဲ့ နိယာမ

သတ္တဝါအားလုံးသည်လည်းကောင်း၊ သဘာဝဓမ္မ အားလုံးသည် လည်းကောင်း အချင်းချင်း အတားအဆီး အချုပ်အချယ် မဖြစ်စေရ။ သတ္တဝါနှင့် သဘာဝဓမ္မတို့၏ စွမ်းအင်ကို အကန့်အသတ်မရှိ အညီအမျှ တိုးမြှင့်ပေးရမည်။ အပေါင်းနှင့်အစိတ် အပြန်အလှန်ကူးပြောင်းနိုင်၏။

### ၃။ အပြန်အလှန် ထိုးဖောက်ခြင်း နိယာမ

သီးခြားစီဖြစ်သော သဘာဝဓမ္မတို့သည် အချင်းချင်း အပြန်အလှန် ထိုးဖောက်စိမ့်ဝင် တည်နေ၏။ မတူသော တရားများ၌ တူညီချက်ရှိ၏။ အစိတ်သည် အပေါင်းထဲ၌ ရှိ၏။ အပေါင်းသည် အစိတ်ကို မှီ၍ တည် ရှိ၏။

### ၄။ ဝိသေသလက္ခဏာကင်းမဲ့ခြင်း နိယာမ (ထပ်တူညီခြင်း)

သဘာဝဓမ္မတို့သည် ကိုယ်ပိုင် (ဝိသေသ) လက္ခဏာ မရှိသော ကြောင့် အပြန်အလှန် ထပ်တူညီကြ၏။ ဤသို့ အပြန်အလှန် ထပ်တူ ပြုခြင်းသည် မိမိကိုယ် (အတ္တ) ကို ငြင်းပယ်ခြင်းဖြစ်၏။ မိမိကို အခြား

အရာတစ်ခုနှင့် ထပ်တူပြုခြင်းသည် မိမိကို ပယ်စွန့်ငြင်းပယ်ရာ ရောက်လေ၏။

ဤထပ်တူပြုမှု နိယာမအရ မဟာယာနတို့သည် ဆန့်ကျင်ဘက်ဝါဒများကို ထပ်တူပြုကြ၏။ ဤနည်းကိုသုံးခြင်းဖြင့် ပဋိပက္ခသဘော သည် ပြေငြိမ်းသွားသည်ဟု ယူဆကြ၏။

ဤနိယာမအရ မဟာယာနတို့သည် -

တစ်ခု နှင့် အများ၊
အစိတ် နှင့် အပေါင်း၊
အားလုံး နှင့် အားလုံး၏ နောက်ခံဓာတ်တစ်ခု -

တို့ကို ထပ်တူပြုကြသည်။

## ၅။ ဖြည့်စွက်ခြင်းနိယာမ

ငုပ်လျှိုးနေသော သတ္တိနှင့် သိသာမြင်သာအောင် ပေါ်လွင်နေသော ဗျတ္တိတို့သည် စကြဝဠာ၏ အတွင်းအပြင်တို့၌ ရှိ၍ အပြန်အလှန် ထောက်ပံ့နေကြ၏။ ဤနည်းအားဖြင့် ဒြပ်နှင့်စွမ်းအင်တို့သည် အချင်းချင်း အပြန်အလှန် ဖြည့်စွက်ပေးနေကြသည်။

## ၆။ ထိုးဖောက်စိမ့်ဝင်၍ တည်ဆောက်ခြင်း နိယာမ

မမြင်ရလောက်အောင် သေးငယ်သော အဏုမြူမှုန်များသည် အချင်းချင်း အပြန်အလှန် ထိုးဖောက်စိမ့်ဝင်၍ ရုပ်ခန္ဓာအိမ်ငယ်များ တည်ဆောက်ကြ၏။

## ၇။ အပြန်အလှန် ရောင်ပြန်ဟပ်မှု နိယာမ

'ဣန္ဒဇာလ'ဟု ခေါ်သော သိကြားမင်း၏ ကွန်ရက်၌ ကျောက်သံပတ္တမြားတို့ဖြင့် ပိုက်ကွက်တိုင်းကို စီခြယ်ထားရာ ရတနာများသည် အချင်းချင်း ရောင်ပြန်ဟပ်နေကြ၏။ ဤအတူပင် ပရမတ္ထတရားတို့ သည် အချင်းချင်း ရောင်ပြန်ဟပ်နေကြ၏။

## ၈။ သစ္စာ နိယာမ

သစ္စာတရားကို လက်တွေ့ရှင်းပြမှု နိယာမတရားသည် သဘာဝ တရားအတွင်း၌ တည်၏။ ထို့ကြောင့် သစ္စာကို သိရန် သဘာဝတရားကို လေ့လာရမည်။ သဘာဝတရားသည် ပညာရခြင်း၏ အကြောင်းဖြစ်၏။

## ၉။ ကာလဆယ်ပါး နိယာမ

ပရမတ္ထတရားတစ်ခုမှာ ကာလ ဆယ်ပါး ရှိ၏။ ပရမတ္ထတရားတစ် ခုတွင် ပစ္စုပ္ပန်, အတိတ်, အနာဂတ် ဟူ၍ ကာလသုံးပါးရှိ၏။ ထိုတစ်ပါး စီကို သုံးပါးစီ ထပ်၍ အနုစိတ်ရ၏။ ပစ္စုပ္ပန်ကာလတစ်ခု၌ပင်လျှင် ပစ္စုပ္ပန်, အတိတ်, အနာဂတ် ဟူ၍ သုံးပါး ထပ်မံခွဲရ၏။

ဤနည်းအားဖြင့် ပစ္စုပ္ပန်သုံးမျိုး၊ အတိတ်သုံးမျိုး, အနာဂတ် သုံးမျိုး ဖြစ်ရာ ကာလကိုးမျိုးဖြစ်၏။ ထိုကာလကိုးမျိုးကို ပေါင်းလျှင် ကာလတစ်ခု ဖြစ်၏။ ထိုအပေါင်းကာလတစ်ခုနှင့် ယခင်ကိုးပါးကို ပေါင်းလျှင် ကာလ ဆယ်မျိုး ဖြစ်၏။

ဤကာလဆယ်မျိုးကို နိယာမဖြင့် အချင်းချင်း ထိုးဖောက်ရော ယှက် တည်နေဟန်ကိုလည်းကောင်း၊ အပေါင်းထဲမှ အစိတ်ကိုလည်းကောင်း ရှင်းပြပြီးဖြစ်၏။

နံပါတ် ၃ ၌ ပြဆိုသော ထိုးဖောက်မှုသည် ဘေးတိုက်ထိုးဖောက် ခြင်းဖြစ်၏။ နံပါတ် ၉ ၌ပြဆိုသော ထိုးဖောက်မှုမှာ ထောင်လိုက်ဖြစ်၏။

သဘာဝတရား အားလုံးကို ကာလကိုးပါးဖြင့် ကြည့်ပါက တစ်ခုစီ ကွဲပြားနေသည်ကို တွေ့ရပေမည်။ ကာလကြီးတစ်ခုတည်းဖြင့် ကြည့်ပါက တစ်ခုအတွင်း အများစုပေါင်းတည်နေပုံကို တွေ့ရပေမည်။

## ၁၀။ ကုသိုလ်တရားကို ပြည့်စုံစေမှု နိယာမ

အများဆိုင်သော ကောင်းမှုကို ပြည့်စုံအောင် ဖြည့်စွက်ပေးခြင်း ဖြစ်၏။ ပဓာနခေါင်းဆောင်တရားနှင့် အခြံအရံ နောက်လိုက်တရားများ

သည် လိုက်လျောညီထွေ ရှိကြသည်။ တရားတစ်ခုတည်းဆောင်ရာ၌ ကြွင်းသော တရားများက နောက်လိုက်အဖြစ် ပါဝင်ကြရသည်။

ဤနိယာမဆယ်ချက်ကို တူရှန်၊ ချိုယင်နှင့်ဖစ်တို့ အဆင့်ဆင့် ပြုပြင် အချောကိုင်ခဲ့ကြ၏။ ထိုဆယ်ပါးအနက် (၁-၃-၄-၁၀) တို့ကို ဂရုတစိုက် လေ့လာသဘောပေါက် လက်ခံလျှင် မဟာယာနဂိုဏ်းဝင် ဖြစ်၏။

## ဝိသေသဓမ္မ သဘာဝ ခြောက်ပါး

၁။ သာမညဘာဝ ＝ ယေဘုယျ အများဆိုင်လက္ခဏာ၊
၂။ ဝိသေသဘာဝ ＝ ကိုယ်ပိုင်လက္ခဏာ၊
၃။ သဒိသဘာဝ ＝ ဆင်တူမှု၊
၄။ ဝိသဒိသဘာဝ ＝ မတူညီမှု၊
၅။ သမူဟဘာဝ ＝ အဘေဒဘာဝ - ပေါင်းစည်းမှု၊
၆။ ဘေဒဘာဝ ＝ ကွဲပြားမှု၊

လူသားတစ်ယောက်ကို ဥပမာပုံစံထုတ်၍ ဤသဘာဝခြောက်ပါး ဖြင့် သုံးသပ်ပြရပါမူ -

၁။ **သာမညဘာဝ** ＝ လူကို ခန္ဓာငါးပါးဖြင့် တည်ဆောက်ထား၍ လူအချင်းချင်း ယေဘုယျအားဖြင့် တူ၏။

၂။ **ဝိသေသဘာဝ** ＝ လူတစ်ဦးစီ၏ မျက်စိ နား စသည်တို့သည် စွမ်းရည်ချင်း မတူကြချေ၊ မျက်စိချင်းမြင်နိုင်အား မတူကြချေ။ ထူးခြား၏။

၃။ **သဒိသဘာဝ** ＝ မျက်စိ နား စသော ပသာဒဝတ္ထုရုပ်တို့သည် သက်ရှိရုပ် (ကမ္မဇရုပ်) အဖြစ်ဖြင့် တူကြ၏။

၄။ **ဝိသဒိသဘာဝ** ＝ ထိုမျက်စိ စသော ပသာဒ ရုပ်အသီးသီးသည် ခန္ဓာကိုယ်ကြီးတစ်ခုလုံးနှင့် ထူးခြားသော ဆက်သွယ်မှုများ ရှိကြ၏။ မျက်စိနှင့်လူ, နားနှင့်လူ ဆက်ဆံပုံခြင်း မတူကြချေ။

၅။ သမူဟဘာဝ = ပေါင်းစည်းညီညွတ်သောသဘော၊ မျက်စိ နား စသော အင်္ဂါအစိတ်အပိုင်းများသည် အပေးအယူ စည်းဝါးကိုက် အောင် အလုပ်လုပ်နေကြသဖြင့် လူ့ခန္ဓာကိုယ်ကြီး တစ်ခုအဖြစ် ဖြင့် စုစည်းတည်ရှိ၏။

၆။ ဘေဒဘာဝ = မျက်စိသည် မြင်ခြင်း ကိစ္စကိုသာ လုပ်၍ ကြား ခြင်းကိစ္စကို မပြုလုပ်ချေ။ ဤသို့ မတူကွဲပြား၏။

**အိမ်ဥပမာ။** ။ထုပ်လျှောက် ဒိုင်း မြားတို့ကို စုပေါင်း၍ ထားသော အဆောက်အအုံ၏ အိမ်ဟူသော သဘောသည် သာမည ဘာဝမည်၏။ ထုပ်လျှောက် ဒိုင်းမြားတို့၏ တစ်ခုစီသော သဘောသည် ဝိသေသဘာဝ မည်၏။ ထုပ်လျှောက် ဒိုင်းမြား စသည်တို့သည် အချင်း ချင်း သစ်သားအဖြစ်ဖြင့် တူညီခြင်းသည် သဒိသဘာဝ မည်၏။ ထုပ် လျှောက်တိုင်စသည်တို့သည် မိမိတို့ဆိုင်ရာ ထမ်းဆောင်ဖွယ်ကိစ္စ မတူညီ ခြင်းသည် ဝိသဒိသဘာဝ မည်၏။ အစိတ်အပိုင်းများသည် အချင်းချင်း အမှီသဟဲပြု၍ ပေါင်းစည်းခြင်းသည် သမူဟဘာဝ မည်၏။ အစိတ် အပိုင်းများသည် မိမိနေရာမှန်၌ အသီးသီးတည်ရှိခြင်းသည် ဘေဒဘာဝ မည်၏။

ဤဝိသေသဓမ္မ သဘာဝခြောက်ပါးသည် သဘာဝဓမ္မတိုင်း၌ ပါဝင် လေ၏။ ယခင် ဖော်ပြထားသော နိယာမဆယ်ပါးကို နားလည်နိုင်ရန် ဤသဘာဝခြောက်ပါးကို သိရမည်။

## ဒသဘူမိသုတ်

**ဗောဓိသတ္တဆယ်ဆင့်**

၁။ ပမုဒိတာ = ဝမ်းမြောက်မှု

ဒသနမဂ် (သောတာပတ္တိမဂ်) ဖြင့် အမြင်မှားများကို ဖယ်ရှား၏။ ပုဂ္ဂလသုညတာနှင့်ဓမ္မသုညတာကို ထိုးထွင်းသိ၏။ အမြင့်ဆုံး ဝမ်း မြောက်မှုကို ရသောကြောင့် ပမုဒိတာအဆင့်ဟု ခေါ်၏။

၂။ ဝိမလ = စင်ကြယ်မှု၊

အကျင့်စာရိတ္တ ဖြူစင်၏၊ စင်ကြယ်သောသီလ ရှိ၏။

၃။ ပဘာကရ = ထွန်းလင်းတောက်ပခြင်း၊

ဘာဝနာမဂ် အထက်မဂ်သုံးပါးဖြင့် အမြင်မှားများကို ဖယ်ရှား၏။ ခန္တီပါရမီနှင့် ပြည့်စုံ၏။

၄။ ပညာပဒီပ = ပညာဆီမီး။

ပညာ၏ ဖောက်ထွင်းမြင်နိုင်စွမ်း တိုးလာ၏၊ ဝီရိယပါရမီနှင့် ပြည့်စုံ၏။

၅။ သုဒုဇ္ဇယ = အပရာဇိတ - မရှုံးနိုင်၊

ရန်သူနှင့် ယှဉ်ပြိုင်ရာ၌ အနိုင်မခံ မရှုံးနိုင်သောအဆင့် ဖြစ်၏။ သမာဓိ ပါရမီနှင့် ပြည့်စုံ၏။ သမ္မုတိသစ္စာ ပရမတ္ထသစ္စာနှစ်ပါးနှင့် လျော်ညီစွာ စိတ်၏တည်ကြည်မှု သမာဓိနှင့် ပြည့်စုံ၏။

၆။ အဘိမုခီ = စိတ်အားဖြင့် ရှေ့ရှုရောက်ခြင်း၊

ပညာပါရမီနှင့် ပြည့်စုံ၏။ သန့်ရှင်းမှု, ညစ်ပေမှု နှစ်ပါးကို ဥပေက္ခာ ပြုနိုင်၏။

၇။ ဒူရင်္ဂမ = အဝေးရောက်အောင် သွားနိုင်စွမ်း၏။

သာဝကယာနနှင့် ပစ္စေကဗုဒ္ဓယာနဟူသော တစ်ကိုယ်ကောင်း ဝါဒကို စွန့်ပယ်၍ ရှေ့သို့ တစ်ဆင့်တက်လာ၏။ ဥပါယပါရမီနှင့် ပြည့်စုံ၏။ သတ္တဝါအားလုံးအပေါ်၌ မဟာကရုဏာရှေ့ထား သနားကြင်နာ၍ သတ္တဝါတို့၏ အကျိုးစီးပွားကို ဆောင်ရွက်၏။

၈။ အစလ = မတုန်မလှုပ် တည်ငြိမ်မှု၊

ပဏိဓာန ခေါ်သော အဓိဋ္ဌာန်ပါရမီနှင့် ပြည့်စုံ၏။ အမှတ်လက္ခဏာ ကင်းမဲ့သော (အလက္ခဏာ)အမြင်ဖြင့် အရာရာကို မြင်၏။ လွတ်လပ်စွာ လှည့်လည်သွားလာ၏။

၉။ သာရမတိ = ကောင်းသော ဉာဏ်ပညာ၊

အဘိဉာဏ် ဆယ်ပါးကို ရ၏။ ဗလပါရမီနှင့် ပြည့်စုံ၏။ ကျွတ်ထိုက်သော ပုဂ္ဂိုလ် (ဘဗ္ဗ), မကျွတ်ထိုက်သော ပုဂ္ဂိုလ် (အဘဗ္ဗ) ခွဲခြား၍ နေရာတိုင်း၌ တရားဟော၏။

၁၀။ ဓမ္မမေဃ = တရားမိုးတိမ်၊

တရားမိုး ရွာသွန်းဖြိုးခြင်းဖြစ်၏။ မိုးသည် ညီမျှစွာ နေရာအနှံ့ အပြားရွာသွန်းသကဲ့သို့ တစ်လောကလုံး၌ အညီအမျှ တရား ဟော၏။

ဤနောက်ဆုံးအဆင့်မှာ ဗုဒ္ဓအား ကိုယ်စားပြုနိုင်သော ပြည့်စုံ သော ဗောဓိသတ္တအဆင့်ဖြစ်၏။

## ၈။ တိယင်တိုင်းဂိုဏ်း (မဟာယာန)

### သဒ္ဓမ္မပုဏ္ဍရိကဂိုဏ်း

(သဒ္ဓမ္မ=သူတော်ကောင်းတရား + ပုဏ္ဍရိက=ကြာပန်း)

ကြာပန်းနှင့်တူသော သူတော်ကောင်းတရားကို ပြသောကျမ်းဖြစ်၏။ တိယင်ဂိုဏ်း (Tien tai) မှာ တရုတ်ပြည်တောင်ပိုင်းရှိ တောင်တစ်ခု၏ အမည် ဖြစ်၏။ အဘိဓမ္မာဆရာကြီး ချိအီခေါ် ချီကိုင် (Chichl = Chin Kai) (၁၀၇၅-၁၁၄၁) သည် တိယင်တိုင်းတောင်ပေါ်၌ နေ၏။ ချင်မင်းဆက်နှင့် ဆူယီမင်းဆက်၌ တပည့်များကို ဟောပြောပို့ချနေ၏။ ထိုဆရာကြီးတည်ထောင်သောဂိုဏ်းကို တိယင်တိုင်းဂိုဏ်းဟု ခေါ်၏။

ဤဂိုဏ်းမပေါ်မီ သာသနာနှစ် ၉၀၀ ခန့်မှစ၍ သဒ္ဓမ္မပုဏ္ဍရိကကျမ်းကို တရုတ်ပြည်၌ သင်ယူလေ့လာ ဟောပြောနေကြ၏။ သာသနာနှစ် ၉၅၀ တွင် ကုမာရဇီဝ,က တရုတ်ဘာသာဖြင့် ပြန်ဆိုပေးသောအခါ ပိုမို စနစ်တကျ လေ့လာလိုက်စားကြ၏။ သဒ္ဓမ္မပုဏ္ဍရိကကျမ်းကို တရုတ်ပြည်မြောက်ပိုင်း၌ စတင်လေ့လာကြသော်လည်း တောင်ပိုင်း၌ ထွန်းကားလေ၏။

သဒ္ဓမ္မပုဏ္ဍရိကကျမ်းမှာ ကုမာရဇီဝ ဘာသာပြန်နေစဉ်က အတွဲ ခုနစ်တွဲ, အခန်းပေါင်း ၂၇ ခန်း ရှိ၏။ သာသနာ ၁၀၁၉ ၌ ဖရှင် Fahsien သည် ၂၈ ခုမြောက် အခန်းကို ရှာဖွေရန် အိန္ဒိယပြည်သို့ ဦးတည်ထွက်ခွာခဲ့၏။ ခိုတန်ပြည်သို့ ရောက်သောအခါ ထို ၂၈ ခုမြောက် အခန်းကိုတွေ့၍ တရုတ်ပြည်သို့ သယ်ဆောင်လာ၏။ အိန္ဒိယပြည်သား ဘုန်းတော်ကြီး ဖအိက ဘာသာပြန်ပေး၏။ သဒ္ဓမ္မပုဏ္ဍရိကကျမ်း၏ ၂၈ ခု မြောက်အခန်းအဖြစ် ထည့်သွင်း၏။ ထိုအခန်း၌ ယောက်ဖတော် ဒေဝ ဒတ်၏ သစ္စာဖောက်ပုံကို ရေးထား၏။

တာအိုရှင်း (Tao Shing) သည် သဒ္ဓမ္မပုဏ္ဍရိကကျမ်းကိုသာမက မဟာပရိနိဗ္ဗာသုတ်ကိုလည်း လေ့လာ၏။ မဟာပရိနိဗ္ဗာနသုတ်ကို ကိုး ကား၍ ဣစ္ဆန္တိကပုဂ္ဂိုလ်သည် ဗုဒ္ဓအဖြစ်ကို ရနိုင်သည်ဟု တာအိုရှင်းက စတင်ဟောကြား၏။ ဣစ္ဆန္တိကပုဂ္ဂိုလ်မှာ ဗုဒ္ဓသဘာဝကင်းမဲ့သဖြင့် ဗုဒ္ဓ အဖြစ် မရနိုင်ဟု ရှေးက ယူဆခဲ့ကြ၏။ မဟာပရိနိဗ္ဗာနသုတ်ကို လေ့ လာ၍ တရုတ်ပြည်တောင်ပိုင်း၌ နိဗ္ဗာနဂိုဏ်းကို တည်ထောင်ကြ၏။ တိယင်တိုင်းဂိုဏ်း ပေါ်လာသောအခါ နိဗ္ဗာနဂိုဏ်းကို ဝါးမျိုလိုက် လေသည်။

တိယင်တိုင်းဂိုဏ်းကို စတင် တည်ထောင်သူမှာ ဟူယီဝင်း (Hui Wen) (၁၀၉၄-၁၁၂၁) ဖြစ်၏။ သူ၏ ဝါဒမှာ မဂ်ဉာဏ်လေးမျိုး, ဖိုလ် ဉာဏ်လေးမျိုး မခွဲခြားဘဲ ဉာဏ်တစ်ခုတည်းက တစ်ကြိမ်တည်းဖြင့် အလုံးစုံကို သိသည်ဟု ယူဆ၏။

ဒုတိယဂိုဏ်းချုပ်မှာ ဟူယီဆူ (Hui ssu) ဖြစ်၏။ သူ၏ အယူအဆမှာ ဝေဒနာသည် ကံကြောင့် ဖြစ်၏။ ကံသည် စိတ်ကြောင့် ဖြစ်၏။ စိတ်သည် အရှိတရား မဟုတ်၊ သုညမျှသာဟု ယူဆ၏။

တတိယဂိုဏ်းချုပ်မှာ ချိအိ ခေါ် ချိကိုင် (၁၀၇၅-၁၁၄၁) ဖြစ်၏။ သူသည် ဟူယီဆူထံ၌ ကြာပန်းကို ကြည့်၍ သမာဓိရှာန် အားထုတ်နည်း ကို သင်ယူ၏။ ချိအိသည် အသက် ၃၈ နှစ်အရွယ်၌ တိယင်တိုင်း တောင်

ပေါ်၌ သီတင်းသုံး၏။ ဆူယီမင်းဆက်၌ ယန်တီ (Yang Ti) ဘုရင်သည် ဆရာတော် ချိအီကို မဟာပညာကျော် (Chin Che) ဘွဲ့ ကပ်လှူခဲ့လေ၏။ တိယင်တိုင်းဂိုဏ်း၏ အယူဝါဒကို ချိအီက အပြီးသတ် အချောကိုင်ခဲ့၏။ ထို့ကြောင့် ဤဂိုဏ်း၏အမည်မှာ တတိယ ဂိုဏ်းချုပ်နေရာ တောင်ကုန်း၏ အမည်ဖြင့် တိယင်တိုင်းဂိုဏ်းဟု ခေါ်တွင်ကြသည်။

## ခေတ်ကြီး ငါးခေတ်ခွဲပုံ

တိယင်တိုင်းဂိုဏ်းက ဗုဒ္ဓသာသနာတော်များကို ခေတ်ကြီးငါးခေတ် ခွဲခြားထား၏။

၁။ အဝဋံသကခေတ် (ဗောဓိပင်)၊
၂။ ဓမ္မစကြာခေတ် (မိဂဒါဝုန်)၊
၃။ ဝေပုလ္လခေတ်၊
၄။ ပညာပါရမိတာခေတ်၊
၅။ သဒ္ဓမ္မပုဏ္ဍရိကနှင့် မဟာပရိနိဗ္ဗာနခေတ်။

### ၁။ အဝဋံသကခေတ်

ဗုဒ္ဓသည် သဗ္ဗညုတဉာဏ်တော်ကို ရပြီးနောက် ချက်ချင်း အဝဋံသက တရားတော်ကို ဟောရာ တရားနာပရိသတ်တို့ နားမလည်ကြချေ။ လွန်စွာ ခက်ခဲနက်နဲသော ဒေသနာတော် ဖြစ်သည်ဟု ဆို၏။ မဟာဗောဓိ၌ ဟောကြားသည်။

### ၂။ ဓမ္မစကြာခေတ် (မိဂဒါဝုန်)

ဓမ္မစကြာ, အနတ္တလက္ခဏသုတ် စသော ရှေ့ပိုင်း နိကာယ်တရားများကို ဉာဏ်ပညာနည်းပါးသူတို့ သိနားလည်စေရန် လွယ်ကူသော တရားများကို ဟောကြား၏။ တရားနာပရိသတ်သည် ရဟန္တာအဖြစ်ကို ရရှိကြ၏။ အဆင့်မြင့်သော အဘိဓမ္မာတရားတော်ကို နာကြားယူနိုင်ရန် အတွက် ဆွဲဆောင် ဟောကြားခြင်းဖြစ်သည် ဆို၏။

## ၃။ ဝေပုလ္လခေတ်

အဆင့်တိုးမြှင့်ပေးသောခေတ် ဖြစ်၏။ ဟီနယာန (ရဟန္တာ)အဖြစ်မှ မဟာယာန (ဘုရားလောင်း)အဆင့်သို့ တိုးမြှင့်ပေးရန် ဝေပုလ္လတရားကို ဟောကြား၏။ ဗုဒ္ဓသည် ရဟန္တာတို့၏ အယူအဆမှားများကို ရှုတ်ချကဲ့ရဲ့တော်မူ၏။ ထိုသို့ အကြိမ်ကြိမ် ဖိနှိပ်ရှုတ်ချသောအခါ ဟီနယာနဂိုဏ်းဝင်တို့သည် မိမိတို့၏ အမြင်တိုမှုကို သတိပြုမိကြ၏။ မဟာယာနတို့ကို ချီးကျူး ထောက်ခံရကောင်းမှန်း သိလာသည်ဟု ဆိုကြ၏။

## ၄။ ပညာပါရမိတာခေတ်

ပညာပါရမီကို ပဓာနထား၍ ပညာပါရမိတာသုတ်ကို ဟောကြားသောခေတ်ဖြစ်၏။ သီးခြားစီ ကွဲပြားမှု (ဘေဒ)နှင့် ရရောက်မှု (ပတ္တိ)ကို ငြင်းပယ်၏။ ရှေးဦးစွာ သုညသဘောကို ဟော၍ ထိုသုညကိုပင် ထပ်ဆင့်ငြင်းပယ်၍ အန္တိမသုညကို ဟောကြား၏။ ခွဲစိတ်ဝေဖန်နည်းကို ပစ်ပယ်၍ တစ်ခုတည်း ဖြစ်အောင် စုပေါင်းနည်းကို ပြထား၏။ ဧကတ္တဝါဒကို ဟော၏။

## ၅။ သဒ္ဓမ္မပုဏ္ဍရိကနှင့် မဟာပရိနိဗ္ဗာနခေတ်

ဤခေတ်ကို အသစ်ရှာဖွေမှုခေတ်ဟု ခေါ်၏။ ဝါဒများကို စုပေါင်းခြင်း၊ ခွဲခြင်း၊ ဝေဖန်ခြင်း၊ အသစ်ရှာဖွေခြင်းတို့ကို ပြု၏။ သာဝကယာန, ပစ္စေကဗုဒ္ဓယာန, ဗောဓိသတ္တယာန ဟူသော ယာနသုံးပါးကို တစ်ခု တည်း ပေါင်း၍ ဧကယာနဝါဒကို ဟောကြား၏။

ဤခေတ်၌ ဟောကြားသော သဒ္ဓမ္မပုဏ္ဍရိကနှင့် မဟာပရိနိဗ္ဗာန သုတ်တို့သည် ဗုဒ္ဓ၏ အန္တိမ နောက်ဆုံး ဒေသနာဖြစ်၏။ ဒေသနာတို့၏ အထွတ်အထိပ်ဖြစ်၏။ ယခင်ပြောပြီးတရားများကို အကျဉ်းချုံးခြင်း၊ အကျယ်ချဲ့ခြင်း ဖြစ်၍ အသစ်ဟောကြားခြင်း မဟုတ်ဟု ဆိုကြသည်။

ထိုသို့ ခေတ်အရ ဒေသနာကိုလည်း ရှစ်မျိုး ခွဲ၏။

## ဒေသနာရှစ်မျိုး (ပထမ လေးနည်း)

### ၁။ အကာလိက ဒေသနာ

ဗုဒ္ဓသည် မိမိသိသည့်အတိုင်း တိုက်ရိုက် ဟောကြားခြင်းဖြစ်၏။ သတ္တဝါတို့၏ စရိုက်ကို ငဲ့ကွက်ခြင်း မပြုချေ။ အဝဋံသကခေတ်၌ ဟောကြား၏။

### ၂။ နေယျတ္တဒေသနာ

တဖြည်းဖြည်း တစ်ဆင့်ချင်းတိုးမြှင့်၍ သိနားလည်ရမည့် တရားဖြစ်၏။ ဓမ္မစကြာခေတ်, ဝေပုလ္လခေတ်, ပညာပါရမိတာခေတ်တို့၌ ဟောသော ဒေသနာဖြစ်၏။

### ၃။ မန္တရဒေသနာ

လျှို့ဝှက် နက်နဲ၏။ အဓိပ္ပာယ်ပုံသေ မှုသေမဟုတ်ဘဲ အဓိပ္ပာယ်အမျိုးမျိုးကို ပြနိုင်သော ဒေသနာဖြစ်၏။ တရားနာသူအချင်းချင်း မမြင်ရအောင် ဗုဒ္ဓက တန်ခိုးတော်ဖြင့် ဖုံးအုပ်ထား၏။ တရားနာသူ အသီးသီးသည် မိမိတစ်ဦးတည်းကိုသာ ဟောနေသည်ဟု ထင်မှတ်ကြ၏။ တစ်ခုသော ဒေသနာကိုပင် လူတစ်ဦးလျှင် အဓိပ္ပာယ်တစ်မျိုးစီ နားလည်ကြကုန်၏။ ဤဒေသနာကို အဝဋံသကခေတ်မှ ပညာပါရမိတာခေတ်တိုင်အောင် ဟောကြား၏။

### ၄။ အနိယမဒေသနာ

မန္တရဒေသနာကဲ့သို့ပင် တရားနာသူများသည် တစ်ယောက်တစ်မျိုးစီ အဓိပ္ပာယ်နားလည်ကြ၏။ သို့ရာတွင် ထူးခြားချက်မှာ တရားနာပရိသတ်သည် မိမိတို့အချင်းချင်း မြင်နေကြရသည်။

ဤဟောနည်းများကို သဒ္ဓမ္မပုဏ္ဍရိကသုတ် မဟောမီက အသုံးပြု၏။ တရားနာပရိသတ် (သေက္ခပုဂ္ဂိုလ်) တို့၏ ဉာဏ်တိုးပွားစေရန် ဤလေးနည်းကို အသုံးပြု၍ ဟောကြား၏။

## ဒုတိယ ဒေသနာလေးနည်း

အထက်ပါနည်းဖြင့် ဒေသနာလေးမျိုး ခွဲခြားပြီးသည်ကို ထပ်မံ၍ ဒေသနာလေးမျိုး ခွဲပြန်၏။

### ၁။ ပိဋကဒေသနာ

အာဂမခေါ် နိကာယ်လေးရပ်နှင့် ဟီနယာနတရားတော် အားလုံးပါဝင်၏။ ဝေဘာသိကဂိုဏ်း၏ ဝိဘာသာစာပေများသည် ဤဒေသနာ၌ ပါဝင်၏။

### ၂။ သာမည ဒေသနာ

သာဝကယာန၊ ပစ္စေကဗုဒ္ဓယာန၊ ဗောဓိသတ္တယာန သုံးပါးစလုံးဟောကြားသော ဒေသနာဖြစ်၏။ အညွှစား ဗောဓိသတ္တသည် ဤယာန သုံးပါးစလုံးကို ကျင့်၏။

### ၃။ ဝိသေသ ဒေသနာ

မဟာယာနစစ်စစ် ဖြစ်၏။ ဗောဓိသတ္တ ဘုရားလောင်းအတွက် အထူးဟောကြားထား၏။ ပိဋကဒေသနာနှင့် သာမညဒေသနာတို့သည် တစ်ဖက်သတ်ကျသော သုညကို ဟောကြား၏။ ဤဒေသနာကမူ မဇ္ဈိမပဋိပဒါသုညကို ဟော၏။ တစ်စုံတစ်ရာနှင့် မရောနှောသဖြင့် ဝိသေသဖြစ်၏။

### ၄။ စက္က ဒေသနာ

စက်ဝိုင်း၏အဓိပ္ပာယ်မှာ ပြည့်စုံခြင်းဖြစ်၏။ အရာခပ်သိမ်း၌ ထိုးဖောက် စိမ့်ဝင်နေ၍ အားလုံးကို ပြည့်စွက်ပေးတတ်၏။ ဝိသေသဒေသနာသည် သီးခြားလွတ်လပ်သော မဇ္ဈိမပဋိပဒါကို ဟော၏။ စက္ကဒေသနာသည် အပြန်အလှန် ထပ်တူပြုနိုင်၍ ပြည့်စုံသော, ပျံ့နှံ့သော မဇ္ဈိမပဋိပဒါကို ဟောကြား၏။ ညီညွတ်မျှတပြည့်ဝသော ဒေသနာ ဖြစ်၏။ စက္ကဒေသနာကို သဒ္ဓမ္မပုဏ္ဍရိကသုတ်နှင့် မဟာပရိနိဗ္ဗာနသုတ်၌ ဟော၏။

တိယင်တိုင်းဂိုဏ်း၏ လက်စွဲဖြစ်သော သဒ္ဓမ္မပုဏ္ဍရီကနှင့် မဟာပရိနိဗ္ဗာနသုတ်သည် အပြည့်စုံဆုံး, အမှန်ကန်ဆုံးဖြစ်သည်ဟု ယူဆကြသည်။

## သစ္စာသုံးပါး

၁။ သုညသစ္စာ၊

၂။ ခဏိကသစ္စာ၊

၃။ မဇ္ဈိမသစ္စာ -

ဟူ၍ သစ္စာသုံးမျိုး ခွဲ၏။

အရာခပ်သိမ်းသည် မတည်မြဲ၊ စစ်မှန်သော အနှစ်သာရကင်းသောကြောင့် သုညသစ္စာ မည်၏။ သို့ရာတွင် ခေတ္တခဏ ယာယီ တည်တံ့မှုရှိသောကြောင့် ခဏိကသစ္စာ မည်၏။

ထိုသဘောတရားတို့သည် စစ်မှန်ခြင်းနှင့် မစစ်မှန်ခြင်း၊ ရှိခြင်းနှင့် မရှိခြင်းတို့အကြား၌ တည်သောကြောင့် မဇ္ဈိမသစ္စာမည်၏။ သစ္စာသုံးပါးကို အပြန်အလှန် ထပ်တူပြု သုံးသပ်ကြ၏။ ခဏိကသစ္စာနှင့် မဇ္ဈိမသစ္စာတို့သည် သုညသာလျှင်ဖြစ်၏။ သုညသစ္စာနှင့် မဇ္ဈိမသစ္စာတို့သည် ခဏိကသစ္စာသာလျှင် ဖြစ်ကုန်၏။ ခဏိကသစ္စာနှင့် သုညသစ္စာတို့သည် မဇ္ဈိမသစ္စာသာလျှင် ဖြစ်ကုန်၏။ ဤသို့လျှင် သစ္စာသုံးပါးကို တစ်ခုတည်းပြုနိုင်၏။ ဤသစ္စာသုံးပါးကို ပြည့်စုံညီညွတ်သော အစ္စန္တသစ္စာဟု ခေါ်၏။

**တထတာ**

သဘာဝဓမ္မတို့၏ မူလအခြေအနေမှန်သည် တထတာဖြစ်၏။ လှုပ်ရှားနေသော ရေလှိုင်းများသည် တည်ငြိမ်နေသောရေမှ မကွဲမပြား တစ်သားတည်းဖြစ်သကဲ့သို့ ဖြစ်ပျက်ပြောင်းလဲနေသော ဓမ္မများသည်ပင်လျှင် တထတာ ဖြစ်၏။ အစစ်အမှန်တရား ဖြစ်၏။ လှုပ်ရှားသော ရေနှင့် တည်ငြိမ်သောရေကို ဆန့်ကျင်ဘက်ဟု ယူဆကြသော်လည်း အမှန်စင်စစ် ရေတစ်မျိုးတည်းကပင် လှုပ်ရှားမှုနှင့် ငြိမ်သက်မှုအသွင်ကို ဆောင်နေခြင်းဖြစ်၏။

ပြင်ပ သွင်ပြင်နှင့် အတွင်းသားအနှစ်သာရသည် ကွဲပြားခြင်းမရှိ ထပ်တူညီသည်ဟု ဆို၏။ ဖြစ်ပျက် ပြုပြင်ပြောင်းလဲနေသော သင်္ခါရ လောကသည်ပင်လျှင် တထတာဟု ခေါ်သော နိဗ္ဗာန်တရားနှင့် ထပ်တူ ညီသည်ဟု ယူဆကြသည်။

## ဘုံဆယ်ဆင့်နှင့် လောကသုံးထောင်

၁။ ဗုဒ္ဓဘူမိ ▪ ဗုဒ္ဓတည်ရာဘုံ၊
ဗုဒ္ဓသည် ဘုံဆယ်ဆင့်၌ အမှန်အားဖြင့် အကျုံးမဝင်သော်လည်း သတ္တဝါတို့ကို တရားဟောရန်အတွက် တစ်စိတ်တစ်ပိုင်းအားဖြင့် လောကဘုံအတွင်း၌ ပါဝင်ရ၏။

၂။ ဗောဓိသတ္တဘူမိ ▪ ဘုရားလောင်းတို့၏ တည်ရာဘုံ၊

၃။ ပစ္စေကဗုဒ္ဓဘူမိ ▪ မိမိတစ်ဦးသာလျှင် တရားကို သိ၍ သူတစ်ပါးအား တရားမဟောနိုင်သော ပစ္စေကဗုဒ္ဓ ဘုရားငယ်တို့၏ တည်ရာဘုံ၊

၄။ သာဝကဘူမိ ▪ ဗုဒ္ဓ၏ တပည့်သာဝကကြီးများ၏ တည်ရာဘုံ၊

၅။ ဒေဝတာဘူမိ ▪ နတ်တို့၏ တည်ရာဘုံ၊

၆။ အသုရဘူမိ ▪ စစ်တိုက်ဝါသနာထုံသော အောက်တန်း နတ်တို့၏ တည်ရာဘုံ၊

၇။ မနုဿဘူမိ ▪ လူ့ဘုံ, နတ်ပြည်နှင့် ငရဲပြည်တို့၏ကြား၌ တည်၏။

၈။ ပေတဘူမိ ▪ ပြိတ္တာဘုံ အမြဲဆာလောင်နေ၏။

၉။ တိရစ္ဆာန ▪ တိရစ္ဆာန်လောက၊

၁၀။ နိရယဘူမိ ▪ ငရဲဘုံ အောက်ဆုံး၌ ရှိ၏။

နံပါတ် ၄ အထိ အရိယာဘုံဖြစ်၍ ကြွင်းခြောက်ဘုံသည် ပုထုဇဉ်ဘုံ မည်၏။

ဘုံဆယ်ခုသည် အချင်းချင်း အပြန်အလှန် အကျုံးဝင်နေ၏။ ဘုံတစ်ခု၌ ကြွင်းသောဘုံ ကိုးခု ပါဝင်နေသဖြင့် ဘုံတစ်ခုသည် ဆယ်ဘုံဖြစ်၏။ ဥပမာအားဖြင့် လူ့ဘုံအတွင်း၌ ဗုဒ္ဓဘုံမှ ငရဲဘုံအထိ ပါဝင်နေ၏။ ဗုဒ္ဓကိုယ်တော်တိုင် ငရဲသတ္တဝါ မဟုတ်သော်လည်း ဗုဒ္ဓ၏ ဉာဏ်တော်အတွင်း၌ ငရဲဘုံရှိနေ၏။

ဤသို့ အပြန်အလှန် အကျုံးဝင်မှုအရ ဘုံတစ်ခုသည် ဆယ်ဘုံဖြစ်၏။ ထို့ကြောင့် ဘုံဆယ်ခုတွင် ၁၀×၁၀ = ဘုံပေါင်း ၁၀၀ ဖြစ်၏။

တထတာ၏ လက္ခဏာဖြစ်သော ရုပ်သွင်သဏ္ဌာန်၊ သဘာဝ၊ ဒြပ်၊ စွမ်းအား၊ ကြိယာ၊ မူလအကြောင်း၊ အခြံအရံအကြောင်း၊ အကျိုးရင်း၊ အကျိုးဖျား၊ အန္တိမ နောက်ဆုံးအခြေအနေ ဤလက္ခဏာ ဆယ်ချက်သည် ဘုံတစ်ခုစီ၌ အသီးသီးရှိ၏။ ထို့ကြောင့် ဘုံဆယ်ခုကို လက္ခဏာဆယ်ခုဖြင့် မြှောက်ပွားပါက ၁၀၀×၁၀ = ဘုံပေါင်း ၁၀၀၀ ဖြစ်၏။

ထို့ပြင် ဘုံအသီးသီး၌ ဇီဇသုံးမျိုးရှိ၏။

၁။ သက်ရှိသတ္တဝါတို့၏ဇီဇ

၂။ အာကာသ၏ဇီဇ

၃။ ရုပ် ဝေဒနာ သညာ သင်္ခါရ ဝိညာဏ -

ဟူသော ခန္ဓာငါးပါး၏ ဇီဇဟူ၍ ဘုံတစ်ခုစီ၌ ဇီဇအပိုင်း သုံးပိုင်းပါဝင်၏။

ထို့ကြောင့် ဘုံ ၁၀၀၀ ကို ဇီဇသုံးပါးဖြင့် မြှောက်ပွားပါက ဘုံပေါင်း ၁၀၀၀×၃ = ၃၀၀၀-ဖြစ်၏။

ဤကား စကြဝဠာတစ်ခုလုံး ပေါင်းစပ်ဖွဲ့စည်းပုံဖြစ်၏။ ဤဘုံသုံးထောင်မှာ ဩကာသလောက မဟုတ်၊ သတ္တလောကနှင့် သင်္ခါရလောကကို ဆိုလို၏။ ဤဘုံ ၃၀၀၀ သည် စိတ်ထဲမှာပင်ရှိ၏။ စိတ္တက္ခဏ တစ်ချက်သည်ပင်လျှင် ဘုံ ၃၀၀၀ = လောက ၃၀၀၀ ဖြစ်သည်။ ဤကား ဝိညာဏ်သာလျှင် အရှိတရား ဟူသော ဝိညာဏဝါဒသို့ လိုက်၍ တွေးခေါ်ခြင်းဖြစ်၏။

အဝင့်သကကျမ်းနှင့် သဒ္ဓမ္မပုဏ္ဍရီကကျမ်းများမှာ အိန္ဒိယပြည်၌ ပေါ်ခဲ့သော်လည်း တရုတ်ပြည်သို့ ရောက်သောအခါ တရုတ်တို့သည် မိမိတို့ အစဉ်အလာ ဘိုးဘေးများထံမှ အမွေခံယူခဲ့သော တွေးခေါ် နည်းစနစ်များဖြင့် ဖွင့်ဆိုရေးသားသည်။ ထို့ကြောင့် ဤဂိုဏ်းများသည် အိန္ဒိယပြည်၌ ဂိုဏ်းသီးခြားမရှိဘဲ တရုတ်ပြည်သို့ရောက်မှ ကြီးကျယ် ထွန်းကားလာသည်။ တရုတ်ပြည်တွင် ယခုအချိန်အထိ ဆက်လက် တည်ရှိနေသောဂိုဏ်းမှာ တိယင်တိုင်းဂိုဏ်းသာလျှင် ဖြစ်၏။

## ၉။ တန္တရဂိုဏ်း (မဟာယာန)

အိန္ဒိယပြည်ဖြစ် တန္တရကျမ်းများကို အာရှတိုက်အလယ်ပိုင်း ကုချာ ပြည် ပိုင် (Pai) မြို့နေ အရှင်သိရိမိတြ,က တရုတ်ဘာသာပြန်ခဲ့၏။ ထို့ကြောင့် သာသနာ ၉၀၀ ခန့်က တန္တရဝါဒ တရုတ်ပြည်ရောက်သည် ဟု ဆိုရပေမည်။

ဗုဒ္ဓမန္တရကျမ်းမှာ တန်ခေတ် (၁၂၅၀-၁၄၅၀) တွင် တရုတ်ပြည်သို့ ရောက်၏။ သုဘကရသီဟ၊ ဝဇိရဗောဓိနှင့် အမောဃဝဇိရ ဟူသော အိန္ဒိယသား ရဟန်းတော်သုံးပါးက မန္တရကျမ်းများ သယ်ဆောင်လာ၍ ဖြန့်ချိ ဟောပြောကြ၏။

## ၁။ သုဘကရသီဟ (၁၁၈၁-၁၂၇၉)

သုဘကရသီဟသည် ဩရိသပြည့်ရှင် ဘုရင်အဖြစ်မှ ထီးနန်းစွန့်၍ ရဟန်းဝတ်လာသူ ဖြစ်၏။ သူသည် ဓမ္မဂုတ္တထေရ်အုပ်ချုပ်သော နာလန္ဒ တက္ကသိုလ်၌ ယောဂထိုင်နည်းများ, ဓာရဏီခေါ်သော မန္တရားနှင့် မန္တန် စုတ်နည်းများ, မုဒြာခေါ်သော လက်နေဟန်ထားများကို သင်ယူတတ် မြောက်ခဲ့၏။ ထို့နောက် သာသနာပြု ခရီးထွက်ရာ ကတ်ရှမီးနှင့် တိဘက် ပြည်သို့ ရောက်၏။ သာသနာ ၁၂၆၀ တွင် ချန်အန်မြို့သို့ ရောက်ရာ ရွှမ်ဆွမ်း (Hsuan Tsung) ဘုရင်က ကြိုဆိုလက်ခံ၏။

ထိုအချိန်တွင် တရုတ်ရဟန်းတော် ဝူဆင်း (Wu Hsing) သည် အိန္ဒိယ၌ ဘုရားဖူးလှည့်လည်ရာ နာလန္ဒတက္ကသိုလ်၌ အိချင် (I Ching) နှင့် တွေ့ဆုံခဲ့၏။ အိချင်သည် တရုတ်ပြည်သို့ ရှေးဦးပြန်နှင့်၏။ ဝူဆင်းသည် တန္တရ,မန္တရ သက္ကတကျမ်းများကို စုဆောင်း၍ ပြန်လာရာ လမ်းခရီး၌ သေဆုံး၏။ သို့ရာတွင် သူစုဆောင်းလာခဲ့သော ကျမ်းများမှာ ချန်အန်မြို့ (Chanyan) ဟွာယင်ကျောင်းတိုက်သို့ ရောက်ရှိလာ၏။ ထိုကျမ်းများအနက် အရေးပါသော ကျမ်းအချို့ကို ရွေးချယ်၍ သုဘကရသိဟနှင့် အိချင်တို့က တရုတ်ဘာသာပြန်ဆိုကြ၏။ သာသနာ ၁၂၆၉ တွင် မဟာဝေရောစနကျမ်းကြီးကို ဘာသာပြန်၍ ပြီးစီး၏။ သုဘကရသိဟသည် အိန္ဒိယပြည်သို့ ပြန်လိုသော်လည်း တရုတ်ဘုရင်က ခွင့်မပြုသဖြင့် သာသနာ ၁၂၇၉ တွင် တရုတ်ပြည်တွင် ပျံလွန်၏။

## ၂။ ဝဇိရဗောဓိ (၁၂၀၇-၁၂၈၅)

အိန္ဒိယတောင်ပိုင်းသားဖြစ်၍ နာလန္ဒတွင် ရှင်သာမဏေဝတ်၏။ ၁၅ နှစ် အရွယ်၌ အိန္ဒိယအနောက်ပိုင်းရှိ ဆရာတော် ဓမ္မကိတ္တိထံတွင် ဂါကျဟု ခေါ်သော ဗုဒ္ဓတက္ကဗေဒကို သင်ယူ၏။ အသက်နှစ်ဆယ်တွင် နာလန္ဒ၌ ရဟန်းခံ၏။ နာလန္ဒတက္ကသိုလ်ဆရာတော် သန္တဗောဓိထံ၌ ဝိနည်းကျမ်းနှင့်မဇ္ဈိမိကသတ်ကို ခြောက်နှစ်သင်ယူ၏။ အိန္ဒိယမြောက်ပိုင်း ကပိလဝတ်ပြည်သို့ ကြွ၍ ဆရာတော်ဇိနဝဒြထံ၌ အသင်္ဂ၏ ယောဂါစာရကျမ်း၊ ဝသုဗန္ဓု၏ ဝိညတ္တိမတြတာကျမ်း၊ ထိရမတိ၏ မဓျန္တဝိဘင်္ဂကျမ်းများကို သုံးနှစ်သင်ယူ၏။ အိန္ဒိယပြည်တောင်ပိုင်း ဆရာတော် နာဂဗောဓိထံ၌ ဝဇိရသေခရကျမ်း စသော မန္တရကျမ်းများ သင်ယူ၏။

ဝဇိရဗောဓိသည် အိန္ဒိယပြည် အရှေ့ဘက်ကမ်းရိုးတန်းမှ သင်္ဘောစီး၍ တရုတ်ပြည်သို့ကြွရာ ၁၂၆၇ တွင် တရုတ်ပြည် လိုယန်မြို့တော်သို့ ရောက်၏။ အရေးပါသော ဝဇိရသေခရ အစရှိသော မန္တရကျမ်းများကို ဘာသာပြန်ဆိုခဲ့၏။ သူသည် အိန္ဒိယပြည်သို့ ပြန်ခွင့်ရသော်လည်း မပြန်နိုင် တရုတ်ပြည်မှာပင် ပျံလွန်တော်မူ၏။

၃။ အမောဃဝဇိရ (၁၂၀၉-၁၃၁၈)

ဝဇိရဗောဓိ၏ တပည့်ဖြစ်၏။ အိန္ဒိယပြည် မြောက်ပိုင်းသားဖြစ်၏။ ၁၅ နှစ်အရွယ်တွင် သာမဏေဝတ်၍ ဆရာနှင့်အတူ တရုတ်ပြည်သို့ ရောက်သွား၏။ ဆရာ့ထံမှ မန္တရပညာရပ်များကို စုံလင်စွာ သင်ယူ၍ အသက်နှစ်ဆယ်တွင် ရဟန်းပြု၏။ ဆရာကွယ်လွန်သောအခါ ဆရာတူ တပည့် တရုတ်ရဟန်းတော် ၃၇-ပါးနှင့်အတူ သီဟိုဠ်သို့ သွားသည်။ သီဟိုဠ်တွင် ဆရာတော် သမန္တဘဒြထံမှ ဝဇိရသေခရယောဂနှင့် မဟာဝေရောစနဂဗ္ဘကောသကျမ်းများကို သင်ယူ၏။ ကျမ်းဂန်များစုဆောင်း၍ သာသနာ ၁၂၉၀ တွင် တရုတ်ပြည်သို့ ပြန်ခဲ့၏။

တရုတ်ပြည်တွင် ဧကရာဇ်မင်းသုံးဆက်တိုင် မင်းဆရာ ပုရောဟိတ် အဖြစ် ကိုးကွယ်ခံရ၏။ ကျမ်းပေါင်း ၁၁၀ ကို တရုတ်ဘာသာပြန်ဆိုရာ အတွဲပေါင်း ၁၄၃ တွဲရှိ၏။ ၎င်းတို့အနက် ဝဇိရသေခရကျမ်းမှာ လွန်စွာ အရေးပါ၏။

ဝဇိရသေခရ မူရင်းသက္ကတကျမ်းကို အီတလီပြည်သား ပါမောက္ခ တုစိ (Tucci) က တိဘက်ပြည်၌ တွေ့ရှိ၏။ ထိုကျမ်းကို ရုပ်ပုံများဖြင့် သရုပ်ဖော် ရှင်းပြထားသော ဝဇိရသေခရ ရုပ်ပုံကျမ်းကို ဂျပ်ပြည်တွင် ပါမောက္ခ အိုနိုက တွေ့ရှိရသည်။ ထိုရုပ်စုံကျမ်းမှာ သာသနာ ၁၃၉၇-က တရုတ်ပြည်မှ ဂျပန်ပြည်သို့ ရောက်ရှိလာခြင်း ဖြစ်၏။ ဤကျမ်းကို ကျိုတိုမြို့ရှိ ရေနင်ကျောင်းနှင့် အိုမီမြို့ မိအီကျောင်းတိုက်၌ လျှို့ဝှက်စွာ သိမ်းဆည်းထားခဲ့ကြသည်။ ဤတွေ့ရှိချက်များကြောင့် တန္တရဝါဒ, မန္တရ ဝါဒ သမိုင်းများကို ပိုမိုသိရှိလာကြသည်။

ဤတန္တရဂိုဏ်းက သုံးစွဲသောကျမ်းများမှာ မဟာဝေရောစနသုတ် ဝဇိရသေခရခေါ်သော ရိတာသင်္ဂဟကျမ်း၊ ဝဇိရဓာတုကျမ်း၊ ဂဗ္ဘကောသ ကျမ်းများဖြစ်၏။

မဟာဝေရောစန ဘုရားကိုသာ ကိုးကွယ် ဆည်းကပ်ကြလေ၏။

## ၁၀။ သုခဝတီဗျူဟာဂိုဏ်း (မဟာယာန)

### အမိတာဘုရား ကိုးကွယ်မှု

တရုတ်ရဟန်းတော် ဇူမင်းခေါ် ဂျင်မင်း (၁၁၆၂-၁၂၆၃)သည် တန်ခေတ်၌ အိန္ဒိယပြည်သို့ ထွက်ခွာခဲ့ရာ ဂန္ဓာရတိုင်း၌ အမိတာဘုရားကိုးကွယ်မှုကို တွေ့ရှိ၍ တရုတ်ပြည်သို့ ယူဆောင်ခဲ့သည်။

အိန္ဒိယ တန္တရဂိုဏ်းအကြောင်းရေးစဉ်က ဈာနီဗုဒ္ဓငါးဆူကို ဖော်ပြခဲ့၏။ တန္တရဂိုဏ်းက ဝေရောစနဗုဒ္ဓကို ဘုရားလေးဆူထက် အကြီးအကဲဟု ယူဆကိုးကွယ်ကြ၏။ အမိတာဂိုဏ်းကမူ အမိတာဘာ (အမိတာယု) ဘုရားကို အကြီးအကဲအဖြစ် သတ်မှတ်ကိုးကွယ်ကြ၏။ ဈာနီဗုဒ္ဓများတွင် အမိတာဘာသည် အကြီးအကဲဖြစ်၏။

အမိတာဘာ = အမိတ + အာဘာ။
(အမိတ=အတိုင်းအရှည်မရှိ + အာဘာ=အလင်းရောင်)

အမိတာယု = အမိတ + အာယု။
(အမိတ=အတိုင်းအရှည်မရှိ + အာယု=အသက်)

အမိတာဘာဗုဒ္ဓသည် သက်တော်အနန္တရှည်၍ အရောင်အလင်းမှာလည်း အနန္တဖြစ်၏။ ရွေ့လျောခြင်းကင်းသော (အစ္စုတ) နိဗ္ဗာန်သည်လည်း အနန္တဖြစ်၍ အမိတာဘာဘုရားပင် ဖြစ်လေသည်။ အမိတာဘာဘုရား၏ နေပြည်တော်မှာ အနောက်အရပ်၌ ဖြစ်၍ သုခဝတီဘုံဟုခေါ်၏။ သုခဝတီဘုံတွင် ချမ်းသာသုခ ခံစားနိုင်ရန် အလိုအလျောက်ဖြစ်ပေါ်နေသော ဥယျာဉ် ဗိမာန် ပဒေသာပင်နှင့် ခံစားစရာ အာရုံအမျိုးမျိုး စုံလင်အောင် အမိတာဘာ ဘုရားက ဖန်ဆင်းပေးထား၏။

သုခဝတီဘုံသို့ ရောက်ရန် အထူးတလည် ခက်ခက်ခဲခဲ ကျင့်ကြံရန်မလိုချေ။ အမိတာဘာဘုရားကို အကြွင်းမဲ့ယုံကြည်ကိုးကွယ်၍ "နမောအမိတာဘာ ဗုဒ္ဓါယ"ဟူသော ဂါထာကို အကြိမ်ကြိမ် ရွတ်ဆိုနေရန်သာလို၏။

ဤဝါဒမှာ သဒ္ဓမ္မပုဏ္ဍရီကသုတ်၊ စူဠသုခဝတီဗျူဟာသုတ်၊ မဟာသုခဝတီ ဗျူဟာသုတ်၊ အမိတာယုစျာနသုတ်တို့ကို အခြေခံ၍ ဖြစ်ပေါ်လာ၏။ စူဠသုခဝတီဗျူဟာသုတ်ကို အမိတာဂိုဏ်းဝင်တို့သည် နေ့စဉ်ရွတ်ဖတ်ကြ၏။ ဤသုတ်မှာ မဟာသုခဝတီဗျူဟာသုတ်၏ အကျဉ်းချုပ်ဖြစ်၏။

သာကီဝင်မင်းသား ဂေါတမဗုဒ္ဓသည် ဗုဒ္ဓအစစ် မဖြစ်သေးချေ။ အမိတာဘာဘုရား၏ ကိုယ်ပွားတော် နိမ္မိတရုပ်မျှသာဖြစ်၏။ အမိတာဘာဘုရားဖြစ်မှသာလျှင် ဗုဒ္ဓအစစ်ဖြစ်သည်ဟု ဤဂိုဏ်းဝင်တို့က ယူဆကြ၏။

အမိတာဘာဘုရားသည် သုခဝတီဘုံကို တည်ထောင်ကြောင်းကို သုခဝတီဗျူဟာကျမ်း၌ ဖော်ပြထား၏။

သဒ္ဓမ္မပုဏ္ဍရီကကျမ်းမှ -

"ငါဘုရားကို သက်တော်ရှစ်ဆယ်မျှသာ မမှတ်လင့်၊ ငါသည် ဘုရားဖြစ်ခဲ့သည်မှာ ကပ်ကမ္ဘာပေါင်းများစွာ ကြာလေပြီ။ တစ်ကမ္ဘာလုံးကို ပျံ့နှံ့တည်နေ၏။ ဂေါတမဗုဒ္ဓ (ငါဘုရား) ကို အမိတာဘာ ဘုရားနှင့် ထပ်တူ တစ်ဆူတည်းဖြစ်သည်ဟု မှတ်ယူလေလော့"

အမိတာယုစျာနသုတ္တမှ -

"အဇာတသတ်မင်းသည် ဗိမ္ဗိသာရဘုရင်ကြီးကို နန်းချ၍ ထောင်သွင်း အကျဉ်းထား၏။ မိဖုရားခေါင်ကြီး ဝေဒေဟီကိုလည်း အကျယ်ချုပ်ထား၏။ ထိုအခါ မိဖုရားကြီးသည် ဤကဲ့သို့သော ဒုက္ခမှ လွတ်ကင်းသည့် ဘုံဌာနကို ညွှန်ပြတော်မူပါရန် ဗုဒ္ဓအား တောင်းပန်၏။ ဂေါတမဗုဒ္ဓသည် မိဖုရားကြီး ရှေ့မှောက်၌ ကိုယ်ထင်ရှားပေါ်လာ၍ ဗုဒ္ဓဘူမိ (ဘုရားတိုင်းပြည်) များကို ပြ၍ ရွေးချယ်စေ၏။ မိဖုရားကြီးသည် အမိတာဘာ၏ သုခဝတီဘုံကို ရွေးချယ်ရာ ဗုဒ္ဓက ခွင့်ပြုတော်မူ၏။ ဗုဒ္ဓသည် မိမိကိုယ်ပိုင် ဒေသနာကိုလည်းကောင်း၊ အမိတာဘာ၏ ဒေသနာအထူးကိုလည်းကောင်း

မိဖုရားကြီးအား ဟောကြားတော်မူ၏။ ထို့နောက် အရှင်အာနန္ဒာအား "ဤဒေသနာ နှစ်ပါးလုံးသည် တစ်ခုတည်း ဖြစ်လတ္တံ့။ ဤဒေသနာကို နာယူမှတ်သား၍ ဂိဇ္ဈကုဋ်တောင်ပေါ်၌ သင်္ဂါယနာတင်ပွဲတွင် ရွတ်ဆိုလော့"ဟု မိန့်တော်မူ၏။

မှတ်ချက်။ ။မဟာယာနဂိုဏ်းအလို ပထမသင်္ဂါယနာကို ဂိဇ္ဈကုဋ်တောင် ကြွန္ဒသာလ (နပဲပင်) လိုဏ်ဂူဝ၌ ကျင်းပပြုလုပ်သည်ဟု ဆိုကြသည်။

ဤဝါဒသည် ကိုယ်တိုင်ကြိုးစားအားထုတ်မှုကို ပစ်ပယ်၍ ယုံကြည်မှုသက်သက်ဖြင့် အမိတာဘာ ထာဝရဘုရားကိုသာ ပစ်ပုံအားကိုးရန် တိုက်တွန်း၍ ယုံကြည်သူတိုင်းကို အမိတာဘာဘုရားက သုခဝတီဘုံ၌ ဆီးကြိုလက်ခံလိမ့်မည်ဟု ဆိုသည်။ ထို့ကြောင့် ဤဝါဒကို ဇိုရိုအက်စတာဘာသာနှင့် တူသည်ဟု ဆိုကြ၏။ အချို့က အိန္ဒိယပြည်သို့ ရှေးဦးစွာရောက်လာသော ခရစ်ယာန်သာသနာပြုဖြစ်သော ဘုန်းကြီး သောမတ်စ်အတ္ထုပ္ပတ္တိမှ ကူးယူထားသည်ဟု စွပ်စွဲကြသည်။

## ၁၁။ ချန်ဂိုဏ်း (မဟာယာန)

ဈာန = ဈာန် = ချန်။

(ဈာန်ကို တရုတ်အသံထွက်ဖြင့် ချန်ဟု ခေါ်၍ ဂျပန်အသံဖြင့် ဇင်ဟု အသံထွက်၏။)

ချန်ဗုဒ္ဓသည် အိန္ဒိယပြည်တွင် သီးခြားဂိုဏ်းတစ်ခုအဖြစ် မရှိခဲ့ဖူးချေ။ သာသနာ (၁၀၆၄) တွင် အိန္ဒိယပြည်မှ တရုတ်ပြည်သို့ သာသနာပြု ကြွလာသော ဆရာတော် ဗောဓိဓမ္မက စတင်တည်ထောင်ခြင်းဖြစ်၏။ ယောဂါစာရဂိုဏ်း သမာဓိဈာန်အားထုတ်နည်းနှင့် တန္တရဂိုဏ်းလျှို့ဝှက်နည်းများကို စုပေါင်းကာ တီထွင်ထားခြင်းဖြစ်၏။ ယောဂနည်းအရ သမထဘာဝနာပွား၍ သမာဓိရအောင် ကမ္မဋ္ဌာန်းထိုင်သည်။ လျှို့ဝှက်နည်းအရ ကိုယ်အမူအရာများကို အဓိပ္ပာယ်အထူး ဖော်ထုတ်နားလည်

ရသည်။ ပြောကြားသော စကား၏ အဓိပ္ပာယ်ကိုလည်း ပြောင်းပြန် တစ်မျိုးတစ်မည် နားလည်ကြရသည်။

ချန် (ဈင်) ဗုဒ္ဓဘာသာတရားတော်ကို ဂေါတမဘုရားရှင် ကိုယ်တိုင်ကျင့်သုံး ဟောကြားခဲ့ကြောင်းကို ပုံပြင်များ တီထွင်ထားကြသည်။ ဗောဓိဓမ္မ၏ ချန် (ဈင်)တရားသည် မြတ်စွာဘုရားထံမှ ဆင်းသက်လာရာ ဗောဓိဓမ္မသည် ၂၈ ဆက်မြောက် သာသနာပိုင် ဖြစ်သည်ဟု ဆို၏။

## ချန် (ဈင်) သမိုင်း

တစ်ရံရောအခါ မြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည် ဂိဇ္ဈကုဋ်တောင် ၌ သီတင်းသုံးနေတော်မူ၏။ ထိုအချိန်တွင် တစ်ဦးသော ဗြဟ္မာကြီးသည် ဗုဒ္ဓထံ ချဉ်းကပ်၍ ကူမ္ဘလမည်သော ပန်းပွင့်ကို ကပ်လှူ၍ တရားဟောရန် တောင်းပန်၏။ ဗုဒ္ဓသည် နှုတ်တော်မှ တစ်စုံတစ်ရာ မြွက်ဟတော် မမူဘဲ ထိုပန်းပွင့်ကို လက်တော်ဖြင့် သုံးသပ်တော်မူ၏။ တရားနာပရိသတ်အတွင်းမှ အရှင်မဟာကဿပမှတစ်ပါး မည်သူမျှ နားမလည်ကြချေ။ အရှင်မဟာကဿပ တစ်ပါးသာလျှင် အဓိပ္ပာယ်နားလည်သည့်အနေဖြင့် ပြုံးလေ၏။ ထိုအခါ ဗုဒ္ဓမြတ်စွာဘုရားက "ငါဘုရား၏ တရားတော်ကို သင့်အား လွှဲအပ်တော်မူ၏၊ နောင်လာနောက်သားတို့အား လက်ဆင့်ကမ်းလေလော့"ဟု မိန့်တော်မူ၍ သာသနာပိုင်အဖြစ် လွှဲအပ်တော်မူ၏။

တစ်နေ့သ၌ အရှင်အာနန္ဒာသည် အရှင်မဟာကဿပထံ ချဉ်းကပ်၍ မည်သည့်တရားတော်ကို လွှဲအပ်ခဲ့ကြောင်းကို မေးလျှောက်၏။ ထိုအခါ အရှင်မဟာကဿပက "သွား၊ ဟိုအလံတိုင် ဆွဲလှဲလိုက်"ဟု မိန့်တော်မူရာ အရှင်အာနန္ဒာသည် အဓိပ္ပာယ်ကို နားလည်သဘောပေါက်၍ ချက်ချင်း ဉာဏ်အလင်းရလေ၏။ အရှင်မဟာကဿပသည် အရှင်အာနန္ဒာအား သာသနာပိုင်အဖြစ် လွှဲအပ်ခဲ့၏။ ဤနည်းအားဖြင့်

မဟာယာနဂိုဏ်း၌ ကျော်ကြားသော အရှင်ဥပဂုတ္တမထေရ်နှင့် ကျမ်းပြု အကျော် အရှင်အသဃောသ, အရှင်နာဂအဇ္ဈုန, အရှင်အရိယဒေဝ, အရှင်ဝသုဗန္ဓု စသော ပုဂ္ဂိုလ်များကို ဆရာစဉ်ဆက်စာရင်း၌ ထည့်သွင်း ပြကြကုန်၏။

ဗောဓိဓမ္မသည် ၂၈ ဆက်မြောက် သာသနာပိုင်ဖြစ်၏။

## ဗောဓိဓမ္မ (ပထမစျင်သာသနာပိုင်)

ဗောဓိဓမ္မသည် အိန္ဒိယတောင်ပိုင်း ကိဉ္စိပူရမြို့ ဗြာဟ္မဏနွယ်ဝင် ဘုရင်တစ်ပါး၏ တတိယသားတော်ဖြစ်၏။ ရဟန်းဝတ်ပြီးနောက် ပညာ တရ မည်သော ဆရာတော်ထံ ပညာဆည်းပူး၏။ ဆရာ၏ စေခိုင်းချက် အရ တရုတ်ပြည်သို့ ရေကြောင်းခရီးဖြင့် ကြွသွား၏။ သာသနာ ၁၀၆၄ တွင် တရုတ်ပြည်သို့ ရောက်၍ နန်ကင်းမြို့တော်ရှိ ဝူတီဘုရင်ကြီးက နန်းတော်သို့ တရားဟောကြွရန် ပင့်ဖိတ်၏။ (အချို့က လီယန်ဘုရင်ဝူ ဟု ဆို၏။)

ဝူတီဘုရင်ကြီးက ဗောဓိဓမ္မအား -

"တပည့်တော်သည် ထီးနန်းစိုးစံသည့်အချိန်မှစ၍ ကျောင်းကန် ဘုရား အမြောက်အမြားကို ဆောက်လုပ် လှူဒါန်းခဲ့ပါ၏။ ပိဋကကျမ်းစာ များကို အများအပြား လှူဒါန်းခဲ့ပါ၏။ ရဟန်းသံဃာတို့အားလည်း ပစ္စည်းလေးပါးဖြင့် ထောက်ပံ့ လှူဒါန်းခဲ့ပါ၏။ ထို့အတွက် မည်မျှသော ကုသိုလ်ကောင်းမှုတို့ကို ရမည်နည်း"ဟု မေးလျှောက်၏။

ဗောဓိဓမ္မက "ဘာကုသိုလ်မျှ မရ" ဟု ဖြေဆို၏။

တစ်ဖန် ဘုရင်ကြီးက "မြင့်မြတ်သော အရိယသစ္စာ၏ သိမ်မွေ့နက် နဲသော အဓိပ္ပာယ်ကား အဘယ်နည်း"ဟု လျှောက်၏။

ဗောဓိဓမ္မက "သိမ်မွေ့နက်နဲသော အဓိပ္ပာယ်ကား သုညဖြစ်၏။ မည်သည့်အရာမျှ မြင့်မြတ်ခြင်းမရှိပါ"ဟု ဖြေဆို၏။

"မြင့်မြတ်ခြင်းဟူသည် မရှိဟု ဆိုပါက တပည့်တော်ရှေ့မှောက်၌ ရောက်နေသူကား အဘယ်သူဖြစ်ပါသနည်း"ဟု ဘုရင်ကြီးက မေး၏။

ဗောဓိဓမ္မက "မသိပါ"ဟု ဖြေ၏။

ဗောဓိဓမ္မ၏တရားကို ဧကရာဇ်ဘုရင်ကြီးသည် လုံးဝ မနှစ်သက်ချေ။ ဗောဓိဓမ္မသည် ယန်စီမြစ်ကို ဖြတ်ကူး၍ တရုတ်ပြည်မြောက်ပိုင်းသို့ ကြွရာ ဝေ (Wei) နိုင်ငံမြို့တော် လိုယန်မြို့သို့ ရောက်၏။ ထို့နောက် ဝူတိုင်း (Wu Tai) တောင်ပေါ်သို့ တက်၍ ရှောင်လင် ဘုရားကျောင်း၌ နေ၏။ ကျောင်းအဆောက်အအုံ၏ နောက်ဘက်၌ မတ်စောက်သော တောင်နံရံကို မျက်နှာမူ၍ ကိုးနှစ်တိတိ နေ့စဉ် ကမ္မဋ္ဌာန်းထိုင်၏။ ဤသို့ နံရံကို မျက်နှာမူ၍ တိတ်တဆိတ်ငြိမ်သက်စွာ မလှုပ်မယှက် ကမ္မဋ္ဌာန်းထိုင်နည်းကို ဗောဓိဓမ္မက စတင်တီထွင်ခဲ့၍ "သာသနာပိုင် ကမ္မဋ္ဌာန်းနည်း"ဟု ခေါ်၏။

## ဒုတိယသာသနာပိုင် (၁၀၃၀-၁၁၃၇)

ဗောဓိဓမ္မ ကမ္မဋ္ဌာန်းထိုင်နေစဉ် ကွန်ဖြူးရှပ်ဂိုဏ်းသား ပညာရှင် ဟူယီကို (Hui Ko) သည် ဗောဓိဓမ္မထံ လာရောက်ဆည်းကပ်၏။ ဗောဓိဓမ္မ ကမ္မဋ္ဌာန်းထိုင်နေစဉ် ဘေးမှ လာရောက် အရိုအသေပြုလျက် ရပ်နေ၏။ ရက်များစွာကြာသော်လည်း စကားတစ်လုံးမျှ မပြောချေ။ တစ်နေ့သ၌ ဗောဓိဓမ္မ အသိအမှတ်ပြုလိုငြား နှင်းတောထဲ၌ ရပ်နေ၏။ ကြာသော် နှင်းခဲထုသည် ဒူးဆစ်အထိ ဖုံးအုပ်သွား၏။ ဤအချိန်အထိ ဗောဓိဓမ္မက အသိအမှတ်မပြုသဖြင့် မိမိ၏ ဘယ်ဘက်လက်မောင်းကို ဖြတ်၍ ဆရာဖြစ်သူအား ဆက်ကပ်လိုက်၏။ တရားတော် သိလိုမှုအတွက် စိတ်အားထက်သန်ပုံနှင့် ရိုးသားမှုကို ဤနည်းဖြင့် ဖော်ပြလိုက်၏။

ထိုအခါ ဗောဓိဓမ္မက "ဗုဒ္ဓ၏ တရားတော်ကို သူတစ်ပါးထံမှ ရှာမှီးဆည်းပူး၍ မရနိုင်"ဟု ဆို၏။

ဟူယီကိုက "တပည့်တော်၏ စိတ်ကို ငြိမ်းချမ်းအောင် ပြုပေးတော်မူပါ"ဟု လျှောက်၏။

ဗောဓိဓမ္မ "သင်၏စိတ်ကို ငါ့ထံ ယူခဲ့၊ ငါ ငြိမ်းချမ်းအောင်ပြုလုပ်ပေးမည်"

ဟူယိကို "တပည့်တော်သည် စိတ်ကိုရှာဖွေနေသည်မှာ နှစ်ပေါင်းများစွာ ကြာလေပြီ။ သို့ရာတွင် ယခုအထိ ရှာမတွေ့ပါ"

ဗောဓိဓမ္မ "ထိုသို့ဖြစ်လျှင် သင်၏ စိတ်နှလုံးသည် ထာဝစဉ်ငြိမ်းချမ်းမှု ရလေပြီ"ဟု ဆို၍ ဟူယိကိုအား ရဟန်းပြုပေး၏။ ယိကီဟု ဘွဲ့အမည်ပေး၏။

နောင်အခါ ယိကီကို ဗောဓိဓမ္မက တရားထူးရလေပြီလောဟု မေးရာ ယိကီသည် နှုတ်မှ တစ်စုံတစ်ရာမပြောဘဲ တိတ်ဆိတ်စွာရပ်နေ၏။

ချန် (ဈင်) တရားထူးမှာ ဝေါဟာရစကားဖြင့် အမည်ပေး၍မရ၊ နှုတ်မှ ထုတ်ဖော်ပြောပြ၍ မရ။ ထို့ကြောင့် ထိုတရားထူး, အသိဉာဏ်အထူးကို ဘာမျှမပြောဘဲ နေလျှင် သိပြီဟု ယူဆရ၏။ ထုတ်ဖော် ပြောခြင်းသည် မသိသေးဟု ဆိုလိုရာ ရောက်၏။ အကယ်၍ နှုတ်က ပြောလျှင်လည်း ပြောင်းပြန် အဓိပ္ပာယ်အထူးကို ရည်ရွယ်ပြောခြင်းသာ ဖြစ်၏။ တိုက်ရိုက် အဓိပ္ပာယ်မယူရချေ။

ဗောဓိဓမ္မသည် ယိကီအား မိမိသပိတ်နှင့် သင်္ကန်းကို အထိမ်းအမှတ်အဖြစ် ပေးအပ်၍ ချန်(ဈင်)ဂိုဏ်း၏ သာသနာပိုင်အဖြစ်လွှဲ၏။ ထို့နောက် ဗောဓိဓမ္မသည် အသက် ၁၅၀ အရွယ်၌ အိန္ဒိယပြည်သို့ ပြန်ကြွသည်ဟု ဆိုကြ၏။ အချို့က ဂျပန်ပြည်သို့ ကြွသည်ဟု ဆိုကြ၏။

ဈင်ဂိုဏ်း၏ ဒုတိယသာသနာပိုင်ဖြစ်ပြီးသောအခါ ယိကီသည် သင်္ကန်းအညစ်အစုတ်ကိုသာ ဝတ်ဆင်၍ မထင်မရှားနေ၏။ နှစ်ပေါင်းများစွာ ကြာပြီးနောက် ကျောင်းတိုက်ကြီးတစ်ခု၏အဝင်ဝ၌ ယိကီ တရားဟောရာ ပရိသတ်များစွာ လာရောက်နာယူကြသည်ကို ထိုကျောင်းတိုက်ဆရာတော်က မကျေနပ်သဖြင့် ဗုဒ္ဓတရားတော်ကို ဖျက်သူ, သာသနာဖျက်သူဟု စွပ်စွဲ၍ ရုံးတင်၏။ ရုံးတော်က သေဒဏ်ပေးရာ အသက် ၁၀၇ နှစ်အရွယ်တွင် သေဒဏ်ခံရသည်။

## တတိယ သာသနာပိုင်

တတိယ သာသနာပိုင်မှာ ဆင်စန်ဖြစ်၏။ ဆင်စန်သည် အနာကြီး ရောဂါသည်ဖြစ်၍ ယိကီထံ ချဉ်းကပ်၍ မိမိအပြစ်များကို ဆေးကြောပေး ပါရန် လျှောက်၏။ ထိုအခါ -

ယိကီက သင်၏ အပြစ်များကို ယူခဲ့လော့၊ ဆေးကြောပေးမည်ဟု ဆို၏။ ဆင်စန်က အပြစ်ကို ရှာမတွေ့ဟု လျှောက်၏။ ယိကီ တရားကို နာပြီးနောက် အပြစ်ဟူသည် မရှိ၊ ဘုရား တရား သံဃာ ဟူသည် တစ်ခု တည်းသာဖြစ်သည်ဟု သူသဘောပေါက် နားလည်သွား၏။ ထို့နောက် ယိကီကိုယ်တိုင် ဆင်စန်ကို ရဟန်းပြုပေး၍ သပိတ် သင်္ကန်း ပေးပြီးလျှင် သာသနာပိုင် လွှဲအပ်လေ၏။

## စတုတ္ထ သာသနာပိုင်

စတုတ္ထ သာသနာပိုင်မှာ တာအိုရှင်ဖြစ်၍ ဆင်စန်က တာအိုရှင် အား ချုပ်နှောင်သူ ဟူ၍ မရှိ၊ လွတ်မြောက်ရာဟူ၍ မရှိ။ ထို့ကြောင့် လွတ်မြောက်ရာလမ်း ဟူ၍လည်း မရှိဟု ဟောကြား၍ ဉာဏ်အလင်း ပေါက်သွား၏။ ထုံးစံအတိုင်း တာအိုရှင်အား သာသနာပိုင် လွှဲအပ် လေ၏။

## ပဥ္စမ သာသနာပိုင်

ပဥ္စမသာသနာပိုင်မှာ ဖဂျန်နှင့်ဟန်ဂျင်ဟူ၍ နှစ်ပါးရှိ၏။ သို့ရာ တွင် ဖဂျန်၏ အဆက်အနွယ်မှာ တိမ်ကောသွားသဖြင့် ဟန်ဂျင် (၁၁၄၅- ၁၂၁၈) ကိုသာ ပဥ္စမ သာသနာပိုင်ဟု အသိအမှတ်ပြုကြ၏။

## ဆဋ္ဌ သာသနာပိုင်

ဆဋ္ဌ ဈင်သာသနာပိုင်ကား ဟိနင် (၁၁၈၂-၁၂၅၇) ဖြစ်၏။ မုဆိုးမ သားဖြစ်၍ မိခင်ကြီးအား ထင်းရောင်း၍ ကျွေးမွေးနေ၏။ တစ်နေ့သ၌ ဝဇိရစ္ဆေဒိကာသုတ်ကို ကြားနာရ၍ သင်ယူလိုစိတ် ဖြစ်ပေါ်လာသဖြင့် မိခင်ကြီးအတွက် အလုံအလောက် ရှာဖွေပေးခဲ့ပြီးနောက် ပဥ္စမ ဈင်

သာသနာပိုင်ကျောင်းတိုက်သို့ သွားလေ၏။ သာသနာပိုင်က ဟိနင်ကို သံဃာများအတွက် ဆန်ဖွပ် မောင်းထောင်း ကပ္ပိယအလုပ်ကို စေခိုင်းထား၏။ ထိုအချိန်မှ ကိုးလခန့်အကြာ၌ ပဉ္စသာသနာပိုင် ဟန်ဂျင်သည် ကပ္ပိယ ဟိနင်အား သာသနာလွှဲအပ်၏။ သို့ရာတွင် ကျောင်းတိုက်၌ တပည့်ငါးရာတို့၏ ခေါင်းဆောင် ရှင်ရှု ရှိနေရာ ရှင်ရှုနှင့်တပည့်များ မကျေနပ်၍ အန္တရာယ်ပြုမည်စိုးသဖြင့် သန်းခေါင်အချိန်၌ ဟိနင်အား အထိမ်းအမှတ် သင်္ကန်းကြီးကို ပေး၍ သာသနာပိုင်လွှဲလိုက်၏။ အချိန်မရောက်မီ မထင်မရှားသောအသွင်ဖြင့် နေရန် မှာကြားလိုက်၏။ နောင်အချိန်တွင် ဈင်သာသနာပိုင်လွှဲရာ၌ အထိမ်းအမှတ် သင်္ကန်းကြီးပေးရန် မလိုတော့ကြောင်း မှာလိုက်၏။

ဟိနင်သည် သင်္ကန်းကို ယူ၍ ညတွင်းချင်း ကျောင်းတိုက်မှ ထွက်ခွာသွား၏။ ရှင်ရှုဘက်မှ ရဟန်းအချို့သည် မကျေနပ်၍ သင်္ကန်းကြီးကို လိုက်ယူရန် ကြိုးစားကြသော်လည်း မအောင်မြင်ချေ။ ဟိနင်သည် တရုတ်ပြည်တောင်ပိုင်းသို့ ရောက်၍ ကာလအတန်ကြာအောင် မထင်မရှား နေပြီးနောက် ဈင်တရားများ လှည့်လည်ဟောကြားရာ ကြည်ညိုသူ တပည့်ပရိသတ် ပေါ်များ၏။ ဟိနင်ဦးဆောင်သောဂိုဏ်းကို တောင်ပိုင်းဂိုဏ်းဟု ခေါ်၏။

ထိုအချိန်တွင် တရုတ်ပြည်မြောက်ပိုင်း၌ ကျန်ရစ်သော ရှင်ရှုသည်လည်း ဈင်သာသနာပိုင်အဖြစ် ခံယူ၍ သာသနာပြု၏။ သို့ရာတွင် ရှင်ရှုမှာ ထက်မြက်သောတပည့် မထွန်းကားသဖြင့် သူကွယ်လွန်သည့်အခါ မြောက်ပိုင်းဂိုဏ်းလည်း တိမ်ကော၏။

ဟိနင်သည် သိမ်မွေ့ခက်ခဲသော ဈင်တရားများကို အများနားလည်အောင် ဟောကြားနိုင်ခဲ့၏။ ဟိနင်လက်ထက်၌ ဈင်သာသနာ အထွတ်အထိပ်ရောက်အောင် ကြီးပွားတိုးတက်ခဲ့၏။ ဟိနင် ကွယ်လွန်သွားသောအခါ ဈင်ဗုဒ္ဓဘာသာဂိုဏ်းများ ထပ်မံ ကွဲပြားပြန်၏။ ဈင်(ချန်)ဂိုဏ်းမှာ တရုတ်ပြည်နှင့် ဂျပန်ပြည်တို့တွင် ယနေ့တိုင် ဆက်လက်တည်ရှိနေ၏။

ချန် (ဈင်)သဘောတရားပိုင်းကို ဂျပန်ပြည် ဈင်ဝါဒ၌ အပြည့်အစုံ ဖော်ပြပါမည်။

## ၁၂။ ဝိနယဂိုဏ်း (လူ)

ဝိနယဂိုဏ်း၏ သမိုင်းအစကို ဥပါလိထေရ်သို့ ရည်ညွှန်း၏။ ဥပါလိထေရ်ကို တရုတ်တို့က ယူပေါလီဟု ခေါ်၏။ ဂျပန်အသံဖြင့် ဥပါလိဟု ခေါ်၏။ ပထမသင်္ဂါယနာ၌ ဥပါလိဟောကျမ်းကို သိပုလုကျမ်းဟု ခေါ်ကြ၏။

သာသနာ ၁၂၀၀ ခန့်၌ တာအိုရွှန်း Tao Hsuan သည် တရုတ်ပြည်တွင် ဝိနယဂိုဏ်းဟု ဂိုဏ်းသီးခြား တည်ထောင်၏။ ထိုဂိုဏ်းကို နန်ကင်းမြို့တော်၌ ကြည်ညိုသူ များ၏။ အနက်ရောင်သင်္ကန်းကို ဝတ်ဆင်ကြ၏။

ထေရဝါဒ ဝိနည်းသိက္ခာပုဒ်များနှင့် တူညီသည်က များ၏။ ထေရဝါဒ၌ ပါစိတ္တိယသိက္ခာပုဒ် ၉၂ ရှိရာ မဟာယာန၌ ၉၀ သာ ရှိ၏။ ထေရဝါဒ၌ သေခိယသိက္ခာပုဒ် ၇၅ ရှိ၍ မဟာယာန၌ ၁၀၀ ရှိ၏။ မဟာယာနတို့သည် စိတ်သာ ပဓာနဟု ဆို၍ သိက္ခာပုဒ်များကို တိကျစွာ လိုက်နာခြင်း မရှိကြချေ။ မဟာယာနဂိုဏ်းကို ပေါက်ဖွားပေးသော မဟာသံဃိကဂိုဏ်းက ဝိနည်းသိက္ခာပုဒ်အပေါ် သဘောထားပုံကို ဒုတိယသင်္ဂါယနာအခန်း၌ ပြခဲ့ပြီ။ တရုတ်ပြည်တွင် ပေါ်ထွန်းခဲ့သော ဂိုဏ်းများကို အကျဉ်းချုပ်၍ ပြဆိုပါဦးမည်။

၁။ ဝိတန် (အဘိဓမ္မာ) ဂိုဏ်း (ဟီနယာန)

သာသနာ (၆၁၁ မှ ၁၁၂၅) ဆူယီခေတ်နှင့် တန်ခေတ်မတိုင်မီက အခြေခံ အစပျိုးသည်။

သာသနာ (၁၁၂၅-၁၄၆၁) ဆူယီနှင့်တန်ခေတ်၌ ထွန်းကားသည်။ မဟာဒေဝက သာသနာ (၉၂၇-၉၄၂) ၌ အဘိဓမ္မာကို တရုတ်ဘာသာ ပြန်ဆိုခဲ့၏။

၂။ ချင်ရှီး (သစ္စာသိဒ္ဓိ) ဂိုဏ်း (ဟီနယာန)

သုတ္တကန္တိ သုညဝါဒ (နတ္ထိကဝါဒ)။
သစ္စသိဒ္ဓိကျမ်းကို ဟရိဝမ္မ (၇၉၄- ၈၉၄) က ရေးခဲ့၍ ကုမာရဇီဝ,က (သာ-၉၅၅)၌ တရုတ်ဘာသာ ပြန်ခဲ့သည်။ တရုတ်ပြည် အရှေ့ပိုင်း၌ ထွန်းကားသည်။

၃။ စံလွန်း (တြိဝန္တ) ဂိုဏ်း (မဟာယာနတစ်ပိုင်း)

မဇ္ဈိမိကသတ္တကျမ်း၊ ဒွါဒသနိကာယကျမ်း၊ သတသတ္တကျမ်းများကို လက်ကိုင်ထား၏။ ကုမာရဇီဝက သာသနာ ၉၅၃ ၌ တရုတ်ဘာသာပြန်ခဲ့၏။ ကုမာရဇီဝ၏တပည့် ဆင်းလန်က စတင်တည်ထောင်၏။ ချီစံက စနစ်ကျအောင် ပြုပြင်ခဲ့၏။

၄။ လူ (ဝိနယ) ဂိုဏ်း (ဟီနယာန)

ဓမ္မဂုတ္တ ဝိနည်းပိဋကကို ကုမာရဇီဝ,က တရုတ်ဘာသာပြန်၏။ ကုမာရဇီဝ၏ တပည့်များက စတင်တည်ထောင်၏။ တာအိုရွှန်း (၁၁၄၀-၁၂၁၁) က ပြုပြင်ခဲ့သည်။

၅။ နိချ်ပန် (နိဗ္ဗာန်) ဂိုဏ်း (မဟာယာန)

သာသနာ ၉၆၇ တွင် ဓမ္မရက္ခိတထေရ်က တရုတ်ဘာသာပြန်ခဲ့၏။ တရုတ်ပြည်မြောက်ပိုင်း လီယန်မင်းဆက်၌ ထွန်းကား၏။ သက်တမ်း မကြာရှည်သဖြင့် ဤဂိုဏ်းအကြောင်း အထူးမဖော်ပြခဲ့ပါ။

၆။ တိလွန်း (ဝိညာဏဝါဒ) ဂိုဏ်း (မဟာယာန)

သာသနာ ၁၀၅၂ တွင် ဗောဓိရုစိ,က တရုတ်ဘာသာပြန်ခဲ့၏။ တရုတ်ပြည်မြောက်ပိုင်း ဝေမင်းဆက် (၉၃၀-၁၀၇၉)၌ ထွန်းကား၏။ တရုတ်ပြည်အရှေ့ပိုင်း ဝေမင်းဆက် (၁၀၇၈-၁၀၉၄) ၌ ထွန်းကား၏။

၇။ ချင်ဟူ (သုခဝတီဗျူဟာ) ဂိုဏ်း (မဟာယာန)

သာသနာ ၁၁၇၃ တွင် ဗောဓိရုစိက တရုတ်ဘာသာပြန်ခဲ့၏။ ဋ္ဌမင်းက ဤဂိုဏ်းကို စတင်တည်ထောင်၏။ တရုတ်ပြည်အနောက်ပိုင်း ဝေမင်းဆက်၌ ထွန်းကား၏။ သာသနာ ၁၂၂၅ ၌ ရှန်ဘာအိုက အမိတာဘာ ကိုးကွယ်မှုကို ရုပ်လုံးဖော်ခဲ့၏။

၈။ ချန် (ဈာန) ဂိုဏ်း (မဟာယာန)

သာသနာ ၁၀၆၄ တွင် ဗောဓိဓမ္မက စတင် တည်ထောင်၏။ လီယန်မင်းဆက် (၁၀၆၄-၁၁၀၁) တွင် လည်းကောင်း၊ ချင်မင်းဆက် (၁၁၀၁-၁၁၃၃)တွင်လည်းကောင်း ထွန်းကား၏။ တရုတ်ပြည် တောင်ပိုင်းတွင် ဟိနင် (၁၁၈၂-၁၂၅၇)၊ မြောက်ပိုင်းတွင် ရှင်စီယူ (ရှင်ရှု ၁၁၄၉-၁၂၅၀)တို့ လက်ထက်၌ အထွတ်အထိပ်သို့ ရောက်၏။

၉။ ရှေလွန်း (ဝိညာဏဝါဒ) ဂိုဏ်း (မဟာယာနတစ်ပိုင်း)

သာသနာ ၁၁၀၇ တွင် မဟာယာနသမ္ပရိဂ္ဂဟကျမ်းကို ပရမတ္ထက တရုတ်ဘာသာပြန်ဆို၍ ရှေလွန်းဂိုဏ်းကို တည်ထောင်၏။

၁၀။ ချူရှေး (အဘိဓမ္မကောသ) ဂိုဏ်း (ဟီနယာန)

သဗ္ဗတ္ထိဝါဒ၊ ပရမတ္ထထေရ်က အဘိဓမ္မကောသကျမ်းကို တရုတ်ဘာသာပြန်၏။ ဟူယင်ဆန်၏ တပည့် ကွေယီက ဂိုဏ်းသီးခြားဖြစ်အောင် ထူထောင်၏။

၁၁။ တီယင်တိုင်း (ကြာပဒုံ) ဂိုဏ်း (မဟာယာန)

နံပါတ် ၅ ဂိုဏ်းနှင့် ခေတ်ပြိုင်ပေါ်ခဲ့၏။ ချိအီ (၁၁၇၅-၁၁၄၁) က အချောကိုင်ခဲ့၏။

### ၁၂။ ဟွာယင် (အဝင္ဒံသက) ဂိုဏ်း (မဟာယာန)

နံပါတ် ၆ ဂိုဏ်းနှင့် ခေတ်ပြိုင်ပေါ်ထွန်း၏။ ဖစံက အချောကိုင်ခဲ့၏။ နောက်ပိုင်း၌ တိလွန်းဂိုဏ်းကို ဟွာယင်ဂိုဏ်းက ဝါးမျိုသွား၏။

### ၁၃။ ဖစီယန် (ဖရှန်-ဝိညာဏဝါဒ) ဂိုဏ်း (မဟာယာနတစ်ပိုင်း)

ဟူယန်ဆန်က တရုတ်ဘာသာပြန်၏။ သူ၏တပည့် ကွေယီက အချောကိုင်၏။ နံပါတ် ၉ ရှေလွန်းဂိုဏ်းကို ဖယ်ရှား၍ ဤဂိုဏ်းက နေရာယူခဲ့သည်။

### ၁၄။ ချင်ယင်း (တန္တရ) ဂိုဏ်း (မဟာယာန)

သုဘကရသိံဟ (၁၁၈၁-၁၂၇၉) က စတင်တည်ထောင်၏။ သူ၏တပည့် ဝဇိရဗောဓိနှင့် အမောဃဝဇိရတို့က ဆက်ခံ၏။

နံပါတ် ၁၊ ၅၊ ၆၊ ၉ ဂိုဏ်းတို့သည် ဂျပန်ပြည်သို့ မရောက်လာချေ။ ကြွင်း ၁၀ ဂိုဏ်းသာ ဂျပန်ပြည်သို့ ရောက်၏။



# ဂျပန်ပြည် ဗုဒ္ဓသာသနာသမိုင်း

မဟာယာန ဗုဒ္ဓဝါဒ၏ အဓိပ္ပာယ်အကျဉ်းချုပ်မှာ သတ္တဝါအားလုံး ဗုဒ္ဓ အဖြစ်သို့ ရောက်ရှိရေးကို မမှိတ်မသုံ ယုံကြည်စွာ လက်ခံကျင့်သုံးရန် ဖြစ်၏။ မဟာယာန အယူဝါဒအမျိုးမျိုးကို တရုတ်ပြည်တွင် စနစ်တကျ ပြုပြင်ခဲ့၏။ သို့ရာတွင် တရုတ်ပြည်သည် ထိုဝါဒနှင့် ထိုဂိုဏ်းများကို ဆက်လက် ထိန်းသိမ်း စောင့်ရှောက်ခြင်း မပြုခဲ့ချေ။ ဂျပန်ပြည်မှာမူ မဟာယာန, ဟီနယာန, ဗုဒ္ဓဝါဒ အားလုံးကို ထိန်းသိမ်းစောင့်ရှောက်ခဲ့၏။ ဟီနယာန ဗုဒ္ဓဝါဒကို ဂျပန်ပြည်တွင် လက်ခံကျင့်သုံးသူ မရှိသော်လည်း စာပေတစ်ရပ်အနေဖြင့် ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြသည်။

ဂျပန်ပြည်ရှိ တန္တရ မန္တရဂိုဏ်းများမှာ ညစ်ညမ်းသော အပိုင်းများ ကို လက်မခံဘဲ သဘောတရားရေးနှင့် ကိုယ်ကျင့်တရားအပိုင်းကိုသာ လက်ခံထား၏။

တရုတ်ပြည်တွင် ဟွာယင် (အဝဋံသက)ဂိုဏ်း, တိယင်ဂိုဏ်း (သဒ္ဓမ္မ ပုဏ္ဍရိက) ဂိုဏ်းနှင့် ချန် (ဈာန်)ဂိုဏ်းတို့သည် ထိပ်တန်းရောက်အောင် တိုးတက်ကြီးပွားခဲ့ကြ၏။ နောက်ပိုင်း၌ ဤဂိုဏ်းများသည် တရုတ်ပြည် တွင် မှေးမှိန်သွားသော်လည်း ဂျပန်ပြည်၌မူ လူထုက လက်တွေ့ကျင့်သုံး နေကြ၍ စာပေလေ့လာမှုလည်း ပြုနေကြသည်။

အမိတာဘာ ကိုးကွယ်မှုသည် ပုံပြင်ဒဏ္ဍာရီဆန်၏။ တရုတ်ပြည်၊ တိဘက်ပြည်၊ မွန်ဂိုလီးယားပြည်၊ မန်ချူးရီးယားပြည်၊ အာနန်ပြည်၊ နီပေါ ပြည်တို့တွင် အမိတာဘာ ကိုးကွယ်မှုကို တွေ့ရသေး၏။ သို့ရာတွင် ဂျပန် ပြည်၌မူ ဂျပန်လူဦးရေ တစ်ဝက်ကျော်ကျော်က အမိတာဘာကို ကိုး ကွယ်ကြ၏။

ဂျပန်ပြည်သည် မဟာယာန၊ ဟီနယာန ပိဋကသုံးပုံနှင့်တကွ အဖွင့် ကျမ်းများ အားလုံးကို သင်ယူလေ့လာ စောင့်ရှောက်ထိန်းသိမ်းခဲ့၏။ ဂျပန် ပြည်မှာလောက် ဗုဒ္ဓဝါဒစာပေ စုံလင်သောတိုင်းပြည် မရှိဟု ဆိုကြ၏။

တရုတ်ရှေးဟောင်းမှတ်တမ်းများအရ တန်ခေတ် (၁၂၅၀-၁၄၅၀) နှင့် ဆွန်ခေတ် (၁၅၀၄-၁၈၂၃) တို့၌ တရုတ်ပြည်မှ ပိဋကစာပေများကို ဂျပန်ပြည်သို့ အကြိမ်ကြိမ် သယ်ဆောင်ခဲ့သည်ဟု ဆို၏။ တရုတ်ပြည်တွင် ဗုဒ္ဓဘာသာဆန့်ကျင်သော သာသနာဖျက်မင်းများကြောင့် ပိဋကစာပေ များစွာ ပျက်စီးပျောက်ဆုံးသွားရသော်လည်း ဂျပန်ပြည်၌မူ ခေတ်အဆက်ဆက် ကောင်းမွန်စွာ ထိန်းသိမ်းစောင့်ရှောက်ထားခဲ့သဖြင့် ပိဋကစာပေ အတွဲပေါင်း ၅၀၄၈ တွဲ ရှိ၏။ ယခုအထိ ပုံမနှိပ်ရသေးသော စာမူများ ကျန်ရှိသေး၏။ ပုံနှိပ်ထုတ်ဝေပြီး ဗုဒ္ဓစာပေ ပမာဏမှာ စာမျက်နှာ ၁၀၀၀ စီ ပါဝင်သော အတွဲပေါင်း ၁၀၀၀ ကျော် ရှိလေပြီ။

ဂျပန်ပြည်တွင် ဗုဒ္ဓဘာသာစာပေကို ဂျပန်ဘုန်းတော်ကြီးကျောင်းများ၌ သင်ကြားရုံသာမက ဗုဒ္ဓဘာသာကို ပဓာနထား သင်ကြားပေးနေသော တွဲဖက်တက္ကသိုလ်ကြီးခြောက်ခုရှိသည်။ ဗုဒ္ဓစာပေ သင်ခန်းစာများ ပြဋ္ဌာန်းသင်ပေး၍ ဗုဒ္ဓဘာသာအထောက်အပံ့ခံ ကောလိပ်များ၊ အထက်တန်းကျောင်းများ ရှိသေးသည်။

ဂျပန်နိုင်ငံတော် အစိုးရ၏ တက္ကသိုလ်ကြီး ငါးခုတွင်လည်း ပါဠိ၊ သက္ကတနှင့် ဗုဒ္ဓအဘိဓမ္မာများကို သင်ကြားပေးသော ဌာနများ ဖွင့်လှစ်ထားသည်။

## ဂျပန်သို့ ဗုဒ္ဓသာသနာ ရောက်ရှိလာပုံ

သာသနာနှစ် ၁၀၀၀ ခန့်က ဂျပန်ဘုရင်၏ အမတ်ကြီးသည် ဗုဒ္ဓရုပ်ပွားတော်တစ်ဆူကို ကိုးကွယ်ပူဇော်၏။ တိုင်းရင်းသား ဘာသာရေးအယူသီးသူများက ကန့်ကွက်၍ ဘုရင့်အမိန့်တော်ဖြင့် ဗုဒ္ဓရုပ်ပွားတော်ကို တူးမြောင်းတစ်ခုထဲသို့ လွှင့်ပစ်ရလေသည်။ ထိုအချိန်တွင် ဂျပန်ပြည်၌ ကပ်ရောဂါတစ်ခုဆိုက်ရာ ဗုဒ္ဓရုပ်ပွားတော်ကို စော်ကားသောကြောင့် ဤသို့ ဖြစ်ရသည်ဟု ထိတ်လန့်တုန်လှုပ်ကြလေသည်။ ထိုအခါမှ ဗုဒ္ဓရုပ်ပွားတော်ကို ပြန်လည်ပူဇော်ခွင့်ရသည်ဟု ဆို၏။

သာသနာ ၁၀၉၆ တွင် ကိုရီးယားပြည်တွင်းရှိ ပိတ်ချီ (Paik Che) ခေါ် ပြည်နယ်မှ ဂျပန်ပြည်သို့ ဗုဒ္ဓဘာသာတရား ဝင်ရောက်လာ၏။ သာသနာ ၁၁၃၈ ခုနှစ်တွင် ရင်ခွင်ပိုက်မင်းသားကြီး ရှိုတိုကုတိုင်းရှိက ဂျပန်ပြည်၌ ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာအဖြစ် ကြေညာလေသည်။

မဟာယာနနှင့် ဟီနယာနဂိုဏ်းကွဲမှုကို အသိအမှတ်ပြုထားသော်လည်း ထိုအချိန်က ဂျပန်ပြည်တွင် ဂိုဏ်းကွဲခြင်းမရှိ။ မဟာယာန တစ်မျိုးတည်းကိုသာ ကိုးကွယ်ကြလေသည်။ ရှိုတိုကု မင်းသားကြီးသည် မဟာယာနဂိုဏ်းကို အားပေး၍ မဟာယာန ပါဠိတော်သုံးကျမ်းကို ဖွင့်ဆိုရေးသားခဲ့၏။ မင်းသားကြီးရေးခဲ့သော အဖွင့်ကျမ်းများမှာ နာမည်ကျော် ကြားလူသုံးများခဲ့၏။

၁။ ဧကယာန (ယာနတစ်ခုတည်း) ကိုသာ ပြဆိုထားသော သဒ္ဓမ္မပုဏ္ဍရိကကျမ်း၏ အဖွင့်ကို ရေးသားခဲ့၏။

၂။ ထို့နောက် ဝိမလကိတ္တိနိဒ္ဒေသကျမ်းကို ဖွင့်ဆိုရေးသား၏။ ထိုကျမ်းကို ရေးသားသူမှာ ဗောဓိသတ္တဘုရားလောင်း ဘွဲ့မည်ခံသော ဝေသာလီပြည်သား ဉပါသကာ ဝိမလကိတ္တိ ဖြစ်၏။ ပရမတ္ထသစ္စာကို ပြဆိုသော ကျမ်းဖြစ်၏။ စိတ်သည် ကြံစည်တွေးခေါ်မှု လုံးဝရပ်ဆိုင်းသွားပါက ဗုဒ္ဓဖြစ်ပြီဟု ဆိုသည်။

၃။ ထို့နောက် သိရိမာလာဒေဝီသိဟနာဒ ရေးသားသော အဓိဋ္ဌာန်ကျမ်းကို ဖွင့်ဆိုရေးသား၏။ ကျမ်းပြုသူမှာ အမျိုးသမီး ဘုရားလောင်းဟု ကြေညာထား၍ အယုဒ္ဓယဘုရင်၏ မိဖုရားခေါင်ကြီး ဖြစ်၏။

ခေတ်ဦးပိုင်းက ဂျပန်ပြည်တွင် ကွဲပြားမှုမရှိသေးသော မဟာယာန တစ်မျိုးတည်းကိုသာ ကိုးကွယ်လေသည်။ နောက်ပိုင်း၌ ဗုဒ္ဓဘာသာဂိုဏ်းများ အမျိုးမျိုးကွဲပြားလေရာ ဂိုဏ်းကွဲပေါင်း ၁၁ ဂိုဏ်း ရှိသည်။ တစ်ဖန် ဈင်ဂိုဏ်းကွဲပြား၍ သုခဝတီဗျူဟာ (အမိတာ) ဂိုဏ်း-လေးဂိုဏ်းကွဲရာ စုစုပေါင်း ဂျပန်ဗုဒ္ဓဘာသာဂိုဏ်းပေါင်း ၁၇ ဂိုဏ်း ဖြစ်လေသည်။

ဂျပန်ပြည် ဗုဒ္ဓဘာသာဂိုဏ်းကွဲများ -

၁။ ကုရှဂိုဏ်း (ချူရှေး) ။
သဗ္ဗတ္ထိဝါဒ၊ အာဘိဓမ္မိက၊ ဟီနယာန။
အဘိဓမ္မကောသကျမ်း ဝသုဗန္ဓု ရေးသည်။

၂။ ဂျိုဂျစ်ဆုဂိုဏ်း (ချင်ရှီး)
သုညဝါဒီ၊ သုတ္တန္တိက၊ ဟီနယာန။
သစ္စသိဒ္ဓိကျမ်း ဟရိဝမ္မ ရေးသည်။

၃။ ဟိုဆိုဂိုဏ်း (ဖစီယန် + ရှေလွန်း)
ဝိညာဏဝါဒ၊ ဧကစ္စသဿတ၊ (ယောဂါစာရ) မဟာယာန။
သန္ဓိနိမ္မောစနသုတ္တ၊ မဟာယာနသမ္ပရိဂ္ဂဟသုတ္တ၊ ယောဂါစာရ ဘူမိသုတ္တ အသင်္ဂ ရေးသည်။
ဝိညာဏမတ္တတာသိဒ္ဓိသုတ္တ ဓမ္မပါလ ရေးသည်။

၄။ စံရွန်ဂိုဏ်း (စံလွန်း)
သုညဝါဒ၊ မဇ္ဈိမိက၊ မဟာယာန။
မဇ္ဈိမိကသုတ္တ၊ ဒွါဒသနိကာယသုတ္တ နာဂအဇ္ဇုန ရေးသည်။
သတသုတ္တ အရိယဒေဝ ရေးသည်။

၅။ ကီဂွန်ဂိုဏ်း (ဟွာယင်)
သဗ္ဗတ္ထိဝါဒ၊ မဟာယာန။
အဝင်္ဂသကသုတ်၊ မဟာယာနသဒ္ဓုပ္ပါဒကျမ်း အဿဃောသ ရေးသည်။

၆။ တင်ဒိုင်းဂိုဏ်း (တိယင်တိုင်း)
ပညတ္တိဝါဒ၊ ဧကယာနဝါဒ၊ မဟာယာန။
သဒ္ဓမ္မပုဏ္ဍရိကကျမ်းနှင့် မဟာပညာပါရမိတာကျမ်း။

၇။ ရှင်ဂွန်းဂိုဏ်း (ချင်ယင်)
မန္တရလျှို့ဝှက်ဝါဒ၊ မဟာယာန။
မဟာဝေရောစနာဘိသမ္ဗောဓိသုတ်၊ သုဗာဟုကုမာရသုတ်၊ သုသိဒ္ဓိကရသုတ်။

၈။ ဈင်ဂိုဏ်း (ချင်)

ဈာနဝါဒ၊ မဟာယာန။

ဈင်ဂိုဏ်းကွဲ လေးခုရှိသည်။

(က) ရင်ဇိုင်းဂိုဏ်း (အေးဆိုင် တည်ထောင်သည်။)

(ခ) ဆိုတိုဂိုဏ်း (ဒိုဂျင် တည်ထောင်သည်။)

(ဂ) ဖူကေဂိုဏ်း (ကကူရှင် တည်ထောင်သည်။)

(ဃ) အိုတကုဂိုဏ်း (ဆင်ဂျင်း တည်ထောင်သည်။)

လင်္ကာဝတာရသုတ်၊

ဝဇိရစ္ဆေဒိကာသုတ်၊

ပညာပါရမိတာသုတ်။

၉။ သုခဝတီဗျူဟာဂိုဏ်း (ချင်တူ = တန်လွန်း)

အမိတာကိုးကွယ်မှု၊ မဟာယာန၊

သုခဝတီဗျူဟာသုတ်၊

အမိတာဂိုဏ်းကွဲ လေးခုရှိသည်။

(က) ဂျိုဒိုဂိုဏ်း (ဟိုနင် တည်ထောင်၏။)

(ခ) ရှင်ဂိုဏ်း (ရှင်ရန်း တည်ထောင်၏။)

(ဂ) ယုဇုနင်ဘုဆုဂိုဏ်း (ရယိုနင် တည်ထောင်၏။)

(ဃ) ဂျိဂိုဏ်း (အိပန် တည်ထောင်သည်။)

၁၀။ ရစ်ဆုဂိုဏ်း (လူ)

ဝိနယ = ဝိနည်းပဓာန၊

စတုဝဂ္ဂဝိနယပိဋကခေါ် ဝိနည်းလေးကျမ်း

သဗ္ဗတ္ထိဝါဒဝိနယ၊

မဟာသံဃိကဝိနယ။

၁၁။ နိချိရင်ဂိုဏ်း

နိချိရင် (၁၇၆၆-၁၈၂၆) က တည်ထောင်၏။

သဒ္ဓမ္မပုဏ္ဍရိကသုတ်။

## ၁။ ကုရှဂိုဏ်း

ဝသုဗန္ဓု၏ အဘိဓမ္မကောသကျမ်းကို အဖျားဆွတ်၍ ကောသဟု ခေါ်ကြသည်။ ဂျပန်အသံထွက်ဖြင့် ကောသမှ ကုရှဖြစ်လာသည်။ နာမည်ကျော် တရုတ်ဘုန်းတော်ကြီး ဟူယင်ဆန် (ရွှင်ကျန်)၏ တပည့်များဖြစ်ကြသော ဂျပန်ဘုန်းတော်ကြီး ချစ်စုနှင့် ချိတစုတို့က သာသနာ ၁၁၉၄ တွင် ဂျပန်ပြည်သို့ ပြန်လာ၍ အဘိဓမ္မကောသကို ဟောပြောပို့ချကြသည်။

တစ်ဖန် ဂျပန်ဘုန်းတော်ကြီး ဂင်ဘိုသည် တရုတ်ပြည်တွင် ချီးချောင်ထံ၌ အဘိဓမ္မာ သင်ယူခဲ့၍ သာသနာ ၁၂၇၉ တွင် ဂျပန်ပြည်သို့ ပြန်လာပြီး အဘိဓမ္မာတရား ဟောပြောပို့ချခဲ့သည်။ အိန္ဒိယပြည်တွင် သဗ္ဗတ္ထိဝါဒဂိုဏ်း၊ ဝေဘာသိကဂိုဏ်း၊ တရုတ်ပြည်တွင် ချူရှေးဂိုဏ်းဟု အမည်တွင်၍ ဂျပန်ပြည်တွင် ကုရှဂိုဏ်းဟု အမည်တွင်သည်။ အယူဝါဒ စာပေအနေဖြင့် သီးခြားရှိသော်လည်း ဂိုဏ်းသီးခြား မရှိချေ။ (အဘိဓမ္မကောသမှ အဘိဓမ္မာသဘောတရားများကို နောက်ဆက်တွဲ (ခ)၌ ဖော်ပြပါမည်။)

## ၂။ ဂျိုဂျစ်ဆုဂိုဏ်း

အိန္ဒိယပြည်၌ သုတ္တန္တိကဂိုဏ်းဟုတွင်၍ ဟရိဝမ္မ ရေးသားသော သစ္စသိဒ္ဓိကျမ်းကို အမှီပြုသည်။ တရုတ်ပြည်တွင် ချင်ရှိဂိုဏ်းဟု အမည်တွင်၍ ဂျပန်ပြည်တွင် ဂျိုဂျစ်ဆုဂိုဏ်းဟု အမည်တွင်၏။

သုညဝါဒ သစ္စသိဒ္ဓိတရားတော်ကို ကိုရီးယားပြည် ကာအိုလီနယ်မှ ကိုရီးယားဘုန်းတော်ကြီး အေကွမ်က ဂျပန်ပြည်သို့ သယ်ဆောင်လာသည်။ သာသနာ ၁၁၆၉ တွင် ဂျပန်ပြည် ဟောရယူဂျီ ကျောင်းတိုက်သို့ ရောက်၏။ ဂျပန်ဘုရင်က ပထမဆုံး ဂျပန်ဗုဒ္ဓဘာသာဂိုဏ်းချုပ်အဖြစ် ခန့်သည်။ ဂျိုဂျစ်ဆုဝါဒ အဘိဓမ္မာကို ဂျပန်ပြည် တက္ကသိုလ် ကောလိပ်များ၌ သင်ယူလေ့လာကြသည်။ ဂျပန်ပြည်တွင် ဂျိုဂျစ်ဆုဂိုဏ်းကို သီးခြား

ဂိုဏ်းတစ်ခုဟု မယူဆဘဲ စံရှုန်ဂိုဏ်း (မဟာယာနသုညဝါဒ)၏ ဂိုဏ်းကွဲ တစ်ခုဟု ယူဆကြ၏။ (ဤဂိုဏ်း၏ အဘိဓမ္မာကို နောက်ဆက်တွဲ၌ ရှုပါ)

## ၃။ ဟိုဆိုဂိုဏ်း

ဝိညာဏဝါဒ (ယောဂါစာရ)ဂိုဏ်း၏ အဆက်အနွယ်ဖြစ်၏။ တရုတ်ပြည်တွင် ဖစီယန်ဂိုဏ်းဟု ခေါ်၏။ ဟိုဆိုဂိုဏ်းကို ဓမ္မလက္ခဏာဂိုဏ်းဟုလည်း ခေါ်၏။

ဂျပန်ပြည်တွင် ဝိညာဏဝါဒကို ပထမဆုံးဖြန့်ချိသူမှာ ဂျပန် ဘုန်းတော်ကြီး ဒိုရှို (၁၁၇၂-၁၂၄၄) ဖြစ်၏။ ဒိုရှိုကို သာသနာ ၁၁၉၇ ၌ တရုတ်ပြည်သို့ ပညာတော်သင်လွှတ်၏။ ဟူယင်ဆန် (ရွှင်ကျန်) ထံ၌ ဆယ်နှစ်ခန့် ပညာဆည်းပူး၏။ ဟူယင်ဆန်နောက် ဆက်ခံမည့် ဘုန်းတော်ကြီး ကိနှင့် တစ်ခန်းတည်း အတူနေခဲ့၏။ သူ၏ဆရာထံမှ ဝိညာဏဆိုင်ရာ ပါဠိတော်နှင့် အဋ္ဌကထာကျမ်းများကို ယူ၍ ဂျပန်ပြည်သို့ ပြန်ရောက်သောအခါ ဂွမ်ဂိုဂျိကျောင်းတိုက်၌ နေ၍ ဝိညာဏဝါဒ တရားဟော၏။ သူ၏တပည့်ကျော်မှာ ဂျိုဂိ (၁၂၁၁-၁၂၉၂) ဖြစ်၏။

ဒုတိယအကြိမ် ဝိညာဏဝါဒဖြန့်ချိသူမှာ ချစ်စူနှင့် ချိတစုတို့ ဖြစ်၏။ သာသနာ ၁၁၉၈ တွင် တရုတ်ပြည်သို့ ဂျပန်ဘုရင်က ပညာတော်သင် လွှတ်၏။ ထိုဂျပန်ဘုန်းကြီးနှစ်ပါးသည် ဟူယင်ဆန်နှင့်ကိတို့ထံ၌ ပညာ သင်ခဲ့သူများ ဖြစ်ကြ၏။

တတိယဖြန့်ချိသူမှာ ဟူယင်ဆန်၏တပည့် ကိုရီးယားဘုန်းကြီး ချိဟို ဖြစ်၏။ ချိဟိုသည် သာသနာ ၁၂၄၇ တွင် ဂျပန်ပြည်ရောက်၍ ဂျိုဂိ၏ တပည့် ဂိယင်အား ဝိညာဏဝါဒကို သင်ကြားပေး၏။

စတုတ္ထဖြန့်ချိသူမှာ သာသနာ ၁၁၉၀ တွင် ဂျပန်ဘုန်းတော်ကြီး ဂင်ဘို ဖြစ်၏။ ၎င်းကို တရုတ်ပြည်သို့ ပညာတော်သင်လွှတ်၏။ ဂင်ဘိုသည် ကိ၏ တပည့်ကြီး ချီးချောင်တံ၌ ပညာသင်၏။ တရုတ်ပြည်တွင် အနှစ်နှစ်ဆယ်ခန့် နေခဲ့၏။ သာသနာ ၁၂၇၉ တွင် ဂျပန်ပြည်သို့ ပြန်

လာ၍ ကိုဖုကုဂိကျောင်းတိုက်၌ နေ၏။ မိမိအရိုက်အရာကို ဆက်ခံမည့်သူ ဂင်ဂူအား ဝိညာဏဝါဒ သင်ကြားပေး၏။ (ဝိညာဏအဘိဓမ္မာကို နောက်ဆက်တွဲ၌ ရှုပါ။)

## ၄။ စံရွှန်ဂိုဏ်း

အိန္ဒိယပြည် မဇ္ဈိမိက (သုညဝါဒ) ဂိုဏ်း၏ အဆက်အနွယ်ဖြစ်၍ တရုတ်ပြည်တွင် စံလွန်းဟု အမည်တွင်၏။

ဂျပန်ပြည်တွင် စံရွှန်ဂိုဏ်း၏ သုညဝါဒကို စတင်ဟောကြားသူမှာ ဂျိုဂျစ်ဆုဂိုဏ်းကို စတင် တည်ထောင်သူ ကိုရီးယား ဘုန်းတော်ကြီး အေကွမ်ပင် ဖြစ်လေသည်။ ဒုတိယအကြိမ် ဟောကြား ဖြန့်ချိသူမှာ အေကွမ်၏တပည့် ချိဇို ဖြစ်၏။ တတိယအကြိမ်ဖြန့်ချိသူမှာ ဒိုဂျိဖြစ်၏။ ဂျပန်ပြည်တွင် စံရွှန်ဂိုဏ်းဟူ၍ သီးခြားမရှိချေ။ ဤဂိုဏ်း၏ အယူဝါဒ ဖြစ်သော သုညဝါဒကို ဂျပန်ပြည် မဟာယာန ဗုဒ္ဓဘာသာ ဂိုဏ်းအားလုံး၏ အခြေခံသဘောတရားဖြစ်သည်ဟု ခံယူကြ၏။ ဗုဒ္ဓဝါဒလေ့လာသူတိုင်း စံရွှန် (သုည) ဝါဒကို မလွဲမသွေ သင်ယူကြရ၏။ (စံရွှန်ဂိုဏ်း အဘိဓမ္မာကို တရုတ်ပြည် စံလွန်းဂိုဏ်းနှင့် အိန္ဒိယပြည် မဇ္ဈိမိကဂိုဏ်း အကြောင်း၌ ဖတ်ရှုပါ။)

## ၅။ ကိဝွန်ဂိုဏ်း

တရုတ်ပြည် ဟွာယင်ဂိုဏ်း၏ အဆက်အနွယ်ဖြစ်သည်။ ဟွာယင်ဂိုဏ်းကို တည်ထောင်သူ ဖစံ၏တပည့် တာအိုရွှန်းသည် သာသနာ ၁၂၇၄ တွင် ဂျပန်သို့ ကြွ၍ အဝင်္ဂသကတရားတော်ကို ဟော၏။ ဖစံ၏ တပည့်တစ်ဦးဖြစ်သော ကိုးရီးယားဘုန်းတော်ကြီး ရှင်စီယန်သည်လည်း တာအိုရွှန်းနှင့် မရှေးမနှောင်းမှာပင် ဂျပန်ပြည်သို့ ကြွလာ၍ အဝင်္ဂသက တရားဟော၏။

သာသနာ ၁၂၇၉ တွင် အိန္ဒိယပြည်မှ ရဟန်းတော် ဗောဓိသေနသည် မလေး အိန္ဒိယ ဂီတအနုပညာသည် ဖထရိုင်ယက်နှင့် အတူတကွ

တရုတ်ပြည်သို့ ကြွလာ၏။ မဥ္ဇူသီရိ ဘုရားအလောင်းကို ဖူးတွေ့ရန် ဝူတိုင်း (တိယင်တိုင်း) တောင်ပေါ်သို့ တက်ကြ၏။ သို့ရာတွင် မဥ္ဇူသီရိ ဘုရားလောင်းမှာ အရှေ့ဘက် တိုင်းပြည်တွင် ဝင်စားသည်ဟု ကြားရ၍ ဂျပန်ပြည်သို့ ဆက်လက်ခရီးထွက်ခွာကြ၏။ ဂျပန်ပြည် အိုဆာကာမြို့သို့ ရောက်သောအခါ ဂျပန်ဘုန်းကြီး ဂျိုဂိက ဆီးကြို၏။ ဗောဓိသေနနှင့် ဖထရိုင်ယက်တို့သည် ဂျိုဂိကို ဘုရာလောင်း မဥ္ဇူသီရိဟု ယူဆ၍ ဘိုဆတ် ဆု (ဗောဓိသတ္တ)ဟု ခေါ်၏။ ထိုအချိန်မှစ၍ ဂျိုဂိဘိုဆတ်ဆု ဟု အမည် တွင်၏။ ဂျပန်ဘုရင် ရှိုမုသည် ထိုဧည့်သည်တော်များကို မင်းခမ်းမင်းနား အဆောင်အယောင်များ ချီးမြှင့်၍ နာရမြို့၌ နေစေ၏။

ဂျပန်ဧကရာဇ် ဘုရင်ရှိုမု (၁၂၆၈-၁၂၉၂) သည် ဂျပန်ပြည်ကို ကီဂွန် (အဝဋံသက) ဝါဒတစ်ခုတည်း လွှမ်းမိုးစေရန် ကြံရွယ်၏။ ထိုဘုရင် သည် တိုဒိုင်းဂျိခေါ် အရှေ့တိုင်း ကျောင်းတော်မဟာကို နာရမြို့၌ တည် ဆောက်၏။ ထိုကျောင်းတော်ကြီးအတွင်း၌ မဟာဝေရောစန (နေမင်း ဘုရား) ကြေးဆင်းတုတော်ကြီး သွန်းလုပ်ပူဇော်၏။ ဗောဓိသေနနှင့် ဂျိုဂိဘိုဆတ်ဆုက ထိုဘုရားကို အနေကဇာတင်၏။ ထိုကျောင်းတိုက်နှင့် ကြေးသွန်းဘုရားကြီးကား နာရခေတ်၏ ဂုဏ်ယူဖွယ်ရာ သမိုင်းဝင် အဆောက်အအုံများဖြစ်ကြ၏။ ဤကျောင်းတိုက်ကြီးကား အဝဋံသက တရားဟောရာ နေရာမြတ်ဖြစ်၏။ ဤကျောင်းတော်ကြီး တည်ဆောက် ရာ၌ ဧကရာဇ်ဘုရင် ရှိုမု၊ ဗောဓိသေန၊ ဂျိုဂိနှင့် ကျောင်းထိုင်ဆရာတော် ရိုဘင် လေးဦးတို့က ကြီးမှူးကြသည်။

ကမားကုရခေတ်၌ ဂျပန်ဘုန်းတော်ကြီးမျိုးသည် တိုကျိုမြို့ တိုဂန် နူးကျောင်း၌ အဝဋံသကဂိုဏ်းသစ် တည်ထောင်ရန် ကြိုးပမ်းခဲ့သော် လည်း မအောင်မြင်ချေ။

တိုကုဂါဝရှိုဂန် လက်ထက်၌ ကီဂွန်ဂိုဏ်းဝင် ဘုန်းကြီး ဟိုတန်သည် စာသင်တိုက် တည်ထောင်ရန် ကြိုးပမ်းသော်လည်း မအောင်မြင်ခဲ့ချေ။ သို့ရာတွင် ဤခေတ်၌ အဝဋံသက ဗုဒ္ဓဘာသာ သဘောတရားများကို လေ့လာလိုက်စားသူ များပြားလာသည်။

## ၆။ တင်ဒိုင်းဂိုဏ်း

တင်ဒိုင်းဂိုဏ်းကို တည်ထောင်သူမှာ ဒင်ဂျိုဒိုင်းရှိခေါ် ဆိုင်ချို (၁၃၁၃-၁၃၆၆) ဖြစ်သည်။ သာသနာ ၁၃၄၄ ခန့်တွင် ဆိုင်ချိုကို ဂျပန်ဧကရာဇ်က တရုတ်ပြည်သို့ ပညာတော်သင်စေလွှတ်၏။ တရုတ်ပြည် တိယင်တိုင်းဂိုဏ်း၏ သတ္တမဂိုဏ်းချုပ် တာအိုဆွိထံ၌ သဒ္ဓမ္မပုဏ္ဍရိကကျမ်း ကေယာနဝါဒကို သင်ယူ၏။ ထိုဂိုဏ်းချုပ် ဆရာတော်ထံ၌ ဗောဓိသတ္တ (ဘုရားလောင်း) ရဟန်းခံနည်းဖြင့် ရဟန်းခံလေသည်။ ထို့ပြင် သက်ဆိုင်ရာပညာရှင်များထံမှ မန္တရဝါဒနှင့် ဈာင်ဝါဒများကို သင်ယူခဲ့၏။ သာသနာ ၁၃၄၉ တွင် ဂျပန်ပြည်သို့ ပြန်၍ တင်ဒိုင်းဝါဒနှင့် ဈာင်ဝါဒ မန္တရ (ရှင်ဂွန်း) ဝါဒများကို ပို့ချ၏။

ဂျပန်ပြည်တွင် ဟိအေးတောင်ပေါ်၌ တင်ဒိုင်းကျောင်းတော် ဗဟိုဌာန ပြုလုပ်ခဲ့၏။ ဟိအေးတောင်ပေါ်ရှိ ကျောင်းတိုက်သည် ဂျပန်ပြည်တွင် ဗုဒ္ဓစာပေလေ့လာရာ ဗဟိုဌာနဖြစ်ခဲ့သည်။ ယခင်က ဤတောင်ပေါ်ကျောင်း၌ ကျောင်းပေါင်း သုံးထောင်ရှိခဲ့၏။ ဤခေတ်၌မူ တင်ဒိုင်းဂိုဏ်း၌ ဂိုဏ်းငယ်များ ကွဲပြားနေ၏။ ဆန်မွန်ဂိုဏ်း၊ ဂျီမွန်ဂိုဏ်း၊ ရှင်ဆေးဂိုဏ်း ဟူ၍ သုံးဂိုဏ်း ရှိ၏။ ရှင်ဆေးဂိုဏ်းသည် အမိတာဘာကို ကိုးကွယ်၏။ ဂျပန်ပြည်တွင် ထိုဂိုဏ်းသုံးခုပိုင်သော ဘုန်းကြီးကျောင်းပေါင်း လေးထောင်ကျော်ရှိ၏။

## ၇။ ရှင်ဂွန်းဂိုဏ်း

အိန္ဒိယပြည်တွင် တန္တရယာန၊ မန္တရယာန၊ ဗဇိရယာနတို့မှ ဆင်းသက်လာ၍ တရုတ်ပြည်တွင် ချင်ယင်ဂိုဏ်းဟု ခေါ်သည်။

အိချိဂျို (အိစင်၊ ၁၂၂၇-၁၂၇၁)သည် သုဘကရသိဟ၏ တပည့်ဖြစ်၏။ သုဘကရသိဟသည် မဟာဝေရောစနသုတ်ကို တရုတ်ဘာသာပြန်ရာ၌ အိချိဂျိုက ကူညီခဲ့၏။ အိချိဂျိုသည် မဟာဝေရောစနသုတ် အဖွင့်ကို တရုတ်ဘာသာဖြင့် ရေးခဲ့၏။ ထိုအဖွင့်ကျမ်းကို သုဘကရသိဟ၏တပည့် ချိယင်နှင့် ဝဇိရဗောဓိ၏တပည့် စေကူတို့က တည်းဖြတ်

ကြသည်။ ထိုအခါမှစ၍ မဟာဝေရောစနသုတ်အဖွင့်ကျမ်းမှာ မူဟောင်းနှင့် မူသစ်ဟူ၍ ကွဲပြားသွား၏။ ဂျပန်ပြည်တွင် တိုင်မစ်ဆုဂိုဏ်းက မူသစ်ကိုသုံး၍ တိုမစ်ဆုဂိုဏ်းက မူဟောင်းကို သုံး၏။

(ရှင်ဂွန်းဂိုဏ်းတွင် တိုင်မစ်ဆုနှင့် တိုမစ်ဆုဟူ၍ ဂိုဏ်းကွဲနှစ်ခုရှိသည်)

တင်ဒိုင်းဂိုဏ်းချုပ်ဆရာတော် ဆိုင်ချိုသည် တိုင်မစ်ဆု မန္တရဝါဒကို ဂျပန်ပြည်၌ ဟောကြားဖြန့်ချိသူဖြစ်၏။

သာသနာ (၁၃၈၉) ၌ တရုတ်ပြည် ဟူယိချန်ခေတ်၌ ဗုဒ္ဓဘာသာ ရဟန်းများ သတ်ဖြတ်ညှဉ်းဆဲခံရသည်။ ထိုအချိန်တွင် တင်ဒိုင်းဂိုဏ်း ခေါင်းဆောင် ဂျီကကုဒိုင်းရှိသည် တရုတ်ပြည်လှည့်လည်၍ မန္တရစာပေများကို စုဆောင်းခဲ့၏။

ရှင်ဂွန်းဂိုဏ်းကို သီးခြားဖြစ်အောင် ထူထောင်ခဲ့သူမှာ ကိုဘိုဒိုင်းရှိခေါ် ကုကိုင်းဖြစ်၏။ ဆိုင်ချိုနှင့်ခေတ်ပြိုင်ဖြစ်၍ ဆိုင်ချိုထက် အနည်းငယ် အသက်ငယ်၏။ ကုကိုင်း (ကိုဘိုဒိုင်းရှိ)သည် ခရီးလှည့် ဝါသနာပါ၏။ ပန်းပုဆရာဖြစ်၏။ လက်ရေးလက်သား လှပသေသပ်၏။ အတုယူလောက်သော ပညာရှင်တစ်ဦးဖြစ်၏။ ဆိုင်ချိုကို အတုယူ၍ သာသနာ ၁၃၄၈ တွင် တရုတ်ပြည်သို့ သွား၏။ တရုတ်ပြည်မှ မန္တရားအတတ်ကို သင်ခဲ့၍ ဂျပန်ပြည်ပြန်ရောက်သောအခါ ကိုယဆံတောင်ပေါ်၌ ရှင်ဂွန်းဂိုဏ်း ကျောင်းတိုက်ကြီးကိုတည်ထောင်၏။ ကျိုတိုမြို့တွင် လူတို့သင်ကြားတတ်ရောက်နိုင်ရန် အနုပညာသင် ကျောင်းတစ်ခု တည်ထောင်ခဲ့၏။ ကုကိုင်းကို ချီးကျူးသော 'ဣရောဟ' ကဗျာမှာ ယနေ့တိုင် လူသိများ၏။ ဤဂိုဏ်းက ကိုးကားသောသုတ်များမှာ မဟာဝေရောစနသုတ်၊ သုဗာဟုကုမာရသုတ်၊ သုသိဒ္ဓိကရသုတ်တို့ ဖြစ်ကြ၏။ ဤဂိုဏ်း၌ ဓာရဏီခေါ်သော ပရိတ်အမျိုးမျိုးရှိ၏။ အချို့ပရိတ်မန္တန်များကို အထပ်ထပ်ရွတ်လျှင် မင်္ဂလာ, ဖိုလ်ညာဏ် ရနိုင်သည်ဟု ဆိုကြ၏။

အိန္ဒိယပြည်တွင် ဝဇိရယာနမှာ အရက်, မိန်းမနှင့် တွဲဖက်ထားသဖြင့် နာမည်ပျက်ခဲ့ရသော်လည်း ဂျပန်ပြည်၌မူ ထိုကဲ့သို့ ညစ်ညမ်းမှုများ မပါဝင်ချေ။ ရှင်ဂွန်းဂိုဏ်းကို တည်ထောင်သူ ကိုဘိုဒိုင်းရှိက ဝဇိရယာနမှာ အမြင့်မြတ်ဆုံးဒေသနာဟု ဆို၍ ဉာဏ်စဉ်တိုးတက်မှု ဆယ်ဆင့် ခွဲပြခဲ့၏။

## ကိုဘိုဒိုင်းရှိ၏ ဉာဏ်စဉ်ဆယ်ဆင့်

၁။ လမ်းဘေးမှ သာမန်လူမျိုး၊ ထုံးစံအတိုင်း စားဝတ်နေရေးမျှသာ သိသည်၊ လူမည်ကာမတ္တသာ ဖြစ်၏။

၂။ မနုဿယာန - ကွန်ဖြူးရှပ်ဝါဒီအဆင့်၊ အကျင့်စာရိတ္တပြည့်စုံ၍ လူ့အဆင့်မီရန် ကြိုးစားသည်။

၃။ ဒေဝတာယာန - နတ်ပြည်ရောက်ရန်နှင့် တန်ခိုး အဘိညာဉ် ရရန် ကြိုးပမ်းသည်။ (တာအိုဝါဒနှင့် ဗြာဟ္မဏဝါဒ)

၄။ ဟီနယာန - ဘုံစဉ်စံရန် ဉာဏ်တဖြည်းဖြည်း ရင့်ကျက်ရန်သာ ကြိုးပမ်း၏။ ဟီနယာန ကုရှဂိုဏ်းနှင့် ဂျိုဂျစ်ဆုဂိုဏ်း။

၅။ ပစ္စေကဗုဒ္ဓယာန - မိမိတစ်ဦးတည်း လွတ်မြောက်ရန် ကြိုးပမ်းမှု လမ်းစဉ်အမှားသို့ ရောက်နေသည်။

၆-၇။ တြိယာနဝါဒ - ယာနသုံးပါးလုံး မှန်သည်ဟု ယူဆသည်။ စံရွှန်ဂိုဏ်းနှင့် ဟိုဆိုဂိုဏ်း။

၈-၉။ ဧကယာနဝါဒ - ဗုဒ္ဓယာနတစ်ခုသာ မှန်သည်ဟု ယူဆသူများ။ ကီဂွန်ဂိုဏ်းနှင့် တင်ဒိုင်းဂိုဏ်း။

၁၀။ ဝဇိရယာန - အမြင့်မြတ်ဆုံး ဉာဏ်အဆင့်ဖြစ်၏။ ရှင်ဂွန်းဂိုဏ်း။

## ဗုဒ္ဓနှင့်ဆက်သွယ်နည်း

တန္တရယာနမှာ လျှို့ဝှက်တရားတော်ဟု ဆိုသော်လည်း အမှန်စင်စစ် ဗုဒ္ဓအနေဖြင့် လျှို့ဝှက်ခြင်း မဟုတ်ချေ။ သတ္တဝါတို့၏ အသိပညာနည်းပါးမှုကြောင့်သာ ဗုဒ္ဓ၏ ဆိုလိုချက်ကို မသိကြခြင်းဖြစ်သည် ဆို၏။

လျှို့ဝှက်ချက်များကို လူတို့၏ ဝီရိယစွမ်းအားမျှဖြင့် ဖော်ထုတ်နိုင်ခြင်း မရှိချေ။ မြတ်စွာဘုရား၏ အဓိဋ္ဌာန်တန်ခိုးကြောင့် ကာယ, ဝစီ, မနော ကံသုံးပါးဖြင့် လျှို့ဝှက်တရားတော်ကို သိနိုင်၏။ ဗုဒ္ဓနှင့် ဆက်သွယ်မိရန် အောက်ပါနည်းကို သုံးရမည်ဟု ဆို၏ -

၁။ မုဒြာ = လက်အနေအထားနှင့် ကိုယ်အနေအထား (ကာယကံ)၊

၂။ ဓာရဏီ = ဂါထာမန္တရားနှင့် ဘုရားရှိခိုးဂါထာများ (ဝစီကံ)၊

၃။ ယောဂ = သမာဓိတည်အောင် ပြုခြင်း (မနောကံ)၊

သတ်မှတ်ထားသော မုဒြာ, ဓာရဏီ, ယောဂတို့ဖြင့် ဗုဒ္ဓနှင့် ဆက်သွယ်၍ ဗုဒ္ဓသည် ငါ့ကိုယ်ထဲ၌ ရှိ၏။ ငါသည်ပင် ဗုဒ္ဓဖြစ်သည်ဟု အသိဉာဏ် အလင်းပေါက်ကာ ဤဘဝ၌ လက်ငင်း ဗုဒ္ဓအဖြစ်ကို ရရှိလေတော့၏။

## ဝဇိရဓာတု နှင့် ဂဗ္ဘကောသ

ဗုဒ္ဓ၏တည်ငြိမ်သော သဘာဝသည် စိန်တုံးစိန်ခဲကြီးကဲ့သို့ အလင်းရောင် တောက်ပနေသောကြောင့် 'ဝဇိရဓာတု'မည်၏။ ဤဝဇိရဓာတုသည် မဟာဝေရောစနဘုရားကြီး ဖြစ်၏။

မေတ္တာ, ကရုဏာတို့ဖြင့် လှုပ်ရှားတက်ကြွသော သဘာဝနိယာမဓာတ်ကြီးသည် 'ဂဗ္ဘကောသ' မည်၏။ ထိုဂဗ္ဘကောသသည် ဗုဒ္ဓ၏ ဓမ္မကာယဖြစ်၏။ ထိုဂဗ္ဘကောသ၌ ပထဝီ အာပေါ တေဇော ဝါယော အာကာသဝိညာဏ ဟူသော ဓာတ်ခြောက်ပါးရှိ၏။

ထိုခြောက်ပါးသည် ပစ္စုပ္ပန်, အတိတ်, အနာဂတ် ကာလအားဖြင့် ရှေ့နောက် အစဉ်လိုက် တည်နေသောအခါ ဝဇိရဓာတ်ခေါ်သော မဟာဝေရောစနဗုဒ္ဓ၏ ကာယဖြစ်လာသည်။

ထိုဓာတ်ခြောက်ပါးသည် ကာလအားဖြင့် တစ်ပြိုင်နက်တည်း အာကာသအတွင်း၌ တည်နေသောအခါ ဂဗ္ဘကောသခေါ်သော စကြဝဠာ မဟာကာယ မည်၏။

ဝဇီရဓာတုနှင့် ဂဗ္ဘကောသတို့သည် နှစ်ခုလုံး ဗုဒ္ဓသာလျှင် ဖြစ်၍ အလျားအနံအားဖြင့် ထပ်တူညီကြသည်။

ပညာမုဒြာ

ဝဇီရဓာတုခေါ် မဟာဝေရောစန ဗုဒ္ဓကို ပညာမုဒြာဖြင့် ပြ၏။ ပညာမုဒ္ဒြခေါ် အာစရိယဖြစ်၍ ညာဘက်လက်ညှိုးကို ဘယ်ဘက်လက်ဖြင့် ဆုပ်ကိုင်ထားသောပုံဖြစ်၏။ (ဂဗ္ဘကောသကျမ်းနှင့် ဝဇီရဓာတုကျမ်းမှ)

## မဏ္ဍလလေးမျိုး

မဏ္ဍလခေါ်သော စက်ဝိုင်းပုံနှင့် အင်းကွက်များသည် လေးမျိုးရှိ၏။

၁။ မဟာမဏ္ဍလ = စက်ဝိုင်းကြီး

ဗုဒ္ဓကို တပည့်သာဝကများ ဝန်းရံ၍ ဆေးရောင်စုံခြယ်ထားသော ရုပ်စုံကားချပ် ဖြစ်၏။

၂။ သမယမဏ္ဍလ = သင်္ကေတစက်ဝိုင်း

ဗုဒ္ဓအသီးသီးနှင့် သက်ဆိုင်သော သင်္ကေတများ၊ အထိမ်းအမှတ်ပစ္စည်း =များဖြင့် ဗုဒ္ဓအစုအဝေးကို ဖော်ပြ၏။

၃။ ဓမ္မမဏ္ဍလ = နိယာမ ဓမ္မစက်ဝိုင်း

ရဟန္တာ ပုဂ္ဂိုလ်အသီးသီးကို ကိုယ်စားပြုသော ဗီဇအက္ခရာများဖြင့် ရေးဆွဲထား၏။

၄။ ကမ္မမဏ္ဍလ = ရုပ်လုံး ရုပ်တု စက်ဝိုင်း

ဤရုပ်တုစက်ဝိုင်းမှာ ဗုဒ္ဓဘုရားရှင်တို့သည် ဗုဒ္ဓကိစ္စ ပြုလုပ်ဆောင်ရွက်နေပုံကို ပြ၍ ရုပ်တုများကို စုပေါင်း စီစဉ်ထား၏။ ဥပမာ ဂျာဗားကျွန်း၌ ရှိသော ဗောရောဘုဒုစေတီ၌ ရုပ်တုများထားပုံကို ကမ္မမဏ္ဍလဟု ခေါ်၏။ အခြားမည်သည့်နေရာတွင်မျှ ကမ္မမဏ္ဍလ မရှိချေ။

ဗုဒ္ဓပန်းချီကားနှင့် ဗုဒ္ဓရုပ်တုများသည် လျှို့ဝှက်သော ဗုဒ္ဓကာယကို ပြ၏။ အက္ခရာများသည် လျှို့ဝှက်သော ဗုဒ္ဓဒေသနာတော်ကို ပြ၏။ သင်္ကေတများသည် ဗုဒ္ဓ၏ စိတ်အကြံအစည်ကို ပြ၏။

## ဘိသိက်ခံခြင်း

ရှင်ဂွန်းဂိုဏ်း၌ ဗုဒ္ဓ၏ အဓိဋ္ဌာန် တန်ခိုးတော် ခံယူခြင်းနှင့် ရဟန်းခံ အခမ်းအနားများ၌ ဘိသိက်ခံရ၏။ အဘိသေကခေါ် ရေစင်ဖြင့် သွန်းဖျန်း၏။ ထိုရေဖျန်းခံရာဌာနကို မဏ္ဍလ (စက်ဝိုင်းပုံ) များဖြင့် တန်ဆာဆင်ကြ၏။ မဏ္ဍလများကို အမိုး အကာ အခင်း ပြုလုပ်ကြသည်။ အခမ်းအနားအစီအရင် အပြည့်အစုံပါမှ ဗုဒ္ဓ၏ အဓိဋ္ဌာန် တန်ခိုးတော်ကို ခံယူရာ၌ ထိရောက်မှုရှိသည်ဟု ယူဆကြ၏။

## ၈။ ဈင်ဂိုဏ်း

ဈင်ဂိုဏ်းမှာ ကမ္မဋ္ဌာန်းထိုင်၍ ဉာဏ်အလင်းပေါက်မှုကို ပဓာနထား၏။ တထာဂတကမ္မဋ္ဌာန်းနည်းနှင့် သာသနာပိုင် ကမ္မဋ္ဌာန်းနည်း ဟူ၍ နှစ်မျိုးရှိ၏။ တထာဂတကမ္မဋ္ဌာန်းနည်းမှာ ဝိသုဒ္ဓိမဂ်တွင် ပြဆိုထား သော ကမ္မဋ္ဌာန်းလေးဆယ်ပင်ဖြစ်၏။ သာသနာပိုင် ကမ္မဋ္ဌာန်းနည်းမှာ တရုတ်ပြည် ချန်ဂိုဏ်း အကြောင်းရေးစဉ်က ဖော်ပြခဲ့လေပြီ။

ပထမဆုံး ဈင်ဝါဒကို ဂျပန်ပြည်သို့ သယ်ဆောင်လာသူမှာ ဟူယင်ဆန်၏တပည့် ဒိုရှို ဖြစ်၏။ ဒိုရှိုသည် သာသနာ ၁၁၉၈ ခန့်က နာရမြို့ ဂန်ဂိုဂျီ ကျောင်းတိုက် ဈင်ခန်းမဆောင်၌ ပထမအကြိမ် ဈင်တရားကို ဟော၏။

ဒုတိယဖြန့်ချိသူမှာ တရုတ်ပြည် ဝိနယဂိုဏ်းမှ ဆရာတော် တာအိုရွှန်းသည် သာသနာ ၁၂၇၄ တွင် နာရမြို့ မြောက်ပိုင်း ဈင်ဝါဒကို ဟောကြား၏။ တာအိုရွှန်းသည် ဂျပန်ဘုန်းကြီး ဂျိုကျို့အား သင်ကြားပေး၏။ ဂျိုကျို့က ဆိုင်ချို့အား သင်ကြားပေး၏။

တတိယဖြန့်ချိသူမှာ တရုတ်ပြည်တောင်ပိုင်း ဈင်ဂိုဏ်းမှ ဂိကူ ဖြစ်၏။ ဂိကူသည် (၁၃၉၅) တွင် ဂျပန်ပြည်သို့ လာ၍ ဂျပန်ဘုရင် ဒန်ရင် ဆောက်လုပ်သော ဒန်ရင်ဂျိ ဘုရားကျောင်း၌ ဈင်တရားကို ဟော၏။ ဘုရင်က အားပေးသော်လည်း မိမိမျှော်မှန်းသလောက် ခရီး မရောက်သဖြင့် ခုနစ်နှစ်အကြာတွင် တရုတ်ပြည်သို့ ပြန်ကြွ၏။

တိုကျိုမြို့ ရပ်ရှိမွန်အရပ်၌ ကျောက်တိုင်စိုက်၍ 'ဈင်တရား ဟော ကြားမှုမှတ်တိုင်'ဟု ရေးထိုးထားခဲ့၏။

## (က) ရင်စိုင်းဂိုဏ်း

ကမားကုရခေတ် (၁၇၂၉-၁၈၇၉) ရောက်မှ ဈင်ဝါဒ တိုးတက် ထွန်းကားလာသည်။ ဂျပန်ဘုန်းတော်ကြီး အေးဆိုင်နှင့် ဒိုဂျင်တို့၏ ကြိုး ပမ်းချက်ကြောင့်ဟု ဆိုက မှားမည် မဟုတ်ပေ။ အေးဆိုင်သည် ဈင်ဝါဒ ဖြင့် အမျိုးသားကာကွယ်ရေး 'ကိုဇင်ဂိုကိုကုရွန်'ဟူသော ကျမ်းကို ရေး၏။

ထိုကျမ်း၌ ဂျပန်နိုင်ငံတော်၏ ကြွယ်ဝမှုကို ဈင်တရားက ကာကွယ် စောင့်ရှောက်မည်ဟု ဖော်ပြထား၏။ စစ်သည်တော်သည် ထိုးထွင်းဉာဏ် ရှိ၍ အကျင့်သိက္ခာ ရှိရမည်၊ တာဝန်ယူရဲရမည်၊ အပြစ်ကို ခံယူရဲရမည်ဟု ဆို၏။ မှူးမတ်မျိုးနှင့် စစ်သားမျိုးများက ဈင်ဝါဒကို လက်ခံကြ၏။

## (ခ) ဆိုတိုဈင်ဂိုဏ်း

ဂျပန်ဘုန်းတော်ကြီးဒိုဂျင်သည် မှုမမှန်သော အစိုးရအဖွဲ့ကို ပြင် ဆင်လို၏။ နန်းရင်းဝန် တိုကီယိုရီကို ဘုရင့်ထံ အာဏာပြန်အပ်ရန် တိုက်တွန်း၏။ သူ၏ စကားကို နန်းရင်းဝန်က မလိုက်နာသောကြောင့် ဒိုဂျင်သည် ကမားကုရမြို့တော်ကို စွန့်ခွာ၍ တောနယ်တစ်ခုသို့ သွား ရောက်နေထိုင်၏။ နန်းရင်းဝန် တိုကီယိုရီသည် ဒိုဂျင်စိတ်ပြေစေရန် ထိုတောနယ်၌ မြေတစ်ကွက်လှူ၏။ ကမားကုရမှ ရဟန်းတစ်ပါးကို စေ လွှတ်၍ မြေလှူသော အမိန့်စာကို ပေးပို့စေ၏။ ထိုရဟန်းသည် ဒိုဂျင်၏ တပည့်ဖြစ်၍ ဝမ်းသာအားရဖြင့် ဒိုဂျင်ထံသို့ သွားလေ၏။ ဒိုဂျင်သည်

ထိုအမိန့်စာကို ရလျှင် ဒေါသအမျက် ပြင်းစွာထွက်၍ တပည့်ရဟန်းကို ချက်ချင်း မောင်းထုတ်လိုက်၏။ ထို့နောက် ထိုရဟန်း ထိုင်သွားသော ခုံကို ရိုက်ချိုးပစ်၏။ တစ်ဖန် မကျေနပ်သေးသဖြင့် ထိုင်ရဟန်းထောင်သော ထိုင်ခုံမှ နေရာမြေကို သုံးပေအနက်ထိတူး၍ မြေစာကို လွှင့်ပစ်၏။ ဤသို့ အစိုးရကို စိတ်ဓာတ်ပြင်းထန်စွာ ဆန့်ကျင်ပြရာ၌ ကြည်ညိုသူ ပိုများလာ၏။

ဤကား ဒိုဂျင်ဦးဆောင်သော ဆိုတိုဈင်ဂိုဏ်း ပေါ်လာပုံဖြစ်၏။

## (ဂ) ဖူကေးဈင်ဂိုဏ်း

ဤဂိုဏ်းကို ကကုရှင်တည်ထောင်သည်။ သာသနာ ၁၇၉၃ တွင် ကကုရှင်သည် တရုတ်ပြည်သို့ သွား၍ ဈင်တရားကို သင်ယူခဲ့၏။ ၁၇၉၉ တွင် ဂျပန်ပြည်သို့ ပြန်လာ၍ ခြေသလုံးအိမ်တိုင် နယ်လှည့်သံဃာ့ဂိုဏ်းကို တည်ထောင်၏။ ဤဂိုဏ်းဝင်တို့သည် လေကို အာဟာရပြု၍ နှင်းခဲပေါ်၌ အိပ်ရ၏။ နောင်အခါတွင် ဤဂိုဏ်းသည် ဘုရင်ကို လက်မခံသော စစ်သည်တော် အဖွဲ့အစည်းတစ်ခု (ရိုနင်) ဖြစ်လာ၏။ အစိုးရနှင့် လူထုကို အကူအညီပေးသော်လည်း ဘုရင်ကို ဆန့်ကျင်၏။ သာသနာ ၂၄၁၂ ခု တွင် ဂျပန်ဘုရင် အာဏာပြန်လည်ရရှိသောအခါ ဤဂိုဏ်းကို ဘုရင့် အမိန့်ဖြင့် ဖျက်သိမ်းလိုက်သည်။

## (ဃ) အိုဘာကုဈင်ဂိုဏ်း

သာသနာ ၂၁၉၈ တွင် အင်ဂျင်းက စတင်၍ တည်ထောင်ခဲ့၏။ ဤဂိုဏ်းမှာ ကျောင်းပေါင်း ၆၄၀ ရှိသည် ဆို၏။

## ဈင်ဝါဒ

ဈင်ဂိုဏ်းဝင်တို့သည် ဘုရားဟော သုတ် ဝိနည်း အဘိဓမ္မာဟု ဆိုအပ်သော ပိဋကတ်သုံးပုံကို လက်မခံကြချေ။ ဝိနည်း သိက္ခာပုဒ်များကို လည်း လိုက်နာကျင့်သုံးခြင်းမရှိချေ။ ဤသို့ ဗုဒ္ဓဒေသနာတော်ကို ပစ်ပယ်

သော ဈင်ဂိုဏ်းကို ဗုဒ္ဓဘာသာဂိုဏ်းဟု ခေါ်ရန် မသင့်ချေ။ ဈင်ဂိုဏ်းတို့၏ အကြောင်းပြချက်မှာ ဗုဒ္ဓထိုးထွင်းသိအပ်သော သစ္စာတရားသည် ဗုဒ္ဓဟောကြားသော ဒေသနာနှင့်မတူဟု ဆို၏။ ဒေသနာသည် ဝေါဟာရ စကားလုံးများ (ပညတ်) ဖြစ်၍ ဗုဒ္ဓ၏စိတ်ဖြင့် ထိုးထွင်းသိသော သစ္စာတရားကို မဖော်ပြနိုင်ဟု ဆို၏။ တရားနာပရိသတ်၌ ပုဂ္ဂိုလ်အမျိုးမျိုး ပါနေ၍ တရားနာပုဂ္ဂိုလ်ချင်း မတူညီမှုကြောင့်လည်းကောင်း၊ တရားဟောသူနှင့် တရားနာသူတို့ တည်ရာဒေသနှင့်ခေတ်ကာလ မတူညီမှုကြောင့်လည်းကောင်း ဝေါဟာရ စကားလုံးများက သစ္စာတရားကို မဖော်ပြနိုင်ဟု ယူဆကြသည်။

ထို့ကြောင့် ဈင်ဂိုဏ်းဝင်တို့သည် မိမိတို့တပည့်များအား တရားဟောခြင်း မပြုချေ။ အကယ်၍ ဟောပြောလျှင်လည်း ပြောင်းပြန် အဓိပ္ပာယ်အထူး ဖော်ပြနိုင်မည့် ဆန့်ကျင်ဘက် စကားလုံးများကို အသုံးပြု၍ ဟောပြောကြ၏။

တပည့်ဖြစ်သူများကို တစ်စုံတစ်ရာ ရှင်းပြမနေဘဲ တပည့်များကိုယ်တိုင် ကြိုးစား၍ သစ္စာတရားကို ရှာဖွေ၏။ အသံတိတ်ဆိတ်သော နေရာ၌ ကျောက်ရုပ်ကဲ့သို့ မလှုပ်မယှက် ထိုင်စေ၏။ သွားလာလှုပ်ရှား လုပ်ကိုင်ဆောင်ရွက်ရာ၌ အသံမထွက်အောင် ဂရုပြုရ၏။ ဆရာဖြစ်သူက မာန်မဲငေါက်ငမ်း၏။ နှာခေါင်းကို ဆွဲ၏။ တောင်ဝှေးဖြင့် ရိုက်၏။ ရှိသမျှ စိတ်ဓာတ်စွမ်းအားကို စုစည်း အသုံးချ၍ သစ္စာတရားကို ရှာဖွေရန် အတင်းအကျပ် စေခိုင်းရန်မှာ ဆရာ့တာဝန်ဖြစ်လေ၏။ ဈင်ဆရာကြီး၏ တာဝန်မှာ တပည့်များကို ဝါးရင်းတုတ်ဖြင့် ရိုက်ရန်၊ ရင်ဘတ်ကို ခြေထောက်ဖြင့် ကန်ရန်သာ ဖြစ်၏။ ဈင်ဆရာသည် တရားမဟောရ၊ နှုတ်ပိတ်ရေငုံ၍ တိတ်ဆိတ်စွာ နေရသည်။

တစ်ရံရောအခါ စေကိုတို (၁၂၄၄-၁၃၄၄) အမည်ရှိ ဈင်ဆရာကြီးကို တရားဟောပါရန် တပည့်များက တောင်းပန်ကြ၏။ ထိုအခါ စေကိုတိုသည် တရားဟောပလ္လင်သို့ တက်၍ ဤသို့ ဟော၏။

သုတ္တန်တရားကို ဟောပြရန် သုတ္တန်ပညာရှင်များ ရှိပြီးဖြစ်သည်။ အဘိဓမ္မာတရားကို ဟောရန် အဘိဓမ္မာဆရာများ ရှိပြီးဖြစ်သည်။ ငါသည် တစ်မူကား ဈင်ဆရာဖြစ်သည်ကို သင်တို့ နားလည်သင့်သည်ဟု ဆို၍ တရားဟောပလ္လင်မှ ဆင်းသွားလေသည်။

တိုကုစန်အမည်ရှိသော ဈင်ဆရာကြီးကို ရပ်ဝေးမှ ရောက်လာသော တပည့်ရဟန်းသည် လာရောက်ဦးချ၏။ ဦးချပြီး၍ စကားပြောရန် ပါးစပ်မဟမီ ဆရာကြီးက တောင်ဝှေးဖြင့် ရိုက်၏။ တစ်စုံတစ်ရာကိုမျှ မေးမြန်းခြင်း မပြုရသေးမီ အဘယ့်ကြောင့် ရိုက်သနည်းဟု မေး၏။

ထိုအခါ ဈင်ဆရာကြီးက "သင့်မှာ ပြောစရာတစ်ခုရှိလျှင် ငါ၏ တောင်ဝှေးဖြင့် အချက်သုံးဆယ်၊ ဘာပြောစရာမှမရှိလျှင် အချက်သုံးဆယ် ရိုက်မည်"ဟု မိန့်ကြားလိုက်၏။

ဘာဗိုရိုအိချိသည် တန်ခေတ်တွင် ဈင်ဆရာကြီး ဖြစ်၏။ စုအိယို မည်သော ရဟန်းတစ်ပါးက -

"ဗောဓိဓမ္မ တရုတ်ပြည်ကြွလာခြင်းမှာ မည်သို့အဓိပ္ပာယ်ရှိသနည်း" ဟု မေးမြန်း၏။ ဆရာကြီးသည် ထိုရဟန်း၏ ရင်ဘတ်ကိုခြေဖြင့် ပစ်ကန်လိုက်ရာ ပက်လက်လန် လဲသွား၏။

ထိုအခါ အကန်ခံရသော ရဟန်းသည် ဉာဏ်အလင်းပွင့်သွား၍ "အဘယ်မျှ ဆန်းကြယ်သနည်း၊ ကျမ်းဂန်တို့၌ ဖော်ပြထားသော အမှန်တရား အားလုံးသည် ဆံခြည်ပင် အဖျားပေါ်၌ ပေါ်လွင်ထင်ရှားနေသည်" ဟု ဝမ်းမြောက်ဝမ်းသာ ထုတ်ဖော်ပြောကြားလေသည်။

ဈင်ဆရာတို့သည် တောင်ဝှေးကို အသုံးပြု၍ တရားပြလေ့ရှိကြ၏။ တစ်ရံရောအခါ တရုတ်ဘုရင်တစ်ပါးသည် ဖူဒိုက်ရှိ အမည်ရှိသော ဈင် ရဟန်းတော်ကို နန်းတော်သို့ တရားဟောပင့်၏။ တရားဟော ခန်းမ ဆောင်တွင် ဘုရင်နှင့်တကွ ပရိသတ်ကြီးက အဆင်သင့် စောင့်နေကြ၏။ ဖူဒိုက်ရှိသည် ဣန္ဒြေသိက္ခာဖြင့် တရားဟောပလ္လင်၌ ထိုင်၍ မိမိရှေ့ရှိ

စားပွဲကို တောင်ဝှေးဖြင့် တစ်ချက်ရိုက်ပြီးနောက် ပြန်ကြွသွားလေ၏။ ဘုရင်ကြီးသည် အဓိပ္ပာယ်နားမလည်ဘဲ အံ့သြငေးမောနေရာ အနီးရှိ အဘိဓမ္မာဆရာတစ်ဦးက "အရှင်မင်းကြီး ဝဇိရပညာသုတ္တန် တရားတော် ပြီးဆုံးပါပြီ"ဟု လျှောက်ထားလေသည်။

## ကိုအန်နှင့်ဈာချင်

တရုတ်ပြည်တွင် ဆင္ဒ ဈင်သာသနာပိုင်နောက်၌ လင်ချိဂိုဏ်းနှင့် တာအိုတန်ဂိုဏ်း ဟူ၍ ဈင်ဂိုဏ်းကြီး နှစ်ခု ကွဲပြားလေ၏။ လင်ချိဂိုဏ်း၏ အဆက်အနွယ်သည် ဂျပန်ပြည်၌ ရင်ဇိုင်းဂိုဏ်း ဖြစ်လာ၏။ တာအိုတန်ဂိုဏ်း၏ အဆက်အနွယ်သည် ဂျပန်ပြည်၌ ဆိုတိုချင်ဂိုဏ်း ဖြစ်လာ၏။

ရင်ဇိုင်းဂိုဏ်းက ကိုအန်ခေါ် ပဟေဠိကို အသုံးပြု၏။ ဆိုတိုဂိုဏ်းက ဈာချင်ခေါ် ကမ္မဋ္ဌာန်းထိုင်နည်းကို သုံး၏။

## ကိုအန်

ကိုအန် = မေးခွန်း = ပြဿနာဖြစ်၏။ လျှို့ဝှက်သော ပဟေဠိပုစ္ဆာမျိုးဖြစ်၏။ တပည့်များ အကြံဉာဏ်ထုတ်၍ အဖြေမှန်ရှာရန် ဆရာက မေးသော ပဟေဠိဖြစ်၏။ ပုစ္ဆာကို တက္ကဗေဒနည်း, ယုတ္တိဗေဒနည်းကို သုံး၍ အဖြေမရှာရချေ။ အဖြေကို ရှာရင်း ရှာရင်း ကြာသော် အကြံဉာဏ်ကုန်၍ ရုတ်တရက် အလိုလိုဉာဏ်ပွင့်၍ အဖြေမှန် ပေါ်လာသည်ဟု ဆို၏။ ဆရာပေးထားသော ပဟေဠိပုစ္ဆာကို ယူ၍ တိတ်ဆိတ်စွာ ကမ္မဋ္ဌာန်းထိုင်၏။ နှုတ်မှ စကားမပြောရရုံမက သွားလာ လှုပ်ရှားရာ၌လည်းကောင်း၊ နေ့စဉ် စားသောက်မှုလုပ်ငန်းများ ဆောင်ရွက်ရာ၌လည်းကောင်း အသံမထွက်စေရ၊ စိတ်ကို ကြံစည်မှု ရပ်ဆိုင်းအောင် ကြိုးစားရ၏။ အဖြေရပြီဟု ယူဆပါက ဆရာ့ထံ သွားရောက် ပြောရ၏။ ဆရာလိုချင်သော အဖြေနှင့် မကိုက်ညီပါက တောင်ဝှေးဖြင့် အရိုက်ခံရလေ၏။ ထပ်မံ၍ ကမ္မဋ္ဌာန်းထိုင်ကာ အဖြေရှာရ၏။ အဖြေမရနိုင်ပြန်ပါကလည်း ဆရာ၏ ရိုက်နှက်ကန်ကျောက်ခြင်း ခံရပြန်၏။

ရှေးအစဉ်အလာက ဈာန်ပညာရှင်များ အသုံးပြုခဲ့သော ကိုအန် (ပဟေဠိ) များကို စုဆောင်း ရေးသားထားရာ ကိုအန် ၁၇၀၀ ရှိသည် ဆို၏။ ကိုအန် တစ်ခုကို ပုံစံထုတ်ပြရသော် -

ဆရာသည် တောင်ဝှေးကို တပည့်များအားပြ၍ "ဤအရာသည် တောင်ဝှေးမဟုတ်၊ ဤအရာကို ဘာခေါ်သနည်း။ ဤအရာကို တောင်ဝှေးဟု ပြောလျှင် သင်တို့သည် ဝန်ခံမှုပြုရာ ရောက်၏။ တောင်ဝှေး မဟုတ်ဟု ပြောလျှင် ငြင်းပယ်မှုပြုရာ ရောက်၏။ ဝန်ခံမှု, ငြင်းပယ်မှု မပြုဘဲ ဤအရာကို မည်သို့ခေါ်မည်နည်း"ဟု မေး၏။

ထိုအခါ တပည့်များထံမှ အဖြေမှန်သိသော ရဟန်းတစ်ပါး ပေါ် ထွက်လာ၍ နှုတ်မှ တစ်စုံတစ်ရာ မပြောဘဲ ဆရာ့တောင်ဝှေးကို ယူ၍ နှစ်ပိုင်းချိုးကာ လွှင့်ပစ်လိုက်လေသည်။

ရံခါ ဆရာဖြစ်သူက တပည့်များအား "သင်တို့မှာ တောင်ဝှေးရှိ လျှင် တောင်ဝှေးတစ်ခုကို ငါပေးမည်၊ သင်တို့မှာ တောင်ဝှေးတစ်ချောင်း မျှ မရှိလျှင် သင်တို့ထံမှ တောင်ဝှေးကို ငါယူမည်" ဟူသော ကိုအန်ကို မေးတတ်၏။

တစ်ရံရောအခါ ဈင်ဆရာကြီးတစ်ဦးက တပည့်များကို ရေအိုးတစ် လုံးကို ညွှန်ပြ၍ "ဤအရာကို အိုးဟု မခေါ်ရ၊ အဘယ်သို့ ခေါ်ရမည် နည်း"ဟု မေး၏။

တပည့်တစ်ဦးက "ဤအရာကို သစ်သားဟု မခေါ်နိုင်ပါ"ဟု ဖြေ၏။ ဆရာ့အလိုကျ အဖြေမှန် မဟုတ်ချေ။ အဖြေမှန်သိသော တပည့်တစ်ဦးက နှုတ်မှ တစ်စုံတစ်ရာ မပြောဆိုဘဲ ရေအိုးကို အောက်သို့ တွန်းချခွဲပစ် လိုက်၍ ထွက်ခွာသွားလေသည်။ စကားလုံးဖြင့် ဖော်ပြနိုင်စွမ်းမရှိသော သုညတာကို လက်တွေ့ရှင်းပြခြင်း ဖြစ်လေသည်။

## ဈာဈင်

ဈာဈင်မှာ သမာဓိရ၍ စိတ်တည်ကြည်အောင် ပြုလုပ်သောနည်း ဖြစ်၏။ စိတ်တည်ငြိမ်လာသောအခါ စိတ်သည် ကြည်လင်သော ရေမျက်

နှာပြင်၌ အရိပ်များ ထင်ဟပ်လာသကဲ့သို့ အမှန်တရားသည် စိတ်တွင် ပေါ်လာသည်။ ဈာချင်သမာဓိလုပ်ငန်းမှာ အာနာပါန အားထုတ်နည်း ပင် ဖြစ်သည်။ သို့ရာတွင် မူလဈင်ဆရာကြီး ဗောဓိဓမ္မကို အတုလိုက်၍ နံရံကို မျက်နှာမူပြီး ထိုင်ရသည်။ ဂျပန်တို့သည် ပုဆစ်တုပ်ထိုင်ကြရာ ကြာရှည်ထိုင်နိုင်စေရန် ခေါင်းအုံးငယ်တစ်ခုကို တင်ပါးနှင့် ဖနောင့် ကြားထား၍ ထိုင်လေ့ရှိ၏။ ထိုဈင်ကမ္မဋ္ဌာန်း ထိုင်ပုံထိုင်နည်းသည် ဂျပန် ယဉ်ကျေးမှု ဓလေ့ထုံးစံဖြစ်ကာ ယခုအခါ၌ ဂျပန်တို့သည် ခေါင်းအုံးငယ် ခု၍ ပုဆစ်တုပ်ထိုင်လေ့ရှိနေကြ၏။

အာဒိဗုဒ္ဓ

ဈင်ဂိုဏ်း၏ တရားပြနည်းမှာ စိတ်မှ စိတ်သို့ တိုက်ရိုက် ကူးပြောင်း ပေးခြင်းဖြစ်၏။ စကားဖြင့် ပြောပြ၍ မရ၊ စာဖြင့် ရေးပြ၍ မရ၊ မိမိ စိတ်ကို မြင်အောင် ကြည့်ရသည်။ မိမိစိတ် သဘာဝအမှန်ကို မိမိကိုယ် တိုင် သိမြင်သောအခါ ဗုဒ္ဓအဖြစ်သို့ ရောက်၏။ လက်ရှိခန္ဓာကိုယ်နှင့် စိတ်သည်ပင်လျှင် ဗုဒ္ဓဖြစ်သည်ကို တွေ့ရလေသည်။ သတ္တဝါအားလုံး သည် အစမူလကတည်းက ဗုဒ္ဓဖြစ်၍ အာဒိဗုဒ္ဓ မည်၏။ (အာဒိ=အစ ကတည်းက + ဗုဒ္ဓ=ဘုရား) ဥပမာ - ရေခဲနှင့်ရေ၊ ရေခဲသည် ကျွန်ုပ်တို့၏ လက်ရှိ ဘဝအခြေအနေနှင့် တူ၏။ ရေသည် အကျွန်ုပ်တို့၏ ဗုဒ္ဓဖြစ်သော အခြေအနေနှင့် တူ၏။ ရေခဲထဲတွင် ရေ၏သဘာဝ တည်ရှိနေသကဲ့သို့ သတ္တဝါအားလုံး၏ သန္တာန်ထဲ၌ ဗုဒ္ဓသဘာဝ တည်ရှိနေ၏။ ရေမရှိဘဲ ရေခဲဖြစ်မလာနိုင်။ ထို့အတူ ဗုဒ္ဓဓာတ်သဘာဝမှ သတ္တဝါနှင့် လောက ဓာတ်ကြီး ဖြစ်လာ၏။ ဤကမ္ဘာလောကကြီးသည် ကြာပလ္လင်ဖြစ်၍ သတ္တဝါသည် ဗုဒ္ဓဖြစ်၏။ အမှန်တရားဟူသည် သာမန်တရားသာဖြစ်၏။ အမှန်တရားသည် အထူးဝိသေသ မဟုတ်ချေ။ မြတ်သော ပညာသည် ပညာမဟုတ်ဟု ဆိုကြသည်။ အဖြူနှင့်အမည်း၊ ကုသိုလ်နှင့်အကုသိုလ်၊ စင်ကြယ်မှုနှင့်ညစ်နွမ်းမှုတို့ကို အပြန်အလှန် ထပ်တူပြုခြင်းသည် နက်နဲ သော သမာဓိ-ဘာဝနာ (ဈင်)၏ အကျိုးတရား ဖြစ်၏။

ဓမ္မကာယမှာ ပုံသဏ္ဌာန် မရှိသော်လည်း ပုံသဏ္ဌာန်အားလုံးသည် ဓမ္မကာယမှ ထွက်ပေါ်လာနိုင်သည်ဟု ဆို၏။

## ဈင်ယဉ်ကျေးမှု

ကမာကုရခေတ်၌ ဈင်ဝါဒ အထွန်းကားဆုံးဖြစ်၍ တရုတ်ယဉ်ကျေးမှု အားလုံးကို အမွေဆက်ခံ၏။ ဈင်ယဉ်ကျေးမှုသည် ဂျပန်တို့၏ ဗိသုကာပညာကို ဩဇာလွှမ်းမိုးထား၏။ ဘုရား ကျောင်း ဆောက်လုပ်ပုံမှ အစ လက်ဖက်ရည်ဆိုင် ပြတင်းပေါက် ပြင်ဆင်ပုံအထိ ဈင်ယဉ်ကျေးမှု ပါဝင်၏။ ဂျပန်တို့၏ ပျို့ကဗျာ စာပေ အနုပညာနယ်ပယ်၌လည်း ဈင်ဝါဒ ဩဇာလွှမ်း၏။ ဂျပန်တို့၏ ပန်းအလှပြင်နည်း၊ အိမ်တွင်း အလှပြုပြင်နည်း၊ ဟင်းရွက်ချက်ပြုတ်နည်း၊ ဧည့်သည်အတွက် လက်ဖက်ရည်ပွဲ တည်ခင်းနည်းများသည် ဈင်ယဉ်ကျေးမှု အမွေအနှစ်များ ဖြစ်ကြ၏။ ဈင်သည် ဂျပန်စစ်သည်သူရဲကောင်းများကို သေမင်းနှင့် ရင်ဆိုင်ရာတွင် ရဲရင့်အောင် ပုံသွင်း၏။ ဂျပန်တို့၏ ရိုးသားဖြူစင်မှု၊ ပွင့်လင်းမှု၊ ကိုယ်အမူအရာ, နှုတ်အမူအရာ နူးညံ့သိမ်မွေ့မှုတို့သည် ဈင်ဗုဒ္ဓဘာသာ၌ မြစ်ဖျားခံခဲ့ကြ၏။ ထို့ကြောင့် ဂျပန်ယဉ်ကျေးမှုကို 'ဈင်ယဉ်ကျေးမှု'ဟု ဆိုက မှားမည် မဟုတ်ချေ။

## ၉။ သုခဝတီ ဗျူဟာဂိုဏ်း

သုခဝတီခေါ် သုခဘုံကို ဂျပန်လို ဂျိုဒိုဟု ခေါ်၏။ ဂျပန်ပြည်တွင် ဆူယိကို ဘုရင်မကြီး (၁၁၃၇-၁၁၇၂) အုပ်စိုးစဉ်ကတည်းက အမိတာဘုရား ကိုးကွယ်မှု ရောက်ရှိလာပြီဟု ယူဆကြ၏။ အကြောင်းမူ ထိုခေတ်က မင်းသားကြီး ရှိုတိုကု၏ ရေးသားသော ကျမ်း၌ အမိတာဘုရား၏ သုခဝတီဘုံအကြောင်းကို တွေ့ရ၏။

ကိုရီးယားဘုန်းတော်ကြီး အိန်းသည် သာသနာ ၁၁၈၄ တွင် ဂျပန်နန်းတော်၌ သုံခဝတီဗျူဟာသုတ်ကို ဟောသည် ဆို၏။

တရုတ်ပြည် ဝိနည်းဂိုဏ်းမှ တရုတ်ဘုန်းကြီး ကန်ဂျင်းသည် သာသနာ ၁၂၉၈ ၌ နာရမြို့သို့ ကြွလာ၍ အမိတာကိုးကွယ်မှုကို ဟောကြား၏။ နာရခေတ်တွင် အမိတာကိုးကွယ်သောဂိုဏ်း စနစ်တကျ မရှိသေးချေ။ တင်ဒိုင်းဂိုဏ်းအတွင်း၌ အမိတာဘုရား ကိုးကွယ်နေကြလေပြီ။

အမိတာ ဘုရားရှိခိုးဂါထာကို ထိုင်လျက် ရွတ်ဖတ်နည်း၊ ရပ်လျက် ရွတ်ဖတ်နည်း နှစ်မျိုးပေါ်လာ၏။ သုခဝတီဘုံအကြောင်း ဖွဲ့ဆိုသော တေးဂီတများ စတင်ပေါ်လာ၏။ ထိုနာရခေတ်မှာပင် သုခဝတီ ဗျူဟာ ကျမ်းကို စတင်ရွတ်ဖတ်ကြ၏။

## (က) ဂျိုဒိုဂိုဏ်း

အမိတာ ကိုးကွယ်မှုဝါဒကို ဂိုဏ်းသီးခြားအဖြစ် ဟိုနင်က စတင် တည်ထောင်၏။ ဟိုနင်ကို ဝိုင်းဝန်းကန့်ကွက် ရှုတ်ချကြ၏။ ဟိုနင် သေ ပြီး၍ အလောင်းကို မြေမြှုပ်ပြီးသည့်နောက်မှာပင် ဆန့်ကျင်ရေးဘက် တော်သားများက ဟိုနင်အလောင်းကို ယူ၍ စော်ကားကြသည် ဆို၏။ ဟိုနင်တည်ထောင်သောဂိုဏ်းကို 'ဂျိုဒိုဂိုဏ်း' ဟု ခေါ်၏။

ဟိအေးတောင်ပေါ်ကျောင်း၌ သီတင်းသုံးသော ဘုန်းတော်ကြီး ဂျင်ရှင်းကလည်း အမိတာကိုးကွယ်မှု ကျမ်းစာတစ်စောင် ရေးခဲ့၏။ ထိုကျမ်း၌ အမိတာဘုရားအား ယုံကြည် ကိုးကွယ်သူများကို သုခဝတီ နတ်ပြည်၌ အမိတာဘုရားက ဆီးကြိုနေပုံ ပန်းချီကားနှင့် သုခဝတီနတ် ပြည် ပန်းချီကားများ ရေးဆွဲခဲ့၏။ ဤဂိုဏ်းဝင်များသည် ဗုဒ္ဓအမည်ကို အကြိမ်များစွာ ရွတ်ဆိုကြ၏။

## (ခ) ယူဇုနင်ဘုဆုဂိုဏ်း

ဂျိုဒိုဂိုဏ်းမှ ဘုန်းတော်ကြီး ရယိုနင်သည် တင်ဒိုင်းဂိုဏ်းနှင့် ဂျိုဒို ဂိုဏ်း ဝါဒနှစ်ခု ပေါင်းစပ်၍ ယူဇုနင်ဘုဆုဂိုဏ်းကို တည်ထောင်လေ၏။

(ယူဇု နင်ဘုဆု = အမိတာကို ယုံကြည်မှု စိမ့်ဝင်နေခြင်း) အမှန်စင်စစ် ဤဂိုဏ်း၏ဝါဒမှာ သဒ္ဓမ္မပုဏ္ဍရိကဝါဒနှင့် အမိတာကိုးကွယ်မှုကို ရောစပ်ထားခြင်း ဖြစ်၏။

တစ်စုံတစ်ယောက်က အမိတာဘုရားကို ပူဇော်လျှင် အခြားသူတစ်ယောက်မှာ ကောင်းကျိုးရနိုင်၏။ သူတစ်ပါးအတွက် ကုသိုလ်ပြုပေးနိုင်၏။ ကုသိုလ်ကို လွှဲပြောင်းနိုင်၏။ သူတစ်ပါးကို မိမိကုသိုလ်ဖြင့် ကယ်တင်နိုင်၏။ တစ်ဦးတည်း တရားကျင့်က တစ်သင်းတစ်ဖွဲ့လုံး နတ်ပြည်ရောက်နိုင်သည် ဆို၏။ ရယိုနင်သည် တံငါရွာသူကြီးတစ်ဦးကို တရားဟောရာ အမိတာဘုရားကို ယုံကြည်သော ရွာသူကြီးသည် ကရုကယ (မြက်မိုး) ခန်းမကို တည်ဆောက်၏။ ထိုခန်းမ၌ နေ၍ အမိတာဘုရားရှိခိုးဂါထာများ ရွတ်ကြ၏။ ထိုမှ ပြန့်ပွား၍ လမ်းတိုင်း၊ မြို့တိုင်း၊ ရွာတိုင်း၌ အမိတာဂါထာကို ရွတ်ကြရာ အသံမစဲ ဆူညံနေ၏။ ကမ္ဘဒ္ဒာန်းထိုင်လိုသူများက ကန့်ကွက်ကြ၏။ အိယေယဆု ဘုရင်ကြီးက အမိတာဂါထာကို ကရုကယခန်းမအတွင်း၌သာ ရွတ်စေဟု အမိန့်ထုတ်ရ၏။

ဤဝါဒမှာ ရယိုနင် သေဆုံးသော် တိမ်မြုပ်သွား၍ ဘုန်းတော်ကြီး ဟိုမျိုက ၁၈၆၅ ခုတွင် ပြန်လည်အသက်သွင်း၏။ ဤခေတ်၌ ဤဂိုဏ်းတည်ရာ ဗဟိုဌာနမှာ အိုဆာကာမြို့အနီးရှိ ဟိရနိုမြို့ငယ်၌ ဒိုင်နင်ဆုဂျီးဘုရားကျောင်း ဖြစ်၏။ ကျောင်းရံပေါင်း ၃၅၇ ရှိ၏။

ရှင်ရွှန်းဂိုဏ်း၏ ဗဟိုဌာနဖြစ်သော ကိုယဆံတွင် ဘုန်းတော်ကြီးကျောင်း ၆၆ ကျောင်းရှိရာ ရှေးအကျဆုံးကျောင်းဆောင်၌ အမိတာဘုရားပုံကို တွေ့ရ၏။ ထို့ကြောင့် ရှင်ရွှန်းဂိုဏ်းအနေဖြင့်လည်း အမိတာဘုရားကို ကိုးကွယ်သည်။

ကိုကျိုဒိုင်းရှိ (၁၆၄၀-၁၆၈၉) သည် ရှင်ရွှန်းဂိုဏ်းမှဖြစ်၍ အမိတာဘုရားကို ယုံကြည်မှုလွန်ကဲသဖြင့် ရှင်ရွှန်းဂိုဏ်းသစ် တည်ထောင်၏။ ကိုကျိုသည် သေလျှင် သုခဝတီဘုံ၌ ဖြစ်ရန် ဆုတောင်းသည်။

## (ဂ) ရှင်ဂိုဏ်း

ရှင်ရန်းအမည်ရှိသော ဂျပန်ဘုန်းကြီးက တည်ထောင်၏။ ရှင်ဂိုဏ်းဝင်တို့သည် အမိတာဘုရားကိုသာ ရှိခိုးကြ၏။ ဂေါတမဗုဒ္ဓကို ရှိမခိုးကြချေ။ ဝိနည်းစည်းကမ်းဥပဒေကိုလည်း လက်မခံချေ။ ရဟန်းဘဝကိုလည်း အသိအမှတ်ပြု တန်ဖိုးမထားချေ။ ဘုန်းကြီးဟူ၍ မရှိရ၊ အားလုံး အတူတူ လူသာမန်ကဲ့သို့ မကွဲမပြား တစ်သားတည်း နေကြရမည်ဟု ဆို၏။ အမိတာဘုရားကို စိတ်ထဲ၌ အောက်မေ့နေပါက ဘာသာရေးတာဝန်ကျေပြီဟု ဆို၏။ ဂျိုဒိုဂိုဏ်းကမူ ရဟန်းဘဝကို အသိအမှတ်ပြု၏။

## (ဃ) ဂျိဂိုဏ်း

အမိတာဘုရားကိုးကွယ်မှုကို လူထုအတွင်း၌ ပျံ့နှံ့အောင် ဝါဒဖြန့်သူမှာ ကူယ ဖြစ်၏။ ကူယသည် ဧကရာဇ်ဘုရင် ဒိုင်ဂို၏သား ဖြစ်၏။ သူသည် ကျေးလက်တောရွာများသို့ လှည့်လည်၍ တံတားဆောက်ခြင်း၊ ရေတွင်း ရေကန် တူးခြင်း စသည်ဖြင့် လူထုအကျိုးပြုလုပ်ငန်းများကို လုပ်၏။ သာသနာ ၁၄၈၂ ၌ မိမိကိုယ်တိုင် ရေးသားသီကုံးသော အမိတာဘုရား ရှိခိုးဂါထာကို တိုကျိုမြို့တော်လမ်းများ၌ လှည့်လည်ရွတ်ဆို၏။ ကျယ်လောင်စွာ ရွတ်ဆို၏။ ဂါထာကို ရွတ်၍ ဖလားတစ်လုံးကို တီးပြီးလျှင် လမ်းတိုင်း လှည့်လည်၍ က၏။ 'လမ်းလျှောက်ရသေ့ကြီး' ဟု ခေါ်ကြ၏။ သူသည် ရိုကုဟာရကျောင်းတိုက်ကို တည်ထောင်၍ ထိုကျောင်းတိုက်အတွင်း၌ မျက်နှာ ၁၁ ခုရှိသော ကွမ်နန် (အဝလောကိတေသရ) ရုပ်တုကြီး ပြုလုပ်၏။ ထိုရုပ်တု၌ ပိဋကစာပေများကို ဌာပနာ ထား၏။ ကူယ သေဆုံးပြီးနောက် ဂိုဏ်းသီးခြား မကျန်ရစ်ချေ။

သို့ရာတွင် အိပန် (၁၇၈၂-၁၈၃၃) သည် ကူယ၏ လုပ်ဆောင်ချက်ကို အတုယူ၏။ သဒ္ဓမ္မကုဏ္ဍရိကကျမ်းမှ အတွေးအခေါ် အချို့ကို ယူငင်၍ ၁၈၂၀ ခုနှစ်တွင် ဂျိဂိုဏ်းကို တည်ထောင်၏။ အိပန်သည် ၁၈၁၉ ခုနှစ်က ကိအီမြို့ရှိ ကုမနိုစေတီသို့ ဘုရားဖူးသွား၏။ ထိုစေတီစောင့် နတ်က

မေးသဖြင့် လေးကြောင်းရှိသော ဂါထာတစ်ခုကို ရခဲ့၏။ ပထမ သုံးကြောင်းရှေ့၌ (၆၊ ၁၀၊ ၁၀၀၀၀) ဂဏန်းများကို ရေးသားထား၍ နောက်ဆုံး စာကြောင်းရှေ့၌ 'လူထု'ဟု ရေးထား၏။ လူခြောက်သိန်းဟု အဓိပ္ပာယ်ကောက်ယူ၏။ အမိတာဘုရား ကိုးကွယ်သူ လူခြောက်သိန်း ရအောင် ဆောင်ရွက်ရမည်ဟု အဓိပ္ပာယ်ကောက်ယူ၍ နယ်လှည့်တရား ဟော၏။ သူသည် အမိတာဂါထာ ရွတ်နည်းတစ်ခုကို တီထွင်လိုက်၏။ ထိုဂါထာကို တစ်နေ့လျှင် ခြောက်ကြိမ် ရွတ်ရမည်ဟု ဆို၏။ (ဂျီ=အကြိမ်)

အမိတာဝါဒ အင်္ဂါလေးချက်

(၁) တင်ဒိုင်းဂိုဏ်း, ရှင်ဂွန်းဂိုဏ်းတို့၌ အမိတာသည် ဓျာနီဗုဒ္ဓ ငါးဆူတွင် တစ်ဆူဖြစ်၏။ အနောက်အရပ်ကို စိုးပိုင်၏။ အလယ်ရှိ ဘုရားမှာ မဟာဝေရောစန ဖြစ်၏။

(၂) ယူဇုနင်ဘုဆုဂိုဏ်းက အမိတာဘုရားကို ရှိခိုးပူဇော်၍ရသော ကုသိုလ်ကို သူတစ်ပါးအား လွှဲပြောင်းပေး၍ ရနိုင်သည်ဟု ဆို၏။

(၃) ဂျိုဒိုဂိုဏ်းကမူ သုခဝတီဗျူဟာကျမ်းနှင့်အညီ အမိတာဝါဒကို ဟောကြား၏။

(၄) ရှင်ဂိုဏ်းကမူ ယုံကြည်မှုကို ပဓာနထား၏။ ဂျိုဒိုနှင့် ရှင်ဂိုဏ်း တို့က အမိတာဘုရားသည် အလယ်ဗဟို၌ တည်သည်ဟု ဆို ကြ၏။

## ၁၀။ ရစ်ဆုဂိုဏ်း

ဂျပန်ဧကရာဇ်ဘုရင် ရှိမု (၁၂၆၈-၁၂၈၂) သည် ဂျပန်ရဟန်းနှင့် သီလရှင်များကို ဝိနည်းသင်ပေးဖို့ တရုတ်ပြည်မှ ဆရာတော်တစ်ပါးကို ပင့်ဆောင်ရန် အေးအေးနှင့် ဖူရှိအမည်ရှိ ရဟန်းနှစ်ပါးကို တရုတ်ပြည်သို့ စေလွှတ်၏။ ထိုအချိန်က တရုတ်ဘုရင် ရွှမ်ဆွန်းသည် တာအိုဝါဒကို

ဦးစားပေးနေ၏။ ဗုဒ္ဓဘာသာရဟန်းတော်များကို နိုင်ငံခြားသို့ မလွှတ်လိုချေ။ ဝိနည်းဂိုဏ်းချုပ်ဆရာတော် ဂန်ဂျင်းကိုကြွရန် ခွင့်မပြုသဖြင့် ၎င်း၏တပည့် တာအိုရှန်းကို ဂျပန်သို့ စေလွှတ်၏။ သာသနာနှစ် ၁၂၇၄ တွင် ဂျပန်ပြည်ရောက်၍ တာအိုရှန်းသည် ဆရာတော်ကို စောင့်ဆိုင်းလျက် စျင်တရား, တင်ဒိုင်းတရားနှင့် ဝိနည်းတို့ကို ဟောကြား၏။

ဝိနည်းဂိုဏ်းချုပ်ဆရာတော် ဂန်ဂျင်းသည် ဂျပန် ရဟန်းတော်နှစ်ပါးနှင့်အတူ ဂျပန်ပြည်သို့ လျှို့ဝှက်စွာ သွားရန် ကြံစည်နေ၏။ ဝန်ကြီးချုပ်ဟောင်း လီလင်ဖု၏ အကူအညီဖြင့် သင်္ဘောတည်ဆောက်ရာ ငါးကြိမ်တိုင်တိုင် မအောင်မြင်ချေ။ နောက်ဆုံး၌ ပြည်တော်ပြန် ဂျပန်သံအဖွဲ့၏ သင်္ဘောဖြင့် လိုက်ပါသွားရာ သာသနာနှစ် ၁၂၉၈ ခုနှစ်တွင် နာရမြို့တော်သို့ ရောက်၏။ ဂျပန်ဘုရင်က သူ့အတွက် တိုရှိုဒိုင်းရှိ ကျောင်းတော်ကြီး ဆောက်လုပ်လှူဒါန်း၏။ ရဟန်းခံရန် သိမ်ကိုလည်း ဆောက်လုပ်ပေး၏။

ထိုသိမ်၌ ဘုရင်မိသားစုနှင့်တကွ အမတ်ကြီးများပါ ရဟန်းခံကြ၏။ ဘုရင်မကြီးသည် ထိုသိမ်၌ ရဟန်းမိန်းမအဖြစ် ခံယူ၏။ ဤဂိုဏ်း၏ ဝိနည်းမှာ ဓမ္မဂုတ္တိယခေါ် စတုဗ္ဗိဓဝိနယ ဖြစ်၏။ ဤဂိုဏ်းကို ရစ်ဆုဂိုဏ်းဟု ခေါ်၏။

ဂျပန်ဘုန်းကြီး ဆိုင်ချို (၁၃၁၁-၁၃၆၉) သည် အထက်ပါနည်းအတိုင်း ရဟန်းခံပြီးနောက်မှ ပြန်လည်ငြင်းပယ်၍ ဗောဓိသတ္တ ရဟန်းခံနည်းကို တီထွင်၏။ သဒ္ဓမ္မပုဏ္ဍရိကကျမ်းနှင့်အညီ တီထွင်ကြသည်ဟု ဆို၏။ ထိုနည်းကို ဗုဒ္ဓဘာသာဝင်များက ကန့်ကွက်ကြ၏။ ဆိုင်ချို သေပြီးနောက်မှ ထိုရဟန်းခံနည်းကို ဘုရင်က အသိအမှတ်ပြု ခွင့်ပြု၏။ ဆိုင်ချိုနည်းဖြင့် ရဟန်းခံရာသိမ်ကို ဟိအေးတောင်ပေါ်၌ တည်ဆောက်လေ၏။

ရှင်ဂွန်းဂိုဏ်းကမူ ရဟန်းခံရာ သိမ်ကို မသုံးဘဲ ဆီလိမ်း ခန်းမဆောင်ကို သိမ်အစား သုံးကြ၏။

နောက်ပိုင်းအချိန်၌ မူလဝိနည်းဂိုဏ်းမှာ လူကြိုက်နည်းသွား၏။ အကြောင်းမူ အိန္ဒိယမှ အိချင်သယ်ယူခဲ့သော ဟီနယာနဝိနည်းနှင့် တင်ဒိုင်းဂိုဏ်းမှ မဟာယာနဝိနည်းများကို လက်ခံသူ များလာသောကြောင့် ဖြစ်၏။

ဂျပန်ပြည်တွင် ရဟန်းနှင့် ဗောဓိသတ္တဟူ၍ နှစ်မျိုးကွဲ၏။ သတ်မှတ်ထားသော ဝိနည်းသိက္ခာပုဒ်များကို ထိန်းသိမ်း လိုက်နာသူသည် ရဟန်းဖြစ်၏။ ဝိနည်းသိက္ခာပုဒ် မထိန်းဘဲ တရားကျင့်ရုံမျှ ကျင့်သူသည် ဗောဓိသတ္တ (ဘုရားလောင်း) ဖြစ်၏။ လူတို့ နေထိုင်စားသောက်ပုံနှင့် ဘာမျှ မထူးခြားချေ။

ဗောဓိသတ္တအတွက် ဝိနည်း၏ အနှစ်အရသာမှာ စိတ်စွမ်းအားဖြစ်၏။ သစ္စာအဓိဋ္ဌာန်ပြု၍ စိတ်ထဲ၌ ဖန်တီးထားသော စွမ်းအားဖြစ်၏။ ထိုစွမ်းအားကို သဗ္ဗတ္ထိဝါဒီဂိုဏ်းက မမြင်ရသော (အဝိညတ္တိ) ရုပ်ဟု ခေါ်၏။ သုတ္တန္တိကဂိုဏ်းကမူ ရုပ်နာမ်မှ အလွတ်ဖြစ်သော တရားထူးဟု ဆို၏။ ဝိညာဏဝါဒီဂိုဏ်းကမူ ရဟန်းခံစဉ်က သန္နေတည်ခဲ့သော သညာတစ်ခု ဖြစ်သည်ဟု ဆို၏။ မိမိအဓိဋ္ဌာန်ခဲ့သည့်အတိုင်း စိတ်ကို ထိန်းခြင်း ဖြစ်၏။

## ရဟန်းခံနည်းနှစ်မျိုး

ရှေးရိုးစဉ်လာ ရဟန်းခံနည်းနှင့် အဓိဋ္ဌာန်ရဟန်းခံနည်း ဟူ၍ နှစ်မျိုးရှိ၏။ ရှေးရိုးစဉ်လာနည်းမှာ ဥပဇ္ဈာယ်ဆရာနှင့် ကမ္မဝါစာဆရာ၊ ကာရကသံဃာတို့ ရှိရ၏။ ဥပဇ္ဈာယ်ဆရာမှာ ထိုရဟန်းအတွက် ကိုယ်ပိုင်နည်းပြဆရာဖြစ်၏။ ကမ္မဝါစာဆရာမှာ ရဟန်းခံစဉ် ကမ္မဝါစာဖတ်ပေးသော ရဟန်းတော်များ ဖြစ်၏။ ကာရကသံဃာမှာ လိုအပ်သော အရေအတွက် လုံလုံလောက်လောက် ရှိစေရန် အရံသံဃာတော်များ ဖြစ်၏။

ရဟန်းခံပွဲ၌ ရဟန်းလောင်းကို လိုအပ်ချက်များကို သင်ကြားပေး၍ မေးဖြေ စိစစ်ရ၏။ ထို့နောက် ကမ္မဝါစာကို ရဟန်းတော်သုံးပါးက သံပြိုင်

ဖတ်ရ၏။ ကမ္မဝါစာဖတ်ပြီးဆုံးလျှင် ရဟန်းအဖြစ်သို့ ရောက်၏။ မဟာယာနဂိုဏ်းကမူ ကမ္မဝါစာဖတ်ပြီးနောက် ဝိနည်းသိက္ခာပုဒ်များ (နိဿယ လေးပါးနှင့်အကရဏီယလေးပါး) ကို ဖတ်ကြားသောအခါ ရဟန်းတော်သစ်သည် ဝိနည်းဥပဒေများကို လိုက်နာစောင့်ထိန်းပါမည်ဟု ရှိသေစွာ အဓိဋ္ဌာန်ပြုရ၏။

အဓိဋ္ဌာန်ရဟန်းခံနည်းမှာ ထိုဝိနည်းဥပဒေ စည်းကမ်းများကို ထိန်းသိမ်းပါမည်ဟု မိမိတစ်ဦးတည်း အဓိဋ္ဌာန်ပြုခြင်းဖြစ်၏။

ဝေသာလီပြည်၌ သီရိမာလာမိဖုရားကြီးသည် ဤ အဓိဋ္ဌာန်ပြုနည်းဖြင့် ရဟန်းအဖြစ်သို့ ရောက်ကြောင်းကို သီရိမာလာသုတ်၌ ဖော်ပြထား၏။ ရှိုတိုကု မင်းသားကြီးသည် ဂျပန်နန်းတွင်း၌ ဘုရင်မကြီးနှင့် တကွ နန်းတွင်းသူ နန်းတွင်းသားအပေါင်းတို့အား သီရိမာလာသုတ်ကို နှစ်ကြိမ်တိုင်တိုင် ပို့ချ၏။ ဒုတိယအကြိမ် သင်ကြားပြီးသောအခါ ဂျပန်ဘုရင်မကြီး ဆူယီကိုသည် ဗုဒ္ဓရုပ်ပွားတော်ရှေ့၌ ရပ်၍ သီရိမာလာ၏ သစ္စာအဓိဋ္ဌာန်ချက်များကို ထပ်ကာထပ်ကာ ကျယ်လောင်စွာ ရွတ်ဆို၍ အဓိဋ္ဌာန်ပြု၍ ရဟန်းခံ၏။ ဤကား ဂျပန်ပြည်၌ ပထမဆုံး အဓိဋ္ဌာန်ရဟန်းခံနည်းကို စတင်ကျင့်သုံးခြင်းဖြစ်၏။ ဥပဇ္ဈာယ်ဆရာ, ကမ္မဝါစာဆရာ မရနိုင်သောအခါ ဤအဓိဋ္ဌာန်ရဟန်းခံနည်းကို သုံးနိုင်ကြောင်းကို မဟာယာနဂိုဏ်း၏ ဗြဟ္မဇာလသုတ်၌ ဖော်ပြထားသည်ဟု ဆိုထား၏။ ဤနည်းကို 'ဗောဓိသတ္တရဟန်းခံနည်း'ဟု ခေါ်၏။

တင်ဒိုင်းဂိုဏ်းနှင့် ဈင်ဂိုဏ်းကမူ ဝိနည်းသိက္ခာပုဒ်ဆိုသည်မှာ အထူးတလည် စောင့်ထိန်းနေရန် မလို၊ အတွင်းအဇ္ဈတ္တသန္တာန်၌ အစကတည်းက ပါလာသည်ဟု ဆို၏။ ထို့ကြောင့် ဈင်ဂိုဏ်းသားများသည် အတွင်းအဇ္ဈတ္တစိတ်ကို စူးစိုက်ကြည့်ခြင်းဖြင့် ဝိနည်းကို ကျင့်ပြီးဖြစ်သည်ဟု ဆို၏။ ဤဂိုဏ်းများ၌ မဏ္ဍလများကို အသုံးပြု၍ လျှပ်တစ်ပြက်ရဟန်းခံနည်းကို သုံး၏။ စိတ်ထဲ၌ ရုတ်တရက် ဖြတ်ခနဲ ဉာဏ်ပွင့်လင်းသွားပါက ရဟန်းဖြစ်ပြီဟု ဆို၏။

အထက်ပါ တင်ဒိုင်းဂိုဏ်းနှင့် ဈင်ဂိုဏ်း၏ ရဟန်းခံနည်းများကို ရှိတိုက မင်းသားကြီးက ပြုပြင်၍ ဗောဓိသတ္တရဟန်းခံနည်းကို တီထွင်၏။

ရှင်ဂွန်းဂိုဏ်း၌ ရဟန်းခံပုံမှာ ဆီမန်းလိမ်းပေးခြင်းဖြစ်၏။ ခရစ် ယာန် ကက်သလစ်ဂိုဏ်း၌လည်း ရဟန်းသိက္ခာတင်ရာ၌ ဆီသုတ်လိမ်း ပေးလေ့ရှိသည်ဟု ဆို၏။

အမိတာကိုးကွယ်သော ဂျိုဒိုဂိုဏ်းကမူ ခေါင်းတက်ကူးပြောင်းမှုနည်း ငါး နည်းဖြင့် ရဟန်းခံသည်။ မြန်မာနိုင်ငံ၌လည်း ပယောဂဆရာများသည် လက်ဝါးချင်းရိုက်၍ ဆရာ့အာဏာ လွှဲအပ်ပေးလေ့ရှိသည်။

ဂျပန်ဘုန်းတော်ကြီး အေးစံ (၁၇၄၅-၁၈၃၄)သည် ဝိနည်း (ရစ်ဆု ဂိုဏ်း)၏ သာသနာပိုင် ဂိုဏ်းချုပ်ဖြစ်၏။ ဂျပန်ကေရာဇ်ဘုရင် (Gouda = Kameyama) ၏ နန်းဦးဆရာတော်ဖြစ်၏။ သာသနာ ၁၈၂၅ ခုနှစ် တွင် တရုတ်ဘုရင် ကူဗလေခန်သည် စစ်သည်တော် တစ်သိန်းခန့် ပါဝင် သော ရေတပ်ကြီးဖြင့် ဂျပန်ပြည်ကို တိုက်ခိုက်ရန် ဂျပန်ပင်လယ်ကို ဖြတ်ကျော် ချီတက်လာ၏။ ဂျပန်ကေရာဇ်ဘုရင်သည် (အိဝရှိမိဇူ) ရှင်တို စေတီ၌ နိုင်ငံတော်အတွက် အသက်ကို စတေးပါမည်ဟု အဓိဋ္ဌာန်ပြု၏။ ကေရာဇ်ဘုရင်၏ တောင်းပန်ချက်အရ သာသနာပိုင် အေးစံသည် အိုတို ကိုယမစေတီ၌ ဂျပန်နိုင်ငံသားများကို စစ်ဘေးအန္တရာယ် လွတ်စေရန် အဓိဋ္ဌာန်ပြု သစ္စာဆို၏။ ထိုအချိန်တွင် ကူဗလေခန်၏ ရေတပ်ကြီးကား ပင်လယ်ပြင်တွင် လေမုန်တိုင်းဒဏ်ကြောင့် ဖရိုဖရဲ ပျက်စီးကာ တပ် ခေါက်ပြန်သွားရလေ၏။ သာသနာနှစ် ၁၈၃၄ တွင် အေးစံကို ဂျပန် ဘုရင်က ဗောဓိသတ္တ = (ဘုရားအလောင်း) 'ကိုရှို'ဘွဲ့ပေး၏။

တိုကုဂါဝရှိုဂန် (၂၁၄၇-၂၄၁၂)ခေတ်၌ ဗုဒ္ဓဘာသာ ပြန်လည် ဆန်းသစ်လာ၏။

## ၁၁။ နိချိရင်ဂိုဏ်း

ဤဂိုဏ်းသည် ဂျပန်ဘုန်းကြီး နိချိရင် (၁၇၆၆-၁၈၂၆) တည်ထောင် သော ဂိုဏ်းဖြစ်၍ တည်ထောင်သူအမည်ကို အစွဲပြု၍ ခေါ်ခြင်း ဖြစ်၏။

နီချီရင်သည် သဒ္ဓမ္မပုဏ္ဍရိက ကျမ်းရင်းအတိုင်း အတိအကျ ကျင့်သုံးလို၏။ သူသည် တင်ဒိုင်းဂိုဏ်းဝင်ဖြစ်၍ မိမိဂိုဏ်းကို ဝေဖန်ပြုပြင်ရာမှ ဂိုဏ်းသစ်တစ်ခု ကွဲထွက်ခြင်းဖြစ်၏။

ဂျပန်ပြည်တွင် ဟေးအန်ခေတ် (၁၃၃၈-၁၇၂၉)အဆုံး၌ တစ်တိုင်းပြည်လုံး စစ်ပွဲများကြောင့် ဖရိုဖရဲဖြစ်နေ၏။ ကမားကုရမြို့၌ စစ်အစိုးရတည်ထောင်လိုက်သောအခါ လူများစုက ငြိမ်းချမ်းရေးနှင့် ဥပဒေစိုးမိုးရေးကို ရရှိလိမ့်မည်ဟု မျှော်လင့်ထားကြ၏။ သို့ရာတွင် မျှော်လင့်သလို ဖြစ်မလာချေ။ နယ်စားအချင်းချင်း စစ်ပြိုင်မှုများ၊ လုပ်ကြံသတ်ဖြတ် မှုများ ဆက်လက်ဖြစ်နေ၏။ ထိုခေတ်ဆိုးကြီး၌ ဘာသာတရားကလည်း ပြည်သူလူထုကို ဦးဆောင်မှု မပေးနိုင်ချေ။ ဘာသာရေးဂိုဏ်းအသီးသီး၏ ဩဇာမှာ ကျဆင်းနေ၏။

ဟိုနင် ရှင်ရန်း စသူတို့ ဖြန့်ချိခဲ့သော အမိတာကိုးကွယ်မှုသည် လူထုအပေါ် ဩဇာအရှိဆုံး ဖြစ်နေ၏။ သို့ရာတွင် အထက်တန်းလွှာ မင်းဆွေမင်းမျိုးနှင့် စစ်သားများက လက်မခံကြချေ။ ဤဂိုဏ်းမှာ ကိုယ်ကျင့်တရားကို လုံးဝစောင့်ထိန်းခြင်း မရှိ။ မန္တန်ရွတ်ရုံမျှနှင့် အကုသိုလ်မှုတွေ ပပျောက်နိုင်သည်ဟု ယူဆရာ ဤဂိုဏ်းဩဇာလွှမ်းမိုးခံရသော ထိုခေတ် ဂျပန်ပြည်တွင် အကျင့်စာရိတ္တဘက်မှာ ထိုးကျသွားလေ၏။ ထို့ကြောင့် နီချီရင်သည် အမိတာကိုးကွယ်မှုကို အပြင်းအထန် ဝေဖန်တိုက်ခိုက်ခဲ့၏။

ဈင်ဝါဒမှာလည်း နှလုံးရည်ပြည့်ဝသော စစ်သားကောင်းဖြစ်စေရန် လမ်းညွှန်မှုပေး၍ စစ်အစိုးရ၏ စစ်ဗိုလ်လူတန်းစားကို ချဉ်းကပ်စည်းရုံးထား၏။ ဈင်ဂိုဏ်း၏ အကူအညီကြောင့် ဂျပန်လူထုသည် တရုတ်ယဉ်ကျေးမှုများကို ဂျပန်ပိုင် လုပ်နိုင်ခဲ့သည်။ သို့ရာတွင် ဈင်ဂိုဏ်းသည် အောက်ခြေလူထုကို မသိမ်းသွင်းနိုင်ခဲ့ချေ။

ရှင်ဂွန်း (တန္တရ မန္တရ) ဂိုဏ်းသည်လည်း လျှို့ဝှက်မန္တန် တန်ခိုး၊ ပယောဂအတတ်ပညာဖြင့် အောက်ခြေလူထုအပေါ်၌ ဩဇာလွှမ်းမိုးထား၏။

ရစ်ဆုခေါ် ဝိနည်းဂိုဏ်းမှာလည်း ဘုရင့်ဆရာတော် အေးစံ၏ သစ္စာအဓိဋ္ဌာန်ကြောင့် ကူဗလေခန်၏ ရေတပ်ကြီး ပျက်စီးသွားရာ ဆရာတော် အေးစံကို နန်းတော်က ကြည်ညို၏။ ထိုအချိန်က မည်သည့် ဂိုဏ်းကမျှ ဂျပန်ပြည်လုံးကို ဦးစီးချုပ်ကိုင်၍ တစ်ခုတည်းသော ဗုဒ္ဓဝါဒ လမ်းစဉ်မှန်ကို ချမှတ်မပြနိုင်ခဲ့ချေ။ တစ်ပြည်လုံးကို မစည်းရုံးနိုင်ခဲ့ကြ ချေ။

အကျင့်စာရိတ္တကောင်းမွန်ရေး, အမျိုးသားစည်းလုံးညီညွတ်ရေးကို တည်ဆောက်ရန်မှာ ဘာသာရေးပြုပြင်ပြောင်းလဲမှုကို ပထမဆုံးပြုလုပ်ရ မည်ဟု နိချီရင်က ဆို၏။

နိချီရင်သည် ဂျပန်ပြည်တောင်ပိုင်း ပင်လယ်ကမ်းခြေရှိ အာဝမြို့ အနီး ကိုမိနတိုရွာမှ တံငါသည်၏သား ဖြစ်၏။ ငယ်စဉ်က မိမိကျေးရွာ၏ ဘုန်းကြီးကျောင်းတွင် ကိုရင်ဝတ်၏။ ၁၅ နှစ်အရွယ်တွင် ရဟန်းခံ၏။ ထို့နောက် ကမားကုရမြို့တော်သို့ သွား၍ စာပေသင်ယူ၏။ တစ်ဖန် ဟိအေးတောင်ပေါ်ရှိ ဘုန်းကြီးကျောင်းတိုက်၌ ဆယ်နှစ်ခန့် စာပေသင် ယူ၏။ သူသည် တင်ဒိုင်း (သဒ္ဓမ္မပုဏ္ဍရိက) တရားသာလျှင် ဗုဒ္ဓဝါဒ အစစ်အမှန် ဖြစ်သည်ဟု ယူဆယုံကြည်၏။

တင်ဒိုင်းဂိုဏ်းသည် သဒ္ဓမ္မပုဏ္ဍရိကကျမ်းကို လက်ကိုင်ထားခဲ့သည် မှန်သော်လည်း ထိုအချိန်၌မူ တင်ဒိုင်းဂိုဏ်းဝင်တို့သည် တန္တရ မန္တရဝါဒ များကို လေ့လာလိုက်စားကြ၏။ အင်းအိုင်လက်ဖွဲ့ မန္တန်တို့ကို ရှေ့တန်း တင်နေကြ၏။ သဒ္ဓမ္မပုဏ္ဍရိကကျမ်းလာ သဘောတရားများကိုမူ ဘေး ချိတ်ထားကြ၏။ အမိတာဘုရားကို ကိုးကွယ်နေကြ၏။ နိချီရင်သည် ဤအမှားများကို ဖယ်ရှား၍ တင်ဒိုင်းဂိုဏ်းကို ပြုပြင်လို၏။

သာသနာနှစ် ၁၇၉၅ တွင် မိမိကျေးရွာကျောင်းသို့ ပြန်၍ သဒ္ဓမ္မ ပုဏ္ဍရိကတရားတော်သာလျှင် လူထုကို အဆိုးခေတ်ထဲမှ ကယ်တင်နိုင် မည်ဟု ကြေညာ၏။ "သဒ္ဓမ္မပုဏ္ဍရိကသုတ္တံ သရဏံ ဂစ္ဆာမိ ◦ သဒ္ဓမ္မ ပုဏ္ဍရိကတရားတော်ကို ဆည်းကပ်ကြလော့"ဟု နှိုးဆော်၏။ သဒ္ဓမ္မ

ပုဏ္ဏရီကတရားတော်သည် ဗုဒ္ဓ၏ နောက်ဆုံးဟောကြားချက် အစစ်မှန်ဆုံး တရားတော်ဖြစ်၍ သဒ္ဓမ္မပုဏ္ဏရီက တရားတော်ကို ကိုးကွယ်ဆည်းကပ်သူတိုင်းသည် ကယ်တင်ခြင်းခံရမည်ဟု ဟောပြော၏။ သူ၏ တရားကို ကျောင်းထိုင်ဘုန်းကြီးများက ဦးဆောင်ကန့်ကွက်ကြ၏။

သူသည် ကမားကုရမြို့တော်သို့ ထွက်ပြေး၍ တဲတစ်လုံး ဆောက်လုပ် နေထိုင်၏။ သူသည် လမ်းများနှင့် ပန်းခြံများ၌ သူ့ဝါဒကို ဟောကြား၏။ အခြားသော ဗုဒ္ဓဘာသာဂိုဏ်းများကို ယခင်ကထက် ပိုမိုပြင်းထန်စွာ ပုတ်ခတ် ဟောကြား၏။

အမျိုးသား လုံခြုံရေးအတွက် သစ္စာတရားတော် တည်ဆောက်ခြင်းအမည်ရှိသော စာအုပ်တစ်အုပ်ကို ရေး၍ ၁၈၀၄ ခုတွင် ဂျပန်ဘုရင် ဟိုဂျိုအား ပေးအပ်၏။

သူ၏ ကျမ်းထဲ၌ အမိတာကိုးကွယ်မှုကို စတင်တည်ထောင်သော ဟိုနင်ကို အပြင်းအထန်ရှုတ်ချ၏။ ဂျပန်လူထု၏ ဒုက္ခများ၊ ကျူးလွန်နေကြသော ဒုစရိုက်မှုများသည် အမိတာဘုရားကိုးကွယ်မှုကြောင့်ဟု ဆို၏။ ဟိုနင်သည် ဘုရားအားလုံး၏ ရန်သူဖြစ်၏။ ပါဠိတော် အားလုံး၏ ရန်သူဖြစ်၏။ ဤအမိတာကိုးကွယ်မှု မိစ္ဆာဝါဒကို နှိမ်နင်းရန် ဘုရင့်အစိုးရမှာ တာဝန်ရှိသည်။ ဤကိစ္စအတွက် လူကို သတ်သင့်က သတ်ရမည်ဟု ဆို၏။

သာသနာနှစ် ၁၀၅၀ နှစ်မှ နောက်ကို သာသနာတော်နောက်ပိုင်းခေတ်ဟု နိချိရင်က သတ်မှတ်၏။ ဂျပန်ပြည်၌ ကူဗလေခန် ကျူးကျော်မှု အပါအဝင် ဘေးဆိုး ကပ်ဆိုးကြီး ခုနစ်ကြိမ် ဆိုက်ရောက်ခဲ့ပုံကို သူ့စာအုပ်၌ ဖော်ပြထား၏။ သဒ္ဓမ္မပုဏ္ဏရီက တရားအမှန်ကို အခြေခံ၍ ဂျပန်တစ်မျိုးသားလုံး စည်းရုံးနိုင်ပါက ငြိမ်းချမ်းမှု၊ ကြွယ်ဝမှုကို ရမည်ဟု ဆို၏။

နိချိရင်သည် အခြားသော ဘာသာရေးဂိုဏ်းများကို ပုတ်ခတ်တိုက်ခိုက်၍ မိမိ ဂိုဏ်းသစ်ကို တည်ထောင်၏။ အမိတာ ကိုးကွယ်မှု (ဂျိုဒို

ဂိုဏ်း)သည် ငရဲပို့နေခြင်းဖြစ်၏။ ဈင်ဝါဒသည် နတ်ဆိုးဖြစ်၏။ ရှင်ဂွန်းဂိုဏ်း၏ တန္တရ မန္တရဝါဒသည် မျိုးဖျက်လမ်းစဉ်ဖြစ်၏။ ရစ်ဆုဂိုဏ်းကား သစ္စာဖောက်ဖြစ်သည်ဟု ရှုတ်ချ၏။ (၁၈၀၅) တွင် နိချိရင်ကို အိဇုမြို့သို့ နှင်လိုက်၏။ ထိုအခါ အခြားဂိုဏ်းများကို ပိုမိုပြင်းထန်စွာ ပုတ်ခတ်ပြောကြား၏။ တစ်ဖန် ကမားကုရမြို့တော်သို့ ပြန်လာခွင့်ရသောအခါ၌လည်းကောင်း၊ မိခင် မကျန်းမာ၍ ဇာတိရပ်ရွာ ပြန်သောအခါ၌လည်းကောင်း အခြားဘာသာရေးဂိုဏ်းများကိုသာမက အစိုးရဆန့်ကျင်ရေးကိုပါ ဟောပြောလေ၏။

မွန်ဂိုဘုရင့်ထံမှ စေလွှတ်လိုက်သော သံအဖွဲ့က ဂျပန်ဘုရင်ကို လက်ဆောင်ပဏ္ဏာ တောင်းခံနေချိန်တွင် မိစ္ဆာဒိဋ္ဌိများကို နှိမ်နင်းရန် ဘုရင်အား တောင်းဆို၏။ ဈင်ဝါဒအား ကိုးကွယ်သော နန်းရင်းဝန်ကြီး တိုကိယိုရီသည် သေလွန်၍ ငရဲရောက်နေပြီဟု ဟောပြော၏။ လက်ရှိဂျပန်ဘုရင်ကိုလည်း ငရဲသို့ ခြေတစ်ဖက်လှမ်းနေပြီဟု ဆို၏။ တစ်မျိုးသားလုံး ဆင်းရဲဒုက္ခမှ လွတ်ရန် သဒ္ဓမ္မပုဏ္ဏရိကကျမ်းကို တစ်နိုင်ငံလုံး ပြဋ္ဌာန်းသုံးစွဲရန် တောင်းဆို၏။

သာသနာနှစ် ၁၈၁၅ ခုတွင် နိချိရင်ကို ဖမ်း၍ ရုံးတင်ကာ သေဒဏ်ချမှတ်လိုက်၏။ တစ်ဖန် သေဒဏ်မှ လျှော့ပေါ့၍ ဆာဒိုကျွန်းသို့ ပို့ကာ နယ်နှင်ဒဏ်ခတ်၏။ ထိုကျွန်း၌နေစဉ် သူသည် ဗောဓိသတ္တဝိသိဋ္ဌ စာရိတ္တဖြစ်သည်ဟု ကြေညာလေ၏။ သစ္စာတရားတော်ကို ကာကွယ်ရန် ဗုဒ္ဓက သူ့အား တာဝန်ပေးခဲ့သည်ဟု ဆို၏။ သူရေးသားသော ကျမ်းများ၌ "ငါသည် ဂျပန်ပြည်၏ ကျောက်တိုင်၊ ဂျပန်ပြည်၏ မျက်လုံး၊ ဂျပန်ပြည်၏ လှေသင်္ဘောဖြစ်အံ့"ဟု အဓိဋ္ဌာန်ပြုချက်များ ရေးထား၏။

နယ်နှင်ဒဏ်ခတ်ပြီး သုံးနှစ်အကြာ ၁၈၁၈ တွင် ကမားကုရသို့ ပြန်လာခွင့်ရ၏။ အစိုးရဘက်က စေ့စပ်ညှိနှိုင်းသော်လည်း သူကားအလျှော့မပေးချေ။ သူသည် ဖူဂျီတောင်၏ အနောက်ဘက် မိနောကုသို့ သွားရောက် အနားယူနေ၏။ ၁၈၂၆ တွင် တိုကျိုမြို့အနီးရှိ အိဘောဂမိရွာတွင် ကွယ်လွန်သည်။

နိချိရင်၏ စစ်သွေးစစ်မာန်ပါသော ဝါဒကို သူ၏တပည့်ကြီးခြောက်ဦးက ဆက်လက် ထိန်းသိမ်း ဟောကြား၏။ နိချိရင်ဂိုဏ်းကွဲ တစ်ခုမှာ ဖုဂျူဖုဆေး အမည်တွင်၏။ အပေးအယူ အလျှော့အတင်းမလုပ်၊ မစေ့စပ်ရေးဂိုဏ်းဟု ဆိုလို၏။ ထိုဂိုဏ်းသည် ၂၁၅၈ ခုနှစ်တွင် တိုကုဂါဝ ရှိုဂူနိတ် အစိုးရက ခရစ်ယာန်ဘာသာနှင့် စပ်လျဉ်း၍ ထုတ်ပြန်သော နယ်မြေသတ်မှတ်ချက် အမိန့်ကို မလိုက်နာချေ။

မူလ နိချိရင်ဂိုဏ်းမှာ မိနိုဘူမြို့၌ ဌာနချုပ်တည်ရှိ၏။ ကျောင်း ပေါင်း ၃၆၀၀ ရှိ၏။ မြို့မန်ဂျီးဂိုဏ်းကွဲမှာ ကျောင်းပေါင်း ၅၈၀ ရှိ၏။

ဂျပန်ပြည်တွင် မေဂျီဘုရင်ခေတ် ရောက်သောအခါ ဘာသာရေး လွတ်လပ်ခွင့်ပေး၏။ ထိုအချိန်မှစ၍ ရှင်တိုဘာသာ ကြီးပွားတိုးတက်လာ၏။



# နီပေါပြည် ဗုဒ္ဓသာသနာသမိုင်း

နီပေါပြည်သည် သာကီဝင်မင်းတို့၏ မူလနေရာ တိုင်းပြည်ဖြစ်၏။ မြတ်စွာဘုရားဖွားတော်မူရာ လုမ္ဗိနီဥယျာဉ်မှာ နီပေါပြည်အတွင်း၌ ရှိ၍ အသောကမင်းကြီးက အထိမ်းအမှတ် ကျောက်စာတိုင်စိုက်ခဲ့၏။ နီပေါနိုင်ငံသည် အသောကမင်းကြီး၏ လက်အောက်ခံဖြစ်၍ အသောကမင်းကြီး၏ သမီးတော် စာရုမတီသည် နီပေါနိုင်ငံကို အုပ်ချုပ်သော အမတ်နှင့်လက်ထပ်ခဲ့၏။ ထိုသူတို့နှစ်ဦးတည်ဆောက်ခဲ့သော စေတီနှင့်ကျောင်းတော်ရာများ ယခုတိုင် ရှိသေး၏။

သာသနာနှစ် ၁၀၀၀ ခန့်တွင် ဝသုဗန္ဓုသည် နီပေါပြည်သို့ သာသနာပြု ခရီးလှည့်လည်ခဲ့သည်။ အလာဟာဗာဒ်ကျောက်စာတိုင်အရ လေးရာစုတွင် နီပေါပြည်သည် သမုဒ္ဒဂုတ္တဘုရင်၏ လက်အောက်ခံဖြစ်ခဲ့၏။

သာသနာနှစ် ၁၂၀၀ ခန့်တွင်မူ နီပေါပြည်ကို ဗုဒ္ဓဘာသာဝင် လိစ္ဆဝီမင်းများ အုပ်ချုပ်ကြောင်းကို တရုတ်ဘုန်းတော်ကြီး ဟူယင်ဆန်က မှတ်တမ်းတင်ခဲ့၏။

သာသနာနှစ် ၁၂၀၀ ခန့်တွင်မူ အံသုဝမ္မဘုရင်သည် ထာကူရီမင်းဆက်ကို တည်ထောင်၏။ ဗုဒ္ဓသာသနာတော်၏ ဒါယကာအဖြစ် ခံယူ၏။ ထိုဘုရင်သည် မိမိသမီးတော်ကို တိဗက်ဘုရင် ဆရွှန်ကျန်ဂံပိုအား ဆက်သ၏။ ပိဋကကျမ်းစာများကို သက္ကတဘာသာမှ တိဗက်ဘာသာသို့ ပြန်ဆိုရာ၌ နီပေါဘုရင်က အကူအညီများစွာ ပေးခဲ့၏။ နီပေါပြည်သည် တိဗက်ဘုရင်၏ လက်အောက်ခံဖြစ်၍ သာသနာ ၁၂၄၇ ခုတွင် လွတ်လပ်သော နိုင်ငံဖြစ်၏။ သာသနာ ၁၄၀၀ အတွင်း၌ အရှင်သန္တရက္ခိတခေတ်တွင် နီပေါနှင့်တိဗက် မဟာမိတ်များ ဖြစ်ကြ၏။

သာသနာနှစ် ၁၄၀၀ အတွင်း ဂေါ်ရခါးလူမျိုးတို့သည် နီပေါပြည်ကို ဝင်ရောက်တိုက်ခိုက် သိမ်းပိုက်လိုက်ကြသည်။ ယခုလက်ရှိ ဘုရင်များမှာ ဂေါ်ရခါးအနွယ်များဖြစ်ကြသည်။ ဂေါ်ရခါးတို့သည် ဟိန္ဒူဘာသာဝင်များ ဖြစ်ကြ၏။

သာသနာနှစ် ၁၈၀၀ ခန့်တွင် အိန္ဒိယပြည် မဂဓတိုင်း၌ ရတနရက္ခိတဆရာတော်သည် ဝိဇ္ဇာမယိဒ္ဓိ ပညာရှင်ဖြစ်၍ အကြားအမြင်ရသည်ဟု ဆို၏။ ကသ္မီရတိုင်း၌ ဆရာတော် သကျပဏ္ဍိတသည်လည်း ဝိဇ္ဇာမယိဒ္ဓိပညာရှင်ဟု ကျော်ကြား၏။ မဂဓတိုင်းကြီး ပျက်စီးမည့်အကြောင်းကို ရတနရက္ခိတသည် နှစ်နှစ်ကြိုတင်ဟောပြော၏။ သူ့စကားကို ယုံကြည်သူတို့သည် မဂဓတိုင်းမှ ကသ္မီရနှင့် နီပေါသို့ ရွှေ့ပြောင်းသွားကုန်၏။ သူဟောကိန်း ထုတ်လိုက်သည့်အတိုင်း နှစ်နှစ်အကြာတွင် မဂဓတိုင်းကို မူစလင်တို့ ဝင်ရောက်သိမ်းပိုက်လိုက်သည်။ ထိုအခါ ရတန ရက္ခိတသည် နီပေါပြည်သို့ ကြွ၏။ သကျပဏ္ဍိတကား တိဗက်ပြည်သို့ ကြွလေသည်။

နီပေါပြည်တွင် ဗုဒ္ဓဘာသာဘုန်းကြီးများသည် တန္တရဂိုဏ်းဝင်များဖြစ်ကြ၍ အိမ်ထောင်ပြုကြသည်။ အုပ်စိုးသူနှင့် ပြည်သူလူထုအများစုသည် ဟိန္ဒူများသာဖြစ်ကြ၍ ဗုဒ္ဓဘာသာဘုန်းတော်ကြီးများကို ဇာတ်မြင့် ဟိန္ဒူအမျိုးသားဟုသာ အသိအမှတ်ပြုကြ၏။ ထိုဗုဒ္ဓဘာသာဘုန်းကြီးအဆက်အနွယ်များကို 'ဗန်ရာ'ဟု ခေါ်၏။ ဘုရားကျောင်းပတ်လည်၌ ဗန်ရာအိမ်တော်များ ဝန်းရံ၍ နေကြ၏။

သကျမုနိ၊ အဝလောကိတေသွရ၊ အက္ခောဘ၊ မဉ္ဇုသိရိ စသော ဟီနယာနနှင့် မဟာယာန ဘုရားဆင်းတုများကို ဝတ်ကျောင်းကြီးအတွင်း၌ထား၍ ပူဇော်ကြ၏။

တန္တရနတ်များဖြစ်ကြသော ဟေရုက၊ ဟေဝဇိရတို့ကို သီးသန့်ဝတ်ကျောင်းငယ်များ၌ ထား၍ ကိုးကွယ်ကြ၏။ အမျိုးသမီးများသည် ဝတ်ကျောင်းအတွင်းသို့ ဝင်ခွင့်မရချေ။ ဝတ်ကျောင်းငယ်များသို့သာ ဝင်ခွင့်ရ၏။

ထိုဗုဒ္ဓဘာသာဝင် အဆက်အနွယ်တို့သည် ဘုရားဟောတရားတော်ကို တတ်သိနားလည်ခြင်း မရှိကြတော့ချေ။ ဘုရားဆင်းတုနှင့် နတ်ရုပ်များကို တန်းတူထား၍ ကိုးကွယ်ကြ၏။ ဗုဒ္ဓရုပ်တုများကို နေ့စဉ်မှန်မှန် ရှိခိုးဝတ်ပြုကြ၏။ နံနက်အချိန်တွင် ပန်းများ၊ ဆီမီး, ဖယောင်းတိုင်များ၊ အမွှေးတိုင်များ၊ အမွှေးနံ့သာများ၊ ခဲဖွယ်ဘောဇဉ်များ၊ အဝတ်တန်ဆာများ လှူဒါန်းကြ၏။ ဗုဒ္ဓနှင့်ဗောဓိသတ္တများအား ထောပတ်၊ ပျားရည်၊ ထမင်းတို့ဖြင့် ပူဇော်ကြ၏။ တန္တရနတ်ရုပ်များကို အသား, ငါး, အရက်ဖြင့် ပူဇော်ကြ၏။ တစ်ဖန် ညည့်ဦးပိုင်း၌ ဆီမီး, အမွှေးတိုင်တို့ဖြင့် ပူဇော်ကြ၏။

## မန္တန်သုံးမျိုး

နီပေါပြည်တွင် အောက်ဖော်ပြပါ မန္တန်သုံးခုသည် အလွန်ခေတ်စားလေ၏။ ကျောက်တုံးများပေါ်၌ ရေးထိုးလေ့ရှိကြ၏။

၁။ အုမ် ဗာဂီဆွရီမွမ်။

၂။ အုမ် မဏိ ပဒ္မေ ဟုံ။

၃။ အုမ် ဝဇိရပါဏိ ဟုံ။

နံပါတ် ၁ မန္တန်မှာ မဥ္ဇုသီရိ ဘုရားလောင်းသည် မိမိ၏ မိတ်ဖက်ဖြစ်သော သူရဿတီနတ်သမီးအား ခေါ်ခြင်းဖြစ်၏။

နံပါတ် ၂ မန္တန်မှာ အဝလောကိတေသွရ ဘုရားလောင်းက တာရာဒေဝီကို ခေါ်ခြင်းဖြစ်၏။

နံပါတ် ၃ မန္တန်မှာ ဝဇိရပါဏိ ဘုရားလောင်းနတ်သား၏ မန္တန်ဖြစ်၏။

နီပေါပြည်တွင် ယခုလက်ရှိ ဗုဒ္ဓဘာသာဂိုဏ်းကြီး လေးဂိုဏ်းရှိ၏။

၁။ သဘာဝိကဂိုဏ်း ။ သက်ရှိသက်မဲ့ အရာခပ်သိမ်း၌ မိမိကိုယ်ပိုင် သဘာဝရှိကြသည်ဟု ယူဆ၏။

၂။ ဣဿရိယဂိုဏ်း ။ အနန္တတန်ခိုးရှင် ဖန်ဆင်းရှင်ကို ကိုးကွယ်လေ၏။

၃။ ကမ္ဗိကဂိုဏ်း ။ ကံအကြောင်းတရားတစ်ခုကိုသာ ယုံကြည်လက်ခံ၏။

၄။ ယာတြိကဂိုဏ်း ။ (ယာတြာ ။ ယာတာ ။ လှည့်ပတ်သွားလာသူ) တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းသော အတ္တကောင်ရှိသည်ဟု ယူဆ၏။

ထိုဂိုဏ်းများအပြင် ဤခေတ်၌ မြန်မာနိုင်ငံတွင် ရဟန်းခံ၍ မိမိဒေသတွင် ပြန်လည် သာသနာပြုနေကြသော ထေရဝါဒ နီပေါရဟန်းတော်များနှင့် မြန်မာနိုင်ငံ၌ စာပေပိဋကတ် တတ်မြောက်အောင် သင်ယူ၍ မိမိဒေသတွင် သာသနာပြုနေကြသော နီပေါ သီလရှင် စာသင်တိုက်များလည်း ရှိနေကြသည်။



# တိဗက်ပြည် ဗုဒ္ဓသာသနာသမိုင်း

သာသနာ ၁၁၇၃ ခုတွင် နန်းတက်သော တိဗက်ဘုရင် စရွှန်ကျန် ဂံပို သည် တိဗက်တွင် အသောကမင်းဟု ဆိုလောက်၏။ ထိုဘုရင်သည် စစ်အင်အားကောင်း၍ အိမ်နီးချင်းနိုင်ငံများက လေးစားရ၏။ အိန္ဒိယ ပြည်တွင် ဟဿဘုရင်သည် တရုတ်ဘုရင်နှင့် မဟာမိတ်ဖြစ်၏။ တရုတ် ဘုရင် တာအိဆွန် ဒုတိယအကြိမ်စေလွှတ်သော သံအဖွဲ့သည် အိန္ဒိယသို့ ဟဿဘုရင် ကွယ်လွန်ပြီးမှ ရောက်၏။ နောက်တက်လာသော ဘုရင် သည် ထိုသံအဖွဲ့ကို လက်မခံဘဲ ငြင်းပယ်လိုက်၏။ တရုတ်ကေရာဇ်သည် တိဗက်ဘုရင်၊ နီပေါဘုရင်တို့နှင့်အတူ ပူးတွဲ၍ သုံးနိုင်ငံမှ စစ်တပ်ကြီး စေလွှတ်တိုက်ခိုက်၍ ဘုရင်ကို သုံ့ပန်းအဖြစ် တရုတ်ပြည်သို့ ဖမ်းဆီး ခေါ်ဆောင်သွားသည်ဟု ဆို၏။

နီပေါဘုရင် အံသုဝမ္မသည် သမီးတော် ဘြိကုဋိ (ခရီကျန်) ကို ထိုတိဗက်ဘုရင်အား ဆက်သ၏။ တရုတ်ဘုရင် တာအိဆွန်ကလည်း သမီးတော် ဝင်ချင်း (ကောင်ဂျို) ကို ဆက်သ၏။ ထိုနီပေါမင်းသမီးနှင့် တရုတ်မင်းသမီးတို့သည် မိမိတိုင်းပြည်မှ အက္ခောဘဘုရား၊ မေတ္တေယျ ဘုရားလောင်းနှင့် သကျမုနိ ဘုရားရုပ်တုများကို ယူဆောင်ခဲ့ကြကုန်၏။ ဘုရင်သည် ဗုဒ္ဓဘာသာဝင် ဖြစ်လာပြီးနောက် တိုင်းသူပြည်သားတို့ကို လည်း ဗုဒ္ဓဘာသာဝင် ဖြစ်စေ၏။ စရွှန်ကျန်ဂံပို နန်းမတက်မီ အနှစ် နှစ်ရာခန့်ကပင် တိဗက်ပြည်သည် အိန္ဒိယ၊ မြန်မာ၊ တရုတ်၊ ခိုတန်၊ မွန်ဂိုလီးယား စသော ဗုဒ္ဓဘာသာ အိမ်နီးချင်းနိုင်ငံတို့နှင့် ယဉ်ကျေးမှု အဆက်အနွယ်များ ရှိနေပြီဟု ဆို၏။

တိဗက်မှတ်တမ်းအရ အိန္ဒိယပြည်မှ သာသနာပြု ရဟန်းတော်များသည် တိဗက်ဘုရင် သိုသိုရိအား ဗုဒ္ဓကျမ်းစာများ လက်ဆောင်ပေးကြသည်ဟု ဆို၏။ သို့ရာတွင် တိဗက်တို့မှာ စာရေးစာဖတ် မတတ်သဖြင့် ထိုစာပေ၏အဓိပ္ပာယ်ကို မည်သူမျှ မဖော်ထုတ်နိုင်ချေ။ ထိုသို့ တိဗက်ပြည် အစစအရာရာ ခေတ်နောက်ကျနေသည်ကို ပြုပြင်လိုသဖြင့် စရွှန်ကျန်ဂံပို ဘုရင်သည် 'သွန်မိဆန်တို' အမည်ရှိသော အမတ်ကြီးတစ်ဦးနှင့် နောက်လိုက်နောက်ပါ ၁၆ ယောက်တို့ကို အိန္ဒိယတောင်ပိုင်း တက္ကသိုလ်ကျောင်းများသို့ စေလွှတ်၏။ အက္ခရာစာပေ အရေးအသားနှင့် သဒ္ဒါကျမ်းများကို လေ့လာစေ၏။ ထိုအမတ်ကြီး ပြန်ရောက်လာသောအခါ တိဗက်စာပေ အရေးအသား အက္ခရာတီထွင်၏။ တိဗက်သဒ္ဒါကျမ်းကို ရေး၏။ ဗုဒ္ဓစာပေကို သက္ကတဘာသာမှ တိဗက်ဘာသာပြန်ဆိုခဲ့၏။

စရွှန်ကျန်ဂံပိုသည် ဗုဒ္ဓဘာသာ သုစရိုက်တရားဆယ်ပါးနှင့် ညီအောင် တိဗက်ဥပဒေရေးဆွဲ၏။ လာဆာမြို့တော်၌ ရမိုချေနှင့် ဂျော့ကန်ဘုန်းကြီး ကျောင်းတိုက်ကြီးနှစ်ခု ဆောက်ခဲ့၏။ ပိုတာလနန်းတော်ကိုလည်း တည်ဆောက်ခဲ့၏။ စရွှန်ကျန်ဂံပိုဘုရင်ကား အစ္စလာမ်ဘာသာကို စတင်တည်ထောင်သူ မိုဟာမက်၊ ကနော့ဇတိုင်းပြည်မှ ဟဿဘုရင်၊ နာမည်ကျော် တရုတ်ခရီးသည် ယွန်ချွမ်တို့နှင့် ခေတ်ပြိုင်ဖြစ်လေ၏။ သာသနာ ၁၁၉၄ ခုတွင် ထိုဘုရင်ကွယ်လွန်ပြီးနောက် တိဗက်ပြည်တွင် ဗုဒ္ဓသာသနာ အမြစ်မတွယ်နိုင်ချေ။ တစ္ဆေသရဲကိုးကွယ်သော တိုင်းရင်းသား ဘွန်ဝါဒနှင့် အားပြိုင်လွန်ဆွဲရ၏။ ထိုတိုင်းရင်းသား ဘွန်ဝါဒနှင့် ရောနှော၍ ဗုဒ္ဓသာသနာမှေးမှိန်သွား၏။

သာသနာနှစ် ၁၂၄၉ ခုတွင် 'ခရိကျပ်ဒေဗကျန်' မင်းသည် ခိုတန်ပြည်မှ ဘုန်းကြီးများကို ပင့်၍ ကျောင်းဆောက်ကိုးကွယ်၏။ ကျမ်းဂန်များကို တိဗက်ဘာသာပြန်စေ၏။ သို့ရာတွင် တိဗက်သားရဟန်း မရှိသဖြင့် အမြစ်မစွဲသေးချေ။ စရွှန်ကျန်ဂံပို နောက် ငါးဆက်မြောက် ဘုရင်ခရိစရွှန်ဒေဗကျန်သည် ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာ ပြုလုပ်၏။ တိုင်းရင်းသား 'ဘွန်'ဂိုဏ်းဝင် အရာရှိများက ပြင်းပြင်းထန်ထန် ကန့်ကွက်

ကြ၏။ ထိုဘုရင်သည် နာလန္ဒတက္ကသိုလ် ကျောင်းအုပ်ဆရာတော် သန္တရက္ခိတကို တိဗက်သို့ပင့်၏။ ဗုဒ္ဓဘာသာမူရင်းစစ်စစ် တရားတော်ကို ဟောကြားစေ၍ ပြည်သူလူထုကို ဗုဒ္ဓဘာသာဝင်စစ်စစ် ဖြစ်စေလို၏။ သန္တရက္ခိတသည် အဟောအပြော ကောင်းသော်လည်း တိဗက်လူထုက နားမဝင်ချေ။ ထိုအချိန်တွင် တိဗက်ပြည်၌ လေမုန်တိုင်းကျခြင်း၊ ကပ်ရောဂါများဆိုက်ခြင်း ဖြစ်ပေါ်လာရာ ဤသို့ဖြစ်ရခြင်းမှာ သန္တရက္ခိတ ဟောသော တရားကို တိဗက်နတ်များက မကျေနပ်၍ ဒဏ်ခတ်သည်ဟု ပြည်သူလူထုက စွပ်စွဲကြ၏။ ထိုသို့ လူထု မကျေနပ်မှုကြောင့် ဘုရင်သည် ဆရာတော် သန္တရက္ခိတကို ပြန်ကြွစေ၍ နီပေါပြည်၌ ခေတ္တ သီတင်းသုံးစေ၏။

ဆရာတော် သန္တရက္ခိတသည် ဂါထာ မန္တရားနှင့် စုန်း ပယောဂ နိုင်နင်းသော တန္တရဂိုဏ်းဝင် ဆရာတော်တစ်ပါးကိုပင့်ရန် အကြံပေးခဲ့၏။

## ပဒမသမ္ဘဝ

ထို့ကြောင့် တိဗက်ဘုရင်သည် တန္တရဂိုဏ်းဆရာတော် ပဒမသမ္ဘဝကို ပင့်ရ၏။ ပဒမသမ္ဘဝကား ဥဒျာနနယ်၌ မွေးဖွား၍ ဗုဒ္ဓဂယာ၌ ပညာသင်ခဲ့၏။ ပညာစုံသောအခါ သာသနာပြု ခရီးလှည့်လည်ခဲ့သည်။ သူသည် တိဗက်ပြည်သို့ ရောက်သောအခါ မကောင်းဆိုးဝါး တစ္ဆေသရဲများကို နှိမ်နင်းအောင် မြင်၏။ တိဗက်လူမျိုးများက ယခုအချိန်အထိ ပဒမသမ္ဘဝကို ဂုရုကြီး၊ မဟာအာစရိယဆရာကြီးဟု ခေါ်ကြ၏။ တိဗက်ဘုရင်က ပဒမသမ္ဘဝအား နန်းတော်သူများကို ဇနီးအဖြစ် ပေးထား၏။ ပဒမသမ္ဘဝသည် 'တာမာ'ခေါ်သော စာပေများကို ရေး၍ ဂူထဲ၌ ဝှက်ထားခဲ့၏။ သူ့နောက်၌ ဆက်ခံမည့်တပည့်များအကြောင်းကို ကြိုတင်ဟောကြားချက် ဖြစ်၏။ သူကွယ်လွန်သောအခါ တပည့်ကြီး ၂၅ ဦးက စုန်း ကဝေ မှော်ပညာ ပယောဂများ ဖြန့်ချိကြ၏။ ထိုခေတ်က ခရိစရွန်ဒေဗကျန်သည် တရုတ်စစ်တပ်ကို အောင်နိုင်သဖြင့် ပိုတာလနန်းတော်ရှေ့၌ ကျောက်စာတိုင် စိုက်ထူခဲ့၏။ လာဆာမြို့တော်မှ မိုင်သုံးဆယ်ခန့်အကွာ၌ ဆံယီခေါ်သော ဘုန်းကြီးကျောင်းတိုက်ကို ဆောက်လုပ်၍ သန္တရက္ခိတ

ဆရာတော်ကို ပြည်လည်ပင့်ဆောင်လျှ၏။ သန္တရက္ခိတသည် ပိဋကစာပေ တိဗက်ဘာသာပြန်လုပ်ငန်းကို ဆက်လက်လုပ်ကိုင်၏။ ဘာသာပြန်ပြီး ကျမ်းများကို စာအုပ်စာရင်း ပြုစုထား၏။ သာသနာ ၁၃၀၀ ခန့်၌ သန္တ ရက္ခိတ ပျံလွန်၏။

## ကမလသီလ

ထိုအချိန်တွင် တိဗက်ပြည်၌ တရုတ်ရဟန်းတော်များ ဟောကြား ခဲ့သော သုညဝါဒက တွင်ကျယ်၍ အထက်စီးရနေလေ၏။ ဘုရင်သည် ထိုသုညဝါဒကို ယှဉ်ပြိုင်နိုင်ရန် သန္တရက္ခိတ၏တပည့် နာလန္ဒတက္က သိုလ်မှ ကမလသီလကို ပင့်၏။ ကမလသီလသည် တပည့်ပရိသတ်နှင့် ကြွလာ၍ ဘုရင့်ရှေ့မှောက်၌ နှစ်ဦးနှစ်ဖက် စကားစစ်ထိုးရ၏။ တရုတ် ဘုန်းကြီးများ ရှုံး၍ မခံမရပ်နိုင် ဖြစ်ကာ လူမိုက်ငှား၍ ကမလသီလကို သတ်လေ၏။ ကမလသီလ၏ ရုပ်အလောင်းကို ဆေးစိမ်၍ လာဆာမြို့ တော် ဘုန်းကြီးကျောင်းတိုက်တစ်ခုအတွင်း သိမ်းဆည်းထားရာ ယခု အထိရှိ၏။ ဘုရင်ကြီးသည် စိတ်နှလုံးကြေကွဲ၍ မကြာမီ နတ်ရွာစံလေ၏။ ခရိစရွှန်ဒေဗကျန်သည် ရဲရင့်၏၊ ဉာဏ်ပညာကြီး၏။ မဉ္ဇူသီရိဘုရား လောင်း ဝင်စားသည်ဟု ပြည်သူတို့က ယုံကြည်၏။

## မုနေဗကျန်ပို

ခရိစရွှန်ဒေဗကျန်ဘုရင် ကွယ်လွန်သော် သူ၏သားတော် မုနေဗ ကျန်ပို နန်းတက်၏။ ထိုဘုရင်သည် ဝိညာဏဝါဒီ ဖြစ်၏။ လွန်စွာ သနားကြင်နာတတ်သည့်အပြင် စိတ်ကူးလည်း အလွန်ယဉ်၏။ ဆင်းရဲ သားများ၏ ဒုက္ခကို မကြည့်နိုင်၊ ချက်ချင်း ချမ်းသာစေလို၏။ နန်းတက်၍ မကြာမီပင် ပြည်သူလူထုအပေါင်းကို ဆင်းရဲချမ်းသာ မကွဲပြားစေလို သဖြင့် ချမ်းသာသူတို့၏ ပစ္စည်းဥစ္စာတို့ကို သိမ်းယူ၍ ဆင်းရဲသားတို့အား ဝေငှပေး၏။ သူ၏လုပ်ဆောင်ချက်သည် အရာမထင်ချေ။ အကြောင်းမူ ပျင်းရိ ဉာဏ်နည်း ကံမွဲသူတို့မှာ တစ်ဖန် ပြန်လည်၍ ဆင်းရဲမြဲတိုင်း ဆင်းရဲပြန်၏။ သူသည် အားမလျှော့ဘဲ နောက်တစ်ကြိမ် သာတူညီမျှ

ဝေငှရေး လုပ်ပြန်၏။ သုံးကြိမ်ရှိလတ်သော် ပြည်သူအပေါင်း စိတ်ဆင်းရဲသည်ကို မမြင်လိုသောကြောင့် ဘုရင့်မယ်တော်ကြီးကပင် အဆိပ်ခတ်၍ သတ်လေ၏။

ထိုဘုရင်သေသော် ထိုဘုရင်၏ညီတော် ခရိလ်ဒေစရွန်ဗကျန် နန်းတက်၏။ သူသည် သက္ကတဘာသာမှ တိဗက်ဘာသာပြန်လုပ်ငန်းများကို ထောက်ပံ့ခဲ့၏။ သာသနာ ၁၃၅၈ တွင် သက္ကတတိဗက် အဘိဓာန် (မဟာဗျုပ္ပတ္တိ) ကျမ်းကို ထုတ်ဝေနိုင်၏။

**ရာလ်ပချန် (၁၃၆၀-၁၃၈၂)။** ။ထိုဘုရင်၏ သားတော်နှစ်ယောက်ရှိရာ သားအကြီးသည် ဗုဒ္ဓဘာသာကို မယုံကြည်သူဖြစ်၍ ဖခင်၏ အရိုက်အရာကို မခံရချေ။ သားအငယ် ရာလ်ပချန်ကို နန်းတင်ကြ၏။ သူ့လက်ထက်၌ တိဗက်ဗုဒ္ဓဘာသာ ရွှေခေတ်ဟု ဆိုကြ၏။ သူသည် သားငယ်ကို သာသနာတွင်းသို့ သွတ်သွင်းလေ၏။ အုပ်ချုပ်ရေးအာဏာအချို့ကို ရဟန်းတော်များအား ခွဲပေး၏။ တရားဟော ဆရာတော်အတွက် ထိုင်ရန် သူ၏ဆံပင်ကို ဖြန့်ခင်းပေး၏။ ဘုန်းကြီးကျောင်းများအနေဖြင့် လယ်ယာသီးစားခ ကောက်ယူခွင့်ရရှိ၏။

ဤသို့ ဗုဒ္ဓသာသနာအပေါ် အလွန်အမင်း အားပေးချီးမြှင့်ခြင်းကို မနာလို ဝန်တိုသူ မှူးမတ်များသည် နောင်တော် မင်းသားကြီး လံဓရ်မနှင့် ပေါင်း၍ ရာလ်ပချန်ကို လုပ်ကြံသတ်ဖြတ်လိုက်သည်။

**လံဓရ်မ (၁၃၈၂-၁၃၈၅)။** ။လံဓရ်မ နန်းတက်သောအခါ ဗုဒ္ဓဘာသာ ဆန့်ကျင်သူတို့ကို အထက်တန်း ရာထူးကြီးများ ပေး၏။ ဘုန်းကြီးကျောင်းများကို ဖျက်ဆီး၏။ ပိဋက ကျမ်းစာများကို မီးရှို့ပစ်၏။ ဗုဒ္ဓရုပ်တုများကို မြေမြှုပ်ပစ်၏။ ဗုဒ္ဓဘာသာဆိုင်ရာ အခမ်းအနားများ၊ ရှင်ပြု ရဟန်းခံ ဥပုသ်စောင့်မှုများကို တားမြစ်ပိတ်ပင်၏။ အချို့ဘုန်းကြီးများကို အိန္ဒိယသို့ နှင်ထုတ်၏။ အချို့ ရဟန်းများကို လူထွက်စေ၏။ မုဆိုး တံငါ သားသတ်သမား လုပ်စေ၏။ ထိုသို့

သာသနာဖျက်ဘုရင် နန်းတက်၍ သုံးနှစ်အကြာ၌ လားမား ဘုန်းတော်ကြီးတစ်ပါးသည် နန်းတော်တွင်း ရောက်အောင် မြင်းစီးဝင်ရောက်၍ ဘုရင်ကို မြားဖြင့် တစ်ချက်တည်း ပစ်သတ်ခဲ့သည်။

လံဓရ်မသည် ဗုဒ္ဓဘာသာဝင် လူထုကို ရက်စက်စွာ ဖိနှိပ်မှုကြောင့် လူထုကြီးတစ်ရပ်လုံး ဒေါသရမ်းအိုးပေါက်ကွဲကာ မင်းဆွေစိုးမျိုးတို့ကို လက်စားချေကြ၏။ ပြည်နှင်ဒဏ်ခံရသော ရဟန်းတော်များသည် လာဆာမြို့တော်သို့ ပြန်လာကြ၏။ ရဟန်းသံဃာတို့ကို လူထုက ပိုမို ကရုဏာသက်ကြ၏။ အားပေးထောက်ခံသူ များလာ၏။ မှော်ဝိဇ္ဇာ ပယောဂ ဘုန်းကြီးများ ကြီးစိုး၏။ ဘုရင်၏ အုပ်ချုပ်ရေးအာဏာကို မလိုက်နာကြသဖြင့် ဘုရင့်အုပ်ချုပ်ရေးစနစ် ပျက်စီးရ၏။ ဘုရင့်အာဏာ ကျဆင်းလာ၍ နောက်ဆုံးဖြစ်သော ပလ်ခေါ်ဗကျန် (၁၄၅၀-၁၄၆၇) သည် လာဆာမြို့တော်မှ ထွက်ခွာသွားရ၏။ တိဗက်ပြည်အနောက်ပိုင်း၌ လာဒက်, စပုရန်း, ပုဂေး နယ်သုံးနယ် စုစည်း၍ ပြည်နယ်တစ်ခု ဖွဲ့စည်း အုပ်ချုပ်၏။ ထိုနယ်သုံးနယ်ကို သားတော်သုံးယောက်အား အမွေပေးခဲ့၏။ ထိုဘုရင့်အဆက်အနွယ်တို့သည် ဗုဒ္ဓဘာသာကို အားပေးထောက်ပံ့ကြ၏။ ရဟန်းတော်များကို ကသ္မီရသို့ ပညာတော်သင် လွှတ်ကြ၏။ ဗုဒ္ဓစာပေများကို သက္ကတဘာသာမှ တိဗက်ဘာသာပြန်ကြ၏။

**အတိဆာ (ဒီပင်္ကရဉာဏ ၁၅၂၄-၁၅၉၇)။** ။အထက်ပါ မင်းဆက်တွင် 'ခေါ်ဂ္ဂဒေ' ဘုရင်သည် ညီတော်အား ထီးနန်းစွန့်၍ မိမိသားတော်နှစ်ပါးနှင့်အတူ ရဟန်းပြု၏။ ရဟန်းဘွဲ့ ဉာဏပဘာ မည်၏။ ဉာဏပဘာသည် ဝိက္ကမသီလာ တက္ကသိုလ်ကျောင်းအုပ် ဆရာတော် အတိဆာ (ဒီပင်္ကရဉာဏ)ကို တိဗက်ပြည်သို့ ကြွရောက် သီတင်းသုံး၍ စာပေပို့ချပါရန် တောင်းပန်၏။ အတိဆာသည် ဘင်္ဂါနှင့် ဘီဟာနယ်ရှိ တန္တရစာပေ ပိဋကများကို သယ်ဆောင်ယူခဲ့၍ တိဗက်ပြည်၌ စာပေသင်ကြားပို့ချ၏။ ထိုအချိန်မှစ၍ တိဗက်တွင် စာပေပရိယတ္တိ အခြေခိုင်လှဲ့၍ စနစ်တကျ ကိုးကွယ်မှု

အခြေခိုင်လာ၏။ ယခုအခါ လာဒက်ဒေသတွင် အုပ်ချုပ်နေသော ဘုရင်များသည် လာဆာမြို့တော်မှ စရွှန်ကျန်ဂံပို၏ အဆက်အနွယ်များပင် ဖြစ်၏။

အတိဆာသည် တန္တရဝါဒများအနက် ဖောက်ပြန် ယုတ်ညံ့သော ကာလစက္ကတန္တရကို လက်ခံ၏။ မေတ္တေယျနာထနှင့် အသင်္ဂတို့ ဟောကြားသော ယောဂါစာရဝိညာဏဝါဒကို တိဗက်တိုင်းရင်းဖြစ် တန္တြေသရဲဝါဒနှင့် ကိုက်ညီအောင် ပြုပြင်၏။ အတိဆာ ပြုပြင်တည်ထောင်သော ဂိုဏ်းကို ကာဒမ္ပဂိုဏ်းဟု ခေါ်၏။

**သကျဂိုဏ်း။** ။မာဂဓတိုင်းကို မူစလင်တို့ သိမ်းပိုက်သောအခါ ကသ္မီရပြည်သား အရှင်သကျပဏ္ဍိတသည် တိဗက်ပြည်သို့ ကြွလာ၍ သကျကျောင်းတိုက်၌ နေထိုင်ခဲ့လေသည်။

သာသနာနှစ် (၁၇၉၀-၂)တွင် သကျကျောင်းတိုက် နာယက ဆရာတော် သကျပဏ္ဍိတကို မွန်ဂိုဘုရင် ဂျင်ဂစ်ခန်က မွန်ဂိုနန်းတော်သို့ ပင့်၏။ ထိုဆရာတော်သည် မင်းဧကရာဇ်ကို ရောဂါကင်းအောင် ဆေးကုပေးခဲ့၏။ သားတော် ကူဗလေခန် မင်းသားကိုလည်း ဗုဒ္ဓဘာသာဖြစ်အောင် ဆုံးမဟောကြားခဲ့၏။ ထိုသားတော် ကူဗလေခန် မင်းဖြစ်သောအခါ သကျကျောင်းထိုင်ဆရာတော် ပက်ဂ်ဆပကို (၁၈၀၄)တွင် တရုတ်ပြည်သို့ ပင့်၏။ နန်းတော်သူ နန်းတော်သားနှင့်တကွ မျှုးကြီးမတ်ရာ သေနာပတိတို့အား လားမားဗုဒ္ဓဘာသာကို သင်ကြားပြသစေ၏။ ပက်ဂ်ဆပကို တရုတ်ပြည်တွင် 'အမျိုးသမီးတို့၏ဆရာ' ဟူသော ဘွဲ့ကို လှူ၏။ ထိုဆရာတော်ကို တိဗက်သာသနာပိုင်အဖြစ်လည်းကောင်း တရုတ်လက်အောက်ခံ တိဗက်ပဒေသရာဇ်အဖြစ်ဖြင့်လည်းကောင်း အသိအမှတ်ပြု၏။

ပက်ဂ်ဆပသည် လေးထောင့်ပုံ အထက်အောက်ဆင့်၍ ရေးရသော တိဗက်အက္ခရာကို မှီး၍ မွန်ဂိုအက္ခရာများ တီထွင်ပေး၏။ သူကွယ်လွန်

သောအခါ သူတီထွင်ခဲ့သော အက္ခရာများကို မွန်ဂိုတို့က အသုံးမပြုကြချေ။ အူဂါ အက္ခရာများကိုသာ သုံးစွဲကြ၏။ ပက်ဂ်ဆပသည် ပိဋကသုံးပုံကို တရုတ်စာဖြင့် ပုံနှိပ်ထုတ်ဝေရေးလုပ်ငန်းကို ကြီးကြပ်စီမံခဲ့၏။

သာသနာ ၁၈၇၀ နှစ် ရေးထိုးသော မွန်ဂိုလီးယားပြည် အူယိဂါ ကျောက်စာ၌ ဂျင်ဂစ်ခန်သည် ဗောဓိသတ္တ၏ နောက်ဆုံး လူဝင်စား ဖြစ်သည်ဟု ဆို၏။ မွန်ဂိုလီးယားလူမျိုးများက ကူဗလေခန်ကို စကြ ဝတေးမင်းဟု ခေါ်၏။ အမိတာယုဘုရား၏ နိမ္မိတရုပ်ပွားဟု ဆိုကြ၏။

တရုတ်ပြည် ယွန်မင်းဆက်သည် တိဗက်ဗုဒ္ဓဘာသာကို ချီးမြှင့်ခဲ့ သော်လည်း တိုးတက်ကြီးပွားခြင်း မရှိခဲ့ချေ။ (၁၈၁၄ မှ ၁၈၈၄) အထိ သကျကျောင်းတိုက် နာယကဆရာတော်သည် သာသနာပိုင်လည်းဖြစ်၍ တရုတ်ဘုရင်လက်အောက်ခံ ပဒေသရာဇ်များအဖြစ်ဖြင့်လည်း တိဗက် နိုင်ငံကို အုပ်စိုးရ၏။ နောက်ပိုင်း၌ သကျကျောင်းတိုက်၏ ဩဇာ ကျဆင်း၍ အခြားကျောင်းတိုက်များ၏ အရှိန်အဝါ တိုးတက်လာ၏။ ထို့ပြင် မင်ဂ်မိုဒူ အမည်ရှိသူက ဦးဆောင်၍ တိဗက်နယ်ပယ်အချို့ကို တိုက်ခိုက် သိမ်းပိုက်လိုက်၏။

သာသနာနှစ် ၁၉၁၂ တွင် 'ယွန်'မင်းဆက် ပျက်သုဉ်း၍ 'မင်'မင်း ဆက် ပေါ်လာ၏။ မင်မင်းဆက်သည် တရုတ်ပြည် လားမား ဗုဒ္ဓဘာသာ ဝင်များ မဟုတ်သောကြောင့် တိဗက်ပြည်တွင် သကျကျောင်းတိုက်အပါ အဝင် ကျောင်းတိုက်ကြီး ရှစ်တိုက်မှ နာယကဆရာတော်ကြီးများကို လည်းကောင်း၊ မက်ဂ် မိုဒူကိုလည်းကောင်း လက်အောက်ခံပဒေသရာဇ် မင်းငယ်များအဖြစ် အသိအမှတ်ပြုလိုက်၏။

## ဆွန်ခပ၏ ဂျီလပ်ပကိုဏ်း

သာသနာနှစ် ၁၉၀၂ တွင် ဆွန်ခပကို မွေးဖွား၏။ သူသည် ခုနစ်နှစ် အရွယ်တွင် ရှင်သာမဏေဝတ်၏။ သကျကျောင်းတိုက်၊ ဒီပွန်ကျောင်း တိုက်တို့၌ စာပေသင်ကြား၏။ စာပေတတ်မြောက်သောအခါ အတိဆာ

(ဒိပက်ရညာဏ) တည်ထောင်ခဲ့သော ကာဒမ္ပဂိုဏ်းကို ဗုဒ္ဓစာပေနှင့် ညီညွတ်အောင် ပြုပြင်ခဲ့၏။ ဆွန်ခပ၏ ဂိုဏ်းကို 'ဂျီလပ်ပ' (ဂေလုပ)ဟု ခေါ်၏။ ဂျီလပ်ပဂိုဏ်း၌ အိမ်ထောင်မပြုရ၊ နေ့စဉ် မကြာခဏ ဘုရားရှိခိုးရ၏။ တန္တရဝါဒ မှော်ပညာ ပယောဂပညာများကို နည်းနိုင်သမျှ နည်းအောင် ဖယ်ရှားပစ်၏။ ဂျီလပ်ပဂိုဏ်းကို သာသနာ ၁၉၅၂ တွင် တည်ထောင်၏။ (ဂျီလပ်ပ = ကုသလ) ဦးထုပ်အဝါကို ဆောင်းကြ၍ 'အဝါရောင်သံဃာ'ဟု ခေါ်၏။ ဆွန်ခပသည် လာဆာအနီး၌ ဂန်ဒန်ကျောင်းတိုက်ကို တည်ထောင်၍ ထိုကျောင်းတိုက်၏ ပထမ ကျောင်းထိုင်ဆရာတော်ဖြစ်၏။ သူသည် လာဆာမြို့နှင့်တာရှိဟန်ပိုမြို့များ၌ ကျောင်းတိုက်များစွာ တည်ထောင်ခဲ့၏။ ၁၉၆၁ ခုတွင် ဆွန်ခပ ကွယ်လွန်ရာ သူ၏ ရုပ်ကလာပ်ကို ဂန်ဒန်ကျောင်းတိုက်ရှိသော အုတ်ဂူ၌ သွင်းထားကြကုန်၏။

## အဝလောကိတေသရ ဝင်စားသူ

သကျဂိုဏ်းသည် အချင်းချင်း မညီညွတ် ကွဲပြား၍ အားနည်းနေရာမှန်ကို ဘုရင်များသည် ဂျီလပ်ပဂိုဏ်းကို ဦးစားပေးကြ၏။ နောက်ပိုင်း၌ ဂျီလပ်ပဂိုဏ်း နာယကဆရာတော်ကို တိဗက်အုပ်စိုးသူဟု အသိအမှတ်ပြုလိုက်၏။

ဂျီလပ်ပဂိုဏ်းတွင် ဆွန်ခပ၏ တူတော်သူ ဂျီဒန်ဒပ် (၁၉၃၅-၂၀၂၂) သည် အဝလောကိတေသရ ဝင်စားသူဟု ကြေညာ၏။ သူသည် လာဆာမြို့တော်၌ နေထိုင်၏။ တာရှိဟန်ပို၌ နေသော ကျောင်းထိုင် ဆရာတော်ကို အမိတာဘာ ဗုဒ္ဓဝင်စားသည်ဟု ယူဆကြ၏။ ထိုအချိန်မှစ၍ လာဆာမြို့ ကျောင်းထိုင်ဆရာတော် ဂျီဒန်ဒပ်ကို ပထမ ခေါင်းဆောင်၊ တာရှိဟန်ပို ကျောင်းထိုင်ဆရာတော်ကို ဒုတိယခေါင်းဆောင်ဟု အသိအမှတ်ပြုကြ၏။ တရုတ်ပြည်မှ ဧကရာဇ်ဘုရင် ချင်ယူအာ (၁၉၈၉-၂၀၃၂) သည် ထိုဆရာတော်နှစ်ပါးကို ဘွဲ့တံဆိပ် ဆက်ကပ်၍ တိဗက်ပြည်အုပ်ချုပ်သူဟု အသိအမှတ်ပြု၏။

ဂျီဒန်ဒပ်ကို ပထမ လားမား ဆရာတော်ဟု ခေါ်၏။ ဒုတိယ လားမား ဆရာတော် ဂျီဒန် (၂၀၂၃-၂၀၈၄)သည် ရဟန်းအစိုးရအဖွဲ့ကို စနစ်တကျ ဥပဒေပြဋ္ဌာန်းပေးခဲ့၏။

## ဒလိုင်လားမား

ကူဗလေခန်နောက် ဆက်ခံသော မွန်ဂိုဘုရင်များသည် လားမားဗုဒ္ဓဘာသာအပေါ် သစ္စာစောင့်သိခြင်း မရှိကြချေ။ တတိယ လားမားဆရာတော် 'ဆော့ဒ်နမ်' (၂၀၈၇-၂၁၃၀) လက်ထက်၌ မွန်ဂိုဘုရင် 'အယ်လ်တန်ခါဂန်' က လားမားဆရာတော်ကြီးကို မွန်ဂိုလီးယားပြည်သို့ ပင့်၏။ ထိုတတိယ လားမားဆရာတော်သည် မွန်ဂိုဘုရင်အား ဘွဲ့ထူးဂုဏ်ထူး ချီးမြှင့်၍ မိမိကိုယ်တိုင် 'တာလေ = ဒလိုင်'ဟူသော ဘွဲ့ကို ခံယူတော်မူ၏။ (ဒလိုင် = သမုဒ္ဒရာ)

အယ်လ်တန်ခါဂန်ဘုရင်သည် မိမိကိုယ်ကို ကူဗလေခန် ဝင်စားသူဟု ဆို၏။ လားမားဆရာတော် ဆော့ဒ်နမ်ကို ကူဗလေခန်၏ဆရာ 'ပက်ဂ်ဆပ' ဝင်စားသူဖြစ်သည်ဟု ဆို၏။ အယ်လ်တန်ခါဂန် ကွယ်လွန်သော အခါ ၎င်း၏သားတော် နန်းတက်၏။ ဒလိုင်လားမား ဆရာတော်သည် ဒုတိယအကြိမ် မွန်ဂိုလီးယားပြည်သို့ ကြွ၍ သာသနာပြု၏။

ဒလိုင်လားမား ဆရာတော်ကြီးသည် မွန်ဂိုလီးယားပြည်တွင် ကွယ်လွန်၍ အယ်လ်တန်ခါဂန်ဘုရင်၏ မြစ်တော်အဖြစ်အနေဖြင့် ဝင်စား၏။ ထိုသာသနာပိုင်ဝင်စားသော မင်းသားငယ်သည် ၁၄ နှစ်သားအထိ မွန်ဂိုလီးယားပြည်၌ နေထိုင်ပြီးနောက် တိဗက်ပြည် လာဆာမြို့တော်သို့ ကြွ၍ ဒလိုင်လားမား ရဟန်းမင်း ပြုလေ၏။ သူသည် စတုတ္ထ ဒလိုင်လားမား ယွန်တန် (၂၁၃၁-၂၁၅၈) ဖြစ်၏။ ထိုအခါ တိဗက်နှင့် မွန်ဂိုလူမျိုးတို့ သွေးစည်းညီညွတ် ပူးပေါင်းသွားမည်စိုးသဖြင့် တရုတ်ဧကရာဇ်ဘုရင်က ဒလိုင်လားမားတို့သည် တိဗက်ပြည်၌သာ ပြန်လည်ဝင်စားကြရမည်။ မွန်ဂိုလီးယားပြည်၌ မဝင်စားရဟု အမိန့်ထုတ်ပြန်၏။ ထိုအမိန့်

တော်ကြောင့် နောက်ပိုင်းတွင် ဒလိုင်လားမားများသည် တိဗက်ပြည်၌သာ ဝင်စားကြရ၏။

## ပိုတာလာနန်းတော်

ပဥ္စမ ဒလိုင်လားမားကား 'လိုဇန်' (၁၂၁၉-၂၂၂၄) ဖြစ်၏။ သူအား မွန်ဂိုဘုရင် ဂုစရိခန်က အချုပ်အခြာ အာဏာပေး၍ တိဗက်ပြည်ကို အုပ်ချုပ်စေ၏။ ထိုအခါမှစ၍ တိဗက်ပြည်သည် လုံးဝလွတ်လပ်သော နိုင်ငံတော်တစ်ခုအဖြစ် ရပ်တည်ခဲ့၏။ ပဥ္စမဒလိုင်လားမားသည် အတိုက်အခံ ဘာသာရေး ဂိုဏ်းအားလုံးကို 'ဆန်'နယ်မှ လည်းကောင်း၊ အခြားတိဗက်ပိုင်နယ်များမှလည်းကောင်း နှင်ထုတ်သည်။ သူ၏ လက်ထက်၌ သက္ကတသဒ္ဒါကျမ်းများကို တိဗက်ဘာသာပြန်ဆိုခဲ့၏။

ရှေ့အဆက်ဆက်က ဒလိုင်လားမားတို့သည် ဒီပွန် ကျောင်းတိုက်၌ နေထိုင်ကြ၏။ ပဥ္စမ ဒလိုင်လားမားသည် ရှေးဘုရင်များ နေထိုင်ခဲ့သော မာပိုရီ တောင်ကုန်းပေါ်၌ 'ပိုတာလာ'နန်းတော် ဆောက်လုပ်နေထိုင်၏။ ထိုနန်းတော်သည် ကမ္ဘာပေါ်တွင် ထူးဆန်းအံ့ဩဖွယ် အဆောက်အအုံတစ်ခုဖြစ်၏။ နန်းတော်၏တံတိုင်းများသည် တောင်နံရံအကွေ့အကောက်အတိုင်း တည်ရှိနေကြရာ ကျောက်တောင်ကြီးမှ သဘာဝအတိုင်း ထွက်ပေါ်လာသော ကျောက်ဆောင် ကျောက်ခက်များဖြစ်သည်ဟု ထင်မှတ်ရကုန်၏။

လိုဇန်သည် မိမိ ငယ်ဆရာဖြစ်သော 'တာရှီဟန်ပို' ကျောင်းတိုက်ကျောင်းထိုင်ဆရာကို 'ပန်ချင်ရင်ပိုချီ'ဟူသော ဘွဲ့ကို ပေးအပ်လေ၏။ ထိုအချိန်မှစ၍ တာရှီဟန်ပို ကျောင်းထိုင်ဆရာတော် မှန်သမျှသည် ထိုဘွဲ့ကို ခံယူကြ၏။

ပဥ္စမဒလိုင်လားမားဆရာတော် လိုဇန်ကွယ်လွန်သောအခါ အမတ်ချုပ် 'ဒေဆိ'က လျှို့ဝှက်ထား၍ ပဥ္စမသာသနာပိုင်အမည်ဖြင့် ဆက်လက်အုပ်ချုပ်၏။ ၁၆ နှစ်အကြာ ၂၂၄၀ ခုတွင် လိုဇန် သေဆုံးခြင်းနှင့်

သဆန်ယန်ဂျာသဆို အမည်ရှိသော သူငယ်တစ်ဦးကို သာသနာပိုင် တင်မြှောက်ကြောင်း အမိန့်ကို တစ်ပြိုင်နက် ထုတ်ပြန်၏။

ဆဋ္ဌ ဒလိုင်လားမားကို ၂၂၄၅ ခုနှစ်တွင် တရုတ်နှင့် မွန်ဂိုတို့၏ အကျပ်ကိုင် တောင်းဆိုမှုကြောင့် သာသနာရေးနှင့် နိုင်ငံအုပ်ချုပ်ရေးကို ခွဲခြားပြီးလျှင် သာသနာရေးကို တာရှိဟာန်ပို ကျောင်းထိုင်ဆရာတော်အား လွှဲအပ်ရ၏။ အုပ်ချုပ်ရေးကိုမူ ဒလိုင်လားမားက ဆက်ကိုင်ထား၏။ သူသည် ၂၂၄၉ ခုတွင် မွန်ဂိုလီးယား၌ ကွယ်လွန်၏။

သတ္တမ ဒလိုင်လားမားသည် ၂၂၅၂ ခုနှစ်၌ မွေးဖွား၏။ သူ၏ အမည်မှာ 'ယီဆက်စ' ဖြစ်၏။ သူလက်ထက်၌ ခရစ်ယာန် သာသနာပြုအဖွဲ့ လာဆာသို့ လာကြ၏။ သူသည် ၂၃၀၂ ၌ ကွယ်လွန်၏။

အဋ္ဌမ ဒလိုင်လားမား ရာထူးကို 'ဂျန်ဗားလ်'မည်သော ကလေးတစ်ယောက်က ဆက်ခံ၏။ သူသည် အမည်ခံမျှသာဖြစ်၏။ အုပ်ချုပ်ရေးကို ရင်ခွင်ပိုက် အုပ်စိုးသူ ပန်ချင်လားမားက ကြိုးကိုင်ထား၏။

၂၃၄၈ ခုနှစ်တွင် အဋ္ဌမ ဒလိုင်လားမား ကွယ်လွန်ရာ တိဗက် ပြည်အရှေ့ပိုင်း၌ မွေးဖွားသော သူငယ်တစ်ယောက်ကို နဝမ ဒလိုင်လားမားအဖြစ် ရွေးချယ်ကြ၏။

၂၃၅၉ ခုနှစ်တွင် သူကွယ်လွန်သောအခါ နို့စို့ကလေးငယ်တစ်ယောက်ကို ဒသမ ဒလိုင်လားမားအဖြစ် ရွေးချယ်ကြ၏။

၂၃၈၂ ခုနှစ်တွင် သူကွယ်လွန်သောအခါ နို့စို့ကလေးငယ်တစ်ယောက်ကို ဧကာဒသမ ဒလိုင်လားမားအဖြစ် ရွေးချယ်ကြ၏။

ထို့နောက် ၂၄၀၂ တွင် ဒွါဒသမ ဒလိုင်လားမားကို ရွေးချယ်၍ ၂၄၂၀ ခုနှစ်တွင် တေရသမ ဒလိုင်လားမားကို ရွေးချယ်ကြ၏။

ယခုလက်ရှိ ဒလိုင်လားမားကား ၁၄ ဆက်မြောက် ဒလိုင်လားမားဖြစ်၍ တိဗက်ပြည်တွင် မနေဘဲ အိန္ဒိယပြည်သို့ ထွက်ပြေးတိမ်းရှောင်နေရ၏။

ဤကား တိဗက်ပြည်၌ အင်အားကောင်းသော ဂျီလပ်ပခေါ် အဝါရောင်ဂိုဏ်း၏ သမိုင်းဖြစ်၏။

## ညိန်မပ ။ အနီရောင်ဂိုဏ်း

ညိန်မပဂိုဏ်းဝင် ရဟန်းများသည် ဦးထုပ်အနီ ဆောင်းကြ၏။ သက်န်းအနီရောင်ကို ဝတ်ကြ၏။ သာသနာ ၁၂၉၁ ခုနှစ်က တိဗက်ပြည်သို့ သာသနာပြုကြွ၍ တိုင်းရင်းသား ဘွန်ဝါဒီတို့အပေါ်၌ တန္တရပညာ, မှော်ဝိဇ္ဇာပညာဖြင့် အနိုင်ယူကာ သာသနာပြုခဲ့သော ဆရာတော် ပဒမသမ္ဘဝ၏ တပည့်များက တည်ထောင်သောဂိုဏ်းဖြစ်၏။

ပဒမသမ္ဘဝသည် တာမာဟု ခေါ်သော ကျမ်းများကို ပြုစုရေးသား၍ ဂူတစ်ခုထဲ၌ မြှုပ်နှံဝှက်ထားခဲ့၏။ နောင်အခါ မည်သည့်ပုဂ္ဂိုလ်က တွေ့ရှိလိမ့်မည်ဟု ဟောစာတမ်းထုတ်ခဲ့၏။ သူဟောခဲ့သည့်အတိုင်း သာသနာနှစ် ၁၇၆၉ တွင် သူဝှက်ထားခဲ့သော ကျမ်းစာများကို တွေ့ရှိပြီဖြစ်၍ မူရင်းအတိုင်း ထုတ်ဝေကြ၏။

ဤဂိုဏ်း၏ဝါဒမှာ ဗုဒ္ဓဝါဒနှင့် နတ်ကိုးကွယ်မှု, မှော်ဝိဇ္ဇာ အတတ်ပညာများကို ရောနှောထားခြင်းဖြစ်၏။ ၁၈ ရာစုတွင် အနီရောင်ဂိုဏ်းသည် ဂေါ်ရခါးတို့၏ အကူအညီဖြင့် တိဗက် အရှေ့တစ်ခြမ်းကို လွှမ်းမိုးကြ၏။

# တိဗက်ပိဋကတ

## ကန်ဂျူနှင့် တန်ဂျူ

ကန်ဂျူပိဋကတ၌ သုတ်အချို့နှင့် ဝိနည်းအချို့ပါဝင်၍ တန္တရစာပေ ပါဝင်၏။ တန်ဂျူပိဋကတ၌ အဖွင့်ကျမ်းများ, ဆေးကျမ်းများ, သဒ္ဒါကျမ်းများ, နက္ခတ်ကျမ်းများ ပါဝင်၏။

## ကန်ဂျူ ပိဋကတသမိုင်း

ကန်ဂျူပိဋကတကို ခုနစ်ပိုင်း ခွဲထားသည်။ ပုံနှိပ်စာအုပ် တစ်ရာခန့် ရှိ၏။

၁။ ပထမပိုင်းမှာ ဒူလဗာဟု ခေါ်၏။ ဝိနည်း ဘာသာပြန်ကျမ်းများ ဖြစ်၏။

၂။ ဒုတိယပိုင်းမှာ ဆာချင်ဟု ခေါ်၏။ ပညာပါရမိတာ ဘာသာပြန်များဖြစ်၏။

၃။ တတိယပိုင်းမှာ ဖာလဂျင်ဟု ခေါ်၏။ အဝဋံသကကို မှီး၏။

၄။ စတုတ္ထပိုင်းမှာ ကွန်ဘရဟာဆက်ဂ်ဟု ခေါ်၏။ ရတနကူဋသုတ်နှင့် အဓိပ္ပာယ်တူ၏။

၅။ ပဥ္စမပိုင်းမှာ မဒိုဟု ခေါ်၏။ သုတ္တန်နှင့် သဘောတူ၏။ လင်္ကာဝတာရသုတ်, သဒ္ဓမ္မပုဏ္ဍရီကသုတ်, လလိတဝိတ္ထာရကျမ်းများ ပါဝင်၏။

၆။ ဆဋ္ဌပိုင်းကို မြန်ဟာဒါဟု ခေါ်၏။ မဟာပရိနိဗ္ဗာနသုတ်နှင့် တူ၏။

၇။ သတ္တမပိုင်းမှာ တန္တရဝါဒီကျမ်းကြီး ဖြစ်၏။ မဟာဂဏပတိတန္တရ ကာလစက္ကတန္တရတို့ ပါဝင်၏။ ကျမ်းပေါင်း ၂၂ ကျမ်း ရှိ၏။

## တန်ဂျူပိဋက

တန်ဂျူပိဋကတ၌ ကျမ်းပေါင်း ၂၂၅ ခန့်ပါဝင်၏။ အဿဃောသ, နာဂအဇ္ဇုန, အသင်္ဂ, ဝသုဗန္ဓု စသော မဟာယာန ကျမ်းပြုပုဂ္ဂိုလ်များ စီရင်သည့် ကျမ်းများပါဝင်၏။ ထို့ပြင် သဒ္ဒါကျမ်း, ဆန်းကျမ်း, အလင်္ကာကျမ်း, ဆေးကျမ်း, နက္ခတ်ဗေဒင်ကျမ်းများ ပါဝင်၏။

## တိဗက်တန္တရဝါဒ

တိဗက်တန္တရဝါဒမှာ အိန္ဒိယမှ အမွေဆက်ခံခဲ့၍ တိဗက်တိုင်းရင်းသား နတ်ကိုးကွယ်မှုနှင့် ရောနှောထား၏။

၁။ နတ်အားလုံးကို ဂါထာမန္တန်ရွတ်၍ ခေါ်နိုင်၏၊ စေခိုင်းနိုင်၏။ နတ်များနှင့်ဆက်သွယ်နိုင်၏။

၂။ နတ်များ၏ ဇနီးနတ်သမီးများနှင့် သီးခြားအလွတ်ဖြစ်သော မယ်တော် (နတ်သမီး)များကို ကိုးကွယ်ကြ၏။

၃။ နတ်များသည် အသွင်အမျိုးမျိုးကို ဆောင်ကြ၏။ ဆန့်ကျင်ဘက် နတ်ဆိုးများကို နှိမ်နင်းရာ၌ နတ်ကောင်းများသည် ကြောက်မက်ဖွယ်ရာ အသွင်ကို ယူကုန်၏။ ထို့ကြောင့် တိဗက်ဘုရားကျောင်းအတွင်း၌ တွေ့ရသော ကြောက်စရာ နတ်ရုပ်များသည် နတ်ဆိုး ဘီလူး သရဲသဘက်ရုပ်များ မဟုတ်ကြချေ။ နတ်ကောင်းနတ်မြတ်တို့၏ အရုပ်များ ဖြစ်ကြ၏။

နတ်များကို သာသနာစောင့်နတ်နှင့် ကိုယ်စောင့်နတ်ဟု နှစ်မျိုး ခွဲ၏။ ထိုတွင် ကိုယ်စောင့်နတ်ကို ကိုယ်တိုင်ရွေးချယ်ရ၏။ ထိုရွေးချယ်ထားသောနတ်သည် ကမ္ဘာ့ဌာန်းထိုင်သောအခါ ကိုယ်ထင်ရှားပြတတ်သည်ဟု ယူဆယုံကြည်ကြ၏။ ကိုယ်စောင့်နတ်ရုပ်များကို သရဖူဆောင်းလျက် ဝတ်စုံသစ် ဆင်မြန်းထားကြ၏။ လက်တစ်ဖက်ဖြင့် ဝရဇိန်လက်နက်ကို ကိုင်၍ အခြားတစ်ဖက်ဖြင့် သတ္တိခေါ် ဇနီးနတ်သမီးကို ပွေ့ထား၏။

တိဗက်ပြည်၌ အမိတာဘာဘုရား၊ သကျမုနိဘုရားနှင့် ဘေသဇ္ဇဂုရုဘုရားများကို ကြည်ညိုသူ များ၏။ မေတ္တေယျ ဘုရားလောင်း၊ အဝလောကိတေသ်ွရဘုရားလောင်းနှင့် မဉ္ဇုသီရိဘုရားလောင်းများကို ကိုးကွယ်ကြ၏။

## သာသနာပိုင်ဝင်စားသူ

လားမားသာသနာပိုင် ဂျီဒမ်ဒပ်လက်ထက်မှစ၍ လားမား သာသနာပိုင် (ဒလိုင်လားမား) သည် အဝလောကိတေသရဝင်စားသူဟု လက်ခံယုံကြည်ခဲ့ကြ၏။ ထိုသာသနာပိုင် ပျံလွန်သောအခါ ထိုအဝလောကိတေ

သရ ဘုရားလောင်း ဝင်စားသူကို လိုက်လံရှာဖွေကြရ၏။ ရံခါ ကလေး မဖွားမီ ကိုယ်ဝန်ဆောင် မိခင်ကို တွေ့၍ သာသနာပိုင် လောင်းလျာ မွေးဖွားမည်ဟု သတ်မှတ် ကြေညာ၍ ပူဇော်ကြ၏။ မွေးလာသော ကလေးကို လာဆာမြို့တော်သို့ ယူဆောင်သွား၍ သာသနာပိုင် တင် မြှောက်ကြ၏။ ထိုကလေးငယ် အရွယ်မရောက်မီ ပညာသင်စဉ်မှာမူ ရင်ခွင်ပိုက်အဖွဲ့က တိုင်းပြည်ကို အုပ်ချုပ်ရ၏။ ဤစနစ်ကြောင့် ရင်ခွင် ပိုက် အုပ်ချုပ်ရသူများ ကိုယ်ကျိုးရှာရန် အခွင့်အလမ်းပွင့်နေ၏။

ရံခါ သာသနာပိုင်ဝင်စားသူကို ရှာဖွေရာ နှစ်နှစ် သုံးနှစ်ကြာမှ တွေ့ရတတ်၏။ ကလေးငယ်မွေးဖွားပြီးမှ တွေ့ရတတ်၏။ ဝင်စားသူကို ရှာဖွေပုံမှာ ရဟန်းတစ်ပါးကို နတ်ပူး၍ ဓာတ်စီး၍ မည်သည့်အရပ်မှာ ဝင်စားသည်ဟု တိကျသေချာစွာ ဟောပြောစေခြင်း ဖြစ်၏။ ထိုရဟန်း မှာ ထိုသို့ ဓာတ်စီးဟောပြောရန်အတွက် တတိယမျက်လုံး (ဒိဗ္ဗစက္ခု) ရသူဟု နန်းတော်က သတ်မှတ်ထား၏။ အချို့သော သာသနာပိုင်များမှာ မိမိတို့ မကွယ်လွန်မီကပင် မိမိဝင်စားမည့်ဒေသကို ညွှန်ပြပြောကြားခဲ့ကြ သည်ဟု ဆို၏။

စတုတ္ထ ဒလိုင်လားမားသည် မွန်ဂိုလီးယား၌ ဝင်စားသဖြင့် တရုတ် ဧကရာဇ်က နောင်တွင် သာသနာပိုင်သည် တိဗက်နယ်နိမိတ်အတွင်း၌ သာ ဝင်စားရမည်ဟု အမိန့်ထုတ်သည်၊ တိဗက်နှင့်မွန်ဂို ပေါင်းစည်း သွားမည်ကို တရုတ်က စိုးရိမ်ကြောင့်ကြသောကြောင့် ထိုအမိန့်ထုတ် ရသည်။ ထိုအခါမှစ၍ ဒလိုင်လားမားသည် တိဗက်ပြည်ထဲ၌သာ ဝင်စား ရသည်။ တိဗက်ပြည်ရှိ များစွာသော ဘုန်းကြီးကျောင်းတိုက်များအတွက် စီမံအုပ်ချုပ်သူ လားမားများကို ဤနည်းဖြင့်သာ ရွေးချယ်ကြလေသည်။

လားမား ရဟန်းတော်သည် အိမ်ထောင်ပြု သားမယား အတည် တကျ မယူရသော်လည်း ရံခါ မေထုန်မှီဝဲခွင့်ရှိသည်။ လားမားရဟန်း တော်အတွက် အမျိုးသမီးများက ကြည်ကြည်ဖြူဖြူ မေထုန်ပေးလှူကြ သည် ဆို၏။

အထူးသဖြင့် ဘုရားလောင်းဝိညာဉ်သည် လူ့ပြည် လူ့ဘဝ အမိဝမ်းတွင်းသို့ ဝင်ရောက် လူဝင်စားဖြစ်လိုသောအခါ၌ လားမားဘုန်းကြီးသည် နီးစပ်ရာ အမျိုးသမီး တစ်ယောက်ကို မေထုန်မှီဝဲရ၏။ အကြောင်းမူ ဝိညာဉ်တစ်ခု အမိဝမ်း၌ မှီတွယ်၍ လူ့အဖြစ်ကို ရရန် ယောက်ျား မိန်းမ နှစ်ဦးတို့ ပေါင်းဖော်ခိုက်တွင်သာ ဝင်စားနိုင်သည်။ သန္ဓေတည်နိုင်သည်ဟု ယူဆကြသည်။ ထိုသို့ လူ့အဖြစ်ကို ရလိုသော် ဝိညာဉ်များကို သနား ငဲ့ညှာ၍ လားမားဘုန်းကြီးများအနေဖြင့် တစ်ခါတစ်ရံ မေထုန်မှီဝဲနိုင်ခွင့် ရှိကြ၏။ လူဝင်စားဖြစ်လိုသော ဝိညာဉ်များ လှည့်လည်ပျံ့ဝဲနေကြသည်ကို လူသာမန်တို့ မမြင်နိုင်ချေ။ လားမားဘုန်းကြီးများသာ မြင်နိုင်ကြသည်ဟု ဆို၏။

တစ်ရံရောအခါ တိဗက်ပြည် ရွာတစ်ရွာ၌ သတို့သမီးပျိုတစ်ဦး ရှိ၏။ ထိုလုံမပျိုသည် အခြားရွာတစ်ရွာသို့ ကိစ္စတစ်ခုဖြင့် သွားလေ၏။ လမ်းခရီးတွင် တောအုပ်ငယ်တစ်ခုကို ဖြတ်သွားရာ လမ်းနံဘေးတွင် လားမားဘုန်းတော်ကြီး တစ်ပါးသည် ဣန္ဒြေသမ္ပတ္တိဖြင့် ကမ္မဋ္ဌာန်းထိုင်နေ၏။ လုံမပျိုသည် ထိုသူတော်စင်က မိမိအား တစ်စုံတစ်ရာ မပြုတန်ရာဟု တွေးတောလျက် မရဲတရဲ အနီးအနားမှ ဖြတ်သန်းသွားစဉ် လားမားဘုန်းတော်ကြီးသည် ရုတ်တရက်ခုန်အုပ်၍ အတင်းအဓမ္မကြံစည်လေ၏။ သို့ရာတွင် လားမားဘုန်းကြီးမှာ အသက်ကြီးရင့်၍ ခွန်အားနည်းသူဖြစ်၍ တောသူလုံမပျိုက အကြောက်အကန် ရုန်းကန်သောအခါ လက်လျှော့ပေးလိုက်ရ၏။

လုံမပျိုသည် မိမိအိမ်သို့ ကပျာကသီပြန်ပြေးလာ၍ မိခင်ကို တိုင်ကြားလေ၏။ ထိုအခါ မိခင်ဖြစ်သူက လွန်စွာ စိတ်ဆိုးဒေါသထွက်၍ သမီးကို ဆူပူကြိမ်းမောင်းလေ၏။ ဤအခွင့်အရေးမျိုးမှာ အလွန်တရာ ကြုံတောင့်ကြုံခဲ ထူးမြတ်သော အခွင့်အရေးဖြစ်၏။ မိမိတို့ရွာရှိ အမျိုးသမီးထုကြီးတစ်ခုလုံးက မျှော်လင့် တောင့်တခဲ့ကြရ၏။ မွန်မြတ်သော အခွင့်ထူးကို လက်လွတ်မခံရ၊ နောက်တစ်ကြိမ် ထိုနေရာသို့ ပြန်သွား၍ တစ်စုံတစ်ရာ ငြင်းပယ် ခုခံခြင်း မပြုဘဲ လိုက်လျောရမည်ဟု မိခင်က သင်ကြား၍ တစ်ဖန်ပြန်လွှတ်လေ၏။

ထိုသတင်းကို လုံမပျို၏ချစ်သူ လုလင်ပျိုက ကြားသွားလေသည်။ လုလင်ပျိုသည် မိမိရည်းစား ထိုနေရာသို့ မရောက်မီ ကြိုတင်၍ ပြေးသွားနှင့်၏။ တောအုပ်အတွင်း၌ လားမားဘုန်းကြီးသည် လမ်းဘေးမှာပင် ဣန္ဒြေမပျက် တည်ငြိမ်စွာ ကမ္မဋ္ဌာန်းထိုင်နေ၏။ လုလင်ပျိုက မေးလျှောက်သဖြင့် လားမားဘုန်းကြီးက စောစောက လုံမပျိုတစ်ယောက် လာကြောင်း၊ ထိုအချိန်တွင် (ဗောဓိသတ္တ) အဝလောကိတေသရ ဘုရားလောင်း ဝိညာဉ်တော်သည် လူ့ပြည် အမိဝမ်းတွင်းသို့ သက်ဆင်းရန် ထိုမှ ဤမှ လူးလာဆန်ခတ် ပျံဝဲလှုပ်ရှား ယောက်ယက်ခတ်နေကြောင်း၊ ဘုရားလောင်းဝိညာဉ်တော်ကြီး လူဝင်စားဖြစ်ရေးကို ကူညီရန်အတွက် ထိုလုံမပျိုကို ပေါင်းသင်းရန် ကြိုးပမ်းကြောင်း၊ သို့ရာတွင် လုံမပျို၏ မိုက်မဲမှုကြောင့် ဗောဓိသတ္တဝိညာဉ်တော် လူ့ပြည်၌ ဝင်စားခွင့် မရရှာဘဲ ဤနေရာမှ ထွက်ခွာသွားရရှာလေပြီဟု ဖြေရှင်း ဟောကြား၏။

လုလင်ပျိုသည် ဘုန်းကြီးထံမှ သင်္ကန်းကို တောင်းရာ မပေးသဖြင့် လုယူ ဝတ်ဆင်လိုက်၏။ ဘုန်းကြီးကိုမူ တစ်နေရာသို့ ပို့ထားလိုက်၏။ လုလင်ပျိုသည် သင်္ကန်းကြီးခြုံ၍ ဣန္ဒြေသိက္ခာကြီးရင့်စွာဖြင့် လားမားဘုန်းကြီးနေထိုင်ခဲ့သော နေရာမှာပင် ထိုင်နေ၏။ လုံမပျိုကား မိခင်၏ အာဏာကို မလွန်ဆန်နိုင်၍ တွန့်ဆုတ်တွန့်ဆုတ် အမူအရာဖြင့် လားမားဘုန်းကြီးအနီးသို့ ချဉ်းကပ်လာ၏။ ဘုန်းကြီးဟန်ဆောင်နေသော လုလင်ပျိုသည် လုံမပျိုကို စွေခနဲနေအောင် ပွေ့ယူသွားလေသည်။

လုံမငယ်သည် မိမိချစ်သူမှန်းသိရ၍ ဝမ်းမြောက်ဝမ်းသာ ဖြစ်မိ၏။ ထိုအဖြစ်မှန်ကို လျှို့ဝှက်ထား၍ ရွာပြန်ရောက်သောအခါ လားမားဘုန်းကြီးနှင့် ဖြစ်ခဲ့ကြောင်းကို မိခင်အား ပြန်ကြားပြောဆို၏။ မိခင်ဖြစ်သူသည် ဝမ်းသာအားရ အောင်မြင်သော လေသံဖြင့် ရွာသူကြီးထံ သွားရောက် သတင်းပို့၏။ ရွာသူကြီးအမှူးပြုသော ရွာသူရွာသားအားလုံးသည် ထိုလုံမပျိုအိမ်ကို သဲဖြူခင်း ရာဇမတ်ကာ ငှက်ပျောပင်ရှင်စိုက်၍ ဘုရားလောင်း၏ မိခင်ဟု ကြေညာကာ ပူဇော်ပသကြလေသည်။

ဤကား တရုတ်စာရေးဆရာကြီး လူရွှန်း၏ ဟာသပုံပြင်များမှ တိဗက် လူဝင်စားဝါဒကို သရော်ရေးသားထားခြင်း ဖြစ်ပါသည်။

တိဗက်လားမားရဟန်းများသည် သိမ်ဝင်၍ ရဟန်းခံခြင်း, ဥပုသ်ပြုခြင်း စသော ဝိနည်းသိက္ခာပုဒ်အချို့ကို လိုက်နာကြ၏။ မင်္ဂလာရှစ်ပါး, သစ္စာလေးပါး, ပဋိစ္စသမုပ္ပါဒ်တရား စသော ဘုရားဟော တရားများကိုလည်း လက်ခံကျင့်သုံးခြင်းလည်း ပြုကြ၏။ သို့ရာတွင် ဘုရားတရားတော်ကို ကျင့်ခြင်းထက် ရွတ်ဖတ်ခြင်းက ပိုမိုလွန်ကဲနေ၏။ ဘုန်းကြီးကျောင်းတိုက်ကြီးများ၏ အလယ်တွင် ဘုရားရှိခိုးကျောင်းကြီး ဆောက်ထား၍ တစ်နေ့လျှင် အကြိမ်များစွာ စုဝေး၍ သုတ္တန်များကို ရွတ်ဖတ်ကြ၏၊ ဘုရားဂုဏ်တော်များနှင့် မန္တန်များကို ရွတ်ဖတ်ကြသည်။

လူဝတ်ကြောင်များမှာမူ ဘုန်းကြီးကဲ့သို့ ရွတ်ဖတ်ရန် အချိန်မရသဖြင့် စာအုပ်များကို စည်ပိုင်းထဲ၌ ထည့်၍ လှည့်ကြသည်။ လှည့်သော အပတ်အရေအတွက်အတိုင်း ရွတ်ဖတ်ရာ ရောက်သဖြင့် ရွတ်ဖတ်သူကဲ့သို့ပင် ကုသိုလ်ရ၏။ အချို့မှာ စကြာဘီးများတွင် ဘုရားရှိခိုးဂါထာနှင့် ဆုတောင်းများ ရေး၍ ထိုဘီးကို လှည့်ရ၏။ အချို့မှာ ထိုစကြာဘီးများကို လေတွင် လည်စေ၏။ မြစ်ချောင်းများတွင် ရေစီးအားဖြင့် လည်စေ၏။ ထိုဘီးလည်ပတ်သမျှ ကုသိုလ်ရနေသည်ဟု ယုံကြည်ကြ၏။

'အုမ် မဏိ ပဒ္မေ ဟုံ' ဟူသော ဂါထာမှာ လူတိုင်း၏ ပါးစပ်ဖျားတွင်ရှိ၍ တိဗက်ပြည်၏ ကျောင်းဆောင်တိုင်း နံရံတိုင်း၌ ရေးထားကြ၏။

## ရုရှားပြည် ဗုဒ္ဓသာသနာ

ရုရှားပြည် ဗော်လဂါမြစ်နှင့် ဒွန်မြစ်အကြား၌ (ကာလ်မုက်)ခေါ် လူမျိုးတစ်မျိုး ရှိ၏။ ၎င်းတို့သည် လားမားဗုဒ္ဓဘာသာဝင်များဖြစ်ကြ၍ လူဦးရေ တစ်သိန်းခန့်ရှိ၏။

ထို့ပြင် ဆိုက်ဘေးရီးယားနယ်တွင် မွန်ဂိုအနွယ်ဝင် ရုရှားလူမျိုးတို့သည် လားမား ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြ၏။

အဋ္ဌမဘုရင် ဝိဇယဝိရ လက်ထက်၌လည်း ကျောင်းတိုက်ကြီး နှစ်တိုက် ဆောက်လုပ်လှူဒါန်းခဲ့သည်။

၁၁ ဆက်မြောက်ဘုရင် ဝိဇယဇယလက်ထက်၌ တရုတ်မင်းသမီး ဇူရှိကို မိဖုရားမြှောက်၏။ ထိုဘုရင် ဆောက်လုပ်လှူဒါန်းခဲ့သော ကျောင်းတော်ကြီးကို တရုတ်ခရီးသည် ယွန်ချွမ်က မှတ်တမ်းတင်ခဲ့၏။

တရုတ်ပြည်သို့ ရှေးဦးစွာ သာသနာပြုသူမှာ ခိုတန်ပြည်သား အရှင်ကဿပမာတင်္ဂဖြစ်သည်ဟု ဆိုကြ၏။ ခိုတန်ဘုရင် ဓမ္မနန္ဒသည် ထီးနန်းစွန့် ရဟန်းပြု၍ အိန္ဒိယသို့ ပညာသင်ကြွ၏။ အိန္ဒိယမှ ပြန်ရောက်သောအခါ မဟာသံဃိကဂိုဏ်းကို တည်ထောင်၏။

ဒန္တရာဘုရင် လက်ထက်၌ သဗ္ဗတ္ထိဝါဒဂိုဏ်းမှ မန္တရသိဒ္ဓိဆရာတော်ကို ပင့်၍ ကိုးကွယ်၏။ သာသနာ ၉၄၈ တွင် တရုတ်ခရီးသည် ဖာဟိယန်သည် ခိုတန်ပြည်သို့ ရောက်၍ ဘုရား စေတီ ကျောင်းတိုက်များအကြောင်း မှတ်တမ်းတင်ခဲ့၏။ ဂေါမတိဝိဟာရ ကျောင်းတိုက်တစ်ခုတည်းမှာပင် ရဟန်းသုံးထောင်ရှိသည် ဆို၏။

တိဗက် မှတ်တမ်းများအရဆိုပါမူ သာသနာနှစ်ငါးရာခန့်က ခိုတန်ဘုရင်သည် ဗုဒ္ဓဘာသာကို ဆန့်ကျင်၍ ရဟန်းတော်များကို နှင်ထုတ်၏။ ရဟန်းသံဃာ မှန်သမျှ ဂန္ဓာရနှင့် တိဗက်သို့ ပြေးဝင် ခိုလှုံရသည် ဆို၏။

သာသနာနှစ် ၁၅၀၀ ကျော်တွင် တူရကီလူမျိုး ယူဆစ်ကဒရ်ခန် ဦးဆောင်သော မူစလင်စစ်တပ်ကြီးက ခိုတန်ပြည်ကို သိမ်းပိုက်လိုက်ရာ သာသနာကွယ်ပ၍ ခိုတန်ပြည် ဟူသော အမည်ပျောက်၍ တာကစ္စတန် ဟူသော အမည်သစ် ဖြစ်ပေါ်လာ၏။ ယခုအခါ ဆိုဗီယက်ပြည်ထောင်စုအတွင်း ပြည်နယ်တစ်ခုအဖြစ် တည်ရှိ၏။ တာကစ္စတန်ပြည် သဲကန္တာရများအလယ်တွင် ဘုရားစေတီပျက်နှင့် ကျောင်းတိုက်ပျက်များ၊ ရုပ်ပွားတော် အကျိုးအပဲ့များသည်ကား အတိတ်က ခိုတန်ပြည်သမိုင်းကို အသံတိတ် ပြောပြနေလေတော့သည်။

## ဘူတန်ပြည် ဗုဒ္ဓသာသနာ

သာသနာနှစ် ၂၂၁၄ ခန့်က တိဗက်လူမျိုးတို့သည် ဘူတန်ပြည်ကို အောင်နိုင်သဖြင့် တိဗက်လားမားဗုဒ္ဓဘာသာ သာသနာပြုခဲ့လေသည်။ ဘူတန်ပြည်၌ တိုင်းပြည်အုပ်ချုပ်သူကို ဓမ္မရာဇာဟု ခေါ်၍ သာသနာပိုင်ကိုမူ 'ဒေဝရာဇာ'ဟု ခေါ်၏။ ယခုခေတ်၌လည်း ဘူတန်ပြည်ကို ဗုဒ္ဓဘာသာဝင် ဘုရင်များပင် ဆက်လက်အုပ်ချုပ်နေသည်။

## ဆစ်ကင်းပြည် ဗုဒ္ဓသာသနာ

သာသနာနှစ် ၂၁၉၄ ခုနှစ်တွင် 'လတ်ဆူးချင်ဘို' မည်သော တိဗက်လားမား ဘုန်းတော်ကြီး ဦးဆောင်သောအဖွဲ့သည် ဆစ်ကင်း ပြည်သို့ သာသနာပြုကြ၏။ ဆစ်ကင်းဘုရင်ကို လားမား သာသနာ့ ဒါယကာ ခံယူစေ၏။ ယခုလက်ရှိ ဆစ်ကင်းပြည်ဘုရင်မှာ ချိုဂယော ဖြစ်၍ ဆစ်ကင်းပြည်ကို အိန္ဒိယပြည်၏ အုပ်ချုပ်မှုအောက်သို့ သွတ်သွင်းလိုက်လေပြီ။

## ခိုတန်ပြည် ဗုဒ္ဓသာသနာ

ခိုတန်ပြည်အကြောင်းကို ရှေးခေတ်က တရုတ်မှတ်တမ်းနှင့် တိဗက်မှတ်တမ်းများ၌ တွေ့ကြရ၏။ တရုတ်ပြည်ကို ဗုဒ္ဓသာသနာပြုရာ၌ ခိုတန်ပြည်သည် အရေးပါသော အခန်းမှ ပါဝင်ခဲ့၏။

ခိုတန်ပြည်ကို ပထမဦးဆုံး သာသနာပြုကြွသော ဆရာတော်မှာ ရဟန္တာ ဝေရောစနအရှင်မြတ် ဖြစ်၏။ ခိုတန်ဘုရင် ဝိဇယသမ္ဘဝသည် ထိုအရှင်မြတ်အား ကြည်ညိုသဖြင့် သမဏဝိဟာရခေါ် ကျောင်းတိုက်ကြီး ဆောက်လုပ်လှူဒါန်းခဲ့၏။

မဟာယာန တန္တရကိုဏ်း၌ ဝေရောစနဘုရား ကိုးကွယ်မှုမှာ ခိုတန် သာသနာပြု ရဟန္တာ ဝေရောစနအား ကိုးကွယ်မှုမှ စတင်ခြင်း ဖြစ်နိုင်စရာရှိ၏။

## အင်ဒိုနီးရှား ဗုဒ္ဓသာသနာ

သာသနာနှစ် ၉၅၈ က ဖာဟိယန်သည် အိန္ဒိယမှ တရုတ်ပြည်သို့ အပြန်ခရီး၌ အင်ဒိုနီးရှားသို့ ရောက်ခဲ့၏။ ဗြာဟ္မဏဝါဒ လွှမ်းမိုးနေ၍ ဗုဒ္ဓဘာသာဝင် အနည်းငယ်မျှသာ တွေ့ရှိခဲ့သည်ဟု မှတ်တမ်းတင်ခဲ့၏။

သာသနာနှစ် ၁၀၆၃ ကသ္မီရဘုရင်၏ သားတော် အရှင်ဂုဏဝမ္မ သည် ဂျာဗားကျွန်းသို့ ကြွ၍ သာသနာပြုရာ သာသနာတော် စည်ပင် ပြန့်ပွားလာကြောင်းကို 'ကာအိုဆင်ချွမ်' မည်သော တရုတ်ကျမ်းစာ တစ်ခု၌ ဖော်ပြထား၏။ ထိုခေတ်က နာလန္ဒတက္ကသိုလ်မှ ဆရာတော် ဓမ္မပါလသည်လည်း အင်ဒိုနီးရှားပြည်သို့ သာသနာပြုကြွခဲ့သည်။

အင်ဒိုနီးရှားတွင် နာမည်ကျော် ဗောရောဗုဒုစေတီကြီးအပြင် ကလဆံ စေတီနှင့် မင်ဒတ်စေတီတို့လည်း ရှိသေးသည်။ သာသနာ ၁၃၃၃ တွင် ရေးထိုးသော ကလဆံစေတီကျောက်စာမှာ ဒေဝနာဂရီအက္ခရာဖြင့် ရေး ထိုး၍ တာရာနတ်သမီးကျောင်းနှင့် မဟာယာနကျောင်းတိုက်တစ်ခုကို ဆောက်လုပ်လှူကြောင်း မှတ်တမ်းတင်ထားသည်။

အိချင် (ယိကျင်)၏ မှတ်တမ်းအရ အင်ဒိုနီးရှားပြည်တွင် သံဃာ တစ်ထောင်ခန့် တွေ့ခဲ့ရသည်ဟု ဆို၏။ ထိုခေတ်က အင်ဒိုနီးရှားကျွန်းကို 'သုဝဏ္ဏဒီပ'ဟု ခေါ်၍ နိုင်ငံကို 'သိရိဝိဇယနိုင်ငံတော်'ဟု ခေါ်၏။

(သုဝဏ္ဏ = ရွှေ + ဒီပ = ကျွန်း)

သာသနာနှစ် ၁၆၀၀ ခန့်တွင် သုဝဏ္ဏဒီပသည် မဟာယာန ဗုဒ္ဓ ဘာသာ၏ ဗဟိုချက်ဖြစ်သည်။ ဝိက္ကမသီလတက္ကသိုလ် ကျောင်းအုပ်ကြီး အတိဆာ (ဒီပင်္ကရဉာဏ) သည် သုဝဏ္ဏဒီပရှိ ဆရာတော် စန္ဒကိတ္တိထံ တန္တရ မန္တရ ပညာရပ်များကို ဆည်းပူးရန် သုဝဏ္ဏဒီပသို့ ကြွခဲ့သည်။ အတိဆာသည် တိဗက်သာသနာပြု ဆရာတော်ဖြစ်သည်။

ထိုခေတ်က အင်ဒိုနီးရှား (သုဝဏ္ဏဒီပ)ကို သေလိန္ဒြမင်းဆက် အုပ် စိုး၏။ သေလိန္ဒြမင်းများသည် မလေးကျွန်းဆွယ်အထိ အာဏာစက် ဖြန့်

နိုင်၏။ မဟာယာန ဗုဒ္ဓဘာသာကို အားပေး၏။ ဗောရောဗုဒုစေတီကြီးကို သေလိန္ဒြမင်းဆက်၌ တည်ခဲ့၏။ ဤစေတီမှ ရုပ်တုများကို စက်ဝိုင်းပုံတည်ထားရာ မဏ္ဍလလေးမျိုးတွင် ကမ္မမဏ္ဍလဟု ခေါ်၏။

ဘင်္ဂါမှ ပါလမင်းများနှင့် အိန္ဒိယတောင်ပိုင်းမှ စောဠမင်းများ သည် အင်ဒိုနီးရှားပြည် ဗုဒ္ဓသာသနာပြန့်ပွားရေးကို အားပေးကူညီထောက်ပံ့ကြ၏။ သေလိန္ဒြမင်းများသည် နာလန္ဒတက္ကသိုလ်၌ ကျောင်းဆောက် လှူဒါန်းကြ၏။ ထိုကျောင်းကို စောင့်ရှောက်ထိန်းသိမ်းရန် ပါလမင်းနှင့် စောဠမင်းများက ကျေးရွာများ လှူဒါန်းကြ၏။ နောက်ပိုင်းတွင် ဘုရင်များသည် ဗုဒ္ဓသာသနာကို အားပေးခြင်း မပြုသဖြင့် ဟိန္ဒူဘာသာက လွှမ်းမိုးသွား၏။ ဆူမတြာ၊ ဂျာဗား၊ ဗာလီကျွန်းနှင့် ဘော်နီယိုကျွန်းများတွင် ဗုဒ္ဓဘာသာ ထွန်းကားခဲ့သော်လည်း ဗြာဟ္မဏဝါဒက ပြန်လည်လွှမ်းမိုးသွားသည်။

သာသနာနှစ် ၂၀၀၀ ခန့်တွင် သဘော်သား အာရပ်ကုန်သည်များသည် မလေးကျွန်းဆွယ် မလက္ကာရေလက်ကြားသို့ ရောက်ရှိနေထိုင်ကြ၏။ အာရပ်တို့သည် တိုင်းရင်းသူများကို လက်ထပ်ယူကြ၏။ ယောကျ်ားတစ်ဦးလျှင် မယားအများယူသောစနစ်ကို ကျင့်သုံးရာ မကြာမီ မူစလင်လူဦးရေက များလာ၏။ ထို့ပြင် ထိုအာရပ်အနွယ်တို့သည် စီးပွားရေးလုပ်ငန်း ကျွမ်းကျင်ကြရာ လူအင်အား, စီးပွားရေးအင်အားကို အသုံးချ၍ နိုင်ငံအာဏာကို သိမ်းလိုက်ကြ၏။ အာဏာရပြီးနောက်၌ကား သူတို့လုပ်ထုံးလုပ်နည်းအတိုင်း တစ်တိုင်းပြည်လုံး မူစလင်ဘာသာဝင်ဖြစ်စေ၏။ ဗာလီကျွန်းတစ်ခု၌သာလျှင် ဟိန္ဒူဘာသာ ဆက်လက်တည်ရှိ၏။

အင်ဒိုနီးရှားလူမျိုးတို့သည် မူစလင်ဘာသာဝင် ဖြစ်သွားကြသော်လည်း ဗုဒ္ဓဘာသာယဉ်ကျေးမှုဖြစ်သော ပါဠိသက္ကတ သုံးစွဲမှုကို မစွန့်ချေ။ အင်ဒိုနီးရှားလေကြောင်းကုမ္ပဏီကို (ဂရုဍ) ဂဠုန် လေကြောင်းကုမ္ပဏီဟု ခေါ်၏။ အင်ဒိုနီးရှား သမ္မတကြီးဆူကာနို၏အမည်မှာ ပါဠိ

အသံထွက်ဖြင့် 'သုကဏ္ဏ' ဖြစ်၏။ (သုႏလှပသော + ကဏ္ဏႏနား)၊ ဤခေတ်မှာပင် အင်ဒိုနီးရှား လူမျိုးတစ်ဦး၏ နောက်ကျောကို အမှတ်တမဲ့ ထုလိုက်ပါက လန့်ဖျပ်၍ 'ဗုဓ် ဗုဓ်' ဟု ယောင်ယမ်းမြည်လေ့ရှိကြ၏။

ထို့ပြင် ဟိန္ဒူယဉ်ကျေးမှုအမွေအနှစ်ဖြစ်သော ရာမဇာတ်ကို ဆက်လက်ကပြ အားပေးနေကြဆဲဖြစ်၏။ ဂျာဗားကျွန်းမှ မဟာယာန ဗုဒ္ဓဘာသာ၏ အမွေအနှစ်အဖြစ်ဖြင့် အောက်ပါ ကျမ်းနှစ်ဆူ ကျန်ရစ်၏။

၁။ သံယှံ ကမဟာယနံ မန္တရနယ၊

၂။ သံယှံ ကမဟာယနိကံ။

## မလေးရှား ဗုဒ္ဓသာသနာ

မလေးရှားကို ရှေးအခါက မာလာယု (မလ္လာယု) ကျွန်းဟု ခေါ်ကြ၏။ ဗုဒ္ဓသာသနာ ရောက်ရှိပြန့်ပွားပုံနှင့် ကွယ်ပပုံမှာ အင်ဒိုနီးရှားနှင့် လုံးဝတူ၏။

သာသနာ ၉၀၀ မှ ၁၁၀၀ အတွင်းက ရေးထိုးခဲ့သော ကျောက်စာများမှာ သက္ကတဘာသာဖြင့် ရေးထိုးသည်ကို တွေ့ရ၏။ ဗုဒ္ဓဘာသာ အကြောင်းကို ရေးသားချက်များ တွေ့ရ၏။ သာသနာ ၁၁၀၀ တွင် မဟာယာန ဗုဒ္ဓဘာသာ ထွန်းကား၏။ မဟာယာန အဘိဓမ္မာကျမ်းမှ ဂါထာသုံးခုကို ရေးထားသော ရွှံ့အုတ်ချပ်တစ်ခုကို အထောက်အထား အဖြစ် တွေ့ရ၏။ ရွှံ့အုတ်ခွက်တစ်ခု၌မူ နတ်ကွန်း အုတ်တိုက် သုံးခုနှင့် စေတီငါးဆူကို ဘုရင်နှင့် ရဟန်းတော်များ ကြီးမှူးတည်ထားကြောင်းကို ရေးထိုးထား၏။ မလေးရှား၌ 'နခွန်ရှရီတမ္မရတ်'အမည်ရှိသော စေတီကြီး တစ်ဆူကို တွေ့ရ၏။

ပုဂံပြည်မှ ဆပ္ပဒမထေရ်သည် သီဟိုဠ်ကျွန်း၌ ပညာသင်ကြား၍ ရဟန်းဆယ်တစ်ဝါ အရတွင် ပုဂံပြည်သို့ ပြန်ခဲ့၏။ သီဟိုဠ်မှ သီဝလိ၊ တာမလိန္ဒ၊ အာနန္ဒ၊ ရာဟုလာ ဤမထေရ်လေးပါးကို ပင့်ခဲ့၏။

တစ်နေ့သ၌ ပုဂံပြည့်ရှင် နရပတိစည်သူမင်းကြီးသည် ထိုမထေရ် ငါးပါးကို အမှူးထား၍ အလှူကြီးပေး၏။ အလှူပွဲတွင် အငြိမ့်ပွဲနှင့် ယိမ်း

အကများ ပါဝင်ရာ ချောမောလှပသော ကချေသည်မတစ်ယောက်ကို အရှင်ရာဟုလာထေရ်မြင်လျှင် တပ်မက်သော စိတ်ရှိ၍ ရဟန်းဘောင်၌ မပျော် လူထွက်ရန် ကြိုးစား၏။ အခြား မထေရ်များက ငါတို့အတွက် ရှက်စဖွယ်ဖြစ်၍ တခြားတိုင်းပြည်သို့ သွားရောက် လူထွက်ရန် နှင်ထုတ်လိုက်ကြ၏။ ရာဟုလာထေရ်သည် ပုသိမ်မှ သင်္ဘောစီး၍ မလ္လာယုကျွန်းသို့ ကူးလေ၏။

မလ္လာယုဘုရင်သည် ဝိနည်းတရားကို တတ်သိနားလည်ရန် ဆန္ဒထက်သန်နေ၏။ ထိုဘုရင်ကို ခုဒ္ဒသိက္ခာ (ဝိနည်းကျမ်း)ကို ဋီကာနှင့်တကွ သင်ကြားပေးရာ ဘုရင်က ပတ္တမြားတစ်သပိတ် လှူ၏။ ရာဟုလာသည် မလ္လာယုတွင် လူထွက်လေ၏။ (သာသနာလင်္ကာရ စာတမ်းမှ)

ပုဂံပြည့်ရှင် နရပတိစည်သူမင်းကြီးမှာ သာသနာ ၁၇၀၀ တွင် ဖြစ်၍ ထိုခေတ်အထိ မလ္လာယုတွင် ဗုဒ္ဓဘာသာဝင် ဘုရင်များ အုပ်ချုပ်ကြောင်းကို သိရသည်။



## နောက်ဆက်တွဲ (က)

## ထေရဝါဒနှင့် ဂိုဏ်းကွဲများ သမိုင်း

တတိယသင်္ဂါယနာခေတ်က ရှိသော ဂိုဏ်းကွဲတို့၏ အယူဝါဒများကို အနည်းငယ် ဖော်ပြပါဦးမည်။ (၎င်းတို့၏ အယူဝါဒ အပြည့်အစုံကို ဤကျမ်း နောက်ဆက်တွဲ (င) ကထာဝတ္ထုပါဠိတော် အကျဉ်းချုပ် ပြန်ဆိုချက်၌ ဖော်ပြထားပါသည်။)

### ၁။ ထေရဝါဒ

ထေရဝါဒမှာ မြတ်စွာဘုရား ဟောတော်မူခဲ့သည့်အတိုင်း ပြင်ဆင်ဖြည့်စွက်ခြင်း မရှိ၊ နုတ်ပယ်ခြင်း မရှိ၊ မူရင်း အရှိအတိုင်း တိကျစွာ ဆက်လက်ထိန်းသိမ်းထားသော တရားတော်များကို 'ထေရဝါဒ'ဟု ခေါ်ပါသည်။ ပြည့်စုံ စင်ကြယ်သော ပင်မဗုဒ္ဓဘာသာဖြစ်သည်။ ဘုရားဟော တရားတော်များကို **'မာဂဓီ'** ခေါ် ပါဠိဘာသာဖြင့် ရေးသားသည်။ ဤခေတ်တွင် မြန်မာနိုင်ငံ၊ သီဟိုဠ်၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လာအိုငါးနိုင်ငံတွင် ဆက်လက်ထွန်းကားနေသည်။

### ၂။ မဟာသံဃိကဂိုဏ်း

ဤဂိုဏ်းသည် ပင်မဖြစ်သော ထေရဝါဒမှ ပထမဦးဆုံး ခွဲထွက်သောဂိုဏ်းဖြစ်၏။ ဤခေတ် မြောက်ပိုင်း ဗုဒ္ဓဘာသာ (မဟာယာန)၏ ရှေ့တော်ပြေးဟု ဆိုသင့်၏။ ဒုတိယသင်္ဂါယနာတင်ပွဲ၌ အရှင်သဗ္ဗကာမီ၊ အရှင်ရေဝတနှင့်အရှင်ယသ အစရှိသော ရဟန္တာကြီးတို့၏ ဆုံးမသြဝါဒများကို မနာခံလိုသဖြင့် ဂိုဏ်းခွဲထွက်ခဲ့ကြသည်။ ဘုရားဟော ဝိနည်းနှင့် ညီအောင် မကျင့်ကြဘဲ မိမိအကျင့်ဆိုးများနှင့်ကိုက်ညီအောင် ဝိနည်းကို

ပြုပြင်ခဲ့ကြ၊ ပယ်ဖြုတ်ကြသည်။ ဒုတိယသင်္ဂါယနာနှင့်ယှဉ်ပြိုင်၍ စင်ပြိုင်သင်္ဂါယနာတင်ခဲ့သောဂိုဏ်းမှာ ဤမဟာသံဃိကဂိုဏ်းဖြစ်၏။ မဟာသံဃိကဂိုဏ်းအနေဖြင့် ဘုရားဟော ပါဠိတော်များကို ပြင်ဆင် ဖြည့်စွက်ကြပုံကို စင်ပြိုင်သင်္ဂါယနာအခန်း၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ မဟာသံဃိကတို့ကား ရဟန္တာမထေရ်ကြီးများကို တော်လှန်ကာ ဂိုဏ်းခွဲရေး ရှေ့ဆောင်လမ်းပြ ပြုလုပ်ခဲ့ကြ၏။

မဟာသံဃိကဂိုဏ်း၏ အဘိဓမ္မာပိုင်းဆိုင်ရာ အယူဝါဒများကို ကထာဝတ္ထုကျမ်း၌ လာသည့်အတိုင်း အနည်းငယ်မျှ ဖော်ပြလိုက်ပါသည်။ (အကျယ်သိလိုမူ နောက်ဆက်တွဲ (င) ၌ ရှုပါ။)

(က) ရဟန္တာသည် အဝိဇ္ဇာနှင့် ဝိစိကိစ္ဆာကုန်စင်အောင် မပယ်ရသေးချေ။ ကိလေသာအချို့ ကြွင်းကျန်သေး၏။ အကြောင်းမူ ဗုဒ္ဓကဲ့သို့ အရာခပ်သိမ်း သိတတ်သော သဗ္ဗညု မဟုတ်ခြင်းသည်ပင်လျှင် အဝိဇ္ဇာမကင်းသောကြောင့်ဟု ယူဆ၏။ ဤအယူအဆသည် မဟာယာနဘုရားလောင်းဝါဒ ပေါ်ထွန်းရန် လမ်းခင်းပေးခဲ့သည်။

မဟာသံဃိကဂိုဏ်းသည် ဒုတိယ သင်္ဂါယနာပွဲ၌ မိမိတို့ အမှားကို ထောက်ပြဝေဖန်သော ရဟန္တာမထေရ်ကြီးများကို ရန်ငြိုးဖွဲ့ကာ -

> "ရဟန္တာသည် ကိလေသာ မကုန်သေး၊ သံယောဇဉ် မကုန်သေး၊ ထို့ကြောင့် ရဟန္တာသည် ဘက်လိုက်တတ်သည်၊ အမှားကို ပြုလုပ်တတ်သည်။"

ဟု ဝါဒတစ်ရပ် တီထွင်လာကာ ရဟန္တာ၏ အဆင့်အတန်းကို နှိမ့်ချခဲ့ခြင်းဖြစ်သည်။ ဤမဟာသံဃိကဂိုဏ်း၏ ဝါဒအပေါ်၌ ထပ်ဆင့်ကာ ရဟန္တာဖြစ်ရေး အကျင့်လမ်းစဉ်သည် 'ဟီနယာန'၊ ဘုရားလောင်းလမ်းစဉ်သည် 'မဟာယာန'ဟု တစ်ဆင့်တက်ကာ 'မဟာယာန'ဂိုဏ်း တည်ထောင်ခဲ့ကြခြင်းဖြစ်သည်။ ထို့ကြောင့် မဟာယာနဝါဒမှာ ဒုတိယသင်္ဂါယနာက စခဲ့သည်ဟု ဆိုသင့်၏။

(ခ) ဗုဒ္ဓသည် တန်ခိုးရှင် (ဣဒ္ဓိမာ) ဖြစ်၍ နှစ်ပေါင်း အသင်္ချေ (မဟာကပ်)ပတ်လုံး အသက်ရှည်နိုင်သည်ဟု ဆိုကြသည်။ ဤအချက်ကို မှုတည်၍ မဟာယာနဂိုဏ်း 'အမိတာယု' (သက်တော်ရှည်) ဘုရား ပေါ် ပေါက်လာခဲ့သည် (အမိတ=အပိုင်းအခြားမရှိ အနန္တကာလပတ်လုံး + အာယု=အသက်)။

(ဂ) အရပ်ဆယ်မျက်နှာ၌ ဘုရားပေါင်း မရေမတွက်နိုင်လောက် အောင် အသင်္ချေအနန္တရှိသည်ဟု ယူဆကြသည်။ ထေရဝါဒ၌မူ အတိတ် ကာလက ပွင့်တော်မူခဲ့သော ဘုရားပေါင်း အသင်္ချေအနန္တ ရှိခဲ့သည်။ သို့ရာတွင် ထိုဘုရားရှင်တို့ ပရိနိဗ္ဗာန်စံဝင်တော်မူပြီးဖြစ်၍ ယခု မရှိ တော့ချေ။ မဟာယာနဝါဒအရ ထိုဘုရားပေါင်းသည် ယခုလည်း ရှိနေ သည်ဟု ယူဆသည်။

(ဃ) အနုသယသည် နာမ်တရားဖြစ်သော်လည်း ဖြစ်ခြင်း, ပျက် ခြင်း (ဥပါဒ်, ဌီ, ဘင် မရှိ၊ ဖြစ်ခြင်း, ပျက်ခြင်းရှိသော စိတ်နှင့် ပူးတွဲ ယှဉ်တွဲခြင်းမရှိသောကြောင့် 'စိတ္တဝိပ္ပယုတ္တ'ဟု ယူဆသည်။ ထေရဝါဒ၌ ကုသိုလ် အကုသိုလ် တရားများသည် စိတ်နှင့်အမြဲ ယှဉ်တွဲနေသည်ဟု ယူဆသော်လည်း မဟာယာန အဘိဓမ္မာကျမ်းများ၌မူ စိတ်နှင့် မယှဉ် သော (စိတ္တဝိပ္ပယုတ္တ) ကုသိုလ်, အကုသိုလ်တရားများ ရှိသေးသည်ဟု ဖော်ပြကြ၏။ (မြန်မာနိုင်ငံ၌ အနုသယကို မဟာယာနဝါဒအတိုင်း အချို့က လက်ခံထားကြသည်။ ကထာဝတ္ထုကို ဖတ်တော်မူကြပါ)။

(င) ထေရဝါဒ၌ အသံရုပ်သည် စိတ်ကြောင့်လည်းကောင်း၊ ဥတု ကြောင့်လည်းကောင်း ဖြစ်၏။ ကံကြောင့်ဖြစ်သော အသံမရှိချေ။ မဟာ သံဃိကတို့က အသံသည် ကံကြောင့်လည်း ဖြစ်သည်ဟု ယူဆ၏။

(စ) ထေရဝါဒ အဘိဓမ္မာအရ လောဘစသော တရားတစ်ခု၌ အစွမ်း သတ္တိ (ပစ္စယသတ္တိ) အမျိုးမျိုးရှိသည်။ မဟာသံဃိကတို့ကမူ လောဘ သည် ဟေတုသတ္တိ တစ်ခုသာ ရှိရမည်။ အခြားသော အာရမ္မဏသတ္တိ,

အနန္တရသတ္တိစသည် မရှိရ။ တရားတစ်ခု၌ အစွမ်းသတ္တိတစ်ခုသာ ရှိရမည်ဟု ယူဆကြသည်။ ထို့ပြင် အကြောင်းသည် အမြဲတမ်း အကြောင်းဖြစ်၍ အကျိုးမဖြစ်နိုင်၊ အကျိုးသည် အမြဲတမ်း အကျိုးသာဖြစ်၍ အကြောင်း မဖြစ်နိုင်ဟု ဆို၏။ အညမည အပြန်အလှန်သဘောကို ငြင်းပယ်ခြင်း ဖြစ်၏။

မဟာသံဃိကဂိုဏ်းသည် တတိယသင်္ဂါယနာနောက်ပိုင်း၌ အယူဝါဒများကို ဆင့်ကဲဆင့်ကဲ ပြုပြင်ခဲ့ကြ၏။ ဗုဒ္ဓကို လောကီ ၃၁ ဘုံမှ အလွတ်ဖြစ်သော နိဗ္ဗာန်ဘုံ၌ အမြဲစံနေစေ၍ ၃၁ ဘုံ အတွင်းသို့ ဘုရားလောင်းဗောဓိသတ္တများကို တမန်တော်အဖြစ်ဖြင့် စေလွှတ်လေသည်ဟု ပြင်ဆင်ရေးသားကြကုန်၏။ သတ္တဝါတို့ကို ကယ်တင်ရန် ဘုရားလောင်းသည် လူ့အသွင်ကို ဟန်ဆောင်သောအားဖြင့် ယူသည်။ တကယ့်လူသားကဲ့သို့ မွေးခြင်း, သေခြင်း မရှိချေ။ လူတို့နှင့်အတူတူ ထင်မှတ်ကြစေရန် ဟန်ဆောင်ပြုမူတော်မူသည်။ ဘုရားလောင်းသည် အမိဝမ်းတွင်းသို့ ဆင်ဖြူတော်အသွင်ဖြင့် ဝင်ရောက်၍ လက်ယာ (ညာ) ဘက်နံပါးမှ ခွဲထွက်လာဟန်ပြုသည်။ မွေးဖွားကတည်းကပင် ကာမစိတ်, ဒေါသစိတ်များ ကင်းသည်ဟု ဆို၏။ ဤနည်းအားဖြင့် ဗုဒ္ဓနှင့်ဗောဓိသတ္တများကို ထာဝရတည်သော တန်ခိုးရှင်များအဖြစ်သို့ မြှင့်တင်ခဲ့လေသည်။

ယွန်ချွမ် (**Yuan Chwang**) ၏ မှတ်တမ်းအရ မဟာသံဃိကဂိုဏ်း၏ ပိဋကမှာ သုတ္တ၊ ဝိနယ၊ အဘိဓမ္မ၊ ဓာရဏီနှင့် အထွေထွေကျမ်းများဟူ၍ အုပ်စုငါးစု ခွဲထားသည်။ ယွန်ချွမ်သည် အိန္ဒိယတောင်ပိုင်း ဓညကဋကအရပ်၌ အဖော်ရဟန်းနှစ်ပါးနှင့်အတူ အဘိဓမ္မာ အဖွင့်ကျမ်းများကို ရေးသားခဲ့သည်ဟု ဆို၏။

တရုတ်ရဟန်းတော် ယွန်ချွမ်သည် အိန္ဒိယမှ သက္ကတဘာသာဖြင့် ရေးသားထားသော ပိဋကကျမ်းပေါင်း ၆၅၇ ကျမ်းကို တရုတ်ပြည်သို့ သယ်ဆောင်ခဲ့၏။ ထိုကျမ်းများကို တရုတ်ဘုရင်၏ အမိန့်အရ တရုတ်ဘာသာပြန်ရာ မဟာသံဃိကဂိုဏ်း၏ သုတ္တ၊ ဝိနယနှင့် အဘိဓမ္မာဆိုင်ရာ ကျမ်းပေါင်း ၁၅ ကျမ်း ပါဝင်သည်။ ထို့ထက်စော၍ တရုတ်ရဟန်းတော်

ဖာဟိယန် အိန္ဒိယရောက်စဉ်က တရုတ်အက္ခရာဖြင့် ရေးသားခဲ့သော ကျမ်းများတွင် မဟာသံဃိကဂိုဏ်း၏ ဘိက္ခုဝိနယနှင့် ဘိက္ခုနီဝိနယကျမ်း နှစ်စောင်ပါကြောင်းကို နန်ဂျီယို (Nanjio) ပိဋကစာရင်း၌ တွေ့ရလေသည်။

ဤခေတ်၌ မူရင်းအတိုင်း တွေ့နိုင်သော မဟာသံဃိကကျမ်းမှာ 'မဟာဝတ္ထု'ခေါ် မဟာဝတ္ထုအဝဒါနကျမ်း ဖြစ်၏။ ဤကျမ်းမှာ ဘုရားပွင့်တော်မူပုံနှင့် သံဃာများ စတင်ပေါ်လာပုံကို ပြထား၏။ ဗုဒ္ဓဝင်နှင့် ဇာတကများကို ဝိနည်းနိဒါန်းအဖြစ် ထည့်သွင်းရေးသားထား၏။ သက္ကတဘာသာနှင့် ပြာကရစ်ဘာသာ နှစ်မျိုးရောနှောရေးသားထားသဖြင့် ဘီစီ နှစ်ရာစုခန့်က ဤကျမ်းစာကို စီရင်သည်ဟု ယူဆနေကြသည်။ ဝိနီတဒေဝ (သာသနာ ၁၃၀၀) က မဟာသံဃိကဂိုဏ်းသည် ကျမ်းစာများကို ပြာကရစ်ဘာသာဖြင့် ရေးသည်ဟု ဆိုခဲ့၏။

မဟာသံဃိကဂိုဏ်းသည် တတိယသင်္ဂါယနာမတိုင်မီက ထေရဝါဒကို မယှဉ်ပြိုင်နိုင်သေးချေ။ တတိယ သင်္ဂါယနာတင်ပြီးနောက် နှစ်တစ်ရာခန့်အတွင်း၌ ဆန့်ကျင်ဘက် ဂိုဏ်းသားအားလုံးကို စုစည်း၍ ပါဋလိပုတ်ပြည်နှင့် ဝေသာလီပြည်တို့တွင် ခြေကုပ်ယူ၏။ ထိုသို့ အိန္ဒိယမြောက်ပိုင်းတွင် အားကောင်းလာ၍ တဖြည်းဖြည်း အိန္ဒိယတစ်ပြည်လုံးကို လွှမ်းမိုးသွားတော့သည်။ မဟာသံဃိကဂိုဏ်း ထွန်းကားခဲ့ပုံကို 'အမရဝတီ'ကျောက်စာနှင့် 'နာဂအဇ္ဈုနကုဏ္ဍ'ကျောက်စာများ၌ အထောက်အထားတွေ့ရ၏။ ဤကျောက်စာများကို ဩက္ကာက (ဣက္ခွာကု) မင်းမျိုးများက ကုသိုလ်ပြုခဲ့ခြင်းဖြစ်၏။ အေဒီသုံးရာစုခန့်ဟု မှန်းဆရ၏။ နာဂအဇ္ဈုနကုဏ္ဍအရပ်ရှိ ကျောင်းတိုက်ကြီးမှာ မဟာသံဃိကဂိုဏ်းတည်ရာဗဟိုဌာနဖြစ်ခဲ့၏။

ဘုံဘေမြို့အနီးရှိကာလေး (Karle) ဂူတွင် အခန်းကိုးခန်းရှိသော ခန်းမကြီးနှင့် ကျေးရွာတစ်ရွာကို မဟာသံဃိကဂိုဏ်းအား လှူဒါန်းကြောင်း မှတ်တမ်းရေးထားသည်ကို တွေ့ရ၏။ ကာလေးကို ဗဟိုဌာနပြုလုပ်၍ အိန္ဒိယအနောက်ပိုင်းကို မဟာသံဃိကဂိုဏ်းက လွှမ်းမိုး၏။

အာဖဂန်နစ္စတန်ပြည်၌တွေ့ရသော (Wardak) ဓာတ်တော်ကြုတ်တွင် (ဟုဝိက္ခ) ဘုရင့်လက်ထက်၌ 'ကမလဂုယှ' အမည်ရှိသူက မဟာသံဃိက ဆရာတော်တစ်ပါးအား လှူဒါန်းကြောင်း ရေးထိုးထား၏။

သာသနာ (၁၃၆၄)က ပြုလုပ်သော မထုရာပြည် ကျောက်တိုင်ထိပ်ရှိ ခြင်္သေ့ရုပ်အောက်ခြေတွင် 'ဗောဓိလမည်သော ဆရာတော်ကို မဟာသံဃိက တရားဟောကြားနိုင်ရန် လှူဒါန်းကြောင်း' ရေးထိုးထားလေ၏။ တရုတ်ရဟန်းတော် ယွန်ချွမ်နှင့်အိချင်တို့၏ မှတ်တမ်းအရ အာဖဂန်နစ္စတန်ပြည်၊ ဂန္ဓာရတိုင်းနှင့် မဂဓတိုင်းတို့တွင် မဟာသံဃိကဂိုဏ်း၏ ကျောင်းတိုက်ကြီးများ တွေ့ခဲ့ရကြောင်း မှတ်တမ်းတင်ခဲ့ကြ၏။

ဤအချက်များကို ထောက်ရှုပါက မဟာသံဃိကဂိုဏ်းသည် အိန္ဒိယတစ်ပြည်လုံးကို လွှမ်းမိုးခဲ့ကြောင်း ထင်ရှားပေသည်။

### ၃။ ဂေါကုလိကဂိုဏ်း

မဟာသံဃိကဂိုဏ်းမှ ပထမဦးဆုံး ခွဲထွက်သော ဂိုဏ်းဖြစ်သည်။ မူလအမည်မှာ ကုက္ကုဋ္ဋဖြစ်၍ ကာလရှည်လျားသဖြင့် ဂေါကုလဟု အသံထွက်ပြောင်းလာသည်။ သက္ကတမှတ်တမ်းများ၌ ကုက္ကုလိကဂိုဏ်းဟု ဖော်ပြကြသည်။ ကုက္ကုဋ္ဋသဒ္ဒါသည် 'ပြာပူ'ဟု အဓိပ္ပာယ်ရ၏။ လောကသည် အမြဲပူနေသော ပြာပူ မီးကျီးအစုကဲ့သို့ ချစ်ချစ်တောက် ပူလောင်နေသည်ဟု ယူဆသောဝါဒဖြစ်သည်။ မျက်စိ, နား, နှာခေါင်း, လျှာ, ကိုယ် ဟူသော ဒွါရတို့သည် ရာဂမီး၊ ဒေါသမီး၊ မောဟမီးတို့ဖြင့် တောက်လောင်နေကြသည်ဟု မြတ်စွာဘုရားက ရာဂ, ဒေါသ, မောဟတို့ကို မီးဖြင့် တင်စားဟောကြားထားသည်။ ဤဟောကြားချက်ကို တိုက်ရိုက်အဓိပ္ပာယ်ယူ၍ မျက်စိ, နား စသည်တို့သည် မီးကျီးကဲ့သို့ ပူလောင်နေသည်။ တစ်လောကလုံး သုခချမ်းသာ ဟူ၍ မြူမျှမရှိ၊ ဒုက္ခသက်သက်ဖြစ်၍ ပြာပူအစု, မီးကျီးအစုကဲ့သို့ ပူလောင်နေသည်ဟု ယူဆကြသည်။ ဤခေတ်တွင် (Peseimism) ဆိုသည်မှာ ထိုခေတ် ဂေါကုလိကဂိုဏ်း၏ အယူဝါဒနှင့် ဆင်တူသည်။

## ၄။ ပဏ္ဏတ္တိဝါဒဂိုဏ်း (ပညတ္တိဝါဒ)

ဂေါကုလိကဂိုဏ်းမှ ခွဲထွက်ခဲ့သည်။ ပဏ္ဏတ္တိနှင့် ပညတ္တိမှာ အက္ခရာပြောင်းလဲရုံမျှသာ ထူး၍ အဓိပ္ပာယ်တူညီ၏။ ဤဂိုဏ်း၏တည်ရာဌာနကိုလည်းကောင်း၊ အယူဝါဒကိုလည်းကောင်း မှတ်တမ်းများ၌ အထူးဖော်ပြထားခြင်း မရှိချေ။ သို့ရာတွင် ကထာဝတ္ထုကျမ်း သမ္မုတိဉာဏကထာသည် ပညတ္တိဝါဒဂိုဏ်း၏ ဝါဒတစ်ခု ဖြစ်စရာရှိပါသည်။ သမ္မုတိပညတ်ကို သိသော ဉာဏ်သည် သစ္စဉာဏ်မည်၏ဟု ယူဆသည်။ သမ္မုတိပညတ်သာလျှင် ထင်ရှားရှိ၍ ပရမတ္ထတရားဟူ၍ သီးခြား မရှိဟု ဤဂိုဏ်းကယူဆသည်။ သမ္မုတိသစ္စာ (ပညတ်) ကိုသာ လက်ခံ၍ ပရမတ္ထသစ္စာကိုငြင်းပယ်၏။ ကျန်သောအချက်များမှာ မဟာသံဃိကဝါဒအတိုင်းဖြစ်သည်။

## ၅။ ဗာဟုလိယ (ဗဟုဿုတိက)ဂိုဏ်း

ဂေါကုလိကဂိုဏ်းမှ ခွဲထွက်ခဲ့သည်။ ဗဟုသုတ အကြားအမြင်များသောဂိုဏ်းဟု ဆိုလိုသည်။ ဤဂိုဏ်း၏ဝါဒကို ကထာဝတ္ထု အဋ္ဌကထာတွင် ဖော်ပြမထားချေ။ သို့ရာတွင် ဤဂိုဏ်း၏အမည်ကို အမရဝတီနှင့် နာဂအဇ္ဇုနကုဏ္ဍာကျောက်စာ၌ ဖော်ပြထားသည်ကို တွေ့ရ၏။ ဤဂိုဏ်းက ဗုဒ္ဓ၏တရားတော်များကို လောကိယဒေသနာနှင့် လောကုတ္တရာဒေသနာဟု နှစ်ပိုင်းခွဲခြား၏။ အနိစ္စ ဒုက္ခ အနတ္တ သုညတ နိဗ္ဗာန်နှင့် စပ်ဆိုင်သော ဒေသနာများကို လောကုတ္တရာဒေသနာဟု သတ်မှတ်၍ ကြွင်းသော ဒေသနာများကို လောကိယဒေသနာဟု သတ်မှတ်၏။ သံဃာသည် လောကဥပဒေကို လိုက်နာရန် မလိုပါဟု ယူဆ၏။ ယခင် ပြဆိုခဲ့သော မဟာဒေဝ၏ မူဝါဒငါးချက်ကို လက်ခံ၏။ ဝါဒရေးရာ၌မူ သေလိယဂိုဏ်းများနှင့် တူ၏။ အဘိဓမ္မာ၌မူ ဓမ္မ (၈၄)မျိုး သတ်မှတ်၍ သဗ္ဗတ္ထိဝါဒအဘိဓမ္မာနှင့် ဆင်တူ၏။ မဟာယာနတို့ကဲ့သို့ ကာယသုံးပါးကို လက်မခံဘဲ ဗုဒ္ဓကာယနှင့် ဓမ္မကာယနှစ်ပါးကိုသာ လက်ခံ၏။

ဟရိဝမ္မ သစ္စသိဒ္ဓိကျမ်းကို ဤဂိုဏ်းက လက်ကိုင်ပြု၏။ ဗဟုဿုတိကဂိုဏ်းသည် သဗ္ဗတ္ထိဝါဒနှင့်မဟာယာနကို ပြန်လည်စေ့စပ်ရန် ကြိုးစားကြသည်။

## ၆။ စေတိယဂိုဏ်း

ဗာဟုလိယခေါ် ဗဟုဿုတိကဂိုဏ်းမှ ပေါ်ထွက်လာသော ဂိုဏ်းဖြစ်သည်။ သာသနာသက္ကရာဇ် ၂၀၀ ပြည့်ခါနီး၌ မဟာဒေဝက စတင်တည်ထောင်ခဲ့၏။ မဟာဒေဝသည် စေတီရှိသော တောင်ကုန်း၌ နေထိုင်၍ တပည့်ပရိသတ်ကို စာပေပို့ချနေ၏။ ထို့ကြောင့် ဤဂိုဏ်းကို စေတိယဂိုဏ်းဟု ခေါ်၏။ ပုဗ္ဗသေလိယနှင့်အပရသေလိယဂိုဏ်းများမှာ စေတိယဂိုဏ်းမှ ပေါက်ဖွားသည်ဟု မဟာယာနမှတ်တမ်းက ဆို၏။

စေတိယဂိုဏ်းသည် မူလသံဃိကဂိုဏ်း၏ ဝါဒအများစုကို လက်ခံလေ၏။ သို့ရာတွင် အသေးစိတ်အားဖြင့် အနည်းငယ်ကွဲပြား၏။

စေတိယဂိုဏ်း၏ ဝါဒများမှာ -

(က)ဒါနကုသိုလ်ကို သူတစ်ပါးအား လွှဲပြောင်းပေးနိုင်။
(ဤအချက်ကို မဟာယာနကလည်း လက်ခံထား၏။)

(ခ) သောတာပန်သည် ဒေါသကို မပယ်ရသေးသဖြင့် ပါဏာတိပါတကို မရှောင်နိုင်သေး -

ဟု ယူဆ၏။

ကျွန်ုပ်တို့ မြန်မာနိုင်ငံတွင်လည်း နာမည်ကျော် စာရေးဆရာကြီးတစ်ဦးက သောတာပန်သည် လူသတ်မှု ကျူးလွန်နိုင်သေးကြောင်း ရေးသားဖူးရာ စေတိယဂိုဏ်း၏ဝါဒနှင့် တူ၏။ ထေရဝါဒနှင့် မညီဟု မှတ်အပ်၏။ ဤစေတိယဂိုဏ်း၏ အမည်ကို အမရာဝတီနှင့် နာဂအဇ္ဇုနကုဏ္ဍာ ကျောက်စာများ၌ ဖော်ပြထားပါသည်။ အိန္ဒိယပြည်တောင်ပိုင်း၌ ထွန်းကား၍ မဟာယာနဂိုဏ်းကို ဖြစ်ပေါ်စေရာ၌ ဤဂိုဏ်းသည် လွန်စွာအရေးပါ၏။

## ၇။ ဝေပုလ္လဝါဒဂိုဏ်း

မဟာသံဃိက ဂိုဏ်းကွဲတစ်ခု ဖြစ်သည်။ ဤဂိုဏ်း၏ ထွန်းကားရာဒေသနှင့် အယူဝါဒများအကြောင်းကို မှတ်တမ်းတစ်စုံတစ်ရာ မတွေ့ရချေ။ ဤဂိုဏ်းကို အမည်မျှသာ တွေ့ရ၏။

ကေဗျောဟာရိကာ၏ အစိပ္ပာယ်မှာ 'ကေဝေါဟာရိက'ဟု ဆိုလိုသည်။ (ကေ=တစ်ခု + ဝေါဟာရ=စကားအသုံးအနှုန်း)

ကေဝေါဟာရ = ဗုဒ္ဓဟောသော ဝေါဟာရစကား မှန်သမျှသည် လောကုတ္တရာ ဝေါဟာရတစ်မျိုးတည်းသာ ဖြစ်သည်။ လောကီဝေါဟာရကို မြတ်စွာဘုရား မသုံးဟုယူ ဆသည်။ ဗုဒ္ဓ၏နှုတ်တော်ထွက်သမျှ စကားလုံးများသည် လောကုတ္တရာ ဝေါဟာရတစ်မျိုးတည်းသာ ဖြစ်သည်ဟု ယူဆသည်။ ကထာဝတ္ထုကျမ်း၌ ဝေါဟာရကထာသည် ဤဂိုဏ်း၏ အယူဝါဒကို ဆွေးနွေးထားပုံရသည်။

## ၈။ လောကုတ္တရဝါဒီဂိုဏ်း

မဟာသံဃိက ဂိုဏ်းကွဲတစ်ခု ဖြစ်သည်။ ဒီပဝံသနှင့် ကထာဝတ္ထုအဋ္ဌကထာတွင် ဤဂိုဏ်း၏အမည်ကို မဖော်ပြချေ။ ဝသုမိတြနှင့် ဘဗျတို့၏ မှတ်တမ်း၌သာ ဖော်ပြထား၏။ မဟာဝတ္ထုခေါ် မဟာဝတ္ထု အဝဒါနကျမ်းမှာ လောကုတ္တရဝါဒီ ဂိုဏ်းသားတို့၏ ဝိနည်းပိဋကတွင် ပထမဦးဆုံး ဝိနည်းကျမ်းဖြစ်၏။ ဤဂိုဏ်း၏ အယူဝါဒများမှာ -

(က) ဉာဏ်မှန်သမျှသည် လောကုတ္တရာဖြစ်၍ ပုထုဇဉ်မှာ ဉာဏ်မရှိချေ။

(ခ) အရိယာပုဂ္ဂိုလ်အားဖြစ်သော ဉာဏ်များမှာ လောကီဉာဏ်ဟူ၍ မရှိနိုင်၊ လောကုတ္တရာဉာဏ်ချည်းသာ ဖြစ်ကုန်၏။

(ဂ) လောကီ သဒ္ဓါ, ဝီရိယ, သတိ, ပညာတို့သည် ဣန္ဒြေ မမည်၊ လောကုတ္တရာ သဒ္ဓါ, ဝီရိယ စသည်တို့သည်သာလျှင် ဣန္ဒြေ မည်၏။

(ဃ) လောကုတ္တရာတရားတို့၏ ဇရာ မရဏ (ဇရတာ အနိစ္စတာ) သည်လည်း လောကုတ္တရာပင် မည်၏။

(င) မြတ်စွာဘုရား သုံးနှုန်းဟောကြားသော ဝေါဟာရ မှန်သမျှသည် လောကုတ္တရာ ဝေါဟာရသာ ဖြစ်၏။

## ၉။ မဟီသာသကဂိုဏ်း

ပင်မ ဗုဒ္ဓဘာသာဖြစ်သော ထေရဝါဒမှ မဟာသံဃိကဂိုဏ်း ပထမဦးဆုံးအကြိမ် ခွဲထွက်ခဲ့ပြီးနောက် များမကြာမီ သာသနာသက္ကရာဇ် နှစ်ရာစုအတွင်းမှာပင် ဒုတိယအကြိမ် ခွဲထွက်သောဂိုဏ်းမှာ မဟီသာသကဂိုဏ်းနှင့်ဝဇ္ဇိပုတ္တကဂိုဏ်းတို့ ဖြစ်ကြသည်။ မဟီသာသကဂိုဏ်း၏ အယူဝါဒမှာ များသောအားဖြင့် အန္ဓကဂိုဏ်းများ၊ သဗ္ဗတိယဂိုဏ်းတို့နှင့် တူညီ၏။ မဟီသာသကဂိုဏ်း၏အမည်ကို အမရဝတီနှင့် နာဂအဇ္ဇုနကုဏ္ဍာ ကျောက်စာများ၌ ဖော်ပြထားရာ ဤဂိုဏ်းသည် အိန္ဒိယတောင်ပိုင်း၌ ထွန်းကားခဲ့ကြောင်း သိရ၏။ ဤဂိုဏ်း၏ဝါဒမှာ -

(က) ကိလေသာချုပ်ငြိမ်းမှု 'နိရောဓ'ကို 'ပဋိသင်္ခါနိရောဓနှင့် အပဋိသင်္ခါနိရောဓ' ဟု နှစ်မျိုးခွဲခြားသည်။ ပဋိသင်္ခါနိရောဓဆိုသည်မှာ မဂ်ဉာဏ်၏အစွမ်းအားကြောင့် ကိလေသာချုပ်ငြိမ်းခြင်းဖြစ်၏။ အပဋိသင်္ခါနိရောဓဆိုသည်မှာ မဂ်ဉာဏ်အစွမ်းကြောင့် မဟုတ်ဘဲ ဥပါဒ်၊ ဋ္ဌီ၊ ဘင် သဘောအရ အလိုအလျောက် ချုပ်ငြိမ်းခြင်းဖြစ်၏။ ဤချုပ်ငြိမ်းမှု နှစ်မျိုးကို တူညီသည်ဟု ယူဆသည်။

(ခ) ပဋိစ္စသမုပ္ပါဒ် ကြောင်းကျိုးဆက်ဖြစ်ပေါ်မှု နိယာမသည် အမြဲတည်ရှိသောကြောင့် အသင်္ခတတရားဟု ယူဆသည်။

(ဂ) အာကာသ ကောင်းကင်သည်လည်း ပြုလုပ်စီမံခံရခြင်း မရှိ၊ ပျက်စီးခြင်း မရှိသောကြောင့် 'အသင်္ခတတရား'ဟု ယူဆ၏။ (ထေရဝါဒဗုဒ္ဓဘာသာ၌ နိဗ္ဗာန်တစ်ခုတည်းကိုသာ အသင်္ခတဟု ခေါ်သည်။)

(ဃ) စေတနာကို 'ကံ'ဟု မခေါ်ရ၊ ကာယဝိညတ်ရုပ်နှင့် စကားအသံရုပ်များကိုသာ ကာယကံ၊ ဝစီကံဟု ခေါ်ရမည်။ ထို့ကြောင့် ကုသိုလ် အကုသိုလ် ဆိုသည်မှာလည်း ရုပ်သာလျှင် ဖြစ်သည်ဟု ယူဆ၏။

(င) မဂ္ဂင်ရှစ်ပါး၌ပါဝင်သော -

သမ္မာဝါစာ = ကောင်းသောစကား၊

သမ္မာကမ္မန္တ = ကောင်းသောအလုပ်၊

သမ္မာအာဇီဝ = ကောင်းသောအသက်မွေးမှု၊

ဤတရားသုံးပါးသည် ရုပ်တရားဖြစ်သည်။ ထို့ကြောင့် ရုပ်သည် မဂ္ဂသစ္စာမည်၏ဟု ယူဆသည်။ (ထေရဝါဒ၌ ထိုမဂ္ဂင်သုံးပါးမှာ ရှောင်ကြဉ်ကြောင်း ဝိရတီစေတသိက် နာမ်တရားများဖြစ်ကြသည်။)

(စ) သမ္မာဝါစာ သမ္မာကမ္မန္တ သမ္မာအာဇီဝဟူသော ဤမဂ္ဂင်သုံးပါးသည် မဂ်ဉာဏ်မရမီက ကြိုတင်၍ ပြည့်စုံပြီးဖြစ်သည်။ ထို့ကြောင့် မဂ်ဉာဏ်ရချိန်၌ ဤမဂ္ဂင်သုံးပါး မပါဝင်သဖြင့် မဂ္ဂင်ရှစ်ပါး မဟုတ်၊ မဂ္ဂင်ငါးပါးဟု ဆိုကြသည်။

(ဆ) လောကီစိတ်၌ ယှဉ်သော သဒ္ဓါ ဝီရိယ သတိ ပညာ စေတသိက်တို့ကို ဣန္ဒြေ မမည်ဟု ယူဆကြသည်။

(ဇ) စျာန်ဝင်စားရာ၌ ပထမစျာန်မှ ဒုတိယစျာန် စသည်သို့ တောက်လျှောက် ကူးပြောင်းနိုင်သည်ဟု ယူဆကြလေသည်။

(ကထာဝတ္ထုကျမ်းမှ)

(ဈ) သဗ္ဗညုတဉာဏ်သည် ပစ္စုပ္ပန်တရားကို သိနိုင်သည်။ ထို့ကြောင့် သဗ္ဗညုတဉာဏ်ဟု ဆိုအပ်သော မဟာကြိယာဉာဏသမ္ပယုတ်ဇော၏ ရှေ့၌ မနောဒွါရာဝဇ္ဇန်း မလိုအပ်ချေ။ အာဝဇ္ဇန်းသည် စိတ်မဟုတ်၊ စေတသိက်ဖြစ်သည်ဟု ဆို၏။

(အဘိဓမ္မာဝတာရဋီကာသစ်)

## ၁၀။ ဓမ္မဂုတ္တိကဂိုဏ်း

မဟိသာသကဂိုဏ်းမှ ခွဲထွက်ခဲ့သည်။ ဤဂိုဏ်းသည် အာရှတိုက်အလယ်ပိုင်းနှင့် တရုတ်ပြည်တွင် ထွန်းကားခဲ့သည်။ ဤဂိုဏ်းမှာ ကိုယ်ပိုင်သုတ် ဝိနည်း အဘိဓမ္မာပိဋကကျမ်းများ သီးသန့်ရှိ၏။ ၎င်းတို့၏ ဝိနည်း

ကျမ်း၌ ဗုဒ္ဓပူဇာကို ဦးစားပေးထား၏။ တရုတ်ပြည် ဘုန်းကြီးကျောင်းများတွင် ဓမ္မဂုတ္တိကဂိုဏ်း၏ ဝိနည်းတရားအတိုင်း ကျင့်သုံးလိုက်နာကြ၏။

၁၁။ သဗ္ဗတ္ထိဝါဒဂိုဏ်း

မဟိသာသကဂိုဏ်းမှ ခွဲထွက်ခဲ့သည်။ ဤဂိုဏ်း၏ ပိဋကကျမ်းစာများကို သက္ကတဘာသာဖြင့် ရေးကြသည်။ အချို့က သဗ္ဗတ္ထိဝါဒကျမ်းကို ထေရဝါဒဟု ယူဆကြ၏။ အကြောင်းမူ ဤဂိုဏ်းရှိ အဘိဓမ္မာကျမ်းများမှာ ထေရဝါဒ အဘိဓမ္မာနှင့် တူညီချက်များစွာရှိ၏။ ထို့ပြင် အိန္ဒိယပြည်၌ ထေရဝါဒ မှေးမှိန်ပျောက်သွားသောအခါ သဗ္ဗတ္ထိဝါဒဂိုဏ်းသည် မဟာယာနဂိုဏ်းကို ဆန့်ကျင်တိုက်ခိုက်ရာ၌ ရှေ့တန်း၌ နေခဲ့သည်။ သို့ရာတွင် အမှန်စင်စစ် သဗ္ဗတ္ထိဝါဒသည် မှားယွင်းသောအယူ မိစ္ဆာဒိဋ္ဌိဖြစ်သည်ဟု ကထာဝတ္ထုကျမ်း၌ အကျယ်ဆွေးနွေး၍ ပယ်ဖျက်ခဲ့၏။ သာသနာနှစ် ၁၀၀၀ ခန့်၌ ဝသုဗန္ဓုသည် 'အဘိဓမ္မကောသ'အမည်ရှိသော သဗ္ဗတ္ထိဝါဒ အဘိဓမ္မာကျမ်းကို ရေးသားပြုစုခဲ့သည်။ ဤကျမ်းကို ရေးသားပြီးနောက် နောင်တော် အသင်္ဂ၏ ဆွဲဆောင်မှုကြောင့် မဟာယာနဂိုဏ်းသို့ ကူးပြောင်းဝင်ရောက်ခဲ့သည်။ သဗ္ဗတ္ထိဝါဒဘက်မှ နေ၍ မဟာယာနဝါဒအပေါ် အပြင်းအထန် ဝေဖန်ပုတ်ခတ်မိသမျှကို နောင်တရ၍ မိမိလျှာကိုပင် ဖြတ်ပစ်ချင်သည်ဟု ဖွင့်ဟခဲ့သည်။

သဗ္ဗတ္ထိဝါဒဂိုဏ်းသည် အိန္ဒိယတစ်ပြည်လုံးနှင့် ပါကစ္စတန်ပြည်၊ အာရှအလယ်ပိုင်းတို့တွင် ထွန်းကားခဲ့၏။ ဆူမတြာ၊ ဂျာဗား၊ ကိုချင်ချိုင်းနား၊ တရုတ်ပြည်တို့သို့ ပျံ့နှံ့၏။ သာသနာ ၆၅၀ ခန့်၌ ကနိဿျကမင်းသည် ဤဂိုဏ်း၏ သာသနာ့ဒါယကာပြုလုပ်၍ သင်္ဂါယနာတင်ပွဲအကြီးအကျယ် ဆင်နွှဲခဲ့၏။ ဤသင်္ဂါယနာတင်ပွဲကို ဝသုမိတြထေရ်ကဦးစီးခဲ့၏။ ထိုသင်္ဂါယနာမှာ ပိဋကတ်သုံးပုံကို ကြေးပြားပေါ်တွင် ရေးထိုးကာ စေတီတစ်ဆူအတွင်း၌ မြှုပ်နှံထားခဲ့သည်ဟု ဆိုကြသည်။ သို့ရာတွင် ယခုအချိန်အထိ ထိုကြေးပြားများ မတွေ့ကြရသေးပေ။

ဤသဗ္ဗတ္ထိဝါဒဂိုဏ်း၏ ဝါဒမှာ -

(က) သကဒါဂါမ် အနာဂါမ် ရဟန္တာတို့သည် အောက်အဆင့်သို့ လျှောကျ ဆုတ်ယုတ်နိုင်သည်။ သောတာပန်သည်ကား အောက်အဆင့်သို့ မလျှောကျနိုင်ဟု ယူဆ၏။

(ခ) မဂ်ဉာဏ်သည် သစ္စာလေးပါးကို မြင်ရာ၌ သစ္စာတစ်ပါးချင်း မြင်၏။ ကိလေသာပယ်ရာ၌လည်း လေးကြိမ်ခွဲ၍ ပယ်ရသည်ဟု ယူဆ၏။

(ဂ) စိတ္တက္ခဏတစ်ခုအတွင်းရှိ ဧကဂ္ဂတာစေတသိက်ကို သမာဓိဟု မခေါ်ဆိုဘဲ ဇော, ဘဝင်တို့ကဲ့သို့ တူညီသော စိတ်အစဉ် (စိတ္တသန္တတိ) ကိုသာ သမာဓိဟု ယူဆ၏။

(ဃ) သဗ္ဗံ အတ္ထိ၊ သဗ္ဗံ=အလုံးစုံသည်၊ အတ္ထိ=ရှိ၏။ ခပ်သိမ်းသော သဘာဝတရားများသည် မပျက်မစီး အမြဲတည်ရှိနေကြသည်။ ရုပ်သည် အနာဂတ်မှ ပစ္စုပ္ပန်သို့ ပြောင်းလဲလာ၏။ ပစ္စုပ္ပန်မှ အတိတ်သို့ ပြောင်းလဲသွား၏။ ဤသို့ ကာလအားဖြင့် ပြောင်းလဲသည်ဟု ဆိုရသော်လည်း ရုပ်သည် ရုပ်သာလျှင်ဖြစ်၍ ပျက်စီးခြင်းမရှိ။ နာမ်သည် နာမ်သာလျှင် ဖြစ်၍ ပျက်စီးခြင်းမရှိ။ အတိတ်ဖြစ်သွားသော ရုပ်နာမ်တို့ သည်မူကား အမြဲတည်ရှိနေတော့သည်ဟု ယူဆ၏။ ဤဝါဒမှာ သဿတဝါဒဖြစ်၏။ သံယုတ်ပါဠိတော်၌ 'သဗ္ဗံ အတ္ထိ' ဟူသော ဝါဒသည် လောကာယတ အယူဝါဒဖြစ်၍ ဗုဒ္ဓကိုယ်တော်တိုင် ပယ်ဖျက်ခဲ့ပြီးဖြစ်သည်။

ပစ္စုပ္ပန်၌ရှိသော သဘာဝတရားတို့သည် အမှန်တကယ် ရှိနေကြသကဲ့သို့ အတိတ် အနာဂတ် တရားတို့သည်လည်း တကယ်ရှိနေကြ၏။ အကြောင်းမူ အတိတ် အနာဂတ် ပစ္စုပ္ပန်တို့သည် တစ်ဆက်တည်း တည်ရှိနေသောကြောင့် ဖြစ်သည်ဟု ယူဆ၏။ အနတ္တတရားကို လက်ခံသော်လည်း အရာခပ်သိမ်း၏အတွင်း၌ အမြဲတည်တံ့ခိုင်မာသော အနှစ်သာရ ရှိသည်ဟု ယူဆ၏။

## ၁၂။ ကဿပိကဂိုဏ်း

ဤဂိုဏ်းသည် သဗ္ဗတ္ထိဝါဒဂိုဏ်းမှ ခွဲထွက်ခဲ့သည်။ ဤဂိုဏ်းကို ဘဗျ,က 'သဒ္ဓမ္မဝဿက'ဟု ခေါ်၏။ ဤဂိုဏ်း၏ ဝါဒမှာ သဗ္ဗတ္ထိဝါဒကို အနည်းငယ်ပြုပြင်ထား၏။ အတိတ်က ပြုလုပ်ခဲ့သော ကုသိုလ် အကုသိုလ်ကံများသည် အကျိုးမပေးရသေးပါက အမြဲတည်ရှိနေ၏။ မိမိဆိုင်ရာ အကျိုးကို ပေးပြီးသောအခါမှ ချုပ်ငြိမ်းကွယ်ပျောက်သည်ဟု ယူဆသည်။

## ၁၃။ သကန္တိကဂိုဏ်း

ဤဂိုဏ်းသည် ကဿပိကဂိုဏ်းမှ ခွဲထွက်ခဲ့၏။ သင်္ကန္တိက ဆိုသည်မှာ ပြောင်းရွှေ့ခြင်း, ကူးပြောင်းခြင်းဟု အဓိပ္ပာယ်ရ၏။ တစ်ဘဝမှ တစ်ဘဝသို့ အလွန်တရာ သိမ်မွေ့နူးညံ့သော ဝိညာဉ်သည် ကူးပြောင်းသည်ဟု ယူဆ၏။ မဟာသံဃိကဂိုဏ်းအလို ဝိညာဉ်သည် ခန္ဓာကိုယ်တစ်ခုလုံးကို ပျံ့နှံ့တည်နေသည်ဟု ဆို၏။ ဤဂိုဏ်း၏ ဝိညာဉ်ဘဝကူးပြောင်းမှုဝါဒကို မဟာသံဃိကဂိုဏ်းမှတစ်ဆင့် ယောဂါစာရဂိုဏ်းက ရရှိ၍ အာလယဝိညာဏ်ကို တီထွင်ခဲ့၏။ ၎င်းကို မဟာယာနဂိုဏ်းက အမွေဆက်ခံခဲ့၏။

## ၁၄။ သုတ္တန္တိက (သုတ္တဝါဒ) ဂိုဏ်း

ဤဂိုဏ်းသည် သင်္ကန္တိကဂိုဏ်းမှ ခွဲထွက်ခဲ့၏။ ဝသုမိတြ၏ မှတ်တမ်းအရ သုတ္တန္တိကဂိုဏ်းနှင့် သင်္ကန္တိတဂိုဏ်းမှာ အမည်မျှသာကွဲ၍ တစ်ဂိုဏ်းတည်း ဖြစ်သည်ဟု ဆို၏။ ဟိန္ဒူအဘိဓမ္မာကျမ်းများ၌ သုညဝါဒကိုပင် သုတ္တန္တိကဟု ခေါ်ကြ၏။ ဈာန်ငါးပါးခွဲနည်းကို လက်မခံဘဲ ဈာန်လေးပါးသာ ခွဲ၏။ (သုတ္တန္တိကဂိုဏ်းအကြောင်းကို ရှေ့၌ အကျယ်ပြခဲ့ပြီ။)

## ၁၅။ ဝဇ္ဇီပုတ္တကဂိုဏ်း

ဤဂိုဏ်းသည် အမြဲတည်သော ပုဂ္ဂလ (အတ္တ)ကို လက်ခံမှုကြောင့် ထေရဝါဒမှ ဖယ်ထုတ်ခံရ၏။ သံသရာ၌ အဖန်ဖန် ပြန်လည်မွေးဖွား

နိုင်ရန် အမြဲတည်သော ပုဂ္ဂလ (အတ္တ) ရှိရမည်ဟု ယူဆ၏။ ပုဂ္ဂလ (အတ္တ)သည် ခန္ဓာငါးပါးမှ သီးခြားလည်း မဟုတ်၊ ထပ်တူလည်း မဟုတ်ဟု ဆို၏။ ဤအယူဝါဒကို မြတ်စွာဘုရားလက်ထက်တော်ကလည်း သာတိရဟန်း ကိုင်စွဲခဲ့၏။ ဝသုဗန္ဓုသည် အဘိဓမ္မကောသကျမ်း နောက်ဆုံးအခန်း၌ ဤဝါဒကို ငြင်းပယ်ထားခဲ့၏။

ထို့ပြင် ရဟန္တာသည် သောတာပန်အဆင့်တိုင်အောင် လျှောကျနိုင်၍ သောတာပန်မှုကား ပုထုဇဉ်အဆင့်သို့ ပြန်လည်မလျှောကျနိုင်ဟု ဆို၏။ မဟိသာသကဂိုဏ်းနည်းတူပင် မဂ်ဉာဏ်အခိုက်၌ မဂ္ဂင်ငါးပါးသာ ရှိသည်ဟု ယူဆ၏။

ဟဿဘုရင်၏ နှမတော် ရဇ္ဇသိရိက ဝဇ္ဇီပုတ္တကဂိုဏ်းကို အားပေးထောက်ပံ့၏။ ဤဂိုဏ်းကို အဝန္တိက (အဝန္တိတိုင်းသား) ဟု နောက်ပိုင်းခေတ်၌ ခေါ်ကြ၏။

၁၆။ ဓမ္မုတ္တရိယဂိုဏ်း

ဤဂိုဏ်းသည် ဝဇ္ဇီပုတ္တက ဂိုဏ်းကွဲတစ်ခုဖြစ်သည်။ သာသနာနှစ် ခုနစ်ရာခန့်က ရေးထိုးသော ကျောက်စာများ၌ ဤဂိုဏ်း၏ အမည်ကို တွေ့ရ၏။ ဤဂိုဏ်း၏ အယူဝါဒကို ဖော်ပြချက်များ မတွေ့ရပေ။

၁၇။ ဆန္နာဂါရိကဂိုဏ်း

ဤဂိုဏ်းသည် ဝဇ္ဇီပုတ္တက ဂိုဏ်းကွဲတစ်ခုဖြစ်၍ အယူဝါဒတရား ဖော်ပြထားခြင်းမရှိသဖြင့် ဝဇ္ဇီပုတ္တကဂိုဏ်းနှင့် ဝါဒချင်းတူသည်ဟု ယူဆသင့်၏။ ဆန္နာဂါရိကကို (ဆ + နာဂရ + က္က) ဟု ပုဒ်ခွဲ၍ မြို့ခြောက်မြို့ဂိုဏ်းဟု အဓိပ္ပာယ်ကြံဆကြ၏။

၁၈။ ဘဒြယာနိကဂိုဏ်း

ဝဇ္ဇီပုတ္တကဂိုဏ်း၏ ဂိုဏ်းကွဲတစ်ခုဖြစ်၏။ (ဘဒြ + ယာန + က္က) ဟု ပုဒ်ခွဲ၍ (ဘဒြ=ကောင်းသော + ယာန=ယာဉ်) ကောင်းမြတ်သော ယာဉ်ဟု အဓိပ္ပာယ်ရ၏။

ဤဂိုဏ်း၏ဝါဒမှာ မဂ်ဉာဏ်သည် ကိလေသာကို ပယ်ရာ၌ တစ်ကြိမ်တည်းဖြင့် မပယ်ဘဲ တစ်စိတ်ချင်း ပယ်သည်။ ဒုက္ခသစ္စာကို မြင်သောအခါ၌ ကိလေသာအချို့ကို ပယ်၏။ သမုဒယသစ္စာကို မြင်သောအခါ၌ ကိလေသာအချို့ကို ပယ်၏။ ဤသို့စသည်ဖြင့် ဆိုင်ရာကိလေသာကို အစိတ်အပိုင်းများ ခွဲ၍ ပယ်သည်ဟု ယူဆ၏။

## ၁၉။ သမ္မိတိယဂိုဏ်း

ဤဂိုဏ်းသည်လည်း ဝဇ္ဇိပုတ္တကဂိုဏ်းကွဲတစ်ခုဖြစ်၏။ မြန်မာ နိုင်ငံ၌ ပုဂံခေတ်က သမထီးခေါ် အရည်းကြီးရဟန်းများမှာ ထိုသမ္မိတိယဂိုဏ်းသားများဟု ယူဆကြ၏။ သမ္မိတိမှ သမိတိ၊ ၎င်းမှ သမထီး-ရှင်မထီး ဖြစ်လာသည်ဟု ဆိုကြ၏။ အင်ဒိုနီးရှားပြည် ဂျာဗားကျွန်းနှင့် မလေးကျွန်းဆွယ်တို့၌ ဤသမ္မိတိယဂိုဏ်း ထွန်းကားခဲ့ကြောင်း အထောက်အထားများ တွေ့ရပေသည်။

သမ္မိတိယဂိုဏ်းသည် ဗုဒ္ဓဘာသာဂိုဏ်းကွဲ ၁၈ ခုတွင် အယူဝါဒ အဖောက်ပြန်ဆုံးဖြစ်၏။ အမြဲတည်သော ပုဂ္ဂလ (အတ္တ) သည် ဤဘဝမှ ထိုဘဝသို့ ကူးပြောင်းကျင်လည်သည်ဟု ယူဆကြ၏။ ဤဂိုဏ်း၏ဝါဒမှာ-

(က) တစ်ဘဝမှ တစ်ဘဝသို့ကူးသော တည်မြဲသော ပုဂ္ဂလ (အတ္တ) ရှိသည်ဟု လက်ခံ၏။

(ခ) သတ္တဝါသည် သေဆုံးပြီး နောက်ဘဝ၌ ပဋိသန္ဓေမနေမီ ကြားကာလ၌ သိမ်မွေ့သော ရုပ်နာမ်အဆင့်ဖြင့် တည်ရှိလျက် နောက်ဘဝ ဝင်စားခွင့်ကို စောင့်ဆိုင်းရ၏။ အမိ၏ ဥတုလာခြင်းနှင့် မိဘတို့ ပေါင်းဖော်ခြင်းကို စောင့်ဆိုင်းနေရ၏။ ထိုအချိန်၌ သတ္တဝါသည် အဘိညာဉ်ရသူကဲ့သို့ အကြားအမြင်ပေါက်ကာ သွားလိုရာ သွားနိုင်၏။

(ဂ) ရဟန္တာသည် ရဟန္တာအဖြစ်မှ လျှောကျနိုင်၏။

(ဃ) ရုပ်သည် ကုသိုလ်ကံ အကုသိုလ်ကံ မည်၏။

(င) ကံကြောင့်ဖြစ်သော ရုပ်ကို ဝိပါက်ဟု ခေါ်ဆိုလိုကြ၏။

(စ) ဒိဗ္ဗစက္ခု အဘိညာဉ်နှင့် ဒိဗ္ဗသောတအဘိညာဉ်မှာ စတုတ္ထ ဈာန်ရသူ၏ ပကတိမျက်စိအကြည်ရုပ်နှင့် နားအကြည်ရုပ် ဟု ဆိုလိုကြ၏။

(ဆ) အလှူခံပုဂ္ဂိုလ်က သုံးဆောင်မှသာလျှင် အလှူရှင်သည် ကုသိုလ်ရနိုင်သည်ဟု ယူဆ၏။

(ဇ) ပြဟ္မာ့ဘုံ၌ ဃာနပသာဒရုပ် ဇိဝှါပသာဒရုပ်, ကာယပသာဒ ရုပ်များ ရှိသည်ဟု ယူဆ၏။

## ၂၀။ ဟေတုဝါဒီဂိုဏ်း

ဤဂိုဏ်းမှာ မူလဂိုဏ်းကြီး ၁၈ ဂိုဏ်းစာရင်း၌ မပါဝင်ချေ။ ကထာ၌ ဖော်ပြထားသော ဤဂိုဏ်း၏ အယူဝါဒများမှာ -

(က) နိရောဓသမာပတ်ကို လောကီတရားဟုလည်းကောင်း၊ လောကုတ္တရာတရားဟုလည်းကောင်း ယူဆ၏။

(ခ) နိရောဓသမာပတ်ကို အသညာသမာပတ်ဟု ယူဆ၏။

(ဂ) ဗုဒ္ဓသည် သတ္တဝါများ ချမ်းသာအောင် ပြုလုပ်ပေးနိုင်သည်။ ချမ်းသာသုခကို ဘုရားပေး၍ ရသည်ဟု ယူဆ၏။

(ဃ) သမုဒယသစ္စာသည်လည်း ဒုက္ခသစ္စာမည်၏ဟု ယူဆ၏။

(င) ခန္ဓာ အာယတန ဓာတ်တရားတို့သည် အကြောင်းကြောင့် ဖြစ်ပေါ်လာကြသည် မဟုတ်၊ အကြောင်းကင်းလျက်၊ ဖြစ် ပျက်ခြင်းကင်းလျက် တည်နေကြသည်ဟု ယူဆ၏။

ကထာဝတ္ထု အဋ္ဌကထာ၌ ဟေတုဝါဒီကို ဂိုဏ်းသီးခြားဟု ဖော်ပြ သော်လည်း သက္ကတမှတ်တမ်းများအရ သဗ္ဗတ္ထိဝါဒီကိုပင်လျှင် ဟေတု ဝါဒီဟု ခေါ်ကြ၏။ သဗ္ဗတ္ထိဝါဒ၌ ဟေတုခြောက်ပါး၊ ပစ္စယလေးပါးကို ဖော်ပြထားသောကြောင့် ဟေတုဝါဒအမည်ရသည်ဟု ဆိုကြ၏။

## ၂၁။ ဝိဘဇ္ဇဝါဒီဂိုဏ်း

ကထာဝတ္ထု အဋ္ဌကထာတွင် ဤဂိုဏ်း၏အမည်ကို မဖော်ပြချေ။ သက္ကတစာရေးဆရာကြီး ဘဗျ၏ မှတ်တမ်း၌သာ ဂိုဏ်းသီးခြားအဖြစ် ဖော်ပြထား၏။ တတိယ သင်္ဂါယနာတင်ပွဲ၌ အသောကမင်းကြီးသည် ရဟန်းတုနှင့် ရဟန်းစစ်ကို ခွဲခြားရာ၌ 'ဝိဘဇ္ဇဝါဒီ'ဟု ဖြေဆိုသော ရဟန်းများကိုသာ ရဟန်းစစ်ဟု ရွေးချယ်စိစစ်တော်မူခဲ့၏။ ဝိဘဇ္ဇဝါဒီဂိုဏ်း ရှိသည်ဟု အခြားမှတ်တမ်းများ၌ မဖော်ပြခဲ့ကြချေ။

## ၂၂။ ဥတ္တရာပထကဂိုဏ်း

(ဥတ္တရ=မြောက်ပိုင်း + ပထက=လမ်းခရီးလိုက်သူ)

မြောက်ပိုင်းခရီး၊ မြောက်ပိုင်းတိုင်းပြည်၌ တည်ရှိသော ဂိုဏ်းဂဏဝါဒဟု ဆိုလိုသည်။ ဤဂိုဏ်းသည် အိန္ဒိယပြည်မြောက်ပိုင်း၊ အနောက်မြောက်ပိုင်း၊ အာဖဂန်ပြည်တို့၌ ထွန်းကား လွှမ်းမိုးခဲ့၏။ မဟာယာနဂိုဏ်းက အမွေဆက်ခံခဲ့သော တထတာအယူအဆကို ဤဂိုဏ်းက စတင်တီထွင်ခဲ့၏။ ဤဂိုဏ်း၏ဝါဒမှာ -

(က) လူမှုသံယောဇဉ်များ မပယ်ဘဲ လူဝတ်ကြောင်များ ရဟန္တာဖြစ်နိုင်၏။

(ခ) သုဒ္ဓါဝါသဘုံ၌ ပဋိသန္ဓေနေသည်နှင့် တစ်ပြိုင်နက် ရဟန္တာဖြစ်၏။

(ဂ) အရိယာမဂ်လေးဆင့်မရှိ၊ ပုထုဇဉ်ဘဝမှ တစ်ကြိမ်တည်းဖြင့် ရဟန္တာ ဖြစ်နိုင်၏။ သောတာပန် သကဒါဂါမ် အနာဂါမ် ဟူသော ကြားခံအဆင့်များ မလိုချေ။

(ဃ) ဗုဒ္ဓသည် အရဟတ္တမဂ်ဉာဏ် သဗ္ဗညုတဉာဏ်တို့နှင့် အမြဲတစေ ပြည့်စုံနေသည်ဟု ယူဆ၏။

(င) ရုပ်သည် အာရုံရှိသည်၊ ရုပ်သည် သိတတ်သော သဘောရှိ၏ဟု ယူဆသည်။

(စ) နိရောဓသမာပတ်နှင့် အာကာသသည် အသင်္ခတ မည်၏ဟု ဆိုကြ၏။

(ဆ) အနုသယတရားမှာ အာရုံမရှိချေ။

(ဇ) အတိတ်တရားနှင့်အနာဂတ်တရားကို သိသောစိတ်မှာ အာရုံ မရှိချေ။

(ဈ) သောတာပန်သည် တိရစ္ဆာန်တို့ကို တွယ်တာစွဲလမ်းမှုမရှိ။

(ည) သံယောဇဉ်တရား, နီဝရဏတရားတို့ကို ပစ္စုပ္ပန်ဖြစ်ဆဲခဏ၌ ပယ်ခွာ၏။

(ဋ) ကရုဏာသနားခြင်းဆိုသည်မှာ ရာဂအကြောင်းရင်းခံ၍ ဖြစ် ၏။ ထို့ကြောင့် ဗုဒ္ဓမှာ ရာဂမရှိသဖြင့် ကရုဏာတရားမရှိဟု ယူဆ၏။

(ဌ) မြတ်စွာဘုရား၏ ကျင်ကြီးကျင်ငယ်တို့သည် မွှေးကြိုင်၍ ရနံ့ လှိုင်နေ၏ဟု ယူဆ၏။

(ဍ) ရုပ်သည် ရုပ်အဖြစ်ကို မစွန့်၊ ဖဿသည် ဖဿ သဘာဝကို မစွန့်၊ ဤသို့ မိမိသဘာဝ တည်မြဲမှုကို တထတာဟု ခေါ်၏။ တထတာသည် အသင်္ခတ ဖြစ်၏။

(ဎ) သင်္ဂါယနာ တစ်ကြိမ်တင်လေတိုင်း သာသနာအသစ်ဖြစ် သည်။ မူရင်းသာသနာ မဟုတ်ဟု ယူဆ၏။

(ဏ) အမိဝမ်းတွင်း၌ သောတာပန်ဖြစ်နိုင်၏၊ ရဟန္တာ ဖြစ်နိုင်၏၊ အိပ်မက်ထဲ၌ သောတာပန်ဖြစ်နိုင်၏ဟု ဆိုကြ၏။

(တ) နတ်ဘီလူးတို့သည် ရဟန္တာအသွင်ဖန်ဆင်း၍ လူမိန်းမနှင့် မေထုန်မှီဝဲကြသည်ဟု ယူဆ၏။

## ၂၃။ အန္ဓကဂိုဏ်း

အန္ဓကဂိုဏ်း အစရှိသော ဂိုဏ်းကိုးဂိုဏ်းသည် အထက်တွင် ဖော်ပြ ခဲ့သော ဂိုဏ်းကြီး ၁၈ ဂိုဏ်းနှင့် မပတ်သက်ချေ။ ဂိုဏ်းကြီး ၁၈ ဂိုဏ်း

မှာ ဗုဒ္ဓသာသနာ့ဝန်ထမ်း ရဟန်းတော်များအချင်းချင်း အယူဝါဒ ကွဲပြားကြခြင်းဖြစ်၏။ ထို ၁၈ ဂိုဏ်းလုံးကို တတိယ သင်္ဂါယနာမတင်မီက အသောကမင်းကြီးသည် အညီအမျှ တန်းတူထား၍ လှူဒါန်းခဲ့သည်။

ယခုဖော်ပြမည့် အန္ဓကဂိုဏ်း စသော ကိုးဂိုဏ်းဖြစ်ပေါ်လာပုံမှာ အသောကမင်းတရားကြီးသည် ဗုဒ္ဓတရားတော်၌ သက်ဝင်ယုံကြည်လာသောအခါ အစဉ်အဆက်က ကိုးကွယ်လာခဲ့သော ဗြာဟ္မဏဘာသာဝင် ဘုန်းကြီး၊ ပုဏ္ဏားဘုန်းကြီးများ၊ အာဇီဝက တက္ကတွန်းများကို ဘုရင့်နန်းတော်မှ နှင်ထုတ်တော်မူသည်။ ထိုနှင်ထုတ်ခံရသော တိတ္ထိများသည် ပါဋလိပုတ်ပြည်မှ ထွက်ခွာသွားကြ၍ ရာဇဂြိုဟ်မြို့အနီးရှိ နာလန္ဒမြို့၌ စုဝေးတိုင်ပင်ကြ၏။ ဗုဒ္ဓသာသနာတော်တွင်းသို့ ဥပါယ်တံမျဉ်ဖြင့် ဝင်ရောက်၍ အတွင်းမှ နေ၍ သာသနာဖျက်ရန် ဆုံးဖြတ်ချက် ချမှတ်ကြကုန်၏။

သာသနာ့ဘောင်၌ ရဟန်းအဖြစ်ရရန် ဂိုဏ်းကြီး ၁၈ ဂိုဏ်းရှိ သံဃာတော်များထံသို့ ချဉ်းကပ်တောင်းပန်ကြကုန်၏။ ထေရဝါဒဂိုဏ်းဝင် သံဃာတော်များသည် မြတ်စွာဘုရား ညွှန်ကြားခဲ့သည့်နည်းအတိုင်း ချက်ချင်း ရဟန်းပြုမပေးဘဲ လေးလတိတိ အနီးကပ် အတူနေစေ၍ အကဲဖြတ်တော်မူကြရာ ရတနာသုံးပါးကို တကယ်ယုံကြည်သူများ မဟုတ်ဟု သိတော်မူ၍ ရဟန်းပြုမပေးကြကုန်။ မဟာသံဃိက စသော အခြားဂိုဏ်း သံဃာများကမူကား ပရိသတ်အင်အား များစေလိုသောကြောင့် လွယ်လွယ်ဖြင့် ရဟန်းပြုပေးကြကုန်၏။ ထိုတိတ္ထိရဟန်းများသည် အခြားဂိုဏ်း သံဃာတော်များထံမှ ပိဋကသုံးပုံကို သင်ယူကြကုန်၏။ ပိဋကတတ်ပြီးသောအခါ ကောသမ္ဗီပြည် (ယခု-အလာဟာဗဒ်)၌ စုဝေးတိုင်ပင်ကြပြီးလျှင် တတိယ သင်္ဂါယနာမတင်မီကပင် အန္ဓက စသော ဂိုဏ်းကိုးဂိုဏ်းက ကျမ်းပေါင်း ကိုးကျမ်းရေး၍ ဗုဒ္ဓဝါဒ မဟုတ်သည်ကို ဗုဒ္ဓဝါဒပြုလုပ်ကာ ဟောကြားကြကုန်၏။

အန္ဓကဂိုဏ်းက ရတနကူဋကျမ်းကို ရေး၏။

ကထာဝတ္ထုအဋ္ဌကထာ၌ ပုဗ္ဗသေလိယဂိုဏ်း၊ အပရသေလိယဂိုဏ်း၊ ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိကဂိုဏ်း ဤဂိုဏ်းလေးခုသည် အန္ဓရာပြည်နယ်၌ ထွန်းကားသောကြောင့် အန္ဓကဂိုဏ်းမည်၏ဟု ပြဆိုထား၏။

ဝသုမိတြနှင့်ဘဗျတို့၏ မှတ်တမ်းအရ ပုဗ္ဗသေလိယနှင့် အပရသေလိယ ဂိုဏ်းနှစ်ခုကို အန္ဓကဂိုဏ်းဟု ပြဆိုထားသည်။

အန္ဓကဂိုဏ်း၏ ဝါဒမှာ -

(က) အတိတ်ရုပ်နာမ်သည် အတိတ်အဖြစ်ဖြင့် တည်ရှိ၏။ ပစ္စုပ္ပန် အနာဂတ်အဖြစ်ဖြင့် မရှိချေ။ ဤနည်းအတူပင် ပစ္စုပ္ပန် အနာဂတ် ရုပ်နာမ်တို့သည်လည်း ပစ္စုပ္ပန်အနာဂတ်အဖြစ်ဖြင့် တည်ရှိ၏။ အတိတ်အဖြစ်ဖြင့် မရှိချေ။

(ခ) စိတ်တစ်ခု၏ သက်တမ်းသည် တစ်သက်တာ ကာလပတ်လုံး တည်၏။ ဗြဟ္မာတို့၏ စိတ်မှာ ကပ်ကမ္ဘာများစွာကြာအောင် တည်၏။

(ဂ) ပစ္စုပ္ပန်စိတ်သည် မိမိပစ္စုပ္ပန်စိတ်ကို ပြန်၍ သိနိုင်၏။

(ဃ) အသညသတ် ဗြဟ္မာအား ပဋိသန္ဓေအခါ, စုတိအခါ၌ စိတ် ဖြစ်ပေါ်သည်ဟု ယူဆ၏။

(င) နေဝသညာနာသညာယတနဘုံ၌ သညာလုံးဝ မရှိ၊ စိတ် ဝိညာဏ် မရှိဟု ယူဆ၏။

(စ) စေတောပရိယဉာဏ်သည် စိတ်ကိုသာ အာရုံပြု၍ စေတသိက်ကို အာရုံမပြုနိုင်။

(ဆ) ဟင်းလင်းပြင် အာကာသကိုလည်းကောင်း၊ ပထဝီဓာတ်ကိုလည်းကောင်း မျက်စိဖြင့် မြင်နိုင်၏။

(ဇ) ပထဝီဓာတ်သည်လည်းကောင်း၊ ဇရာ မရဏသည်လည်းကောင်း ကံ၏အကျိုး (ကမ္မဝိပါက) ဖြစ်၏။

(ဈ) ဝိပါက်စိတ်သည် အကျိုးထပ်ဆင့်ပေးနိုင်၏။

(ည) အရူပဘုံ၌ သုခုမရုပ်ရှိ၏။

(ဋ) ဘဝင်စိတ်၏ ဘင်ခဏ၌ ကုသိုလ်, အကုသိုလ်ဇောနှင့် စိတ္တဇရုပ်တို့ ဖြစ်ပေါ်ကြကုန်၏။

(ဌ) အနုသယသည် စိတ်နှင့် မယှဉ်၊ ဥပါဒ်, ဌီ, ဘင် ကင်း၏။ ပရိယုဋ္ဌာနကိလေသာနှင့်အနုသယကိလေသာကို သီးခြားစီဟု ယူ၏။

(ဍ) ရူပါဝစရရုပ်နှင့် အရူပါဝစရရုပ်များ ရှိသေး၏။

(ဎ) ငရဲပြည်၌ ငရဲထိန်း မရှိချေ။ ငရဲသားအချင်းချင်း တစ်လှည့်စီ နှိပ်စက်ကြသည်။

(ဏ) နတ်ပြည်တွင် တိရစ္ဆာန်များ ရှိ၏။

(တ) နိဗ္ဗာနဓာတ်သည် ကုသိုလ်တရား၌ ပါဝင်၏။

(ထ) မဂ်ဉာဏ်ဖြစ်ဆဲခဏ၌ 'ဒုက္ခံ ဒုက္ခံ'ဟု နှုတ်မှ ရွတ်ဆို၏။

(ဒ) အရဟတ္တမဂ်ခဏ၌ မဂ်ဉာဏ်လေးပါးလုံး တစ်ပြိုင်နက်ဖြစ်၍ ကိလေသာအားလုံးကို ပယ်၏။

(ဓ) ရဟန္တာမှာ ကုသိုလ်စိတ် ဖြစ်၏။ ကုသိုလ်စိတ်ဖြင့် ပရိနိဗ္ဗာန်ပြု၏။ ရဟန္တာသည် သံယောဇဉ်မကုန်သေး။

(န) ဘုရားရှင် အချင်းချင်း သဗ္ဗညုတဉာဏ်ချင်း မတူညီကြချေ။

(ပ) ဗုဒ္ဓသုံးနှုန်းသော ဝေါဟာရ စကားများသည် လောကုတ္တရာဖြစ်၏။

(ဖ) ရဟန်းသည် မိန်းမတို့အား သနားသောစိတ်ဖြင့် မေထုန်မှီဝဲနိုင်သည်။ နိဗ္ဗာန်တိုင်အောင် တူမောင်မယ်စုံတွဲ သံသရာ၌ ကျင်လည်ပါမည်ဟု ဆုတောင်း ဆုယူပြုပြီးပါက ရဟန်းသည် ထိုဆုပန်ဖက်မိန်းမနှင့် မေထုန်မှီဝဲနိုင်သည်ဟု ယူဆလေ၏။

http://www.dhammadownload.com



## ၂၄။ အပရသေလိယဂိုဏ်း

ဤ အပရသေလိယဂိုဏ်းသည် အန္ဓဂိုဏ်းနှင့်အတူ ပေါ်ပေါက်ခဲ့သည်။ ဤဂိုဏ်းက အာဋ္ဌဝကဂဏ္ဍိတကျမ်းကို ပြု၏။ ဤဂိုဏ်း၏ဝါဒမှာ-

(က) မာရ်နတ်၏ လှံ့လပယောဂကြောင့် ရဟန္တာသည် သုက်လွတ်၏။

(ခ) ရဟန္တာသည် မသိမှု (အညာဏ)၊ ယုံမှားမှု (ကင်္ခါ) ရှိသေး၏။

(ဂ) သောတာပန်သည် ဒေါသမပယ်ရသေးသဖြင့် သူတစ်ပါး၏ အသက်ကို သတ်ဖြတ်သေး၏။

(ဃ) 'သဗ္ဗေ သင်္ခါရာ အနိစ္စာ'ဟု ဝိပဿနာရှုသူသည် သင်္ခါရတရားအားလုံးကို အကြွင်းမရှိ အာရုံပြုသည်ဟု ယူဆ၏။

## ၂၅။ ပုဗ္ဗသေလိယဂိုဏ်း

ဤဂိုဏ်းသည်လည်း အန္ဓကဂိုဏ်းနှင့် အတူ ပေါ်ထွန်းခဲ့လေ၏။ ဤဂိုဏ်းက ရဋ္ဌပါလဂဏ္ဍိတကျမ်းကို ရေး၏။ ပုဗ္ဗသေလိယနှင့် အပရသေလိယ နှစ်ဂိုဏ်းမှာ အယူဝါဒတူကြသည်က များ၏။ သေလဆိုသည်မှာ ကျောက်တောင်ဟု ဆိုလို၏။ ထိုတောင်၌နေသော ဂိုဏ်း (ဝါ) ထိုတောင်များဝိုင်းရံသော ကျောင်းတိုက်နေ ရဟန်းတို့ကို သေလိယဂိုဏ်းဟု ခေါ်၏။ အနောက်ဘက်ခြမ်းနေ ရဟန်းတို့ကို အပရသေလိယဟု ခေါ်၍ အရှေ့ဘက်ခြမ်းနေ ရဟန်းတို့ကို ပုဗ္ဗသေလိယဟု ခေါ်၏။ အပရသေလိယဂိုဏ်း၏ အယူဝါဒများကို ပုဗ္ဗသေလိယဂိုဏ်းက လက်ခံ၏။ အပရသေလိယထက် ပိုမိုထူးခြားသော ဝါဒမှာ -

(က) ပထမဈာန်နှင့်ယှဉ်သော သောတာပတ္တိမဂ်စိတ်ခဏ၌ 'ဒုက္ခံ ဒုက္ခံ'ဟု ရွတ်ဆို၏။ မဂ်စိတ်သည် ဒုက္ခကို စားမျို၏။

(ခ) ပဋိစ္စသမုပ္ပါဒ်တရား၊ သစ္စာလေးပါးတရား၊ အာရုပ္ပလေးပါးတို့သည် အကြောင်းကင်းမဲ့လျက် အမြဲတမ်းတည်နေသော အသင်္ခတတရား မည်၏။

(ဂ) အန္တရာဘဝကို လက်ခံ၏။

(ဃ) ရုပ်ဇီဝိတ မရှိ၊ နာမ်ဇီဝိတသည် ဥပါဒ်, ဌီ, ဘင် ကင်း၍ စိတ္တဝိပ္ပယုတ် ဖြစ်၏။

(င) နိဗ္ဗာန်အပေါ်၌ သံယောဇဉ်တွယ်တာမှု ဖြစ်နိုင်၏။

(စ) စိတ်ကူးကြံဆလေတိုင်း နားဖြင့် မကြားနိုင်သော အသံလှိုင်းများ ပေါ်ထွက်နေ၏။

(ဆ) စိတ်မပါဘဲ စကားပြော၍ ရနိုင်၏။ စကားပြောခြင်းသည် စိတ်နှင့်မဆိုင်ဟု ယူဆ၏။

(ဇ) ကာယကံ လုပ်ဆောင်ချက်များသည် စိတ်နှင့်မဆိုင်။

(ဈ) ဉာဏ်သည် စိတ်နှင့် မယှဉ်တွဲဘဲ သီးခြားတည်၏။

(ည) တရားမွေ့၍ တွယ်တာသောတဏှာသည် ကုသိုလ်၊ အကုသိုလ်မှ အလွတ်ဖြစ်၏။ ဒုက္ခဖြစ်ကြောင်း မဟုတ်။

(ဋ) ပဋိသန္ဓေအခါ အမိဝမ်းတွင်း၌ မျက်စိ နား နှာခေါင်း လျှာ တို့သည် အစကတည်းက တစ်ပြိုင်နက်တည်း ဖြစ်ပေါ်ကြသည်။

(ဌ) ပထမဈာန်ဝင်စားခိုက် အသံကို ကြားနိုင်၏။

(ဍ) ဖိုလ်စိတ်လေးပါးသည် အသင်္ခတ မည်၏။

၂၆။ သိဒ္ဓတ္ထိကဂိုဏ်း

ဤဂိုဏ်းသည်လည်း အန္ဓကဂိုဏ်းနှင့် အတူ ပေါ်ထွန်းခဲ့လေ၏။ ဤဂိုဏ်းက ဂုဋ္ဌဝေဿန္တရာကျမ်းကို ရေး၏။ ဤဂိုဏ်း၏ဝါဒမှာ -

(၁) ဓာတုကထာကျမ်း၌လာသော သင်္ဂဟိတနည်း၊ သမ္ပယုတ္တနည်းများကို ငြင်းပယ်သည်။

(၂) စေတသိက်မရှိဟု ယူဆ၏။

(၃) မိမိ လှူဒါန်းထားသော ကျောင်း သင်္ကန်းစသည်တို့ကို အလှူခံ ပုဂ္ဂိုလ်က ထိတွေ့သုံးဆောင်တိုင်း အမြဲတစေ ကုသိုလ်ရနေ သည်။ ကုသိုလ်ရမှုသည် အလှူရှင်၏ စိတ်စေတနာနှင့် မဆိုင် ဟု ယူဆ၏။

(၄) ပြိတ္တာ (တစ္ဆေ)တို့သည် လူ့ပြည်က ပေးသော အဝတ်အထည် နှင့် အစာအာဟာရကို တိုက်ရိုက်သုံးဆောင်ရ၏။

(၅) ရဟန္တာသည် အတိတ်ဘဝက ကုသိုလ် အကုသိုလ်များ၏ အကျိုးဆက်ကို ကုန်စင်အောင် ခံစားပြီးမှ ပရိနိဗ္ဗာန်ပြုရမည်။

(၆) ကံတစ်ခုတည်းကိုသာ အကြောင်းတရားဟုယူဆ၍ အဝိဇ္ဇာ တဏှာ ဥပါဒါန်ဟူသော ကိလေသာအကြောင်းတရားများကို ပယ်၏။

ဤဂိုဏ်း၏အယူဝါဒမှာ ဂျိန်းဝါဒနှင့်တူ၏။ ဂျိန်းဘာသာ၌ တန်ခိုး ဣဒ္ဓိပါဒ်ရှိသူများကို သိဒ္ဓဟု ခေါ်၏။ ထို့ကြောင့် သိဒ္ဓတ္ထိကဆိုသည်မှာ တန်ခိုးဣဒ္ဓိပါဒ်လိုလားသူဟု အဓိပ္ပာယ်ရ၏။

## ၂၇။ ရာဇဂိရိကဂိုဏ်း

ရာဇဂြိုဟ်မြို့ကို ရာဇဂိရိဟု ခေါ်၏။ ရာဇဂြိုဟ်မြို့ကို ဗဟိုဌာန ပြုသောဂိုဏ်းကို ရာဇဂိရိဟု ခေါ်သည်။ ဤဂိုဏ်းသည်လည်း အန္ဓက ဂိုဏ်းနှင့် တစ်ပြိုင်တည်း ပေါ်ထွန်းခဲ့၏။ ဤဂိုဏ်းက 'အင်္ဂုလိမာလ ပိဋကကျမ်း'ကို ရေးသား၏။

ဤဂိုဏ်း၏ဝါဒမှာ သိဒ္ဓတ္ထိကဂိုဏ်းနှင့် တူ၏။ ထူးခြားချက်မှာ ဤဘုရားသာသနာတော်၌ သံဃာသင်းခွဲမှုကံကို ကျူးလွန်သူသည် တစ် ကမ္ဘာကြာအောင် ငရဲခံရမည်။ နိရောဓသမာပတ်ဝင်စားနေစဉ် သေဆုံး နိုင်သည်။ ဤနှစ်ချက်သာ ပို၏။

## ၂၈။ ဝေတုလ္လတဂိုဏ်း

ဝေပုလ္လဂိုဏ်းဟုလည်း ခေါ်ကြသေးသည်။ ဤဂိုဏ်းသည် အန္ဓက ဂိုဏ်းနှင့် တစ်ပြိုင်တည်း ပေါ်ထွန်းခဲ့၍ ဝေတုလ္လပိဋကကျမ်းကို ရေးသား ခဲ့သည်။ ဤဂိုဏ်းသည် သီဟိုဠ်ကျွန်း၌ ထေရဝါဒီဖြစ်သော မဟာဝိဟာရ ဂိုဏ်းကို နှောင့်ယှက်နှိပ်စက်ခဲ့သည်။ ဤဂိုဏ်း၏ဝါဒမှာ -

(က) ပရမတ္ထအားဖြင့် မဂ်စိတ်လေးပါး၊ ဖိုလ်လေးပါးသာလျှင် သံဃာ မည်၏။ ထိုမဂ်စိတ် ဖိုလ်စိတ်တို့သည် အလှူမခံတတ်၊ မစားသုံးတတ်သောကြောင့် သံဃာသည် မြတ်သောအလှူခံ (အဂ္ဂဒက္ခိဏေယျ) မဟုတ်ချေ။ ထို့ကြောင့် သံဃာသည် သုံး ဆောင်သည်ဟု မဆိုနိုင်။ သံဃာအား လှူသဖြင့် အကျိုးမရှိ ချေ။

(ခ) ဗုဒ္ဓသည် တကယ့် လူသားစင်စစ် မဟုတ်ချေ။ လူ့အသွင်ကို ခေတ္တမျှ ဆောင်ထားခြင်းဖြစ်၏။ မြတ်စွာဘုရားသည် ဆွမ်း စားခြင်းကိစ္စကို လူတို့ကျေနပ်မှုရှိစေရန် စားသုံးဟန်ပြုသည်။ တကယ်စားခြင်း မဟုတ်၊ ထို့ကြောင့် ဗုဒ္ဓအား လှူခြင်းသည် အကျိုးမရှိချေ။

(ဂ) ဗုဒ္ဓအစစ်သည် တုသိတာနတ်ပြည်မှာ စံနေတော်မူ၏။ လူ့ ပြည်သို့ ဆင်းကြွတော်မမူချေ။ နိမ္မိတရုပ် (ကိုယ်ပွား) ဖန် ဆင်း၍ လူ့ပြည်သို့ တရားဟောရန် စေလွှတ်၏။

(ဃ) ရဟန်းသည် မိမိနှင့် ဆုပန်ဖက်အမျိုးသမီးကို သနားကရုဏာ ရှေ့ထား၍ မေထုန်မှီဝဲခွင့်ရှိသည်ဟု ယူဆ၏။

(အသင်္ဂရေးသားသော အဘိဓမ္မသမုစ္စယကျမ်းတွင် ဝေတုလ္လ ဝါဒကို ချီးကျူးဖွင့်ဆိုထား၏။ သဒ္ဓမ္မပုဏ္ဍရီကကျမ်းတွင်လည်း ဝေတုလ္လ ဝါဒအကြောင်း ဖော်ပြထား၏။ ဝေဒလ္လခေါ် ဝေတုလ္လ ပိဋကစာပေကို နဂါးဘုံမှ ဆောင်ယူခဲ့သည်ဟု ဆိုကြ၏။) [သံ၊ ဋီ၊ ၂၊ ၁၇၁]

ဤဂိုဏ်းသည် မဟာယာနနှင့် တန္တရဂိုဏ်း၏ ရှေ့တော်ပြေးတည်း။

## ၂၉။ ဟေမာဝတိကဂိုဏ်း

အိန္ဒိယပြည် မြောက်ပိုင်းဒေသ ဟိမဝန္တာတောင်ခြေ၌ တည်ရှိသော ဂိုဏ်းကို ဟေမာဝတိကဂိုဏ်းဟု ခေါ်၏။ ဤဂိုဏ်းသည်လည်း အန္ဓက ဂိုဏ်းနှင့် တစ်ပြိုင်တည်းပေါ်ခဲ့၍ ဝဏ္ဏပိဋကကျမ်းကို ရေးသားခဲ့၏။

ဝသုမိတြ၏ အဋ္ဌာရသနိကာယကျမ်း၌ ဤဂိုဏ်းကို ထေရဝါဒဟု ဆိုခဲ့၏။ သို့ရာတွင် ဘဗျနှင့် ဝိနီတဒေဝတို့ကမူ မဟာသံဃိက ဂိုဏ်းခွဲ တစ်ခုဖြစ်သည်ဟု ဆို၏။

## ၃၀။ ဝါဇိရိယဂိုဏ်း

'ဝဇိရ' ပုဒ်ကို 'ဣယ' ပစ္စည်းဆက်သောအခါ ဝါဇိရိယဟု ဖြစ်၏။ (ဝဇိရ=စိန်) ဝရဇိန်လက်နက် မိုးကြိုးစက်ကဲ့သို့ ထက်မြက်စူးရှသည်။(ဝါ) စိန်ကဲ့သို့ မာကျောသည်ဟု အဓိပ္ပာယ်ရသည်။ ဤလမ်းစဉ်ကို လိုက် နာကျင့်သုံးသူသည် စိန်ကဲ့သို့ မာကျောခိုင်ခံ့၍ မပျက်စီးဟု ဆိုလို၏။ ဝဇိရတောင်၌ နေသောကြောင့်လည်း ဝါဇိရိယဂိုဏ်းဟု ခေါ်၏။ ဝဇိရ ယာန (တန္တရ)ဂိုဏ်း၏ ရှေ့ပြေးဖြစ်ပုံရ၏။

ဤဂိုဏ်းသည် အန္ဓကဂိုဏ်းနှင့်အတူ ပေါ်ထွန်း၍ 'ဂုဠှဝိနယကျမ်း' ကို ရေးသားခဲ့၏။

## ၃၁။ အညမညသံဃိတဂိုဏ်း

ဤဂိုဏ်းသည်လည်း အန္ဓကဂိုဏ်းနှင့်အတူ ပေါ်ထွန်းခဲ့၍ အက္ခရ သာရိယကျမ်းကို ရေးသားခဲ့၏။ ဤဂိုဏ်းမှာ မူလမဟာသံဃိကဂိုဏ်း၏ ဂိုဏ်းကွဲတစ်ခုဖြစ်သည်။

အချိန်ကာလ ဟူသည့် အကြောင်းကြောင့်ဖြစ်သော အကျိုးတရား သာ ဖြစ်၏ဟု ယူဆ၏။

အထက်ဖော်ပြပါဂိုဏ်းများသည် ဓာတုကထာ၊ မဂ္ဂကထာ၊ အာရမ္မဏ ကထာ၊ အသုဘကထာ၊ ဉာဏဝတ္ထုကထာ၊ ဗုဒ္ဓိ (ဝိဇ္ဇာ) ကရဏ္ဍကကထာ ကျမ်းများကိုလည်း ရေးသားခဲ့သည်။ (ဝိ၊ ၄၊ ၃။ ၉။ သံ၊ ၄၊ ၂၁၈၆)

## ဂိုဏ်းကွဲဝါဒအားလုံးမှားပုံ

ဤသို့လျှင် တတိယသင်္ဂါယနာခေတ်က ဖြစ်ပေါ်ခဲ့သော ဂိုဏ်းကွဲ ပေါင်းသုံးဆယ်တို့၏ သမိုင်းအကြောင်းနှင့်အယူဝါဒများကို စုဆောင်း တင်ပြခဲ့ပါသည်။ ထိုဂိုဏ်းကွဲများ၏ အယူဝါဒအားလုံးသည် မှားယွင်း သော မိစ္ဆာဝါဒများဖြစ်ကြသည်။ တန္တရယာန, မန္တရယာနခေါ် ပန်းဦး လွတ်ဝါဒနှင့် အရည်းကြီးသာသနာများမှာ ထိုဂိုဏ်းကွဲများ၏ အဆက် အနွယ်များဖြစ်ကြသည်။ နောင်အနာဂတ်ကာလတွင် သာသနာညစ်နွမ်း စေမည့်အရေးကို ကြိုတင်သိမြင်သဖြင့် အရှင်မဟာမောဂ္ဂလိပုတ္တတိဿ ရဟန္တာကြီးက ကထာဝတ္ထုကျမ်းတွင် မိစ္ဆာဝါဒများကို ဖယ်ရှားသုတ်သင် တော်မူခဲ့လေပြီ။ ထိုကထာဝတ္ထုကျမ်းကို ဖတ်ရှုကြည့်ပါက မြန်မာ၊ သီဟိုဠ် စသော ငါးနိုင်ငံရှိ ထေရဝါဒသာသနာသာလျှင် အစစ်အမှန်ဖြစ်ကြောင်း သိသာထင်ရှားလှပါသည်။

ယနေ့လက်ရှိ မြောက်ပိုင်းသာသနာ၌ အဆင့်ပေါင်းမည်မျှ ပြောင်း လဲခဲ့ကြသည်၊ အကြိမ်ပေါင်းမည်မျှ ပြုပြင်ဖြည့်စွက်ခဲ့ကြသည်ကို လေ့လာ သူတိုင်း သိနိုင်ကြပေသည်။ သို့ပါလျက် ထေရဝါဒနှင့် မဟာယာနကို တန်းတူ ယူဆနေကြသူများသည် ဗုဒ္ဓမြတ်စွာဘုရားနှင့်တကွ အရှင်မဟာ ကဿပ၊ အရှင်မဟာယသ၊ အရှင်မဟာမောဂ္ဂလိပုတ္တတိဿ ရဟန္တာကြီး များ၏မျက်နှာကို မထောက်၊ အရှက်ကင်းမဲ့ ရက်စက်လွန်းရာကျပေသည်။

## နောက်ဆက်တွဲ (ခ)

# ကုရှုဂိုဏ်း အဘိဓမ္မာ

### အဘိဓမ္မကောသကျမ်းအလို ပရမတ္ထတရား (၇၅)ပါး

၁။ သင်္ခတတရား ၇၂-ပါး (အနိစ္စ)

၂။ အသင်္ခတတရား သုံးပါး (နိစ္စ)

### ၁။ သင်္ခတတရား (၇၂)ပါး

| | | |
|---|---|---|
| (က) | စိတ် | ၁ -ပါး |
| (ခ) | စေတသိက် | ၄၆ -ပါး |
| (ဂ) | စိတ္တဝိပ္ပယုတ္တဓမ္မ | ၁၄ -ပါး |
| (ဃ) | ရုပ် | ၁၁ -ပါး |
| | ပေါင်း - | ၇၂ -ပါး |

### (ခ) စေတသိက် (၄၆) ပါး

| | |
|---|---|
| မဟာဘူမိက စေတသိက် | ၁၀ -ပါး |
| ကုသလမဟာဘူမိက စေတသိက် | ၁၀ -ပါး |
| ကိလေသမဟာဘူမိက စေတသိက် | ၆ -ပါး |
| အကုသလမဟာဘူမိက စေတသိက် | ၂ -ပါး |
| ဥပက္ကိလေသဘူမိက စေတသိက် | ၁၀ -ပါး |
| အနိယတဘူမိက စေတသိက် | ၈ -ပါး |
| ပေါင်း - | ၄၆ ပါး |

## (ခ-၁) မဟာဘူမိက စေတသိက်ဆယ်ပါး

၁။ ဝေဒနာ = ခံစားမှု၊
၂။ သညာ = မှတ်သားမှု၊
၃။ စေတနာ = လှုံ့ဆော်တိုက်တွန်းမှု၊
၄။ ဖဿ = အာရုံကိုထိတွေ့မှု၊
၅။ ဆန္ဒ = တောင့်တမှု၊
၆။ မတိ = ဉာဏ်ပညာ၊
၇။ သတိ = အောက်မေ့မှု၊
၈။ မနသိကာရ = နှလုံးသွင်းမှု၊
၉။ အဓိမောက္ခ = ဆုံးဖြတ်မှု၊
၁၀။ သမာဓိ = တည်ကြည်မှု။

## (ခ-၂) ကုသလမဟာဘူမိက စေတသိက်ဆယ်ပါး

၁။ သဒ္ဓါ = ယုံကြည်မှု၊
၂။ ဝီရိယ = အားထုတ်မှု၊
၃။ ဉပေက္ခာ = လျစ်လျူရှုမှု၊
၄။ ဟိရီ = မကောင်းမှုမှ ရှက်ခြင်း၊
၅။ ဩတ္တပ္ပ = မကောင်းမှုမှ ကြောက်ခြင်း၊
၆။ အလောဘ = ပေးကမ်းစွန့်လွှတ်မှု၊ မတပ်မက်မှု၊
၇။ အဒေါသ = မေတ္တာ၊ ချစ်ခြင်း၊
၈။ အဟိံသ = မညှဉ်းဆဲခြင်း၊
၉။ ပဿဒ္ဓိ = ငြိမ်းချမ်းခြင်း၊
၁၀။ အပ္ပမာဒ = မမေ့လျော့ခြင်း။

## (ခ-၃) ကိလေသမဟာဘူမိက စေတသိက်ခြောက်ပါး

၁။ မောဟ = မိုက်မဲခြင်း၊
၂။ ပမာဒ = မေ့လျော့ခြင်း၊
၃။ ကောသဇ္ဇ = ပျင်းရိခြင်း၊

၄။ အသဒ္ဓိယ ॰ မယုံကြည်မှု၊
၅။ ထိန ॰ ထိုင်းမှိုင်းမှု၊
၆။ ဥဒ္ဓစ္စ ॰ စိတ်ပျံ့လွင့်မှု။

(ခ-၄) အကုသလမဟာဘူမိက စေတသိက်နှစ်ပါး

၁။ အဟိရိက ॰ မကောင်းမှုပြုရန် မရှက်ခြင်း၊
၂။ အနောတ္တပ္ပ ॰ မကောင်းမှုပြုရန် မလန့်ခြင်း၊ ရဲရင့်ခြင်း။

(ခ-၅) ဥပက္ကိလေသဘူမိက စေတသိက်ဆယ်ပါး

၁။ ကောဓ ॰ အမျက်ထွက်မှု၊
၂။ မက္ခ ॰ ကျေးဇူးကန်းမှု၊
၃။ မစ္ဆရိယ ॰ ဝန်တိုမှု၊
၄။ ဣဿာ ॰ မနာလိုဖြူစူမှု၊
၅။ ပဠာသ ॰ အပြိုင်ပြုမှု၊
၆။ ဝိဟိံသာ ॰ ညှဉ်းဆဲခြင်း၊
၇။ ဥပနာဟ ॰ ရန်ငြိုးဖွဲ့ခြင်း၊
၈။ မာယာ ॰ လှည့်စားခြင်း၊
၉။ သာဌေယျ ॰ စဉ်းလဲကောက်ကျစ်ခြင်း၊
၁၀။ မဒ ॰ မာန်ယစ်ခြင်း။

(ခ-၆) အနိယတဘူမိက စေတသိက်ရှစ်ပါး

၁။ ကုက္ကုစ္စ ॰ နောင်တတစ်ဖန်ပူပန်ခြင်း၊
၂။ မိဒ္ဓ ॰ ငိုက်မျဉ်းခြင်း၊
၃။ ဝိတက္က ॰ တြံစည်ခြင်း။
၄။ ဝိစာရ ॰ အာရုံ၌ ရစ်ဝဲနေခြင်း၊
၅။ ရာဂ ॰ တပ်မက်ခြင်း၊
၆။ ပဋိဃ ॰ ကြမ်းကြုတ်ခြင်း၊
၇။ မာန ॰ ထောင်လွှားခြင်း၊
၈။ ဝိစိကိစ္ဆာ ॰ မဆုံးဖြတ်နိုင်ခြင်း။

## (ဂ) စိတ္တဝိပ္ပယုတ္တဓမ္မ ၁၄ ပါး

၁။ ပတ္တိ = ရရောက်ခြင်း၊
၂။ အပတ္တိ = မရ မရောက်ခြင်း၊
၃။ သဘာဂတာ = တူညီမှု၊
၄။ အသညိက = အသညသတ်ဘုံ၌ ပဋိသန္ဓေနေမှု၊
၅။ အသညိကသမာပတ္တိ = အသညသတ်သမာပတ်၊
၆။ နိရောဓသမာပတ္တိ = စိတ်စေတသိက်တို့ ချုပ်ငြိမ်းသော သမာပတ်၊
၇။ ဇီဝိတ = အသက်ရှင်မှု၊
၈။ ဇာတိ = ဖြစ်ပေါ်မှု၊
၉။ ဌိတိ = တည်ရှိမှု၊
၁၀။ ဇရာ = အိုမင်းမှု၊
၁၁။ အနိစ္စတာ = ပျက်စီးခြင်း (မမြဲခြင်း)၊
၁၂။ နာမကာယ = အမည်နာမ၊
၁၃။ ပဒကာယ = ဝါကျ၊
၁၄။ ဗျဉ္ဇနကာယ = အက္ခရာပုဒ်ပါဠ်များ။

## (ဃ) ရုပ်ဆယ်ပါး

၁။ စက္ခုပသာဒရုပ် = မျက်စိအကြည်ဓာတ်၊
၂။ သောတပသာဒရုပ် = နားအကြည်ဓာတ်၊
၃။ ဃာနပသာဒရုပ် = နှာခေါင်းအကြည်ဓာတ်၊
၄။ ဇိဝှါပသာဒရုပ် = လျှာအကြည်ဓာတ်၊
၅။ ကာယပသာဒရုပ် = ကိုယ်အကြည်ဓာတ်၊
၆။ ရူပါရုံ = အဆင်း၊
၇။ သဒ္ဒါရုံ = အသံ၊
၈။ ဂန္ဓာရုံ = အနံ့၊

၉။ ရသာရုံ = အရသာ၊
၁၀။ ဖောဋ္ဌဗ္ဗာရုံ = အတွေ့အထိ၊
၁၁။ အဝိညတ္တိရုပ် = မသိသာ မထင်ရှားသောရုပ်။

၂။ အသင်္ခတ တရားသုံးပါး

(က) အာကာသ = ဟင်းလင်းပြင် ကောင်းကင်၊
(ခ) ပဋိသင်္ခါနိရောဓ = မဂ်ဉာဏ်ကြောင့် ကိလေသာချုပ်ငြိမ်းမှု၊
(ဂ) အပဋိသင်္ခါနိရောဓ = ကံကုန်သောကြောင့် ဆက်လက်မဖြစ်တော့ဘဲ ချုပ်ငြိမ်းမှု။

မှတ်ချက်။ ။စိတ္တဝိပ္ပယုတ္တ တရားများမှာ စိတ်နှင့် အတူတကွ ပူးတွဲ၍ ဖြစ်ခြင်း ပျက်ခြင်း မရှိ စိတ် စေတသိက်မှ အလွတ်သီးသန့် တည်နေကြ၏။ ရုပ်လည်းမဟုတ် နာမ်လည်းမဟုတ်သော တရားဟု ယူဆ၏။ အဝိညတ္တိရုပ် ဆိုသည်မှာ ကုသိုလ်, အကုသိုလ် စေတနာများ ချုပ်ငြိမ်းသွားသောအခါ အကျိုးမပေးမီ မမြင်မတွေ့ရသော ရုပ်တစ်မျိုးအဖြစ်ဖြင့် တည်ရှိသည်ဟု ဆို၏။ ထိုမမြင်ရသော အဝိညတ္တိရုပ်ကိုပင် 'ကံ' ဟု ခေါ်ကြ၏။



## နောက်ဆက်တွဲ (ဂ)

## ဂျိုဂျစ်ဆုဂိုဏ်း အဘိဓမ္မာ

**ပရမတ္ထတရား ၈၄ ပါး**

| | | |
|---|---|---|
| ၁။ | သင်္ခတတရား | ၈၁ -ပါး |
| ၂။ | အသင်္ခတတရား | ၃ -ပါး |

**၁။ သင်္ခတတရား ၈၁ ပါး**

| | | |
|---|---|---|
| (က) | စိတ် | ၁ -ပါး |
| (ခ) | စေတသိက် | ၄၉ -ပါး |
| (ဂ) | စိတ္တဝိပ္ပယုတ္တတရား | ၁၇ -ပါး |
| (ဃ) | ရုပ် | ၁၄ -ပါး |
| | ပေါင်း - | ၈၁ -ပါး |

(ခ) စေတသိက် ၄၉ ပါးတွင် ၄၆ ပါးမှာ ကုရှုဂိုဏ်းနှင့် တူ၏။ နောက်ဆုံး အနိယတစေတသိက် ၈ လုံးတွင် ၁။ သုခ၊ ၂။ ဒုက္ခ၊ ၃။ ထိနစေတသိက် သုံးလုံးထပ်ထည့်၍ စုစုပေါင်း ၄၉ ပါးဟု ရေတွက် ကြ၏။

(ဂ) စိတ္တဝိပ္ပယုတ္တတရား ၁၇ ပါးမှာ ကုရှုဂိုဏ်းက ပြောသော ၁၄ ပါးတွင် မရဏ၊ တတြမဇ္ဈတ္တတာ၊ အဝိညတ္တိဓမ္မ ဤသုံးပါး ထပ်ထည့်၍ ၁၇ ပါးဖြစ်၏။

(ဃ) ရုပ် ၁၄ ပါးမှာ ကုရှုဂိုဏ်း၌ ပြထားသော စက္ခုပသာဒရုပ်မှ ဖောဋ္ဌဗ္ဗာရုံအထိ ရုပ် ၁၀ ပါးတွင် မဟာဘုတ်လေးပါး ထပ်ထည့်ကာ ရုပ် ၁၄ ပါး ဖြစ်၏။ ကြွင်းသောတရားများမှာ ကုရှုဂိုဏ်းနှင့်တူ၏။



# နောက်ဆက်တွဲ (ဃ)

## ယောဂါစာရဂိုဏ်း အဘိဓမ္မာ

### ပရမတ္ထတရား ၁၀၀

| | | |
|---|---|---|
| ၁။ | သင်္ခတတရား | ၉၄ -ပါး |
| ၂။ | အသင်္ခတတရား | ၆ -ပါး |
| | ပေါင်း | ၁၀၀ -ပါး |

### ၁။ သင်္ခတတရား ၉၄ ပါး

| | | |
|---|---|---|
| (က) | စိတ် (ဝိညာဏ်) | ၈ -ပါး |
| (ခ) | စေတသိက် | ၅၁ -ပါး |
| (ဂ) | စိတ္တဝိပ္ပယုတ္တတရား | ၂၄ -ပါး |
| (ဃ) | ရုပ် | ၁၁ -ပါး |
| | ပေါင်း | ၉၄ -ပါး |

### (က) စိတ် (ဝိညာဏ်) ၈-ပါး

၁။ စက္ခုဝိညာဏ်၊
၂။ သောတဝိညာဏ်၊
၃။ ဃာနဝိညာဏ်၊
၄။ ဇိဝှါဝိညာဏ်၊
၅။ ကာယဝိညာဏ်၊
၆။ မနောဝိညာဏ်၊
၇။ မန = ကိလိဋ္ဌမနောဝိညာဏ်၊
၈။ အာလယဝိညာဏ်။

## (ခ) စေတသိက် ၅၁ ပါး

| | |
|---|---|
| သဗ္ဗစိတ္တ စေတသိက် | ၅ -ပါး |
| ဝိနိယတ စေတသိက် | ၅ -ပါး |
| ကုလလ စေတသိက် | ၁၁ -ပါး |
| ကိလေသာ စေတသိက် | ၆ -ပါး |
| ဥပက္ကိလေသ စေတသိက် | ၂၀ -ပါး |
| အနိယတ စေတသိက် | ၄ -ပါး |
| ပေါင်း - | ၅၁ -ပါး |

### (ခ-၁) သဗ္ဗစိတ္တ စေတသိက်ငါးပါး

၁။ ဖဿ = အာရုံကို တွေ့ထိမှု၊
၂။ ဝေဒနာ = အရသာခံစားမှု၊
၃။ သညာ = မှတ်သားမှု၊
၄။ စေတနာ = လှုံ့ဆော်မှု၊
၅။ မနသိကာရ = နှလုံးသွင်းမှု၊

### (ခ-၂) ဝိနိယတ စေတသိက်ငါးပါး

၁။ ဆန္ဒ = လိုချင်တော့တမှု၊
၂။ အဓိမောက္ခ = ဆုံးဖြတ်မှု၊
၃။ သတိ = အောက်မေ့မှု၊
၄။ သမာဓိ = တည်ငြိမ်မှု၊
၅။ ပညာ = ခွဲခြမ်းစိတ်ဖြာသိမှု။

### (ခ-၃) ကုသလ စေတသိက် ၁၁ ပါး

၁။ သဒ္ဓါ = ကြည်ညိုမှု၊
၂။ ဟိရီ = ရှက်ခြင်း၊
၃။ ဩတ္တပ္ပ = ကြောက်ခြင်း၊
၄။ အလောဘ = မတပ်မက်ခြင်း
၅။ အဒေါသ = မေတ္တာ၊

၆။ အမောဟ ＝ မတွေဝေမှု၊
၇။ ဝီရိယ ＝ လုံ့လအားထုတ်မှု၊
၈။ ပဿဒ္ဓိ ＝ ငြိမ်းချမ်းမှု၊
၉။ အပ္ပမာဒ ＝ မမေ့လျော့မှု၊
၁၀။ ဥပေက္ခာ ＝ လျစ်လျူရှုမှု၊
၁၁။ အဟိရိသာ ＝ မညှဉ်းဆဲမှု။

## (ခ-၄) ဥပက္ကိလေသ စေတသိက် ၂၀ ပါး

၁။ ကောဓ ＝ အမျက်ထွက်ခြင်း၊
၂။ ဥပနာဟ ＝ ရန်ငြိုးဖွဲ့ခြင်း၊
၃။ မက္ခ ＝ ကျေးဇူးကန်းခြင်း၊
၄။ ပဠာသ ＝ အပြိုင်ပြုခြင်း၊
၅။ ဣဿာ ＝ ငြူစူမှု၊
၆။ မစ္ဆရိယ ＝ ဝန်တိုမှု၊
၇။ မာယာ ＝ လှည့်စားမှု၊
၈။ သာဌေယျ ＝ စဉ်းလဲကောက်ကျစ်မှု၊
၉။ ဝိဟိံသာ ＝ ညှဉ်းဆဲမှု၊
၁၀။ မဒ ＝ မေ့လျော့မှု၊
၁၁။ အဟိရိက ＝ မရှက်ခြင်း
၁၂။ အနောတ္တပ္ပ ＝ မကြောက်ခြင်း၊
၁၃။ ဥဒ္ဓစ္စ ＝ မငြိမ်သက်မှု၊
၁၄။ ထိန ＝ ထိုင်းမှိုင်းမှု၊
၁၅။ အဿဒ္ဓိယ ＝ မကြည်ညိုမှု။
၁၆။ ကောသဇ္ဇ ＝ ပျင်းရိမှု၊
၁၇။ ပမာဒ ＝ မေ့လျော့မှု၊
၁၈။ မုဋ္ဌဿတိတာ ＝ သတိကင်းမှု၊
၁၉။ ဝိက္ခေပ ＝ ပျံ့လွင့်မှု၊
၂၀။ အသမ္ပဇည ＝ မသိတတ်မှု။

## (ဂ) စိတ္တဝိပ္ပယုတ္တတရား ၂၄ ပါး

၁။ ပတ္တိ = ရရောက်ခြင်း၊
၂။ ဇီဝိတိန္ဒြေ = အသက်၊
၃။ နိကာယသဘာဂ = မျိုးနွယ်တူမှု၊
၄။ ဝိသဘာဂ = မျိုးကွဲမှု၊
၅။ အသညီသမာပတ္တိ = အသညသတ်သမာပတ်၊
၆။ နိရောဓသမာပတ္တိ = နိရောဓသမာပတ်၊
၇။ အသညိက = အသညသတ်ပဋိသန္ဓေ၊
၈။ နာမကာယ = နာမည်၊
၉။ ပဒကာယ = ဝါကျ၊
၁၀။ ဗျဥ္ဇနကာယ = အက္ခရာပုဒ်ပါဌ်၊
၁၁။ ဇာတိ = အစဦးဖြစ်ပေါ်ခြင်း၊
၁၂။ ဌိတိ = တည်တံ့ခြင်း၊
၁၃။ ဇရာ = အိုမင်းခြင်း၊
၁၄။ အနိစ္စတာ = မမြဲခြင်း၊
၁၅။ ပဝတ္တိ = အလယ်၌ဖြစ်ခြင်း၊
၁၆။ ပဋိနိယမ = ကံတရားက ခွဲခြားမှု၊
၁၇။ ယောဂ = ပေါင်းစည်းယှဉ်တွဲမှု၊
၁၈။ ဇဝ = အရှိန်အဟုန်၊
၁၉။ အနုကရဏ = အမွေဆက်ခံခြင်း၊
၂၀။ ဒေသ = တည်ရာအရပ်၊
၂၁။ ကာလ = အချိန်ကာလ၊
၂၂။ သင်္ချာ = အရေအတွက်၊
၂၃။ သာမဂ္ဂိယ = အစုလိုက်တည်နေမှု
၂၄။ အညထတ္တ = ကွဲပြားခြင်း၊ တစ်မျိုးတစ်မည်ဖြစ်ခြင်း။

## (ဃ) ရုပ် ၁၁ ပါး

၁။ စက္ခုပသာဒရုပ် ( မှ)

၁၀။ ဖောဋ္ဌဗ္ဗာရုံ (အထိ တူ၏။)

၁၁။ ဓမ္မာယတနရုပ် ＝ မနောဝိညာဏဖြင့် သိနိုင်သော သိမ်မွေ့သောရုပ်။

## ၂။ အသင်္ခတတရား ခြောက်ပါး

| | |
|---|---|
| (က) အာကာသ | ＝ ဟင်းလင်းပြင် ကောင်းကင်၊ |
| (ခ) ပဋိသင်္ခါရနိရောဓ | ＝ မဂ်ဉာဏ်ကြောင့် ချုပ်ငြိမ်းခြင်း၊ |
| (ဂ) အပဋိသင်္ခါရနိရောဓ | ＝ ဉာဏ်ကြောင့်မဟုတ်ဘဲ သဘာဝအလျောက် ချုပ်ငြိမ်းခြင်း၊ |
| (ဃ) အာနေဥ္စ | ＝ အာနေဥ္စသမာပတ်ဖြင့် ချုပ်ငြိမ်းမှု၊ |
| (င) သညာဝေဒယိတနိရောဓ | ＝ ရဟန္တာပုဂ္ဂိုလ်၏ နိရောဓသမာပတ်၊ |
| (စ) တထတာ | ＝ နိဗ္ဗာန်။ |



## နောက်ဆက်တွဲ (င)

# ကထာဝတ္ထုအဖြေ

"ကထာဝတ္ထု" ဟူသော ပုဒ်ကို ခွဲခြမ်းစိတ်ဖြာလိုက်ပါက (ကထာ + ဝတ္ထု) ဟူ၍ နှစ်ပုဒ်တွေ့ရပေမည်။

ကထာ = အယူဝါဒ၊
ဝတ္ထု = တည်ရာကျမ်းဂန်
ကထာဝတ္ထု = အယူဝါဒတို့ကို ဖော်ပြရာကျမ်း

ဟု ဆိုလိုသည်။

ပုဂ္ဂိုလ်သတ္တဝါဟူသည် ပရမတ္ထအားဖြင့် ထင်ရှားရှိ-မရှိ၊ ရဟန္တာပုဂ္ဂိုလ်သည် သောတာပန်အဆင့်သို့ ပြန်လည်လျှောကျခြင်း ရှိ-မရှိ စသော အယူဝါဒ ကထာများကို နှစ်ဦးနှစ်ဖက် အမေးအဖြေ ပြုလုပ်၍ အခြေအတင် ဆွေးနွေးချက်များကို ဤကထာဝတ္ထုကျမ်း၌ ဖော်ပြထားသည်။

### သကဝါဒနှင့်ပရဝါဒ

| | | | |
|---|---|---|---|
| သက = မိမိ။ | | ပရ = သူတစ်ပါး။ | |
| သကဝါဒ = မိမိအယူဝါဒ။ | | ပရဝါဒ = သူတစ်ပါးအယူဝါဒ။ | |

ဤကထာဝတ္ထုကျမ်းများကို တတိယသင်္ဂါယနာတင်ပွဲ၌ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်က ဟောကြားခြင်းဖြစ်၍ ထိုအရှင်မဟာမောဂ္ဂလိပုတ္တတိဿ ဦးဆောင်သော တတိယသင်္ဂါယနာတင် ထေရ်အရှင်တို့၏ အယူဝါဒကို သကဝါဒဟု ခေါ်၏။ ၎င်းသကဝါဒမှာ အရှင်

မဟာကဿပ အစရှိသော ပထမသင်္ဂါယနာတင် ထေရ်အရှင်တို့၏ ဝါဒ ဖြစ်သောကြောင့် ထေရဝါဒမည်၏။ ၎င်းသကဝါဒခေါ် ထေရဝါဒသည် သီဟိုဠ်၊ မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လာအို၊ ဤခြောက်နိုင်ငံတို့၌ ဤခေတ်တိုင်အောင် ဆက်လက်ထွန်းကား တည်ရှိနေသည်။ ပရဝါဒမှာ ထေရဝါဒမှ အခြားတစ်ပါးသော သာသနာပ အညတိတ္ထိယနှင့် မဟာ သံဃိကဂိုဏ်း၊ သမ္မိတိယဂိုဏ်း၊ မဟိသာသကဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်း အစရှိသော ဂိုဏ်းသားများ၏ အယူဝါဒ ဖြစ်သည်။ ၎င်းပရဝါဒသည် တိဗက်ပြည်၊ ရုရှားပြည်၊ ဆစ်ကင်းပြည်၊ ဘူတန်ပြည်၊ မွန်ဂိုလျပြည်၊ တရုတ်ပြည်၊ ဂျပန်ပြည် စသည်တို့၌ ဤခေတ်တိုင်အောင် ဆက်လက် ထွန်းကားနေသည်။

## သကဝါဒီနှင့်ပရဝါဒီ

သကဝါဒ (ထေရဝါဒ)ဘက်မှ ရပ်တည်သော အရှင်မဟာမောဂ္ဂလိ ပုတ္တတိဿ ဦးဆောင်သော ရဟန္တာမထေရ်ကြီးများသည် သကဝါဒီပုဂ္ဂိုလ် မည်၏။ ပရဝါဒဘက်မှ ရပ်တည်သော တိတ္ထိကြီးများ၊ သဗ္ဗတ္ထိဝါဒဂိုဏ်း သားများ၊ မဟာသံဃိက စသော ဂိုဏ်းသားများသည် ပရဝါဒီပုဂ္ဂိုလ် မည်၏။ ဤကထာဝတ္ထုကျမ်းကို သကဝါဒီနှင့် ပရဝါဒီတို့ အခြေအတင် အမေးအဖြေ ပြုလုပ်ဟောကြားထား၏။ အရှင်မဟာမောဂ္ဂလိပုတ္တတိဿ ထေရ် တစ်ပါးတည်းကပင် သကဝါဒီဘက်က မေး၍ ပရဝါဒီဘက်မှ ဖြေကြားသည့်ဟန်၊ ပရဝါဒီဘက်က မေး၍ သကဝါဒီဘက်မှ ဖြေကြား သည့်ဟန်ဖြင့် ဟောကြားထားခြင်းဖြစ်၏။ တစ်ဘက်နှင့်တစ်ဘက် အကယ် စင်စစ်မေးဖြေနေခြင်း မဟုတ်ချေ။ သို့ရာတွင် တတိယသင်္ဂါယနာခေတ် မတိုင်မီကပင် သကဝါဒီနှင့်ပရဝါဒီတို့၏ အခြေအတင် စကားစစ်ထိုးပွဲ များ ဖြစ်ခဲ့ပေမည်။ ထိုစကားစစ်ထိုးပွဲများမှ ရှင်းလင်းချက်၊ ချေပချက် များကို ဆရာစဉ်ဆက် မှတ်သား သယ်ဆောင်ခဲ့ကြရာ အရှင်မဟာ မောဂ္ဂလိပုတ္တတိဿထေရ်လက်ထက်၌ တစ်ကျမ်းတစ်ဖွဲ့ဖြစ်အောင် ထုတ် ဖော် ဟောကြားတော်မူခဲ့ခြင်း ဖြစ်ပေမည်။

## ဘုရားဟောနှင့် သာဝကဟော

မြတ်စွာဘုရားရှင်သည် တာဝတိံသာနတ်ပြည်၌ ပင်လယ်ကသစ် ပင်ရင်း ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာထက်ဝယ် မယ်တော်ဖြစ်ခဲ့ဖူးသော သန္တုသိတ နတ်သားအား အဘိဓမ္မာတရားတော်ကို ဝါတွင်းသုံးလပတ်လုံး ဟောကြားတော်မူသည်။ ထိုအဘိဓမ္မာတရားတော်ကို အရှင်သာရိပုတ္တရာ အား အကျဉ်းချုပ်မျှ ပြန်လည်ဟောကြားတော်မူရာ အရှင်သာရိပုတ္တရာ ထေရ်သည် တပည့်ရဟန်းများအား အဘိဓမ္မာတရားတော်ကို မကျဉ်း မကျယ် အလယ်အလတ်နည်းဖြင့် ဝေဖန်ဟောပြ သင်ကြားပို့ချတော်မူ သည်။

ပထမ သင်္ဂါယနာတင်ပွဲ၌ ပိဋကသုံးပုံ ခွဲခြား၍ အစီအစဉ်တကျ ပြုလုပ်ရာ၌ အဘိဓမ္မာပိဋကကို ကျမ်းအားဖြင့် ခုနစ်ကျမ်း စီစဉ်ထား တော်မူခဲ့ကြသည်။ ထိုအဘိဓမ္မာခုနစ်ကျမ်းတွင် ယခုဖော်ပြမည့် ကထာ ဝတ္ထုကျမ်းသည် ပဉ္စမမြောက်ကျမ်းဖြစ်၏။ မြတ်စွာဘုရားရှင်သည် အဘိ ဓမ္မာခုနစ်ကျမ်းကို ဟောတော်မူစဉ်က ဤကထာဝတ္ထုကျမ်းကို အပြည့် အစုံ ဟောကြားခြင်း မပြုခဲ့ချေ။ ပုဂ္ဂလကထာတွင် 'အဋ္ဌကနိဂ္ဂဟ'ခေါ် 'အဋ္ဌမုခ'နည်း ရှစ်နည်းမျှကိုသာ နည်းရရုံ ဝေဖန်ဟောတော်မူခဲ့၍ ကျန် သော အယူဝါဒ (ကထာ) များကိုမူ ခေါင်းစဉ်မာတိကာမျှသာ ဟော ကြားတော်မူခဲ့၏။

ထိုသို့ မြတ်စွာဘုရားပေးတော်မူခဲ့သောနည်းကို အမှီပြု၍ မြတ်စွာ ဘုရားထားတော်မူခဲ့သော မာတိကာခေါင်းစဉ်အတိုင်း အယူဝါဒ (ကထာ) များကို တတိယသင်္ဂါယနာတင်ပွဲတွင် အရှင်မဟာမောဂ္ဂလိပုတ္တတိဿ ထေရ်အရှင်က အကျယ်ဝေဖန်ဟောကြားတော်မူရာ ယခုလက်ရှိ ကထာ ဝတ္ထုကျမ်းကြီး အပြည့်အစုံ ဖြစ်ပေါ်လာလေသည်။ ထို့ကြောင့် ကထာ ဝတ္ထုကျမ်းသည် အကျဉ်းအားဖြင့် ဘုရားဟောဖြစ်၍ အကျယ်အားဖြင့် သာဝကဟောဝါဒဖြစ်သည်။ ပုဂ္ဂလကထာမှာ သာသနာပ အညတိတ္ထိယ တို့၏ အယူဝါဒဖြစ်၏။ မြတ်စွာဘုရား မပွင့်မီကပင် ရှိနှင့်သော ပြဿနာ

ဖြစ်၍ မြတ်စွာဘုရားကိုယ်တော်တိုင် ဖြေရှင်းဟောကြားသောအခါ တရားနာပုဂ္ဂိုလ်များအနေဖြင့် သဘောပေါက် နားလည်နိုင်ပေသည်။ ပုဂ္ဂလကထာမှ တပါးသော ပရိဟာနိကထာ စသော ကထာများမှာ (သာသနာနှစ် ၁၀၀) ဒုတိယသင်္ဂါယနာတင်ပြီးနောက်မှ ဖြစ်ပေါ်လာသော ဗုဒ္ဓသာသနာတော်တွင်းရှိ ဂိုဏ်းကွဲများ၏ အယူဝါဒများ ဖြစ်လေသည်။ ဗုဒ္ဓလက်ထက်တော်က မဖြစ်ပေါ်သေးသော အယူဝါဒများဖြစ်၍ မြတ်စွာဘုရားရှင် ဝေဖန်ဟောကြားခဲ့သော် တရားနာပုဂ္ဂိုလ်တို့ သဘောပေါက်နားလည်ခြင်းရှိမည် မဟုတ်ချေ။

ထို့ကြောင့် မြတ်စွာဘုရားရှင်သည် အကျယ် ဝေဖန်ဟောကြားခြင်း မပြုဘဲ ခေါင်းစဉ် မာတိကာမျှကိုသာ ဟောတော်မူခဲ့လေသည်။ တတိယသင်္ဂါယနာတင်ခေတ်တွင်မူ ထိုအယူဝါဒများ ခေတ်စားနေကြသဖြင့် ခေတ်၏ တောင်းဆိုချက်နှင့်အညီ မြတ်စွာဘုရား ထားတော်မူ ခဲ့သော မာတိကာ ခေါင်းစဉ်အတိုင်း အရှင်မောဂ္ဂလိပုတ္တတိဿထေရ် အရှင်က အကျယ်ဝေဖန်ဟောကြားတော်မူခဲ့လေသည်။ ဤသို့ ဘုရားဟောပြီး အကျဉ်းသခေ်ပကို အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်က အကျယ်ဟောခြင်းဖြစ်၍ ကထာဝတ္ထုကျမ်းကို ဘုရားဟောပါဠိတော် စာရင်း၌ ထည့်သွင်းရေတွက်ကြရလေသည်။

## အခြေအတင် ဆွေးနွေးပုံ

ဗုဒ္ဓမြတ်စွာဘုရားလက်ထက်တော်က တိတ္ထိပရိဗိုဇ်များ ရသေ့ရဟန်းများ, ပုဏ္ဏားပညာရှိကြီးများ ဝါဒပြိုင်ပွဲများ, စကားစစ်ထိုးပွဲများ ကျင်းပလေ့ရှိသည်။ ရှုံးသူက တပည့်ခံစတမ်း၊ ကျွန်ခံစတမ်း ပြုလေ့ရှိကြ၏။ တစ်ဖက်သား၏ အယူဝါဒကို မေးမြန်း စစ်ထုတ်၍ အပြစ်ရှာ ပယ်ဖျက်လေ့ရှိကြ၏။ ထိုခေတ်က စကားအခြေအတင် ပြောပုံမှာ ရှေးဦးစွာ တစ်ဖက်သားကို မေးမြန်း စိစစ်၍ အဖြေတစ်ခု ရယူလိုက်၏။ တစ်ဖန် ထိုပထမအဖြေနှင့် ပြောင်းပြန် ဆန့်ကျင်သည့် အဖြေထွက်လာအောင် ဒုတိယအကြိမ် မေးခွန်းထုတ်ပြန်၏။ အဖြေနှစ်ရပ်သည်

ဆန့်ကျင်ဘက်ဖြစ်နေသောအခါ မိမိရရ ချည်နှောင်၍ အပြစ်တင်လေ့ရှိကြ၏။

ဥပမာ - ၁

| | | |
|---|---|---|
| သကဝါဒီ | မေး။ | ။ မိုးရွာနေသလော။ |
| ပရဝါဒီ | ဖြေ။ | ။ မိုးရွာနေပါသည်။ |
| သကဝါဒီ | မေး။ | ။ မိုးအုံ့နေသလော။ |
| ပရဝါဒီ | ဖြေ။ | ။ မိုးအုံ့မနေပါ။ |

အပြစ်တင်ဖိနှိပ်ပုံ

သကဝါဒီ။ (က) မိုးရွာနေပါသည် ဆိုခဲ့သော် (ဌပနာ - လက္ခဏာ)

(ခ) 'မိုးအုံ့နေပါသည်'ဟု ဆိုသင့်၏။ (အနုလောမပါပနာ)

(ဂ) 'မိုးရွာနေပါသည်'ဟု ဆို၍ 'မိုးအုံ့မနေပါ'ဟု ဆိုခြင်းသည် သင်၏ အမှားတည်း။ (အနုလောမရောပနာ)

(ဃ) 'မိုးအုံ့နေသည်'ဟု မဆိုနိုင်လျှင် 'မိုးရွာနေပါသည်'ဟူသော စကားကို မဆိုသင့်။ (ပဋိလောမပါပနာ)

(င) 'မိုးရွာနေပါသည်'ဟု ဆိုပြီး၍ 'မိုးအုံ့နေပါသည်'ဟု မဆိုခြင်းသည် သင်၏အမှားတည်း။ (ပဋိလောမရောပနာ)

ဤကား မိုးမအုံ့ဘဲ နေပူလျက် မိုးရွာခြင်းကို စကားကျကောက်၍ အပြစ်တင် ဆွေးနွေးပုံတည်း။

ရှင်းလင်းချက်

(က) တစ်ဖက်သား၏ စကားကို မိမိရရ ကိုင်ထားခြင်းကို ဌပနာဟု ခေါ်၏။ (ဌပနာ = မူတည်ချက်၊ ရပ်တည်ချက်)

(ခ) ဌပနာစကားရပ်ကို ထောက်ဆ၍ ဒုတိယစကားရပ် မသင့်လျော်ကြောင်း အပြစ်တင်ခြင်းသည် အနုလောမ ပါပနာမည်၏။ (အနုလောမ=အစဉ်အတိုင်း + ပါပနာ= ကျရောက်သောအပြစ်)

(ဂ) ရှေ့စကားနှင့်နောက်စကား ဆန့်ကျင်မှုကို အပြစ်တင်ခြင်းသည် အနုလောမရောပနာမည်၏။ (အနုလောမ=အစဉ်အတိုင်း=ဆီလျော်စွာ + ရောပနာ=အပြစ်တင်ခြင်း) (ပါပနာ=အလိုလိုကျရောက်သောအပြစ်။ ရောပနာ=တစ်ဖက်သားက တမင်တကာတင်သောအပြစ်)

(ဃ) ဒုတိယစကားရပ်ကို ထောက်ဆ၍ ပထမစကားရပ် မသင့်လျော်ကြောင်း အပြစ်တင် ကန့်ကွက်ခြင်းသည် ပဋိလောမ ပါပနာ မည်၏။ (ပဋိလောမ=ပြောင်းပြန် + ပါပနာ=ကျရောက်သောအပြစ်)

(င) ရှေ့စကားနှင့်နောက်စကား ဆန့်ကျင်မှုကို အပြစ်တင်ခြင်းသည် ပဋိလောမရောပနာမည်၏။ (ပဋိလောမ= ပြောင်း ပြန် + ရောပနာ=အပြစ်တင်ခြင်း)

ဤပုံစံအတိုင်း စကားအစိတ်အပိုင်း ငါးရပ်ပါဝင်သော မေးခွန်းထုတ်ခြင်းကို ဌပနာပဉ္စကပုစ္ဆာ (ဌပနာပဉ္စကစုဒ်စောဒနာ)ဟု ခေါ်၏။

(ပဉ္စက = ငါးခုတွဲ + ပုစ္ဆာ = မေးမြန်းခြင်း။ စောဒနာ = မေးခြင်း)

ဥပမာ - ၂

အရပ်သား မေး။ ။ ဒိုးပျံသည် သွားနေသလော။

သိပ္ပံဆရာ ဖြေ။ ။ သွားနေပါသည်။

အရပ်သား မေး။ ။ ထိုအချိန်၌ ဒိုးပျံစက်ကို ဖွင့်ထားသလော။

သိပ္ပံဆရာ ဖြေ။ ။ ဒိုးပျံစက်ကို ဖွင့်မထားပါ။

**အပြစ်တင်ဖိနှိပ်ပုံ**

အရပ်သား။ (က) ဒိုးပျံသွားနေသည်ဟု ဆိုခဲ့သော် (ဌပနာ-လက္ခဏာ)

(ခ) 'ဒိုးပျံစက်ကို ဖွင့်ထားသည်'ဟု ဆိုသင့်၏။ (အနုလောမပါပနာ)

(ဂ) 'ဒိုးပျံသွားနေသည်'ဟု ဆို၍ ထိုအချိန်၌ 'ဒိုးပျံစက်ကို ဖွင့်မထားပါ'ဟု ဆိုခြင်းသည် သင်၏ အမှားတည်း။ (အနုလောမရောပနာ)

(ဃ) 'ထိုအချိန်၌ ဒိုးပျံစက်ကို ဖွင့်ထားသည်'ဟု မဆိုနိုင်ပါက 'ဒိုးပျံသွားနေသည်'ဟုလည်း မဆိုသင့်။ (ပဋိလောမရောပနာ)

(င) 'ဒိုးပျံ သွားနေသည်'ဟု ဆို၍ 'ထိုအချိန်၌ ဒိုးပျံစက်ကို ဖွင့်ထားသည်'ဟု မဆိုခြင်းသည် သင်၏ အမှားတည်း။ (ပဋိလောမရောပနာ)

ဤကား လေဟာနယ်အတွင်း၌ အရာဝတ္ထုတို့သည် နောက်ထပ် စွမ်းအင်မစိုက်ရဘဲ မူလအရှိန်အဟုန်ဖြင့် ဆက်လက်ရွေ့လျားနိုင်ပုံကို မသိသဖြင့် အရပ်သားတစ်ဦးက သိပ္ပံဆရာ၏ စကားကို ဌာပနာ ပဉ္စက နည်းဖြင့် အပြစ်တင် ဖိနှိပ်ပုံတည်း။

ဥပမာ - ၃

အနုလောမ = အလိုက်သင့်

သကဝါဒီ မေး။ ။ ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်းတရား ရှိသလော။

ပရဝါဒီ ဖြေ။ ။ ရှိပါသည်။

သကဝါဒီ မေး။ ။ ရဟန္တာပုဂ္ဂိုလ်အား ဝိစိကိစ္ဆာ (ယုံမှားခြင်း ကိလေသာ) သံယောဇဉ်ဖြစ်ခြင်း ရှိသလော။

ပရဝါဒီ ဖြေ။ ။ မရှိပါ။

အပြစ်တင်၍ ဖိနှိပ်ပုံ

သကဝါဒီ။ (က) 'ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်းတရားရှိသည်'ဟု ဆိုခဲ့သော် (ဌာပနာ)

(ခ) 'ရဟန္တာပုဂ္ဂိုလ်အား ဝိစိကိစ္ဆာ (ယုံမှားခြင်း ကိလေသာ) သံယောဇဉ်ဖြစ်ခြင်းရှိ၏။'ဟု ဆိုသင့်၏။ ဝါ၊ ဆိုရာရောက်၏။ (အနု-ပါ)

(ဂ) ပထမအမေးကို ဝန်ခံဖြေဆို၍ ဒုတိယ အမေးကို ဝန်မခံခြင်းသည် သင်၏ အပြစ်တည်း။ (အနု-ရော)

(ဃ) 'ရဟန္တာပုဂ္ဂိုလ်အား ဝိစိကိစ္ဆာ (ယုံမှားခြင်း ကိလေသာ) သံယောဇဉ်ဖြစ်ခြင်းရှိ၏'ဟု မဆိုနိုင်လျှင် 'ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်းတရားရှိ၏' ဟု မဆိုသင့်။ ဝါ- ဒုတိယအမေးကို ငြင်းပယ်လျှင် ပထမအမေးကိုလည်း ငြင်းပယ်သင့်၏။(ပဋိ-ပါ)

(င) ပထမအမေးကို ဝန်ခံဖြေဆို၍ ဒုတိယအမေးကို ဝန်မခံခြင်းသည် သင်၏ အပြစ်တည်း။ ရှေ့နောက် မဆီလျော်မှုတည်း။ (ပဋိ-ရော)

ပစ္စနီက ▫ ပြောင်းပြန်

ပရဝါဒီ မေး။ ။ ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်းတရား ရှိသလော။

သကဝါဒီဖြေ ။ ။ မရှိပါ။

ပရဝါဒီ မေး။ ။ ရဟန္တာပုဂ္ဂိုလ်သည် ယောကျာ်း မိန်းမတို့၏ အမည်နာမ၌ ယုံမှားခြင်း၊ လမ်းခရီး အမှားအမှန်၌ ယုံမှားခြင်း ရှိသလော။

သကဝါဒီ ဖြေ။ ။ ရှိပါသည်။

အပြစ်တင်ဖိနှိပ်ပုံ

ပရဝါဒီ။ (က) 'ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်းတရား မရှိ'ဟု ဆိုခဲ့သော် (ဌပနာ)

(ခ) 'ရဟန္တာပုဂ္ဂိုလ်သည် ယောကျ်ား မိန်းမတို့၏ အမည်၌ ယုံမှားခြင်း၊ လမ်းခရီး အမှားအမှန်၌ ယုံမှားခြင်းရှိသည်'ဟု ဆိုသင့်၏။ (အနု-ပါ)

(ဂ) ပထမအမေးကို ငြင်းပယ်ဖြေဆို၍ ဒုတိယအမေးကို ဝန်မခံခြင်းသည် သင်၏ အပြစ်တည်း။ ရှေ့နောက် မညီညွတ်မှုတည်း။ (အနု-ရော)

(ဃ) ရဟန္တာပုဂ္ဂိုလ်သည် ယောကျ်ား မိန်းမတို့၏ အမည်၌ ယုံမှားခြင်း, လမ်းခရီး အမှားအမှန်၌ ယုံမှားခြင်း ရှိသည်ဟု ဆိုလျှင် 'ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်း တရားမရှိဟု မဆိုသင့်'၊ ဝါ- ဒုတိယအမေးကို ဝန်ခံလျှင် ပထမအမေးကိုလည်း ဝန်ခံသင့်၏။ (ပဋိ-ပါ)

(င) ပထမအမေးကို ငြင်းပယ်ဖြေဆို၍ ဒုတိယအမေးကို ဝန်ခံခြင်းသည် သင်၏ အပြစ်တည်း။ (ပဋိရော)

၁။ သုဒ္ဓအနုလောမနှင့်ပစ္စနီက

ဤသို့ သဘောတရား သက်သက်ကိုသာ ဆွေးနွေးခြင်းကို 'သုဒ္ဓ' နည်းဟု ခေါ်၏။ ၎င်းသုဒ္ဓနည်း၌ အနုလောမနည်း၊ ပစ္စနီကနည်းဟု နှစ်မျိုးရှိ၏။ 'ရှိသည်၊ ဖြစ်သည်'ဟူသော အချက်ကို မှုတည်၍ ဆွေးနွေးလျှင် အနုလောမနည်းမည်၏။ 'မရှိပါ၊ မဖြစ်ပါ'ဟူသော အချက်ကို မှုတည်၍ ဆွေးနွေးလျှင် ပစ္စနီကနည်းမည်၏။ အထက်ဖော်ပြပါ ဥပမာ

၃ ၌ 'ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်း တရားရှိသည်'ဟူသော အချက်ကို ဆွေးနွေးသော အပိုင်းသည် အနုလောမ မည်၏။ 'ရဟန္တာပုဂ္ဂိုလ်အား ယုံမှားခြင်းတရား မရှိ' ဟူသော အချက်ကို ဆွေးနွေးသော အပိုင်းသည် ပစ္စနီက (ပြောင်းပြန်) နည်း မည်၏။

## ၂။ ဩကာသ - အနုလောမနှင့်ပစ္စနီက

သဘောတရားသက်သက်ကိုသာ မဆွေးနွေးဘဲ တည်ရာဘုံဌာနနှင့် တွဲဖက် သုံးသပ်ရာ၌ ရှိခြင်း, ဖြစ်ခြင်းကို ဆွေးနွေးလျှင် အနုလောမနည်း မည်၏။ မရှိခြင်း, မဖြစ်ခြင်းကို ဆွေးနွေးလျှင် ပစ္စနီကနည်းမည်၏။ ဥပမာအားဖြင့် အတ္တ ခေါ် အသက်ကောင် လိပ်ပြာသည် အကယ်ထင်ရှားရှိပါက တစ်ကိုယ်လုံး၌ ပျံ့နှံ့တည်နေသလော၊ စကြဝဠာကမ္ဘာ လောကဓာတ်ကြီး တစ်ခုလုံး၌ ပျံ့နှံ့တည်နေသလော စသည်ဖြင့် တည်ရာ ဘုံဌာနအားဖြင့် မေးမြန်းစိစစ် ဆွေးနွေးခြင်းသည် 'ဩကာသနည်း' မည်၏။

ဂင်းဩကာသနည်း၌ အတ္တ-ရှိခြင်းကို မူတည်၍ ဆွေးနွေးပါက အနုလောမနည်း မည်၏။ အတ္တ-မရှိခြင်းကို မူတည် ဆွေးနွေးပါက ပစ္စနီကနည်း မည်၏။

## ၃။ ကာလအနုလောမနှင့်ပစ္စနီက

သဘောတရားသက်သက်ကိုသာ မဆွေးနွေးဘဲ အချိန်ကာလကို ထည့်သွင်း ဆွေးနွေးလျှင် ကာလနည်း မည်၏။ ဥပမာအားဖြင့် 'အတ္တ-ရှိသည်'ဟု ဆိုလျှင် အတိတ်ကာလ၌ ရှိသလော၊ ပစ္စုပ္ပန်ကာလ၌ ရှိသလော၊ အနာဂတ်ကာလ၌ ရှိသလောဟု ကာလသုံးပါးလုံး၌ အမြဲတည်ရှိနေသလောဟု ကာလဖြင့် မေးမြန်းစိစစ်ခြင်းသည် 'ကာလနည်း' မည်၏။ ထိုကာလ၌ အတ္တ-ရှိခြင်းကို မူတည်ဆွေးနွေးပါက အနုလောမနည်း မည်၏။ အတ္တ မရှိခြင်းကို မူတည် ဆွေးနွေးပါက 'ပစ္စနီကနည်း' မည်၏။

## ၄။ ခွဲခြမ်းစိတ်ဖြာ အနုလောမနှင့်ပစ္စနီက

သဘောတရားသက်သက်ကို ရုပ်နာမ်ပရမတ္ထ အသီးသီးအပေါ်၌ ခွဲခြမ်းစိတ်ဖြာ၍ ဆွေးနွေးမေးမြန်းခြင်းသည် ခွဲခြမ်းစိတ်ဖြာ (အဝယဝ) နည်း မည်၏။ ဥပမာအားဖြင့် - 'အတ္တ-ရှိသည်'ဟု ဆိုလျှင် သတ္တဝါတိုင်း၌ အတ္တရှိသလော၊ ရေစက်ရေပေါက် မြူမှုန် အဏုမြူ စသော အရာဝတ္ထု အားလုံးတို့၌ အတ္တရှိသလော၊ ဝေဒနာ သညာ စသော နာမ်တရားအသီး သီး၌ အတ္တတစ်ခုစီ ရှိကြသလော၊ ဤသို့ ခွဲခြမ်းစိတ်ဖြာ၍ မေးစိစစ် သောနည်းသည် ခွဲခြမ်းစိတ်ဖြာ (အဝယဝ) နည်း မည်၏။ ၎င်းနည်း၌ အတ္တရှိခြင်းကို မူတည် ဆွေးနွေးပါက အနုလောမနည်း မည်၏။ အတ္တမရှိ ခြင်းကို မူတည် ဆွေးနွေးပါက ပစ္စနီကနည်း မည်၏။

### အဋ္ဌမုခနည်း

ဤသို့အားဖြင့် -

၁။ သုဒ္ဓနည်း (က) အနုလောမနည်း၊
(ခ) ပစ္စနီကနည်း၊
၂။ ဩကာသနည်း (က) အနုလောမနည်း၊
(ခ) ပစ္စနီကနည်း၊
၃။ ကာလနည်း (က) အနုလောမနည်း၊
(ခ) ပစ္စနီကနည်း၊
၄။ အဝယဝနည်း (က) အနုလောမနည်း၊
(ခ) ပစ္စနီကနည်း -

ဟူ၍ အပြန်အလှန် မေးဖြေ စိစစ်နည်း အကျဉ်းချုပ်အားဖြင့် ရှစ်နည်း ရှိ၏။ ၎င်းရှစ်နည်းကို 'အဋ္ဌမုခနည်း'ဟု ခေါ်၏။

ဤကား ကထာဝတ္ထုကျမ်း၌ စကားအသွားအလာ၊ ဝါကျအသွား အလာ၊ ဟောပုံဟောနည်းကို တစေ့တစောင်း အကဲခတ် ဖတ်ရှုတတ် အောင် အမြွက်မျှ ရှင်းလင်းရေးသားခြင်းဖြစ်ပါသည်။

ယခုအခါ ကထာဝတ္ထုကျမ်း၌ ဆွေးနွေးထားသော အကြောင်းအရာ (ကထာ) ၂၂၆-ပါးကို ခေါင်းစဉ်မာတိကာမျှ ထုတ်နုတ်၍ အကျဉ်းချုပ် ဖော်ပြပါအံ့ -

၁။ ပုဂ္ဂလကထာ = (ပုဂ္ဂလ=အတ္တ၊ ဇီဝ)

ပုဂ္ဂလခေါ် အတ္တ (အသက်ကောင်၊ လိပ်ပြာ)သည် တကယ်ထင်ရှား ရှိသည်။ (သာသနာပတိတ္ထိများ၊ ဝဇ္ဇီပုတ္တကဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

၂။ ပရိဟာနိကထာ = (ပရိဟာန=လျှောကျခြင်း)

ရဟန္တာသည် ရဟန္တာအဖြစ်မှ လျှောကျနိုင်သည်။

(ဝဇ္ဇီပုတ္တကဂိုဏ်း၊ သမ္မိတိယဂိုဏ်း၊ သဗ္ဗတ္ထိဝါဒီနှင့် မဟာသံဃိကဂိုဏ်းဝင်အချို့)

၃။ (က) ဗြဟ္မစရိယကထာ = (ဗြဟ္မစရိယ=မြတ်သောအကျင့်)

နတ်ပြည်၌ မဂ်ဖိုလ်ရအောင် တရားကျင့်မှု မရှိ။ (သမ္မိတိယဂိုဏ်း)

(ခ) ဩဓိသောကထာ = (ဩဓိသော=အပိုင်းအပိုင်းခွဲ၍)

အရိယာပုဂ္ဂိုလ်တို့သည် သက်ဆိုင်ရာ ကိလေသာကို ပယ်ရာ၌ တဖြည်းဖြည်း တစ်စိတ်တစ်ဖွဲ့ချင်း ခဏခဏ ပယ်ရသည်။ တစ်ခါတည်း အကြွင်းမဲ့ မပယ်နိုင်။ (သမ္မိတိယဂိုဏ်း စသည်)

၄။ ဇဟတိကထာ = (ဇဟတိ=ကိလေသာကို ပယ်၏)

ကာမရာဂကိုလည်းကောင်း၊ ဗျာပါဒခေါ် ဒေါသကိုလည်းကောင်း ပုထုဇဉ်ဘဝ၌ အကြွင်းမဲ့ ပယ်ဖြတ်နိုင်သည်။ (သမ္မိတိယဂိုဏ်း)

၅။ သဗ္ဗမတ္ထိကထာ = (သဗ္ဗံ=အလုံးစုံ + အတ္ထိ=ရှိ၏)

ကုန်ဆုံးချုပ်ပျက်ပြီးသော တရားများလည်း ထင်ရှားရှိသည်၊ ဖြစ်ပေါ်လတ္တံ့သော တရားများလည်း ထင်ရှားရှိသည်။ အတိတ် အနာဂတ်တို့သည် ပစ္စုပ္ပန်ကဲ့သို့ ထင်ရှားရှိနေကြသည်။ (သဗ္ဗမတ္ထိ = သဗ္ဗတ္ထိဝါဒဂိုဏ်း)

၆။ **အတီတက္ခန္ဓာဒိကထာ**=(အတီတ=အတိတ်+ခန္ဓာဒိ=ခန္ဓာစသည်)

အတိတ်ဖြစ်သော ခန္ဓာ အာယတန ဓာတ်တို့သည် မိမိပင်ကို သဘောကို မစွန့်သောကြောင့် ထင်ရှားရှိကြသည်။ အလားတူပင် အနာဂတ်တရားများလည်း ထင်ရှားရှိကြသည်။ (သဗ္ဗတ္ထိဝါဒဂိုဏ်း)

၇။ **ဧကစ္စံ အတ္ထိကထာ** = (ဧကစ္စံ=အချို့သည် + အတ္ထိ=ရှိ၏)

မိမိအလှည့်မကျသေး၍ အကျိုးမပေးရသေးသော အတိတ် ကံများသည် ထင်ရှားရှိကြ၏။ အနာဂတ်တရားတို့သည် ဧကန် ဖြစ်လတ္တံ့သောကြောင့် ထင်ရှားရှိသည်မည်၏။ (ကဿပိကဂိုဏ်း)

၈။ **သတိပဋ္ဌာနကထာ**

သတိပဋ္ဌာန်တရားသည် လေးပါးတည်းသာမဟုတ်၊ သတိ၏ အာရုံဖြစ်သော တရားအားလုံးကို သတိပဋ္ဌာန်တရားဟု ယူဆသည်။ (အန္ဓကဂိုဏ်းနှင့် ၎င်း၏ဂိုဏ်းခွဲများ ပုဗ္ဗသေလိယ၊ အပရသေလိယ၊ ရာဇဂိရိက၊ သိဒ္ဓတ္ထိကဂိုဏ်းများ)

၉။ **ဟေဝတ္ထိကထာ** = (ဧဝံ=ဤနည်းဤပုံ + အတ္ထိ=ရှိ၏)

အတိတ်သည် အတိတ်အဖြစ်ဖြင့်ရှိ၍ ပစ္စုပ္ပန် အနာဂတ် သဘောအားဖြင့် မရှိ။ ပစ္စုပ္ပန်သည်လည်း ပစ္စုပ္ပန်အဖြစ်ဖြင့် ရှိ၍ အတိတ် အနာဂတ်သဘောအားဖြင့် မရှိ။ အနာဂတ်သည်လည်း မိမိ အနာဂတ်သဘာဝဖြင့်သာ ရှိ၍ ပစ္စုပ္ပန် အတိတ်သဘောအားဖြင့် မရှိ။ ဤနည်းအားဖြင့် ရှိ၍ အခြားနည်းဖြင့် မရှိဟု ယူဆသည်။ (အန္ဓကဂိုဏ်းများ)

၁၀။ **ပရူပဟာရကထာ** = (ပရ=သူတစ်ပါး+ဉပဟာရ=လုံ့လပယောဂ)

မာရ်နတ်၏ အသင်းအပင်း နတ်ဆိုးများ၏ လုံ့လ ပယောဂကြောင့် ရဟန္တာပုဂ္ဂိုလ်သည် သုက်လွတ်သည်။ (ပုဗ္ဗသေလိယနှင့်အပရသေလိယ)

၁၁။ **အညာဏကထာ** = (အ + ဉာဏ=မသိခြင်း)
ရဟန္တာမှာ (လူ့အမည်၊ မြို့ရွာအမည်နှင့် လမ်းခရီးတို့ကို မသိသောကြောင့်) မသိမှု (အညာဏ) ရှိသေးသည်။ (ပုဗ္ဗသေလိယဂိုဏ်း စသည်)

၁၂။ **ကင်္ခါကထာ** = (ကင်္ခါ=ယုံမှားခြင်း=ဝိစိကိစ္ဆာ)
ရဟန္တာမှာ (လူ့အမည် စသည်ကို ယုံမှားသံသယ ရှိသောကြောင့်) ယုံမှားခြင်း (ကင်္ခါ) ရှိသေးသည်။ (ပုဗ္ဗသေလိယဂိုဏ်း စသည်)

၁၃။ **ပရဝိတာရဏကထာ** = (ပရ=သူတစ်ပါး + ဝိတာရဏ=ဆုံးဖြတ်မှု)
အထက်ပါနည်းအတိုင်း ရဟန္တာမှာ သူတစ်ပါးပြောပြရမှု, သူတစ်ပါး ပြောသံကြားရမှ အမှန်ကို ဆုံးဖြတ်နိုင်မှုရှိသည်။ (ပုဗ္ဗသေလိယဂိုဏ်း စသည်)

၁၄။ **ဝစီဘေဒကထာ** = (ဝစီ=နှုတ်စကား + ဘေဒ=မြွက်ခြင်း)
သောတာပတ္တိမဂ်ဉာဏ် ဖြစ်ဆဲခဏ၌ 'ဒုက္ခ-ဆင်းရဲလေစွ'ဟု ထိုပုဂ္ဂိုလ်နှုတ်မှ ရွတ်ဆို၏။ (ပုဗ္ဗသေလိယဂိုဏ်း စသည်)

၁၅။ **ဒုက္ခာဟာရကထာ** = (ဒုက္ခ=ဆင်းရဲကို + အာဟာရ=စားမျိုမှု)
'ဒုက္ခ ဒုက္ခ'ဟု ရွတ်ဆိုနေသူသည် မဂ်ဉာဏ်ကို ပွားများနေသူ ဖြစ်၏။ (ပုဗ္ဗသေလိယဂိုဏ်း စသည်)

၁၆။ **စိတ္တဋ္ဌိတိကထာ** = (စိတ္တ=စိတ် + ဋ္ဌိတိ=တည်နေမှု)
စိတ်သည် မပျက်မစီး အမြဲတည်၏။ တစ်နေ့, တစ်ရက်, တစ်ကမ္ဘာ, ကမ္ဘာရှစ်သောင်းလေးထောင် တည်မြဲ၏ထ။ (အန္ဓကဂိုဏ်းများ)

၁၇။ **ကုက္ကုဠကထာ** = (ကုက္ကုဠ=ပြာပူ)
သင်္ခါရတရားအားလုံးသည် ပြာပူ (ကုက္ကုဠ)ကဲ့သို့ ပူလောင်နေ၏။ (ဂေါကုလိကဂိုဏ်း)

၁၈။ **အနုပုဗ္ဗာဘိသမယကထာ** = (အနုပုဗ္ဗ=အစဉ်အတိုင်း + အဘိသမယ=သိခြင်း)
မဂ်ဉာဏ်သည် သစ္စာလေးပါးကို တစ်ပြိုင်နက်တည်း မသိဘဲ သစ္စာတစ်ပါးစီကို အစဉ်အတိုင်းသိသည်။ (အန္ဓကဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်း၊ သမ္မိတိယဂိုဏ်း၊ ဘဒြယာနိကဂိုဏ်း)

၁၉။ **ဝေါဟာရကထာ** ။ (ဝေါဟာရ=စကားအသုံးအနှုန်း)

မြတ်စွာဘုရား ရွှေနှုတ်တော်မှ ထုတ်ဖော်ဟောကြားသော ဝေါဟာရ စကားလုံးများသည် လောကီနယ်ပယ်ကို လွန်မြောက်သော လောကုတ္တရာ တရားများဖြစ်သည်။ (အန္ဓကဂိုဏ်း)

၂၀။ **နိရောဓကထာ** ။ (နိရောဓ=ကိလေသာချုပ်ငြိမ်းမှု)

လောကုတ္တရာမဂ်ဉာဏ်ဖြင့် ပယ်သောကြောင့် ကိလေသာငြိမ်းမှုကို ပဋိသင်္ခါနိရောဓဟု ခေါ်၏။ မဂ်ဉာဏ်ဖြင့် မပယ်သတ်ရဘဲ အကြောင်းမညီညွတ်၍ မဖြစ်ခြင်းသည် အပဋိသင်္ခါရနိရောဓ မည်၏။ ဤသို့ နိရောဓသစ္စာနှစ်ပါး ရှိ၏ဟု ဆိုသည်။

၂၁။ **ဗလကထာ** ။ (ဗလ=အားတော်ဆယ်ပါး)

မြတ်စွာဘုရား၏ အားတော် (ဗလ)ဟုခေါ်အပ်သော ဉာဏ်တော် ဆယ်ပါးကို သာဝကများလည်း ရနိုင်၏။ (အန္ဓကဂိုဏ်းများ)

၂၂။ **အရိယန္တိကထာ** ။ (အရိယန္တိ=အရိယာဉာဏ်မည်၏)

ဒသဗလဉာဏ်ခေါ်သော ဉာဏ်တော်ဆယ်ပါးလုံးသည် လောကီယ ဉာဏ်မဟုတ်၊ လောကုတ္တရာ အရိယာဉာဏ်များသာလျှင် ဖြစ်သည်။ (အန္ဓကဂိုဏ်းများ)

၂၃။ **ဝိမုတ္တိကထာ** ။ (ဝိမုတ္တိ=လွတ်မြောက်မှု)

ရာဂကင်းသော စိတ်သည် ရာဂမှ လွတ်မြောက်ရန် မလိုတော့ချေ။ ရာဂရှိသော စိတ်သည်သာ ရာဂမှ လွတ်မြောက်၏။ ဒေါသ မောဟ ရှိသော စိတ်သည်သာ ဒေါသ မောဟမှ လွတ်မြောက်၏။ (အန္ဓက ဂိုဏ်းများ)

၂၄။ **ဝိမုစ္စမာနကထာ** ။ (ဝိမုစ္စမာန=လွတ်မြောက်ဆဲ)

ရာဂ ဒေါသ မောဟတို့မှ လွတ်မြောက်မှုသည် တစ်ခါတည်း တစ် ပြိုင်တည်း အပြီးသတ် မဟုတ်ချေ။ တစ်ပိုင်းတစ်စက လွတ်မြောက်

၍ တစ်ပိုင်းတစ်စက မလွတ်မြောက်သေး။ ထို့ကြောင့် လွတ်မြောက်ပြီးပုဂ္ဂိုလ်သည် လွတ်မြောက်ဆဲသာ ဖြစ်၏။ (အန္တကဂိုဏ်းများ)

၂၅။ အဌမကထာ ＝ (အဋ္ဌမက＝ရှစ်ယောက်မြောက် သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်)

သောတာပတ္တိမဂ်စိတ်၏ ရှေ့၌ရှိသော အနုလောမဉာဏ်၊ ဂေါတြဘူဉာဏ်တို့သည် ဒိဋ္ဌိနှင့်ဝိစိကိစ္ဆာကို ပယ်သည်။ ထို့ကြောင့် သောတာပတ္တိမဂ်ခဏ၌ ဒိဋ္ဌိနှင့်ဝိစိကိစ္ဆာသည် ပယ်ပြီးဟု ဆိုရမည်၊ ပယ်ဆဲမဟုတ်။ (အန္တကဂိုဏ်းများနှင့်သမ္မိတိယဂိုဏ်း)

၂၆။ အဌမကဿ ဣန္ဒြိယကထာ ＝ (အဋ္ဌမကဿ＝သောတာပတ္တိ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်အား ＋ ဣန္ဒြိယ＝ဣန္ဒြေငါးပါး)

သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၌ ရှိသော သဒ္ဓါ ဝီရိယ သတိ သမာဓိ ပညာ တရားငါးပါးတို့ကို ဣန္ဒြေဟု မခေါ်နိုင်။ (အန္တကဂိုဏ်းများ)

၂၇။ ဒိဗ္ဗစက္ခုကထာ ＝(ဒိဗ္ဗစက္ခု＝နတ်မျက်စိနှင့်တူသော အဘိညာဉ်)

စတုတ္ထစျာန် အဘိညာဉ်ဝင်စားသောပုဂ္ဂိုလ်၏ ပကတိ မျက်စိသည် ဒိဗ္ဗစက္ခုမည်၏။ ဒိဗ္ဗစက္ခုအဘိညာဉ်ရသူသည် ထိုအဘိညာဉ်စိတ်က ထောက်ပံ့ချီးမြှင့်ပေးသဖြင့် ပကတိမျက်စိနှင့်ပင် ဖောက်ထွင်းမြင်နိုင်သည်။ (အန္တကဂိုဏ်းများနှင့်သမ္မိတိယဂိုဏ်း)

၂၈။ ဒိဗ္ဗသောတကထာ ＝ (ဒိဗ္ဗသောတ＝နတ်နားနှင့်တူသော အဘိညာဉ်)

အထက်နည်းတူ စတုတ္ထစျာန်၏ ထောက်ပံ့မှုကို ရသော ပကတိနားသည်ပင် ဒိဗ္ဗသောတမည်၏။ (အန္တကဂိုဏ်းများနှင့် သမ္မိတိယဂိုဏ်း)

၂၉။ ယထာကမ္မူပဂဉာဏကထာ ＝ (ယထာကမ္မ＝ကံအားလျော်စွာ＋ဥပဂ＝ဘဝသစ်ကူးမှု)

ဒိဗ္ဗစက္ခုဉာဏ်နှင့် ယထာကမ္မူပဂဉာဏ်ကို တစ်ခုတည်းဟု ယူဆသည်။ (အန္တကဂိုဏ်းများနှင့်သမ္မိတိယဂိုဏ်း)

၃၀။ သံဝရကထာ = (သံဝရ=စောင့်ထိန်းမှု)

တာဝတိံ သာမှ အထက်ဖြစ်သော နတ်ပြည်တို့၌ ငါးပါးသီလ မလွန်ကျူးအောင် ထိန်းသိမ်း စောင့်ရှောက်မှု (သံဝရတရား) ရှိသည်။ (ဂုင်းနှစ်ဂိုဏ်း)

၃၁။ အသညကထာ = (အသည=သညာမရှိ = နာမ်မရှိ)

အသညသတ်ပြဟ္မာတို့သည် ပဋိသန္ဓေအခိုက်နှင့် စုတေသည့်အခိုက်တို့၌ သညာ (နာမ်တရား) ရှိသည်။ (အန္ဓကဂိုဏ်းများ)

၃၂။ နေဝသညာနာသညာယတနကထာ = (နေဝသညာ=သညာမရှိ+န အသညာ=သညာမရှိသည်မဟုတ်)

နေဝသညာနာသညာယတနဘုံ၌ သညာရှိသည်ဟုလည်း မဆိုသင့်၊ မရှိဘူးဟုလည်း မဆိုသင့်။ (အန္ဓကဂိုဏ်းများ)

၃၃။ ဂိဟိဿ အရဟာတိ ကထာ = (ဂိဟိဿ=လူအား + အရဟာ=ရဟန္တာဖြစ်မှု)

ရဟန္တာသည် လူဝတ်ကြောင် 'အိမ်ထောင်သည်'အဖြစ်ဖြင့် နေနိုင်သည်။ (ဥတ္တရာပထကဂိုဏ်း)

၃၄။ ဥပပတ္တိကထာ = (ဥပပတ္တိ=ပဋိသန္ဓေအခါ)

သုဒ္ဓါဝါသဘုံ၌ ပဋိသန္ဓေနေသည့် အခိုက်မှာပင် ရဟန္တာဖြစ်နိုင်သည်။ (ဥတ္တရာပထကဂိုဏ်း)

၃၅။ အနာသဝကထာ = (န + အာသဝ = အာသဝေါကင်းမှု)

ရဟန္တာပုဂ္ဂိုလ်နှင့် ဆက်စပ်သော ပစ္စည်းဥစ္စာမှန်သမျှသည် အာသဝေါကင်းပြီး (အနာသဝ)ဖြစ်၏။ ရဟန္တာကိုယ်ကာယသည်လည်း အာသဝေါကင်းပြီး (အနာသဝ)ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၃၆။ သမန္တာဂတကထာ = (သမန္တာဂတ=ပြည့်စုံမှု)

ရဟန္တာပုဂ္ဂိုလ်သည် ဖိုလ်လေးပါးနှင့် ပြည့်စုံ၏။ အနာဂါမ်ပုဂ္ဂိုလ်သည် ဖိုလ်သုံးပါးနှင့် ပြည့်စုံ၏။ သကဒါဂါမ်ပုဂ္ဂိုလ်သည် ဖိုလ်နှစ်ပါးနှင့် ပြည့်စုံ၏။ (ဥတ္တရာပထကဂိုဏ်း)

၃၇။ ဥပေက္ခာသမန္တာဂတကထာ = (ဥပေက္ခာနှင့် ပြည့်စုံမှု)

ရဟန္တာပုဂ္ဂိုလ်သည် ဒွါရခြောက်ပါး၌ ဥပေက္ခာခြောက်ပါး အမြဲပြည့်စုံနေသည်။ (ဥတ္တရာပထကဂိုဏ်း)

၃၈။ ဗောဓိယာ ဗုဒ္ဓေါတိ ကထာ = (ဗောဓိယာ=ဗောဓိဉာဏ်နှင့် ပြည့်စုံခိုက်သာ + ဗုဒ္ဓေါ=ဘုရားမည်၏)

မဂ်ဉာဏ်လေးပါးနှင့် သဗ္ဗညုတဉာဏ်တော်ကို ဗောဓိဉာဏ်ဟု ခေါ်၏။ ထိုဗောဓိဉာဏ်နှင့် ပြည့်စုံနေခိုက်ကိုသာ ဗုဒ္ဓဟု ခေါ်လိုကြ၏။ (ဥတ္တရာပထကဂိုဏ်း)

၃၉။ လက္ခဏကထာ = (လက္ခဏ=လက္ခဏာတော်ကြီး ၃၂-ပါး)

လက္ခဏာတော်ကြီး (၃၂)ပါးနှင့် ပြည့်စုံလျှင် ဘုရားလောင်း (ဗောဓိသတ္တ) မည်၏။ ဘုရားလောင်း (ဗောဓိသတ္တ) မဟုတ်လျှင် (၃၂)ပါးသော လက္ခဏာတော်ကြီးများနှင့် မပြည့်စုံနိုင်။ (ဥတ္တရာပထကဂိုဏ်း)

၄၀။ နိယာမောက္ကန္တိကထာ = (နိယာမ + ဩက္ကန္တိ = မဂ်ဉာဏ်သို့ + ရောက်ပြီး, ရပြီး)

ဂေါတမဘုရားအလောင်းတော်သည် ဇောတိပါလ ပုဏ္ဏားလုလင်ဘဝက ကဿပဘုရားရှင် သာသနာတော်၌ မဂ်ဉာဏ်လေးပါးကို ရပြီး, သိပြီးဖြစ်သည်။ (အန္ဓကဂိုဏ်း စသည်)

၄၁။ **အပရာပိ သမန္နာဂတကထာ** ။ (အပရာပိ=အခြားတစ်ခု + သမန္နာဂတ=ပြည့်စုံမှု)

အရဟတ္တမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် အောက်ဖိုလ်သုံးပါးနှင့် ပြည့်စုံလျက်ရှိ၏။ အနာဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် အောက်ဖိုလ်နှစ်ပါးနှင့် ပြည့်စုံလျက်ရှိ၏။ သကဒါဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် သောတာပတ္တိဖိုလ်နှင့် ပြည့်စုံလျက်ရှိ၏။ (အန္ဓကဂိုဏ်းများ)

၄၂။ **သဗ္ဗသံယောဇနပဟာနကထာ** ။ (သဗ္ဗသံယောဇန=သံယောဇဉ်အားလုံး + ပဟာန=ပယ်ခြင်း)

အရဟတ္တမဂ်သည် သံယောဇဉ် တရားဆယ်ပါးလုံးကို ပယ်သည်။ (အန္ဓကဂိုဏ်းများ)

၄၃။ **ဝိမုတ္တိကထာ** ။ (ဝိမုတ္တိ=လွတ်မြောက်သောဉာဏ်)

ဝိပဿနာဉာဏ် မဂ်ဉာဏ် ဖိုလ်ဉာဏ် ပစ္စဝေက္ခဏာဉာဏ်တို့သည် ဝိမုတ္တိဉာဏ်မည်၏။ ဖိုလ်ဉာဏ်သည် မုချဝိမုတ္တိဉာဏ်မည်၏။ ဤသို့ မခွဲခြားဘဲ ဝိမုတ္တိဉာဏ်အားလုံးကို မုချဝိမုတ္တိဉာဏ်မည်၏ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၄၄။ **အသေခဉာဏကထာ** ။ (အသေခ=ရဟန္တာပုဂ္ဂိုလ်)

သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်ပုဂ္ဂိုလ် သုံးယောက်ကို သေခပုဂ္ဂိုလ်ဟု ခေါ်၍ ရဟန္တာပုဂ္ဂိုလ်ကို အသေခပုဂ္ဂိုလ်ဟု ခေါ်ဆို၏။ သေခပုဂ္ဂိုလ်၌ အသေခဉာဏ်ရှိသည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၄၅။ **ဝိပရီတကထာ** ။ (ဝိပရီတ=ဖောက်ပြန်သောဉာဏ်)

ပထဝီကသိုဏ်းရှုသူသည် သမာဓိ ရင့်ကျက်သောအခါ မူလပကတိ ပထဝီကို အာရုံမပြုဘဲ စိတ်ထဲ၌ ပေါ်လာသော ပထဝီ နိမိတ်ကိုသာ အာရုံပြု၏။ ထို့ကြောင့် ထိုပုဂ္ဂိုလ်၏ ဉာဏ်သည် ပထဝီအစစ်ကို

မသိ။ အတုကိုသာ သိသောကြောင့် ဖောက်ပြန်သော ဉာဏ်ဟု ဆိုကုန်၏။ (အန္ဓကဂိုဏ်းများ)

၄၆။ နိယာမကထာ ။ (နိယာမ-မဂ်ဉာဏ်)
လားရာဂတိ တည်မြဲခြင်းကို နိယာမဟု ဆိုလိုသည်။ မဂ်ဉာဏ်လေးပါး သည် လားရာဂတိ မြဲစေနိုင်ခြင်းကြောင့် နိယာမဟု အမည်ရ၏။ ပုထုဇဉ်ပုဂ္ဂိုလ်၏သန္တာန်၌ (ရရောက်လတ္တံ့သော နိယာမဉာဏ်) မဂ်ဉာဏ်ရှိ၏ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၄၇။ ပဋိသမ္ဘိဒါကထာ ။ (ပဋိသမ္ဘိဒါ-ခွဲခြမ်းစိတ်ဖြာသောဉာဏ်)
ဉာဏ်မှန်သမျှကို ပဋိသမ္ဘိဒါဉာဏ်ဟု ခေါ်လို၏။ (အန္ဓကဂိုဏ်းများ)

၄၈။ သမ္မုတိဉာဏကထာ ။ (သမ္မုတိဉာဏ-သမ္မုတိသစ္စာကို သိသော ဉာဏ်)
သမ္မုတိသစ္စာကို သိသောဉာဏ်သည်လည်း သစ္စာတရားကို အာရုံပြု၏။ (အန္ဓကဂိုဏ်းများ)

၄၉။ စိတ္တာရမ္မဏကထာ ။ (စိတ္တ-စိတ်ကိုသာ + အာရမ္မဏ-အာရုံပြုသည်)
စေတောပရိယဉာဏ်သည် စိတ်ကိုသာ အာရုံပြု၍ စေတသိက်တရားကို အာရုံမပြုချေ။ (အန္ဓကဂိုဏ်းများ)

၅၀။ အနာဂတဉာဏကထာ ။ (အနာဂတ ။ အနာဂတ်စိတ်ကို + ဉာဏ-သိမှု)
မိမိသန္တာန်၌ ဝီထိစိတ်တို့သည် ရှေ့နောက်ဆက်စပ်၍ ဖြစ်ပျက်လျက်ရှိရာ ရှေ့စိတ်၌ရှိသော ဉာဏ်သည် မိမိနောက်မှ ကပ်လျက်ဖြစ်ပေါ်လာသော နောက်စိတ်ကို သိနိုင်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းသားများ)

၅၁။ **ပစ္စုပ္ပန္နကထာ** ॰ (ပစ္စုပ္ပ॰ပစ္စုပ္ပန်ဖြစ်ဆဲခဏ)

ဖြစ်ဆဲဉာဏ်သည် မိမိဉာဏ်ကို ပြန်လည်သိနိုင်၏။ (အန္ဓကဂိုဏ်းများ)

၅၂။ **ဖလဉာဏကထာ** ॰ (ဖလ॰ဖိုလ် + ဉာဏ॰ဉာဏ်)

သာဝကတို့သည် မြတ်စွာဘုရားရှင်ကဲ့သို့ အရိယာဖိုလ်တရားကို ပိုင်းခြားဟောကြားနိုင်သော ဉာဏ်ရှိသည်။ (အန္ဓကဂိုဏ်းများ)

၅၃။ **နိယာမကထာ** ॰ (နိယာမ॰မဂ်စိတ်)

မဂ်စိတ်လေးပါး ဖြစ်ပြီးသော ပုဂ္ဂိုလ်သည် လားရာသုဂတိမြဲ၏။ ထို့ကြောင့် မဂ်စိတ်လေးပါးသည် မြဲသော သဘောရှိသော နိယာမတရားတို့မည်ကုန်၏။ ထိုနိယာမတရားလေးပါးသည် နိဗ္ဗာန်ကဲ့သို့ အသင်္ခတတရားဖြစ်၏။ နိဗ္ဗာန်ငါးမျိုးနှင့် အသင်္ခတတရားငါးမျိုး ရှိသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၅၄။ **ပဋိစ္စသမုပ္ပါဒကထာ** ॰ (ပဋိစ္စ॰အကြောင်းကို စွဲ၍ + သမုပ္ပါဒ॰ဖြစ်ပေါ်ခြင်း)

ပဋိစ္စသမုပ္ပါဒ် ကြောင်းကျိုးဆက်စပ်မှု နိယာမသဘောတရားသည် နိဗ္ဗာန်ကဲ့သို့ အမြဲတည်သော အသင်္ခတတရားဖြစ်၏။ (ပုဗ္ဗသေလိယဂိုဏ်းနှင့်မဟိသာသကဂိုဏ်း)

၅၅။ **သစ္စကထာ** ॰ (သစ္စ॰အရိယသစ္စာလေးပါး)

အရိယသစ္စာ လေးပါးသည် မဖောက်မပြန် မှန်ကန်သောကြောင့် နိဗ္ဗာန်ကဲ့သို့ အမြဲတည်သော အသင်္ခတတရားများ ဖြစ်ကြကုန်၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၅၆။ **အာရုပ္ပကထာ** ॰ (အာရုပ္ပ॰အရူပဈာန်လေးပါး)

အရူပဈာန်လေးပါးသည် တုန်လှုပ်ခြင်း မရှိဟု မြတ်စွာဘုရား ဟောကြားတော်မူသောကြောင့် နိဗ္ဗာန်ကဲ့သို့ အမြဲတည်သော အသင်္ခတတရားများ ဖြစ်ကြကုန်၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၅၇။ နိရောဓသမာပတ္တိကထာ ။ (နိရောဓ=ချုပ်ငြိမ်းသော + သမာပတ္တိ=သမာပတ်)
နိရောဓသမာပတ်ဝင်စားခိုက်၌ စိတ်, စေတသိက်, နာမ်တရားများ ချုပ်ငြိမ်းနေ၏။ ထို့ကြောင့် နိရောဓသမာပတ်ကို ကံ, စိတ်, ဥတု, အာဟာရ အကြောင်းတရားတို့သည် ဖန်တီးဖြစ်ပေါ်စေအပ်သော သင်္ခတတရား မဟုတ်၊ သင်္ခတတရား မဟုတ်လျှင် နိရောဓသမာပတ်သည် အသင်္ခတတရား ဖြစ်ရမည်။ (အန္ဓကဂိုဏ်းများ၊ ဥတ္တရာပထက ဂိုဏ်း)

၅၈။ အာကာသကထာ ။ (အာကာသ=ကောင်းကင် ဟင်းလင်း)
ဟင်းလင်းပြင် အာကာသထဲ၌ ရုပ်ဝတ္ထု တစ်စုံတစ်ခုမျှ မရှိချေ။ ထိုအာကာသသည် ဖြစ်ခြင်း, ပျက်ခြင်းမရှိ၊ အမြဲတည်နေသောကြောင့် နိဗ္ဗာန်ကဲ့သို့ အသင်္ခတတရားမည်၏။ (ဥတ္တရာပထကဂိုဏ်းနှင့်မဟိသာသကဂိုဏ်း)

၅၉။ အာကာသော သနိဒဿနောတိ ကထာ ။ (သနိဒဿန=မြင်ကောင်းသည်)
ဟင်းလင်းပြင် အာကာသကို မျက်စိဖြင့် မြင်နိုင်သည်။ (အန္ဓကဂိုဏ်းများ)

၆၀။ ပထဝီဓာတု သနိဒဿနာတိ ကထာ ။ (ပထဝီဓာတု= ပထဝီဓာတ် + သနိဒဿန=မြင်ကောင်းသည်)
ပထဝီဓာတ် အာပေါဓာတ် တေဇောဓာတ် ဝါယောဓာတ်ဟူသော မဟာဘုတ်ဓာတ်ကြီးလေးပါးကို မျက်စိဖြင့် မြင်နိုင်သည်။ (အန္ဓကဂိုဏ်းများ)

၆၁။ စက္ခုန္ဒြိယံ သနိဒဿနန္တိ အာဒိကထာ ။ (စက္ခုန္ဒြိယံ=စက္ခုပသာဒရုပ်ကို + သနိဒဿနံ=မြင်ကောင်းသည်)
စက္ခု, သောတ, ဃာန, ဇိဝှါ, ကာယ ဟူသော ပသာဒရုပ်ငါးပါးကို မျက်စိဖြင့် မြင်နိုင်သည်ဟု ယူဆသည်။ (အန္ဓကဂိုဏ်းများ)

၆၂။ **ကာယကမ္မံ သနိဒဿနန္တိ ကထာ** = (ကာယကမ္မံ =ကာယကံကို+ သနိဒဿနံ=မြင်ကောင်းသည်)
ကာယဝိညတ္တိရုပ်ကို ကာယကံဟု ယူဆ၍ ထိုကာယကံကို မျက်စိဖြင့် မြင်နိုင်သည်ဟု ဆို၏။ (အန္ဓကဂိုဏ်းများ)

၆၃။ **သင်္ဂဟိတကထာ** = (သင်္ဂဟိတ=တူရာစုပေါင်းယူခြင်း)
နွားထီးများကို လွန်ကြိုးဖြင့် ချည်နှောင်ထားသကဲ့သို့ ရုပ်နာမ်တရားတို့ကို ချည်နှောင်ထား၍ မရသောကြောင့် ရုပ်နာမ်တရားတို့ကို တူရာစုပေါင်းခြင်း (သင်္ဂဟိတ) မပြုသင့်။ (ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိကဂိုဏ်း)

၆၄။ **သမ္ပယုတ္တကထာ** = (သမ္ပယုတ္တ=ယှဉ်တွဲရောစပ်မှု)
ဆီသည် နှမ်းစေ့အတွင်း၌ ပျံ့နှံ့တည်နေသကဲ့သို့လည်းကောင်း၊ ကြံရည်သည် ကြံချောင်းအတွင်း၌ ပျံ့နှံ့တည်နေသကဲ့သို့လည်းကောင်း၊ ဝေဒနာသည် သညာ၊ ဝိညာဏ်ဟူသော နာမ်တရားတို့နှင့် အချင်းချင်း ရောနှော ပျံ့နှံ့စိမ့်ဝင်၍ မတည်သောကြောင့် အတူယှဉ်သည် (သမ္ပယုတ္တ) ဟု မဆိုသင့်။ (ရာဇဂိရိကနှင့် သိဒ္ဓတ္ထိကဂိုဏ်း)

၆၅။ **စေတသိကကထာ** = (စေတသိက=စိတ်ကို မှီသောတရား စေတသိက်)
ဖဿနှင့် ယှဉ်တွဲဖော်ပြသောတရားကို ဖဿိက၊ ဝေဒနာနှင့် ယှဉ်တွဲဖြစ်သောတရားကို ဝေဒနိက စသည်ဖြင့် မဟောခဲ့သောကြောင့် စိတ်ကို မှီသောတရား (စေတသိက) ဟူ၍ မရှိနိုင်။ (ရာဇဂိရိကနှင့် သိဒ္ဓတ္ထိကဂိုဏ်း)

၆၆။ **ဒါနကထာ** = (ဒါန=အလှူ လှူဖွယ်ဝတ္ထု)
လှူဖွယ်ဝတ္ထုပစ္စည်းတို့ကို ဒါနဟု မခေါ်ဘဲ စေတနာကိုသာ ဒါနဟု ယူဆသည်။ (ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိကဂိုဏ်း)

၆၇။ **ပရိဘောဂမယပုညကထာ** ။ (ပုညး=ကုသိုလ် + ပရိဘောဂ= သုံးဆောင်မှု)

အလှူခံပုဂ္ဂိုလ်က သုံးဆောင်မှသာ ကုသိုလ်ဖြစ်နိုင်၏။ အလှူခံပုဂ္ဂိုလ်က မသုံးဆောင်ပါမူ ကုသိုလ်မဖြစ်နိုင်။ အလှူခံပုဂ္ဂိုလ်များက သုံးဆောင်နေသမျှ ကာလပတ်လုံး ကုသိုလ်တိုးပွားနေသည်ဟု ယူဆ၏။ (ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိကဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

၆၈။ **ဣတောဒိန္နကထာ** ။ (ဣတော=ဤလူ့ပြည်မှ + ဒိန္န= ပေးအပ်သည့်ပစ္စည်း)

ပြိတ္တာတို့သည် ဤလူ့ပြည်မှ ပေးကမ်းသော အဝတ်အစားတို့ကို တိုက်ရိုက် သုံးဆောင်နိုင်ကြသည်ဟု ယူဆ၏။ (ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိကဂိုဏ်း)

၆၉။ **ပထဝီ ကမ္မဝိပါကောတိ ကထာ** ။ (ပထဝီ=မြေကြီး+ကမ္မဝိပါက= ကံ၏အကျိုး)

မဟာပထဝီမြေကြီးသည်လည်းကောင်း၊ သမုဒ္ဒရာ, လ, နေ စသော ရုပ်ဝတ္ထုတို့သည်လည်းကောင်း၊ သတ္တဝါအားလုံး၏ အများဆိုင် ဘုံဆိုင် ကံ၏အကျိုး (ကမ္မဝိပါက) ဖြစ်သည်ဟု ယူဆသည်။ (အန္ဓကဂိုဏ်းများ)

၇၀။ **ဇရာမရဏံ ဝိပါကောတိ ကထာ** ။ (ဇရာ=အိုခြင်း + မရဏ= သေခြင်း)

အိုမင်းခြင်း ဇရာ၊ သေဆုံးခြင်း မရဏတို့သည် ကံ၏အကျိုး (ကမ္မဝိပါက) ဟု ယူဆကြသည်။ (အန္ဓကဂိုဏ်းများ)

၇၁။ **အရိယဓမ္မဝိပါကကထာ** ။ (အရိယဓမ္မ=မဂ်လေးပါး + ဝိပါက= ဝိပါက်စိတ်)

အရိယာမဂ်တရား၏ အကျိုးတရားသည် ကိလေသာကို ပယ်ခြင်း အကျိုးသာရှိ၏။ ဖိုလ်စိတ်၊ ၎င်းနှင့်ယှဉ်ဖက်စေတသိက်ဟု ဆိုအပ်သော ဝိပါက်အကျိုးတရားများ မရှိဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၇၂။ ဝိပါကောဝိပါကဓမ္မဓမ္မောတိ တထာ = (ဝိပါက=ဝိပါက်စိတ်+ ဝိပါကဓမ္မဓမ္မ=အကျိုးပေးတတ်သောကံ)

ကံ၏အကျိုးဖြစ်သော ဝိပါက် နာမ်တရားတို့သည် အကျိုးတရားကို ထပ်ဆင့်ဖြစ်စေနိုင်သော ကံတရားဖြစ်၏။ ဝိပါက်သည်ပင်လျှင် ကံပြန်ဖြစ်၏။ (အန္ဓကဂိုဏ်းများ)

၇၃။ ဆဂတိကထာ = (ဆ=ခြောက် + ဂတိ=လားရောက်ရာဌာန)

ဒေဝဂတိ မနုဿဂတိ ပေတဂတိ တိရစ္ဆာနဂတိ နိရယဂတိ ဟူ၍ ဂတိငါးပါးရှိကြောင်း ဘုရားဟောတော်မူသည်ကို အသုရာဂတိ ထည့်သွင်း၍ ဂတိခြောက်ပါးဟု ယူဆကြ၏။ (အန္ဓကဂိုဏ်းများနှင့် ဥတ္တရာပထကဂိုဏ်း)

၇၄။ အန္တရာဘဝကထာ = (အန္တရာ=ကြားကာလ + ဘဝ=ဘဝ)

သတ္တဝါသည် သေပြီးနောက် ဘဝသစ်တစ်ခုသို့ မရောက်မီကြား ကာလ၌ ကြားဘဝတစ်မျိုးဖြင့် လှည့်လည်သွားလာ၏။ ထိုကြား ဘဝ၌ လိုရာသွားနိုင်၍ အတားအဆီးမရှိ ဖောက်ထွင်းမြင်နိုင်၏။ အမိဝမ်းသို့ ဝင်ခွင့်မရ၍ ထိုကြားဘဝ၌ စောင့်ဆိုင်းနေရသည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

၇၅။ ကာမဂုဏကထာ = (ကာမဂုဏ=ကာမဂုဏ်ငါးပါး)

အာရုံငါးပါးတည်းဟူသော ဝတ္ထုကာမကိုသာ ကာမဓာတုဟု ယူ ဆ၍ ကိလေသာကာမကို ကာမဓာတုဟု မယူဆချေ။ (ပုဗ္ဗသေ လိယဂိုဏ်း)

၇၆။ ကာမကထာ = (ကာမ=ကာမအမည်ရသော တရားများ)

ရူပါရုံ သဒ္ဒါရုံ ဂန္ဓာရုံ ရသာရုံ ဖောဋ္ဌဗ္ဗာရုံ ဟူသော အာရုံငါးပါးကို သာ ကာမဟု ယူဆ၍ ဆန္ဒရာဂ ကိလေသာကာမကို ကာမဟု မယူဆချေ။ (ပုဗ္ဗသေလိယဂိုဏ်း)

၃၇။ ရူပဓာတုကထာ ။ (ရူပဓာတု=ရူပဓာတ် ရူပဘုံ ရုပ်ဓာတ်)
ရုပ်ဝတ္ထု၊ ရုပ်တရား (ရုပ် ၂၈) ကိုသာ ရူပဓာတုဟု ယူဆသည်။ (အန္ဓကဂိုဏ်း)

၃၈။ အရူပဓာတုကထာ ။ (အရူပဓာတု=အရူပ ရုပ်မဟုတ် နာမ်ဓာတ်)
နာမ်တရားအားလုံးသည် အရူပဓာတု မည်၏။ (အန္ဓကဂိုဏ်း)

၃၉။ ရူပဓာတုယာ အာယတနကထာ ။ (ရူပဓာတုယာ=ရူပဘုံ၌ + အာယတန=ဖြစ်နိုင်သော အာယတန)
ရူပါဝစရဖြဟ္မာ့ပြည်၌ နှာခေါင်း လျှာ ကိုယ်ကာယများရှိသော ကြောင့် ၎င်းတို့သက်ဆိုင်ရာ ဃာနပသာဒရုပ်၊ ဇိဝှါပသာဒရုပ်၊ ကာယပသာဒရုပ်တို့လည်း ရှိသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ၊ သမ္မိတိယဂိုဏ်း)

၈၀။ အရူပေ ရူပကထာ ။ (အရူပေ=အရူပဘုံ၌ + ရူပ=ရုပ်ရှိသည်)
အရူပဘုံ၌ နူးညံ့သိမ်မွေ့သော ရုပ်မျိုးရှိသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၈၁။ ရူပံ ကမ္မန္တိကထာ ။ (ရူပံ=ရုပ်သည် + ကမ္မံ=ကံမည်၏)
ကုသိုလ်စိတ်ကြောင့် ဖြစ်သော ကာယဝိညတ်ရုပ်သည် ကုသိုလ်ကာယကံ မည်၏။ ဝစီဝိညတ်ရုပ်သည် ဝစီကံမည်၏။ အကုသိုလ်ကြောင့်ဖြစ်သော ဝိညတ်ရုပ်သည် အကုသိုလ်ကံမည်၏။ (မဟိသာသကဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

၈၂။ ဇီဝိတိန္ဒြိယကထာ ။ (ဇီဝိတိန္ဒြိယ=အသက် -ရုပ်သက် နာမ်သက်)
ရုပ်ဇီဝိတဟူ၍ မရှိ၊ စိတ်နှင့်မယှဉ်သော နာမ်ဇီဝိတဟူ၍ ရှိ၏။ ဇီဝိတ (အသက်) သည် နာမ်တရားသာလျှင် ဖြစ်၏ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

၈၃။ ကမ္မဟေတုကထာ ။ (ကမ္မ=ကံ + ဟေတု=အကြောင်း)
ရှေးရှေးဘဝက ရဟန္တာပုဂ္ဂိုလ်များကို စွပ်စွဲခဲ့ဖူးသော အကုသိုလ်ကံကြောင့် ဤဘဝ၌ ရဟန္တာဖြစ်ပြီးသော ပုဂ္ဂိုလ်သည် ရဟန္တာအဖြစ်မှ လျှောကျ၏။ (ပုဗ္ဗသေလိယဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

၈၄။ အာနိသံသဒဿာဝီကထာ ။ (အာနိသံသ=အကျိုးဂုဏ် + ဒဿာဝီ=ရှုမြင်ခြင်း)
နိဗ္ဗာန်၏ ချမ်းမြေ့သောဂုဏ်ကို ရှုမြင် ဆင်ခြင် သုံးသပ်ရုံမျှဖြင့် ကိလေသာ သံယောဇဉ်တရားများကို ပယ်နိုင်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၈၅။ အမတာရမ္မဏကထာ ။ (အမတ=နိဗ္ဗာန် + အာရမ္မဏ=အာရုံ)
လောဘ, ဒေါသ, မောဟ ဟူသော သံယောဇဉ် တရားတို့သည် နိဗ္ဗာန်ကို အာရုံပြုနိုင်ကြ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၈၆။ ရူပံ သာရမ္မဏကထာ ။ (ရူပံ=ရုပ်သည် + သာရမ္မဏ=အာရုံရှိ၏)
အကြောင်းတရားကို အာရမ္မဏဟု ခေါ်၍ ရုပ်သည် အကြောင်းရှိသောကြောင့် သာရမ္မဏ (အာရုံ)ရှိသောတရားမည်၏ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၈၇။ အနုသယာ အနာရမ္မဏကထာ ။ (အနုသယာ= အနုသယတို့သည် + အနာရမ္မဏာ=အာရုံမရှိကုန်)
ကာမရာဂ ပဋိဃ စသော အနုသယတရားခုနစ်ပါးသည် အာရုံပြုခြင်း မရှိ၊ အနုသယ၌ သိစရာအာရုံ မရှိ။ အနုသယသည် ဥပါဒ်, ဌီ, ဘင်အားဖြင့် ဖြစ်ပေါ်ခြင်းမရှိဘဲ စိတ်နှင့်လည်း မယှဉ်တွဲ၊ သူ့အလိုလို သီးသန့် ငုပ်လျှိုးတည်ရှိသော တရားမျိုးဖြစ်၍ သိစရာ အာရုံတစ်ခုကိုမျှ မသိတတ်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသားအချို့)

၈၈။ ဉာဏံ အနာရမ္မဏန္တိ ကထာ ။ (ဉာဏံ=ဉာဏ်သည် + အနာ

ရမ္မဏ=အာရုံမရှိ)

ရဟန္တာပုဂ္ဂိုလ်အား စက္ခုဝိညာဏ်အစရှိသော အဗျာကတ်စိတ်များ ဖြစ်နေချိန်၌ ဉာဏ်မရှိဟု မဆိုနိုင်၊ ဉာဏ်ရှိနေ၏။ ထိုအခိုက်၌ ရှိသောဉာဏ်သည် တစ်စုံတစ်ခုကိုမျှ အာရုံပြုခြင်းမရှိဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၈၉။ **အတီတာနာဂတာရမ္မဏကထာ** = (အတီတ=အတိတ် + အနာဂတ=အနာဂတ် + အာရမ္မဏ=အာရုံပြုသောစိတ်)

အတိတ် ရုပ်, နာမ် တရားတို့သည် ချုပ်ဆုံး ကုန်လွန်သွားပြီးဖြစ်၍ မရှိတော့ချေ။ အနာဂတ် ရုပ်, နာမ်တရားတို့သည်လည်း မဖြစ်ပေါ် လာသေးသောကြောင့် မရှိသေးချေ။ ထိုသို့ အတိတ် အနာဂတ် တရားတို့သည် မရှိသောကြောင့် အတိတ်, အနာဂတ်ကို သိသော စိတ်မှာ အာရုံမရှိချေ။ (ဥတ္တရာပထကဂိုဏ်း)

၉၀။ **ဝိတက္ကာနုပတိတကထာ** = (ဝိတက္က=ဝိတက်သို့ + အနုပတိတ= နောက်မှအစဉ်လိုက်ခြင်း)

ဝိတက်ကင်းသော စိတ်ဟူ၍ မရှိ၊ စိတ်အားလုံးသည် ဝိတက်နှင့် ယှဉ်၏ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၉၁။ **ဝိတက္ကဝိပ္ဖါရသဒ္ဒကထာ** = (ဝိတက္က=ကြံစည်မှုကြောင့် + ဝိပ္ဖါရ= တုန်လှုပ်မှု + သဒ္ဒ=အသံ)

တစ်စုံတစ်ခုကို ပြောဆိုရန် ကြံစည်စဉ်းစားသောအခါ နှုးညံ့သိမ် မွေ့သော အသံတစ်မျိုး ပေါ်ထွက်လာသည်။ ထိုအသံကို လူတို့၏ နားဖြင့် မကြားနိုင်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၉၂။ **န ယထာစိတ္တဿ ဝါစာတိကထာ** = (ဝါစာ=စကားသည် + န ယထာစိတ္တဿ=စိတ်ကြံရွယ်သည့်အတိုင်း မဖြစ်)

စကားသံသည် စိတ်ကြံရွယ်တိုင်း မဖြစ်၊ စိတ် မကြံရွယ်ဘဲလည်း အလိုအလျောက် စကားသံများ ထွက်ပေါ်တတ်၏။ ထို့ကြောင့်

စကားပြောခြင်းသည် စိတ်စေတနာနှင့် မဆိုင်ဟု ယူဆသည်။ (ပုဗ္ဗသေလိယဂိုဏ်း)

၉၃။ **န ယထာစိတ္တဿ ကာယကမ္မန္တိ ကထာ** ။ (ကာယကမ္မံ= ကိုယ်လှုပ်ရှားမှုသည် + န ယထာစိတ္တဿ=စိတ်ကြံသည့်အတိုင်း မဖြစ်)

ကိုယ်လက်အင်္ဂါ လှုပ်ရှားမှုများသည် စိတ်နှင့် မသက်ဆိုင်၊ စိတ်ကြံရွယ်သည့်အတိုင်း မလှုပ်ရှားဘဲ ပရမ်းပတာ လှုပ်ရှားသည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၉၄။ **အတီတာနာဂတသမန္နာဂတကထာ** ။ (အတီတ + အနာဂတ= အတိတ်, အနာဂတ်နှင့် + သမန္နာဂတ=ပြည့်စုံမှု)

ဈာန်ရှစ်ပါးကို ရပြီးသော ပုဂ္ဂိုလ်သည် ကျော်လွန်ခဲ့ပြီးသော အောက်အောက် ဈာန်နှင့်လည်း ပြည့်စုံ၏။ အထက်ဖြစ်သော သမာပတ်ကိုးပါးနှင့်လည်း ပြည့်စုံ၏။ ထို့ကြောင့် အတိတ်တရား၊ အနာဂတ်တရား နှစ်ပါးတို့သည် ပစ္စုပ္ပန်အခိုက်၌ ပြည့်စုံနေသည်ဟု ယူဆ၏။

၉၅။ **နိရောဓကထာ** ။ (နိရောဓ=စိတ်ချုပ်ငြိမ်းမှု)

ဘဝင်စိတ်မချုပ်မီ ကုသိုလ်, အကုသိုလ်စိတ်များ ဖြစ်ပေါ်၏။ ရှေ့စိတ် မချုပ်မီ နောက်စိတ်ဖြစ်ပေါ်ကြ၍ တစ်ခုနှင့်တစ်ခု ချိတ်ဆက်ဖြစ်ပေါ်တည်ရှိကြ၏။ (အန္ဓကဂိုဏ်းများ)

၉၆။ **ရူပံ မဂ္ဂေါတိ ကထာ** ။ (ရူပံ=ရုပ်သည် + မဂ္ဂေါ=မဂ်မည်၏)

သမ္မာဝါစာ (ကောင်းသော စကား)၊ သမ္မာကမ္မန္တ (ကောင်းသော အလုပ်)၊ သမ္မာအာဇီဝ (ကောင်းသော အသက်မွေးမှု) ဟု ဆိုရာ၌ စေတသိက်ဟု မယူဆဘဲ ရုပ်တရား ဖြစ်သည်ဟု ယူဆ၏။ ထိုတရားသုံးပါးသည် မဂ္ဂင်ရှစ်ပါး၌ ပါဝင်ရာ ရုပ်သည် မဂ်မည်၏ ဟုဆို၏။ (မဟိသာသကဂိုဏ်း၊ သမ္မိတိယဂိုဏ်း၊ မဟာသံဃိကဂိုဏ်း)

## ၉၇။ ပဥ္စဝိညာဏသမင်္ဂီသ မဂ္ဂကထာ

ပဥ္စဝိညာဏဖြစ်ပေါ်နေခိုက်၌ မဂ္ဂဘာဝနာပွားနိုင်သည်။ မြင်လျှင် မြင်ခိုက်၌ မြင်စိတ် မချုပ်ပျက်မီ ဘာဝနာပွားသောစိတ်ဖြစ်နိုင် သည်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

## ၉၈။ ပဥ္စဝိညာဏာ ကုသလာကုသလာ ပီတိကထာ

စက္ခုဝိညာဏစိတ်စသော ဝိညာဏ်ငါးပါးသည် ကုသိုလ်စိတ်မည်၏။ အကုသိုလ်စိတ်လည်း မည်၏။ (မဟာသံဃိကဂိုဏ်း)

## ၉၉။ သာဘောဂါတိ ကထာ ။ (သ+အာဘောဂ။နှလုံးသွင်းမှုရှိခြင်း)

စက္ခုဝိညာဏ်အစရှိသော ဝိညာဏ်ငါးပါးသည် ကြိုက်, မကြိုက်၊ ကောင်း, မကောင်းကို ဝေဖန်သုံးသပ်တတ်၏။ ဝေဖန် နှလုံးသွင်းတတ်၏ဟု ဆိုသည်။ (မဟာသံဃိကဂိုဏ်း)

## ၁၀၀။ ဒွိဟိ သီလေဟိ ကထာ ။ (ဒွိဟိ။နှစ်ပါးသော + သီလေဟိ။ သီလတို့ဖြင့်)

လောကီသီလများ ဖြစ်ပေါ်နေခိုက်၌ လောကုတ္တရာ မဂ်သီလများ ဖြစ်ပေါ်သည်။ လောကီသီလ (မဂ္ဂင်)များ မချုပ်မီ လောကုတ္တရာ သီလ (မဂ္ဂင်)များ ဖြစ်ပေါ်သောကြောင့် လောကီ လောကုတ္တရာ သီလနှစ်မျိုးနှင့် တစ်ပြိုင်နက်ပြည့်စုံသည်။ မဟာသံဃိကဂိုဏ်း)

## ၁၀၁။ သီလံ အစေတသိကန္တိ ကထာ ။ (သီလံ။သီလသည် + အစေတသိကံ။စိတ်နှင့်မယှဉ်)

သီလသည် ဆောက်တည်ပြီးသောအခါ ထိုပုဂ္ဂိုလ်သန္တာန်၌ အမြဲတည်ရှိနေသောကြောင့် ဖြစ်ပျက်သဘောရှိသော စိတ်နှင့် ယှဉ်တွဲခြင်း မရှိ၊ စိတ်နှင့် မယှဉ်သောကြောင့် အစေတသိက် မည်၏။ (မဟာသံဃိကဂိုဏ်း)

၁၀၂။ သီလံ န စိတ္တာနုပရိဝတ္တိကထာ ။ (သီလံ=သီလသည် + န + စိတ္တ + အနုပရိဝတ္တိ ။ စိတ်နောက်သို့ အစဉ်မလိုက်)

အထက်ဖော်ပြခဲ့သည့်အတိုင်း သီလသည် အမြဲရှိနေသောကြောင့် စိတ်သို့ အစဉ်လိုက်ခြင်း မရှိဟု ဆိုသည်။ (မဟာသံဃိကဂိုဏ်း)

၁၀၃။ သမာဒါနဟေတုကထာ ။ (သမာဒါန=ဆောက်တည်မှု + ဟေတု=အကြောင်း)

သီလကို ဆောက်တည်သွားပြီးပါက သီလကုသိုလ်သည် အလို အလျောက် အမြဲတိုးပွားနေသည်ဟု ဆို၏။ (မဟာသံဃိကဂိုဏ်း)

၁၀၄။ ဝိညတ္တိ သီလန္တိ ကထာ ။ (ဝိညတ္တိ=ဝိညတ်ရုပ်သည် + သီလံ= သီလမည်၏)

ကာယဝိညတ်နှင့် ဝစီဝိညတ်ရုပ်ကို သီလဟု ယူဆ၏။ ရှိခိုးခြင်း၊ လက်အုပ်ချီခြင်း၊ အမှုကြီးငယ် ဝေယျာဝစ္စ ဆောင်ရွက်ပေးခြင်း စသော ကာယကံမှု (ကာယဝိညတ်ရုပ်) ဝစီကံမှု (ဝစီဝိညတ် ရုပ်) တို့သည် သီလမည်၏။ (မဟာသံဃိကဂိုဏ်း၊ သမ္မိတိယ ဂိုဏ်း)

၁၀၅။ အဝိညတ္တိ ဒုဿီလျန္တိ ကထာ ။ (အဝိညတ္တိ=ဝိညတ်ရုပ်မပါ ဘဲ + ဒုဿီလျံ=သီလပျက်၏)

မကောင်းမှု ဒုစရိုက်ကို ပြုလုပ်ကျူးလွန်ရန် စိတ်ဆုံးဖြတ်ပြီး သည့်နောက်၌ ကာယကံ၊ ဝစီကံမြောက် မလွန်ကျူးသော်လည်း အကုသိုလ်ကံ ထမြောက်၏။ အကုသိုလ်တိုးပွားနေသည်ဟု ယူဆ လေ၏။ (မဟာသံဃိကဂိုဏ်း)

၁၀၆။ အနုသယာ အဗျာကတာကထာ

အနုသယ ကိလေသာတို့သည် ကုသိုလ်စိတ်ဖြစ်ချိန်၌ ရှိနေသည် သာ ဖြစ်သောကြောင့် အနုသယတရားကို အကုသိုလ်ဟု မဆိုနိုင်၊ အကုသိုလ်နှင့်ကုသိုလ် အတူယှဉ်ပြိုင် မတည်နိုင်၊ ထို့ကြောင့်

အနုသယသည် အဗျာကတတရားမည်၏။ (မဟာသံဃိကဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

## ၁၀၇။ အနုသယာ အဟေတုကကထာ

ကုသိုလ်စိတ်ဖြစ်ချိန်၌ အနုသယ ကိလေသာတို့သည် ရှိနေ၏။ ထိုအချိန်၌ ကုသိုလ်ဟိတ်တရားနှင့် မယှဉ်နိုင်သောကြောင့် အနုသယကို အဟေတုက (ဟိတ်မရှိသောတရား) ဟု ဆိုသင့်၏။ (မဟာသံဃိက ဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

## ၁၀၈။ အနုသယာ စိတ္တဝိပ္ပယုတ္တကထာ

အထက်ပါနည်းအတိုင်း အနုသယတို့သည် ကုသိုလ်စိတ်ဖြစ်ချိန်၌ ကုသိုလ်စိတ်နှင့် မယှဉ်ဘဲ အလွတ်သက်သက် တည်နေနိုင်သောကြောင့် အနုသယတို့သည် စိတ္တဝိပ္ပယုတ္တ (စိတ်နှင့်မယှဉ်တွဲသောတရား) တို့ မည်ကုန်၏။ (မဟာသံဃိကဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

## ၁၀၉။ ဉာဏကထာ

အရိယာပုဂ္ဂိုလ်၏သန္တာန်၌ ဉာဏ်နှင့် မယှဉ်သော အဟိတ်စိတ်များ၊ ဉာဏဝိပ္ပယုတ်စိတ်များ ဖြစ်ပေါ်ချိန်တွင် မဂ်ဉာဏ်မရှိသောကြောင့် (အညာဏီ) ဉာဏ်မရှိသောပုဂ္ဂိုလ်ဟု ခေါ်သင့်သည်ဟု ဆို၏။ (မဟာသံဃိကဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

## ၁၁၀။ ဉာဏံ စိတ္တဝိပ္ပယုတ္တံ

ရဟန္တာပုဂ္ဂိုလ်၏သန္တာန်၌ စက္ခုဝိညာဏ်စိတ် ဖြစ်ခိုက်တွင် မဂ်ဉာဏ်ချုပ်ပျက်၍ အတိတ်တရားဖြစ်သွားသော်လည်း (ဉာဏီ) ဉာဏ်ရှိသူဟု ခေါ်ဆိုရ၏။ ထိုဉာဏ်သည် စက္ခုဝိညာဏ်စိတ်နှင့် မယှဉ်သောကြောင့် စိတ္တဝိပ္ပယုတ္တဟု ဆိုလို၏။ စိတ်နှင့် မယှဉ်ဘဲ သီးသန့် တည်နေသောဉာဏ်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၁၁၁။ ဣဒံ ဒုက္ခန္တိ ကထာ

လောကုတ္တရာမဂ်တရား ဖြစ်ပေါ်ခိုက်၌ 'ဣဒံ ဒုက္ခံ'ဟု နှုတ်မှ ထုတ်ဖော် ရွတ်ဆိုလေ့ရှိ၍ ထိုဉာဏ်ကို 'ဣဒံ ဒုက္ခံ ဉာဏ်'ဟု ခေါ်လိုကြ၏။ ရွတ်ဆိုသော စကားသံကိုပင် ဉာဏ်ဟု ယူဆကြ ၏။ (အန္ဓကဂိုဏ်းများ)

၁၁၂။ ဣဒ္ဓိဗလကထာ = (ဣဒ္ဓိ=တန်ခိုး + ဗလ=စွမ်းအား)

တန်ခိုးဣဒ္ဓိပါဒ်ရှိသော ပုဂ္ဂိုလ်သည် မဟာကပ်၊ အသင်္ချေယျကပ် တို့ပတ်လုံး အသက်ရှည်အောင် မိမိတန်ခိုးအစွမ်းဖြင့် တည်နိုင် သည်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

၁၁၃။ သမာဓိကထာ

စိတ္တက္ခဏတစ်ချက်မျှ သက်တမ်းရှိသော ဧကဂ္ဂတာစေတသိက် ကို သမာဓိဟု မယူဆဘဲ စိတ်အစဉ်အတန်း (စိတ္တသန္တတိ)ကိုသာ သမာဓိဟု ယူဆ၏။ (သဗ္ဗတ္ထိဝါဒဂိုဏ်း၊ ဥတ္တရာပထကဂိုဏ်း)

၁၁၄။ ဓမ္မဋ္ဌိတတာကထာ = (ဋ္ဌိတတာ=တည်မြဲသော + ဓမ္မ=တရား)

ပဋိစ္စသမုပ္ပါဒ်ကြောင်းကျိုးဆက် တရားသဘောကို အမြဲတည်ရှိ သော ဓာတ်သဘာဝကြီး (ဓမ္မဋ္ဌိတတာ)ဟု ယူဆ၏။ ဓမ္မနှင့် ဓမ္မဋ္ဌိတတာကို နှစ်မျိုးခွဲခြား၍ ယူကြ၏။ (အန္ဓကဂိုဏ်းများ)

၁၁၅။ အနိစ္စတာကထာ

မမြဲခြင်းသဘော (အနိစ္စသဘာဝ)ကိုလည်း အကြောင်းတရားတို့ ဖန်တီးအပ်သည်ဖြစ်၍ အနိစ္စသဘော ကိုယ်တိုင်လည်း မမြဲခြင်း အနိစ္စသဘောရှိ၏။ (အန္ဓကဂိုဏ်း)

၁၁၆။ သံဝရော ကမ္မန္တိ ကထာ

စေတနာကို ကံဟု မခေါ်ဘဲ စောင့်ထိန်းမှု (သံဝရ)၊ မစောင့်ထိန်း မှု (အသံဝရ) ကိုသာ ကံဟု ခေါ်လို၏။ (မဟာသံဃိကဂိုဏ်း)

**၁၁၇။ ကမ္မကထာ**

အင်္ကြောင်းကံမှန်သမျှသည် အကျိုးဝိပါက်ကို ဖြစ်စေ၏။ အဟော
သိကံ ဟူ၍ မရှိနိုင်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

**၁၁၈။ သဒ္ဒေါ ဝိပါကောတိ ကထာ**

သဒ္ဒ (အသံ) ရုပ်သည် ကံ၏ တိုက်ရိုက်အကျိုး (ဝိပါက)မည်၏ဟု
ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

**၁၁၉။ သဠာယတနကထာ**

သဠာယတနကိုသာ ကံ၏ တိုက်ရိုက်အကျိုး (ဝိပါက)ဟု မယူ
ဆဘဲ စက္ခု သောတ ဃာန ဇိဝှါ ကာယ။ မျက်စိ နား နှာခေါင်း
လျှာ ကိုယ် ရုပ်တို့ကိုလည်း ကံ၏တိုက်ရိုက်အကျိုး (ဝိပါက)ဟု
ယူဆသည်။ (မဟာသံဃိကဂိုဏ်း)

**၁၂၀။ သတ္တက္ခတ္တုပရမကထာ** = (သတ္တ + ခတ္တုံ + ပရမ = သတ္တ=
ခုနစ် + ခတ္တုံ=အကြိမ် = ဘဝ + ပရမ=အလွန်ဆုံး)

ခုနစ်ဘဝသာ အလွန်ဆုံး သံသရာ၌ ကျင်လည်ရမည့် သောတာ
ပန်ပုဂ္ဂိုလ်ကို သတ္တက္ခတ္တုပရမသောတာပန်ဟု ခေါ်၏။ ထိုပုဂ္ဂိုလ်
သည် အကြောင်းညီညွတ်ပါက ခုနစ်ဘဝ မပြည့်မီ ကြားကာလ
၌လည်း ရဟန္တာဖြစ်၍ နိဗ္ဗာန်ဝင်နိုင်၏။ ဤသို့ ရှင်းလင်းစွာ
နားမလည်ဘဲ ထိုပုဂ္ဂိုလ်သည် ခုနစ်ဘဝ မပြည့်မချင်း အတိုး
အဆုတ် မရှိ၊ ခုနစ်ဘဝတိုင်တိုင် သံသရာကျင်လည်ရမည်ဟု
ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

**၁၂၁။ ကောလံကောလကထာ** = (ကောလံ=အမျိုးတစ်ခုသို့+ကောလ=
အမျိုးတစ်ခုမှ)

နှစ်ဘဝ သုံးဘဝသာ ကျင်လည်ရမည့် သောတာပန်ပုဂ္ဂိုလ်ကို
ကောလံကောလဟု ခေါ်၏။ ထိုပုဂ္ဂိုလ်ကို နှစ်ဘဝ သုံးဘဝ အတိုး
အလျှော့ မရှိ အတိအကျ သံသရာ ကျင်လည်ရမည်ဟု ယူဆ၏။
(ဥတ္တရာပထကဂိုဏ်း)

၁၂၂။ **ကေဗိဇိကထာ** ။ (ကေ=တစ် + ဗိဇိ=မျိုးစေ့ရှိ)
ကေဗိဇိ သောတာပန်သည် တစ်ဘဝသာ ကျင်လည်ရမည်ဟု ပုံသေအတိအကျ ယူဆသည်။ (ဥတ္တရာပထကဂိုဏ်း)

၁၂၃။ **ဇီဝိတာဝေါရောပနကထာ** ။ (ဇီဝိတ=အသက်မှ + ဝေါရောပန=ချခြင်း)
သောတာပန်ပုဂ္ဂိုလ်သည် သူတစ်ပါးအသက်ကို သတ်သေးသည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း၊ အပရသေလိယဂိုဏ်း)

၁၂၄။ **ဒုဂ္ဂတိကထာ** ။ (ဒုဂ္ဂတိ=ဒုဂ္ဂတိသတ္တဝါ တိရစ္ဆာန်)
သောတာပန်ပုဂ္ဂိုလ်သည် ဒုဂ္ဂတိဟု ခေါ်အပ်သော တိရစ္ဆာန်တို့ အပေါ်၌ တပ်မက်ခြင်း၊ နှစ်သက်ခြင်း မရှိဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၂၅။ **သတ္တမဘဝိကကထာ** ။ (သတ္တမ=ခုနစ်ခုမြောက် + ဘဝိက=ဘဝရှိသူ)
ခုနစ်ဘဝစေ့က အရဟတ္တဖိုလ်ရနိုင်မည့်ပုဂ္ဂိုလ်သည် တိရစ္ဆာန်ကို မချစ်တတ်ဟု ယူဆသည်။ (ဥတ္တရာပထကဂိုဏ်း)

၁၂၆။ **ကပ္ပဋ္ဌကထာ** ။ (ကပ္ပ + ဋ္ဌ ။ တစ်ကမ္ဘာကြာမှု)
သံဃဘေဒကကံကို ကျူးလွန်သောပုဂ္ဂိုလ်သည် သက်တမ်းအားဖြင့် တစ်ကမ္ဘာကြာအောင် အဝီစိငရဲခံရသည်ဟု ယူဆ၏။ သက်တမ်း တစ်ကမ္ဘာမပြည့်မီ ဤကမ္ဘာပျက်ပါက အခြားကမ္ဘာရှိ အဝီစိငရဲသို့ ရွှေ့ပြောင်း ငရဲခံရသည်ဟု ယူဆ၏။ (ရာဇဂိရိကဂိုဏ်း)

၁၂၇။ **ကုသလပဋိလာဘကထာ** ။ (ကုသလ=ကုသိုလ် + ပဋိလာဘ=ရခြင်း)
သံဃဘေဒကကံကို ကျူးလွန်ပြီးသူသည် ဈာန်ကုသိုလ်, မဂ်ကုသိုလ် ဖြစ်ခွင့်မရှိရုံသာမက ဒါန သီလ စသော ကာမာဝစရကုသိုလ်မျှပင် ဖြစ်ခွင့်မရှိဟု ဆို၏။

၁၂၈။ အနန္တရာပယုတ္တကထာ

အမိကို သတ်မှု၊ အဖကို သတ်မှု စသော အာနန္တရိယကံကြီးမျိုးကို ကျူးလွန်ရန် တစ်ဆင့်စေခိုင်းရာ၌ အခိုင်းခံရသူက ထိုအမှုကို ပြီးမြောက်အောင် မဆောင်ရွက်သော်လည်း ခိုင်းသူမှာ အာနန္တရိယကံကြီး ထိုက်တော့၏။ ဤဘဝ၌ မဂ်ဖိုလ်နိဗ္ဗာန်ကို မရနိုင်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၂၉။ နိယတဿ နိယာမကထာ ။ (နိယတဿ=နိယ ဗျာဒိတ်ရသူအား)

နိယတဗျာဒိတ် ရပြီးသော ပစ္ဆိမဘဝိက ဘုရားလောင်းသည်မဂ်ဉာဏ်ကို ဤဘဝ၌ ရနိုင်၏ဟု ယူဆသည်။ သမ္မတ္တနိယတမှ တစ်ပါး အခြား နိယတရှိသည်ဟု ဆိုလို၏။ (ပုဗ္ဗသေလိယဂိုဏ်း၊ အပရသေလိယဂိုဏ်း)

၁၃၀။ နိဝုတကထာ ။ (နိဝုတ=ပိတ်ဆို့အပ်သော)

နီဝရဏတရားတို့ကို မဂ်က ပယ်ဖျက်ရာ၌ ပစ္စုပ္ပန် ထင်ရှားရှိ ခိုက်၌ ပယ်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၃၁။ သမ္မုခီဘူတကထာ ။ (သမ္မုခီ=မျက်မှောက် လောလောဆယ်+ ဘူတ=ဖြစ်ခြင်း)

မဂ်သည် သံယောဇဉ်တရားတို့ကို ပယ်ရာ၌ ပစ္စုပ္ပန်ဖြစ်ဆဲခဏ၊ ထင်ရှားရှိဆဲခဏ၌ ပယ်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၃၂။ သမာပန္နော အဿာဒေတိ ကထာ ။ (သမာပန္နော= ဈာန်ဝင်စားစဉ်၌ + အဿာဒေတိ=သာယာ၏)

ဈာန်သမာပတ် ဝင်စားနေစဉ်အခိုက်၌ ထိုဈာန်ကို သာယာသော တဏှာဖြစ်၏။ သမာပတ်အတွင်း၌ တဏှာဖြစ်နိုင်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၁၃၃။ **အသာတရာဂတထာ** ။ (အသာတ=မသာယာဖွယ်ဒုက္ခ)
ဒုက္ခဝေဒနာကို သာယာနှစ်သက်သော ရာဂဖြစ်နိုင်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၃၄။ **ဓမ္မတဏှာ အဗျာကတာတိ ကထာ**
ကုသိုလ်ဓမ္မ၊ လောကုတ္တရာဓမ္မတို့အပေါ်၌ သာယာသော တဏှာကို ဓမ္မတဏှာဟု ခေါ်၍ ထိုတဏှာကို တဏှာဖြစ်သောကြောင့် ကုသိုလ်ဟု မခေါ်သင့်၊ ကုသိုလ်တရားဓမ္မအပေါ်၌ သာယာသောကြောင့် အကုသိုလ်ဟုလည်း မခေါ်သင့်၊ ကုသိုလ်, အကုသိုလ်မှ အလွတ် အဗျာကတဟု ခေါ်သင့်သည်။ (ပုဗ္ဗသေလိယဂိုဏ်း)

၁၃၅။ **ဓမ္မတဏှာ ဒုက္ခသမုဒယောတိ ကထာ**
အထက်ဖော်ပြပါ ဓမ္မတဏှာသည် ဒုက္ခသစ္စာ၏ အကြောင်း မဟုတ်၊ သမုဒယသစ္စာ၌ မပါဝင်ဟု ယူဆ၏။ (ပုဗ္ဗသေလိယ ဂိုဏ်း)

၁၃၆။ **ကုသလအကုသလပဋိသန္ဓဟနတထာ** ။ (ပဋိသန္ဓဟန=ဆက်စပ်မှု)
အာရုံဝတ္ထုတစ်ခုခုကို တွယ်တာနှစ်သက်၍ ထိုအရာဝတ္ထုအပေါ်တို့၌ တွယ်တာမှု၊ တပ်မက်မှု ကင်း၏။ ထို့ကြောင့် တွယ်တာမှု (လောဘ) အကုသိုလ်နှင့် မတွယ်တာမှု (အလောဘ) ကုသိုလ်တရားတို့သည် ဆက်စပ်မှုရှိ၏။ ကုသိုလ်နှင့်အကုသိုလ်သည် ဆက်စပ်မှုရှိ၏၊ တစ်ဆက်တည်း ဖြစ်၏ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

၁၃၇။ **သဠာယတနုပ္ပတ္တိကထာ** ။ (သဠာယတန=မျက်စိ စသည် ခြောက်ပါး + ဥပ္ပတ္တိ=ဖြစ်ခြင်း)
လူသည် ပဋိသန္ဓေတည်နေခါစ၌ပင် မျက်စိ နား စသော အာယတန ခြောက်ပါး တစ်ပြိုင်နက် အတူတကွဖြစ်ကြသည်။ မထင်ရှားသော အခြေအနေဖြင့် တည်ရှိသည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၁၃၈။ အနန္တရပစ္စယကထာ

(ချစ်သူနှင့်အတူ အငြိမ့်ပွဲကြည့်နေစဉ် သရေစာ စားသူအား) ဝိညာဏ်ငါးပါး အခြားမရှိ တစ်ဆက်တည်း ဖြစ်ကြသည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၃၉။ အရိယရူပကထာ = (အရိယ=အရိယမဂ္ဂင်ထိုက်သော + ရူပ= ရုပ်)

ဝိညတ်ရုပ်ကို သမ္မာဝါစာ သမ္မာကမ္မန္တဟု ယူဆ၏။ ထိုသမ္မာဝါစာ သမ္မာကမ္မန္တတို့သည် အရိယမဂ္ဂင်တရားများဖြစ်ကြ၏။ ထိုအရိယ မဂ္ဂင်ထိုက်သော သမ္မာဝါစာ သမ္မာကမ္မန္တတို့ကို မဟာဘူတ (မဟာဘုတ်) ရုပ်ကြီးတို့ကို အမှီပြုဖြစ်သော ဉပါဒါရုပ်ဟု ခေါ် လိုကြ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၄၀။ အညော အနုသယောတိ ကထာ = (အနုသယော= အနုသယ သည် + အညော=အခြားတစ်ပါးဖြစ်၏)

အနုသယကိလေသာနှင့် ပရိယုဋ္ဌာနကိလေသာကို တခြားစီဟု ယူဆကြ၏။ ဉပါဒ် ဌီ ဘင်အခိုက်၌ရှိသော ကိလေသာကို ပရိ ယုဋ္ဌာနကိလေသာဟု ခေါ်ကြ၍ ကုသိုလ်စိတ်ဖြစ်ခိုက် ငုပ်လျှိုး တည်ရှိနေသော ကိလေသာကို အနုသယကိလေသာ ဟူ၍ ခွဲခြားလိုကြ၏။ (အန္ဓကဂိုဏ်းများ)

၁၄၁။ ပရိယုဋ္ဌာနံ စိတ္တဝိပ္ပယုတ္တန္တိ ကထာ

ပရိယုဋ္ဌာန ကိလေသာသည်လည်း စိတ်၏ အလိုဆန္ဒ၊ စိတ်၏ ထိန်းချုပ်မှုမှ ကင်းသောကြောင့် စိတ္တဝိပ္ပယုတ္တ မည်၏။ စိတ်နှင့် ယှဉ်တွဲခြင်း မရှိဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၁၄၂။ ပရိယာပန္နကထာ = (ပရိယာပန္န=အကျုံးဝင်မှု)

ကာမဘဝကို တပ်မက်သော ကာမရာဂသည် ကာမဓာတ်၌ အကျုံးဝင်သကဲ့သို့ ရူပဘဝ အရူပဘဝ၌ တွယ်တာသော ရူပရာဂ

နှင့်အရူပရာဂတို့သည် ရူပဓာတုနှင့်အရူပဓာတု၌ အကျုံးဝင်၏ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများနှင့်သမ္မိတိယဂိုဏ်း)

၁၄၃။ **အဗျာကတကထာ**

သဿတဒိဋ္ဌိ ဥစ္ဆေဒဒိဋ္ဌိနှင့် စပ်လျဉ်းသော အမေးပြဿနာတို့သည် မြတ်စွာဘုရား မဖြေဆိုသော (အဗျာကတ) အမေးများဖြစ်ကြကုန်၏။ ထို့ကြောင့် ဒိဋ္ဌိဝါဒများသည် ဝိပါက်ကြိယာတို့ကဲ့သို့ အဗျာကတမည်၏ဟု ဆိုကြ၏။ (အန္ဓကဂိုဏ်းများ၊ ဥတ္တရာပထကဂိုဏ်း)

၁၄၄။ **အပရိယာပန္နကထာ** = (အ + ပရိယာပန္န = အကျုံးမဝင်မှု)

ဈာန်ရသော ပုထုဇဉ်ပုဂ္ဂိုလ်သည် ကာမရာဂကို ပယ်နိုင်၏။ ဒိဋ္ဌိကို မပယ်နိုင်၊ ထို့ကြောင့် ဒိဋ္ဌိသည် ဘုံသုံးပါး၌ အကျုံးမဝင်၊ လောကီတရား၌ အကျုံးမဝင်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၁၄၅။ **ပစ္စယတာကထာ**

တရားတစ်ခု၌ ပစ္စယသတ္တိသည် တစ်ခုသာရှိရမည်။ တစ်ခုထက်ပို၍မရှိရ၊ ဟေတုပစ္စယသတ္တိရှိသော တရားသည် အခြား ပစ္စယသတ္တိ မရှိနိုင်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

၁၄၆။ **အညမညပစ္စယကထာ**

အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်၍ သင်္ခါရကြောင့် အဝိဇ္ဇာဖြစ်သည်ဟု အချင်းချင်း အပြန်အလှန် အကြောင်းအကျိုးဖြစ်မှု (အညမညပစ္စည်း) မရှိဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

၁၄၇။ **အဒ္ဓါကထာ** = (အဒ္ဓါ=အခွန့် အချိန်ကာလ)

အဒ္ဓါခေါ်သော အချိန်ကာလသည် အကြောင်းတရားတို့ ပြုလုပ်ဖန်တီးအပ်သောတရား (ပရိနိပ္ဖန္န)ဖြစ်သည်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

## ၁၄၈။ ခဏလယမုဟုတ္တကထာ

ခဏ လယ မုဟုတ္တ ဟု ခေါ်သော အချိန်ကာလသည်လည်း အကြောင်းတရားတို့ ပြုလုပ်ဖန်တီးအပ်သော တရား (ပရိနိပ္ဖန္န) ဖြစ်သည်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

## ၁၄၉။ အာသဝကထာ

အာသဝတရားလေးပါးတို့သည် အာသဝ၏အာရုံ မဖြစ်နိုင်ဟု ယူဆ၏။ (ဟေတုဝါဒဂိုဏ်း)

## ၁၅၀။ ဇရာမရဏကထာ

လောကုတ္တရာတရား (မဂ်စိတ် ဖိုလ်စိတ်)တို့၏ ဇရာမရဏသည် လောကီတရားမဟုတ်၊ လောကုတ္တရာတရားသာ ဖြစ်သည်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

## ၁၅၁။ သညာဝေဒယိတကထာ

သညာ ဝေဒနာ ချုပ်ငြိမ်းသော နိရောဓသမာပတ်သည် လောကီ မဟုတ်သောကြောင့် လောကုတ္တရာတရားသာ ဖြစ်ရပေမည်ဟု ယူဆ၏။ (ဟေတုဝါဒဂိုဏ်း)

## ၁၅၂။ ဒုတိယ သညာဝေဒယိတကထာ

နိရောဓသမာပတ်သည် လောကုတ္တရာ မဟုတ်လျှင် လောကီ တရားသာ ဖြစ်ရပေမည်ဟု ယူဆ၏။ (ဟေတုဝါဒဂိုဏ်း)

## ၁၅၃။ တတိယ သညာဝေဒယိတကထာ

သေခြင်းတရားကို အချိန်ကာလ သတ်မှတ်၍ မရသောကြောင့် နိရောဓသမာပတ် ဝင်စားနေစဉ် သမာပတ်အတွင်း၌ သေဆုံး နိုင်သည်ဟု ယူဆ၏။ (ရာဇဂိရိကဂိုဏ်း)

၁၅၄။ အသညသတ္တုပိကကထာ ။ (အသညသတ္တုပိက॰ အသည သတ်သမာပတ်)

သညာခေါ်သော နာမ်တရား၌ တပ်မက်ခြင်းကင်းသော (သညာ ဝိရာဂ) ဘာဝနာကို ပွား၍ စတုတ္ထစျာန်ဝင်စားလျှင် အသည သတ် သမာပတ်ဝင်စားသည် မည်၏။ ထိုအသညသတ် သမာ ပတ်ကို နိရောဓသမာပတ်ဟု ယူဆကြ၏။ (ဟေတုဝါဒဂိုဏ်း)

၁၅၅။ ကမ္မူပစယကထာ ။ (ကမ္မ॰ကံ + ဥပစယ॰စုဆောင်းထား သောကံ)

စေတနာကံနှင့် စုဆောင်း သိုမှီးထားသော အတိတ်ကံတို့သည် တခြားစီဖြစ်ကြ၏။ စုဆောင်းထားသောကံတို့သည် စိတ္တဝိပ္ပယုတ္တ (စိတ်နှင့်မယှဉ်)၊ အာရုံကို မယူတတ်။ (အန္ဓကဂိုဏ်းများနှင့် သမ္မိတိယဂိုဏ်း)

၁၅၆။ နိဂ္ဂဟကထာ ။ (နိဂ္ဂဟ॰ဖိနှိပ်မှု)

ဈာန်အဘိညာဉ်၌ ဝသီဘော် အားအစွမ်းနှင့် ပြည့်စုံသူတို့သည် သူတစ်ပါး၏စိတ်ကို ဖိနှိပ်နိုင်သည်ဟု ယူဆ၏။ (မဟာသံဃိက ဂိုဏ်း)

၁၅၇။ ပဂ္ဂဟကထာ ။ (ပဂ္ဂဟ॰ချီးမြှောက်မှု)

ဈာန်အဘိညာဉ်ရသော တန်ခိုးရှင်သည် သူတစ်ပါး၏ စိတ်ကို တန်ခိုးဖြင့် ချီးမြှောက်နိုင်သည်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

၁၅၈။ သုခါနုပ္ပဒါနကထာ ။ (သုခ॰ချမ်းသာ + အနုပ္ပဒါန॰ တစ်ဆင့် ပေးမှု)

တစ်စုံတစ်ယောက်သည် အခြားသူတစ်ပါးအား ချမ်းသာသုခဖြစ် စေရန် ပြုလုပ်ပေးနိုင်စွမ်းရှိသည်ဟု ယူဆ၏။ (ဟေတုဝါဒဂိုဏ်း)

၁၅၉။ အဓိဂယှမနသိကာရကထာ = (အဓိဂယှ-သိမ်းကျုံး၍ + မနသိကာရ-နှလုံးသွင်းမှု)

သင်္ခါရတရားတို့သည် အနိစ္စဟု ဝိပဿနာရှုရာ၌ ထိုစိတ်ကိုပါ သိမ်းကျုံး၍ ဝိပဿနာရှု၏။ (ပုဗ္ဗသေလိယ၊ အပရသေလိယ ဂိုဏ်း)

၁၆၀။ ရူပံ ဟေတူတိ ကထာ = (ရူပံ-ရုပ်သည် + ဟေတု-ဟိတ်)

မဟာဘူတရုပ်လေးပါးသည် ဥပါဒါရုပ်တို့၏ အကြောင်းတရား ဖြစ်သောကြောင့် 'ဟေတု' မည်၏။ (ဥတ္တရာပထကဂိုဏ်း)

၁၆၁။ ရူပံ သဟေတုကန္တိ ကထာ = (သ+ဟေတုက-ဟိတ်ရှိ)

ရုပ်သည် အကြောင်းတရားရှိသောကြောင့် သဟေတုကမည်၏။ (ဥတ္တရာပထကဂိုဏ်း)

၁၆၂။ ရူပံ ကုသလာကုသလန္တိ ကထာ

ကာယဝိညတ်ရုပ်ကို ကာယကံဟု ခေါ်၍ ဝစီဝိညတ်ရုပ်ကို ဝစီကံဟု ခေါ်၏။ ထို့ကြောင့် ဝိညတ်ရုပ်တို့သည် ကုသိုလ်လည်း မည်၏၊ အကုသိုလ်လည်း မည်၏ဟု ယူဆသည်။ (မဟိံသာသက ဂိုဏ်း၊ သမ္မိတိယဂိုဏ်း)

၁၆၃။ ရူပံ ဝိပါကောတိ ကထာ

ကံ၏ အကျိုးဖြစ်သော စိတ်, စေတသိက်တို့ကို ဝိပါက်ဟု ခေါ်သကဲ့သို့ ကံ၏အကျိုးဖြစ်သော (ကမ္မဇ) ရုပ်တို့ကိုလည်း 'ဝိပါက်'ဟု ခေါ်သင့်၏။ (အန္ဓကဂိုဏ်းများ၊ သမ္မိတိယဂိုဏ်း)

၁၆၄။ ရူပံ ရူပါဝစရာရူပါဝစရန္တိ ကထာ

ကာမာဝစရရုပ်ရှိသကဲ့သို့ ရူပါဝစရရုပ်, အရူပါဝစရရုပ်ရှိသည် ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

**၁၆၅။ ရူပါရူပရာဂတုပရိယာပန္နကထာ**

ကာမရာဂသည် ကာမဓာတ်၌ အကျုံးဝင်သကဲ့သို့ ရူပရာဂသည် ရူပဓာတ်၌ အကျုံးဝင်၏။ အရူပရာဂသည် အရူပဓာတ်၌ အကျုံးဝင်၏။ (အန္ဓကဂိုဏ်း)

**၁၆၆။ အရဟတော ပုညူပစယကထာ** ။ (အရဟတော=ရဟန္တာအား + ပုည=ကုသိုလ် + ဥပစယ=ဆည်းပူးခြင်း)

ရဟန္တာသည် ဒါနမှု၊ စေတီရှိခိုးမှု၌ ကြိယာစိတ်ဖြင့် ပြုခြင်း မဟုတ်၊ ကုသိုလ်စိတ်ဖြင့် ပြုသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်း)

**၁၆၇။ နတ္ထိ အရဟတော အကာလမစ္စုတိ ကထာ** ။ (အကာလ= အချိန်မတန်ဘဲ + မစ္စု=သေခြင်း)

ရဟန္တာပုဂ္ဂိုလ်အား ဤဘဝသည် နောက်ဆုံးဖြစ်၍ ရှိသမျှကံ၊ ကံ၏အကျိုးကို အကုန်အစင် ခံစားရမည်။ ကံမကုန်မီ စုတေ သေလွန်ခြင်းမရှိ၊ ထို့ကြောင့် ရဟန္တာသည် အချိန်မစေ့မီ စုတေ ခြင်း မရှိဟု ယူဆ၏။ (ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိကဂိုဏ်း)

**၁၆၈။ သဗ္ဗမိဒံ ကမ္မတောတိ ကထာ** ။ (က္လဒံ သဗ္ဗံ=ဤအလုံးစုံသည်+ ကမ္မတော=ကံကြောင့်)

သက်ရှိသက်မဲ့ တစ်လောကလုံးသည် ကံကြောင့်သာလျှင် ဖြစ်၏။ ကံအကြောင်းတရား တစ်ခုသာဖြစ်၍ တစ်လောကလုံးသည် ကံ၏အကျိုးဖြစ်၏ဟု ယူဆ၏။ (ရာဇဂိရိကဂိုဏ်း၊ သိဒ္ဓတ္ထိက ဂိုဏ်း)

**၁၆၉။ ဣန္ဒြိယဗဒ္ဓကထာ** ။ (ဣန္ဒြိယ=ဣန္ဒြေရုပ် + ဗဒ္ဓ= တွဲစပ်နေ သော)

သတ္တဝါတို့၏သန္တာန်၌ရှိသော (ဣန္ဒြိယဗဒ္ဓ) ရုပ်နှင့် နာမ်တရားတို့ သည်သာ ဒုက္ခမည်၍ ပြင်ပဗဟိဒ္ဓရှိ သက်မဲ့ရုပ်များသည် ဒုက္ခ မမည်ဟု ယူဆ၏။ (ဟေတုဝါဒဂိုဏ်း)

၁၇၀။ ဌပေတွာ အရိယမဂ္ဂန္တိ ကထာ = (အရိယမဂ္ဂံ=အရိယမဂ်ကို+ ဌပေတွာ=ချန်ထား၍)

သမုဒယသစ္စာဟူ၍ သီးခြားမရှိ၊ သမုဒယသည်လည်း ဒုက္ခသစ္စာ၌ ပါဝင်နေသောကြောင့် အရိယသစ္စာသုံးပါးသာရှိ၏ဟု ယူဆသည်။ (ဟေတုဝါဒဂိုဏ်း)

၁၇၁။ န ဝတ္တဗ္ဗံ သံဃော ဒက္ခိဏံ ပဋိဂ္ဂဏှာတိ ကထာ = (သံဃော= သံဃာသည် + ဒက္ခိဏံ=လှူဖွယ်ဝတ္ထုကို + ပဋိဂ္ဂဏှာတိ=ခံယူ၏+ န ဝတ္တဗ္ဗံ=မဆိုအပ်)

ပရမတ္ထအားဖြင့် မဂ်စိတ်လေးပါးနှင့် ဖိုလ်စိတ်လေးပါးသာလျှင် သံဃာမည်၏။ ထို့ကြောင့် မဂ်တရား ဖိုလ်တရားဟု ဆိုအပ်သော သံဃာသည် အလှူကို မခံတတ်၊ သံဃာအား လှူရန် မလိုဟု ယူဆ၏။ (မဟာပုညဝါဒီခေါ် ဝေတုလ္လဂိုဏ်း)

၁၇၂။ န ဝတ္တဗ္ဗံ သံဃော ဒက္ခိဏံ ဝိသောဓေတိ ကထာ = (သံဃော= သံဃာသည် + ဒက္ခိဏံ=အလှူကို + ဝိသောဓေတိ=စင်ကြယ် စေ၏)

အထက်ပါနည်းအတိုင်း သံဃာသည် အလှူဒါနကို စင်ကြယ်အောင် ပြုလုပ်တတ်သည်ဟု မဆိုနိုင်။ သံဃာအား လှူသဖြင့် စင်ကြယ်သော အလှူမဖြစ်နိုင်ဟု ယူဆ၏။ (ဝေတုလ္လဂိုဏ်း)

၁၇၃။ န ဝတ္တဗ္ဗံ သံဃော ဘုဉ္ဇတီတိ ကထာ = (ဘုဉ္ဇတိ=စား၏ + နဝတ္တဗ္ဗံ=မဆိုသင့်)

သံဃာဟူသည် မဂ်ဖိုလ်တရားသာလျှင် ဖြစ်၍ အလှူဝတ္ထုကို စားသောက်သုံးဆောင်ခြင်း မပြုတတ်ဟု ယူဆ၏။ (ဝေတုလ္လ ဂိုဏ်း)

၁၇၄။ န ဝတ္တဗ္ဗံ သံဃဿ ဒိန္နံ မဟပ္ဖလန္တိ ကထာ = (သံဃဿ= သံဃာအား + ဒိန္နံ=လှူခြင်းသည် + မဟပ္ဖလံ=အကျိုးကြီး၏)

သံဃာဟူသော မင်္ဂဖိုလ်သည် အလှူမခံတတ်၊ လှူရန် မဖြစ်နိုင်၊ ထို့ကြောင့် သံဃာအား လှူသဖြင့် များသော အကျိုးရှိသည်ဟု မဆိုသင့်။ (ဝေတုလ္လဂိုဏ်း)

၁၇၅။ န ဝတ္တဗ္ဗံ ဗုဒ္ဓဿ ဒိန္နံ မဟပ္ဖလန္တိ ကထာ

မြတ်စွာဘုရားသည် လူသားမဟုတ်သဖြင့် တစ်စုံတစ်ခု စားသောက် မှီဝဲခြင်းမရှိ၊ လောကလူသားတို့၏ ဆန္ဒကို လိုက်လျောရန်, စားသောက်ဟန် ပြုတော်မူ၏။ အကယ်စင်စစ် စားသုံးခြင်း မရှိသဖြင့် ဘုရားအား လှူသဖြင့် များသော အကျိုးရှိ၏ဟု မဆိုသင့်။ (ဝေတုလ္လဂိုဏ်း)

၁၇၆။ ဒက္ခိဏာ ဝိသုဒ္ဓိကထာ ။ (ဝိသုဒ္ဓိ=စင်ကြယ်သော + ဒက္ခိဏာ=အလှူ)

စင်ကြယ်သော အလှူဖြစ်ရန်မှာ အလှူပေး၊ အလှူခံ၊ အလှူဝတ္ထုတို့ စင်ကြယ်ရမည် ဖြစ်သည်။ ဤသဘောကို ပယ်ဖျက်၍ အလှူခံဘက်က စင်ကြယ်ရန် မလို၊ အလှူပေးသူဘက်က စင်ကြယ်လျှင် စင်ကြယ်သော အလှူဖြစ်၏ဟု ဆို၏။ (ဥတ္တရာပထကဂိုဏ်း)

၁၇၇။ မနုဿလောကကထာ

မြတ်စွာဘုရားသည် လူ့ပြည်၌ နိမ္မိတ (ဖန်ဆင်း) ရုပ်ပွားကိုသာ ကိုယ်ရောင်ပြ၏။ လူ့ပြည်သို့ ကိုယ်တိုင်လာရောက်ခြင်း မရှိ။ တုသိတာ နတ်ပြည်၌သာ အမြဲထာဝရ စံနေသည်ဟု ယူဆ၏။ (ဝေတုလ္လဂိုဏ်း)

၁၇၈။ ဓမ္မဒေသနာကထာ ။ (ဓမ္မဒေသနာ=တရားဟောမှု)

မြတ်စွာဘုရားသည် တုသိတာနတ်ပြည်၌ အမြဲစံနေတော်မူ၍ လူတို့အား တရားဟောကြားရန် နိမ္မိတ (ဖန်ဆင်း) ရုပ်ပွားကို စေလွှတ်၏။ ရံခါ အရှင်အာနန္ဒာသည် တုသိတာနတ်ပြည်သို့

သွားရောက်၍ မြတ်စွာဘုရားထံမှ တရားနာယူပြီးနောက် လူတို့အား အရှင်အာနန္ဒာက ပြန်လည်ဟောကြား၏။ (ဝေတုလ္လဂိုဏ်း)

၁၇၉။ **ကရုဏာတထာ**
မြတ်စွာဘုရား၌ ကရုဏာ (ကြင်နာသနားခြင်း) မရှိဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၈၀။ **ဂန္ဓဇာတိကထာ** ။ (ဂန္ဓဇာတိ=နံ့သာမျိုး)
မြတ်စွာဘုရား၏ ကျင်ကြီးကျင်ငယ်များသည် နံ့သာအားလုံးထက် သာလွန်မွှေးကြိုင်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းအချို့နှင့်ဥတ္တရာပထကဂိုဏ်း)

၁၈၁။ **ကေမဂ္ဂကထာ**
မြတ်စွာဘုရားအား မဂ်ဉာဏ်လေးဆင့်၊ ဖိုလ်ဉာဏ်လေးဆင့် အစဉ်အတိုင်း တိုးတက်ရန် မလိုတော့ဘဲ အရဟတ္တမဂ်ဉာဏ် တစ်ခုတည်းဖြင့် ဖိုလ်လေးပါးကို မျက်မှောက်ပြုသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းအချို့၊ ဥတ္တရာပထကဂိုဏ်း)

၁၈၂။ **ဈာနသင်္ကန္တိ ကထာ** ။ (ဈာန=ဈာန် + သင်္ကန္တိ=ပြောင်းရွှေ့မှု)
ပထမဈာန် ဒုတိယဈာန် စသော ဈာန်များကို ဝင်စားရာ၌ ပထမဈာန် ဝီထိနှင့် ဒုတိယဈာန် ဝီထိအကြား၌ ဘဝင်စိတ် အာဝဇ္ဇန်းစိတ်၊ ဥပစာရဇောများ မခြားဘဲ ပထမဈာန်ဇောနောက်၌ ဒုတိယဈာန်ဇောများ တစ်ဆက်တည်း ဇောနိုင်သည်ဟု ယူဆ၏။ (မဟိသာသကဂိုဏ်း၊ အန္ဓကဂိုဏ်းအချို့)

၁၈၃။ **ဈာနန္တရိကကထာ** ။ (ဈာန=ဈာန် + အန္တရိက=အခြား)
ပထမဈာန်နှင့် ဒုတိယဈာန်အကြား၌ အဝိတက္ကဝိစာရမတ္တမည်သော 'ကြားဈာန်တစ်မျိုး' ရှိသည်ဟု ယူဆ၏။ (သမ္မိတိယဂိုဏ်းအချို့၊ အန္ဓကဂိုဏ်းအချို့)

၁၈၄။ **သမာပန္နော သဒ္ဒံ သုဏာတီတိ ကထာ** ။ (သမာပန္နော။ သမာပတ်ဝင်စားသူသည် + သဒ္ဒံ။ အသံကို + သုဏာတိ။ ကြား၏)
စျာန်ဝင်စားခိုက် နားဖြင့် အသံကို ကြားနိုင်သည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၁၈၅။ **စက္ခုနာ ရူပံ ပဿတီတိ ကထာ** ။ (စက္ခုနာ။ မျက်စိဖြင့် + ရူပံ။ အဆင်းကို + ပဿတိ။ မြင်နိုင်၏)
စက္ခုပသာဒရုပ်သည် မြင်နိုင်စွမ်းရှိ၏။ စက္ခုဝိညာဏစိတ်က မြင်ခြင်းမဟုတ်ဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

၁၈၆။ **ကိလေသပဇဟနကထာ** ။ (ပဇဟန။ ပယ်ခြင်း)
မဂ်သည် ကိလေသာကို ပယ်ရာ၌ အတိတ် ကိလေသာ၊ အနာဂတ် ကိလေသာ ပစ္စုပ္ပန် ကိလေသာတို့ကို ပယ်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်းသားအချို့)

၁၈၇။ **သုညတကထာ** ။ (သုညတာ။ မရှိခြင်း ကင်းခြင်း)
ခန္ဓာငါးပါး၏ အတ္တသဘောမှ ကင်းခြင်းသည်လည်းကောင်း၊ နိဗ္ဗာန်သည်လည်းကောင်း သုညတာမည်၏။ ထိုသုညတာတို့သည် သင်္ခါရက္ခန္ဓာ၌ ပါဝင်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၁၈၈။ **သာမညဖလကထာ** ။ (သာမည။ ရဟန်းပြုခြင်း၏ + ဖလ။ အကျိုးဖိုလ်လေးပါး)
ဖိုလ်စိတ်လေးပါးသည် နိဗ္ဗာန်ကဲ့သို့ အသင်္ခတတရားဖြစ်သည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၁၈၉။ **ပတ္တိကထာ** ။ (ပတ္တိ။ ရခြင်း၊ ရောက်ခြင်း)
စျာန်ရခြင်း၊ မဂ်ဖိုလ်ရခြင်း၊ ဥစ္စာပစ္စည်းရရှိခြင်းတို့သည် ရုပ်နာမ်သဘောမှ ကင်းသောကြောင့် အသင်္ခတတရားဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၁၉၀။ တထတာကထာ

ရုပ်သည် ရုပ်သဘာဝအတိုင်းရှိခြင်း၊ နာမ်သည် နာမ်သဘာဝအတိုင်း ရှိခြင်း၊ မိမိသဘာဝအတိုင်း မဖောက်မပြန် တည်ရှိခြင်းသဘော (တထတာ) သည် အသင်္ခတမည်၏ဟု ဆို၏။ (ဥတ္တရာပထကဂိုဏ်း)

၁၉၁။ ကုသလကထာ

ကိလေသာအပြစ်ကင်းသော တရားသည် ကုသိုလ်တရားဖြစ်သည်ဟုဆိုလျှင် နိဗ္ဗာန်သည် ကိလေသာအပြစ်မှ ကင်းသောကြောင့် ကုသိုလ်မည်၏ဟု ယူဆသည်။ (အန္ဓကဂိုဏ်းများ)

၁၉၂။ အစ္စန္တနိယာမကထာ ◦ (အစ္စန္တ◦စင်စစ် + နိယာမ◦မြဲခြင်း)

မိစ္ဆာဒိဋ္ဌိအယူဝါဒ၌ စွဲမြဲစွာ ယုံကြည်သော (နိယတမိစ္ဆာဒိဋ္ဌိ) ပုဂ္ဂိုလ်သည် ဘဝအဆက်ဆက် မိစ္ဆာအယူဝါဒ၌ တည်မြဲသဖြင့် အဆုံးမရှိ ဆက်လက်၍ ငရဲခံနေရသည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၁၉၃။ ဣန္ဒြိယကထာ

လောကီသဒ္ဓါ၊ လောကီဝီရိယ၊ လောကီသတိ၊ လောကီသမာဓိ၊ လောကီပညာတို့ကို ဣန္ဒြေဟု ခေါ်ဆိုနိုင်သည်ဟု ယူဆလေ၏။ (ဟေတုဝါဒဂိုဏ်း၊ မဟိံသာသကဂိုဏ်း)

၁၉၄။ အသဉ္စိစ္စကထာ ◦ (အ + သဉ္စိစ္စ ◦ စေတနာမပါဘဲ)

သတ်ဖြတ်နှိပ်စက်လိုသော စေတနာဆိုးမပါဘဲ အမိအဖနှင့် ရဟန္တာကို သတ်မိလျှင် အာနန္တရိယကံကြီးထိုက်၏။ မြတ်စွာဘုရားကို သွေးထွက်အောင် ပြုလုပ်လျှင်လည်း အာနန္တရိယကံကြီးထိုက်၏။ တရားနည်းလမ်းမှန်သည်ဟု ယူဆ၍ သံဃာကွဲပြားအောင် ပြုလုပ်လျှင်လည်း သံဃဘေဒကကံ ထိုက်သည်ဟု ယူဆလေ၏။ (ဥတ္တရာပထကဂိုဏ်းအချို့)

၁၉၅။ ဉာဏကထာ

ပုထုဇဉ်၌ရှိသော ပညာကို ဉာဏ်ဟု မခေါ်လို၊ ပုထုဇဉ်၌ ဉာဏ် မရှိ ဟု ယူဆ၏။ (ဟေတုဝါဒဂိုဏ်း)

၁၉၆။ နိရယပါလကထာ = (နိရယ=ငရဲ + ပါလ=ထိန်းသူ)

ငရဲပြည်၌ ငရဲထိန်းဟူ၍ မရှိ၊ မိမိပြုခဲ့သော ကံကြမ္မာသည်သာ လျှင် ငရဲထိန်းအသွင်ဆောင်၍ နှိပ်စက်ညှဉ်းပန်းခြင်းကို ပြု သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၁၉၇။ တိရစ္ဆာနကထာ

နတ်ပြည်၌ ဧရာဝဏ် ဆင် မြင်း စသော တိရစ္ဆာန်များ ရှိသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၁၉၈။ မဂ္ဂကထာ

သမ္မာဝါစာမဂ္ဂင်၊ သမ္မာကမ္မန္တမဂ္ဂင်၊ သမ္မာအာဇီဝမဂ္ဂင်တို့သည် မဂ်ဉာဏ်ရသောအခိုက်၌ မပါဝင်၊ ထို့ကြောင့် အရိယမဂ္ဂင်ငါးပါး သာဟု ယူဆကြ၏။ (မဟိသာသကဂိုဏ်း)

၁၉၉။ ဉာဏကထာ

မဂ်ဉာဏ်တစ်ခု၌ ဉာဏ်တစ်ဆယ့်နှစ်ပါးစီ ရှိသည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း)

၂၀၀။ သာသနကထာ

သင်္ဂါယနာတင်ခြင်းသည် သာသနာတော်ကို အသစ်တစ်ဖန်ပြု ခြင်းမည်၏ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၂၀၁။ အဝိဝိတ္တကထာ = (အဝိဝိတ္တ=မကင်းကွာ အမြဲယှဉ်တွဲခြင်း)

ပုထုဇဉ်ပုဂ္ဂိုလ်သည် ကာမာဝစရကံ ရူပါဝစရကံ အရူပါဝစရကံ သုံးပါးတို့နှင့် အမြဲပြည့်စုံနေသည်ဟု ယူဆ၏။ (ဥတ္တရာပထက ဂိုဏ်း)

၂၀၂။ သညောဇနကထာ = (သညောဇနေ=သံယောဇဉ်)

ရဟန္တာပုဂ္ဂိုလ်သည် အဝိဇ္ဇာသံယောဇဉ် ဝိစိကိစ္ဆာသံယောဇဉ် တို့ကို မပယ်ရသေးဟု ယူဆ၏။ (မဟာသံဃိကဂိုဏ်း)

၂၀၃။ ဣဒ္ဓိကထာ

မြတ်ဗုဒ္ဓနှင့် ဗုဒ္ဓသာဝကတို့သည် တန်ခိုးဣဒ္ဓိပါဒ်ဖြင့် အလိုရှိတိုင်း ပြီးမြောက်စေနိုင်သည်။ အလိုဆန္ဒရှိတိုင်း တန်ခိုးဖြင့် ပြုလုပ်နိုင်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၂၀၄။ ဗုဒ္ဓကထာ

မြတ်စွာဘုရား အချင်းချင်း တူညီမှုမရှိ အယုတ်အမြတ် ကွဲပြားမှု ရှိသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၂၀၅။ သဗ္ဗဒိသာကထာ = (သဗ္ဗ=အလုံးစုံ + ဒိသာ=အရပ်မျက်နှာ)

အရှေ့၊ အနောက်၊ တောင်၊ မြောက်၊ အထက်၊ အောက် ဟူသော အရပ်မျက်နှာ အားလုံးတို့၌ မြတ်စွာဘုရားများ ရှိသည်ဟု ယူဆသည်။ (မဟာသံဃိကဂိုဏ်း)

၂၀၆။ ဓမ္မကထာ

ရုပ်၊ ဝေဒနာ၊ သညာ စသော ဓမ္မအားလုံးသည် မိမိတို့သဘာဝ အတိုင်း အမြဲတည်ရှိသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းအချို့နှင့် ဥတ္တရာပထကဂိုဏ်း)

၂၀၇။ ကမ္မကထာ

ကံတရားအားလုံးသည် မိမိသဘာဝအတိုင်း အမြဲတည်ရှိနေ၏ဟု ယူဆ၏။ (အန္ဓကဂိုဏ်းအချို့နှင့် ဥတ္တရာပထကဂိုဏ်း)

၂၀၈။ ပရိနိဗ္ဗာနကထာ

ရဟန္တာတို့သည် သဗ္ဗညုတဉာဏ်အရာကို မသိခြင်း အဝိဇ္ဇာ၊ ယုံမှားခြင်း ဝိစိကိစ္ဆာ ဟူသော သံယောဇဉ်တရားများကို မပယ်ရ သေးဘဲ ပရိနိဗ္ဗာန်ပြု၏ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၂၀၉။ **ကုသလစိတ္တကထာ**

ရဟန္တာပုဂ္ဂိုလ်တို့သည် ကုသိုလ်စိတ်ဖြင့် ပရိနိဗ္ဗာန်ပြုကြသည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၂၁၀။ **အာနေဥ္ဇကထာ** ။ (အာနေဥ္ဇ=မတုန်မလှုပ်သော စတုတ္ထဈာန်)

ရဟန္တာပုဂ္ဂိုလ်တို့သည် စတုတ္ထဈာန်စိတ်ဖြင့် ပရိနိဗ္ဗာန်ပြုကြသည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်း)

၂၁၁။ **ဓမ္မာဘိသမယကထာ** (ဓမ္မ=တရား + အဘိသမယ=သိခြင်း)

အမိဝမ်းတွင်း၌ ပဋိသန္ဓေနေစဉ်ကာလ၌ သောတာပတ္တိမဂ်ဉာဏ် ရနိုင်သည်။ အမေ့ဗိုက်ထဲ၌ နေလျက် တရားထူးကို ရနိုင်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်းသားအချို့)

၂၁၂။ **အရဟတ္တပတ္တိကထာ**

အမိဝမ်းတွင်း၌ ပဋိသန္ဓေနေစဉ်ကပင် အရဟတ္တမဂ်ကို ရရှိ၍ ရဟန္တာဖြစ်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်းသားအချို့)

၂၁၃။ **ဓမ္မာဘိသမယကထာ**

အိပ်မက်မက်နေစဉ် တရားထူးကို ရနိုင်သည်။ သောတာပန်ဖြစ်နိုင်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်းသားအချို့)

၂၁၄။ **အရဟတ္တပတ္တိကထာ**

အိပ်မက်အတွင်း၌ ရဟန္တာဖြစ်နိုင်သည်ဟု ယူဆ၏။

၂၁၅။ **အဗျာကတကထာ**

အိပ်မက်မက်နေစဉ် ဖြစ်ပေါ်သောစိတ်သည် ကုသိုလ် အကုသိုလ် မဟုတ်၊ အဗျာကတစိတ် ဖြစ်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်းသားအချို့)

၂၁၆။ **အာသေဝနပစ္စယကထာ**

စိတ်, စေတသိက်, နာမ်တရားများသည် ဖြစ်ပြီးနောက် ချက်ချင်း ပျက်၏။ ခဏမျှသာတည်ရှိသော (ခဏိက)တရားများ ဖြစ်ကြ၍ အရှိန်အဟုန် မရှိဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်းသားအချို့)

၂၁၇။ ခဏိကကထာ

ရုပ်တရား အားလုံးသည်လည်း စိတ္တက္ခဏ တစ်ချက်စာမျှသာ သက်တမ်းရှိ၏။ စိတ်နှင့်ရုပ်ကို သက်တမ်းတူသည်ဟု ယူဆ၏။ (ပုဗ္ဗသေလိယဂိုဏ်း၊ အပရသေလိယဂိုဏ်း)

၂၁၈။ ကောဓိပ္ပါယကထာ

ရဟန်းသည် အမျိုးသမီး တစ်ဦးတစ်ယောက်နှင့် ဖြစ်လေရာဘဝတိုင်း အတူတကွပေါင်းသင်းနေကြပါအံ့ဟု ရည်ရွယ်ချက် ဆန္ဒတူညီနေလျှင် မေထုန်မှီဝဲနိုင်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ၊ ဝေတုလ္လဂိုဏ်း)

၂၁၉။ အရဟန္တဝဏ္ဏကထာ ။ (အရဟန္တ=ရဟန္တာ + ဝဏ္ဏ=အသွင်)

နတ်ဘီလူးများသည် ရဟန္တာအသွင်ဖြင့် မေထုန်မှီဝဲတတ်သည်ဟု ယူဆ၏။ (ဥတ္တရာပထကဂိုဏ်းအချို့)

၂၂၀။ ဣဿရိယကာမကာရိတာကထာ ၁

(ဣဿရိယ=အစိုးရခြင်းကြောင့် + ကာမ=အလိုရှိရာ + ကာရိတာ=ပြုလုပ်ခြင်း)

ဘုရားလောင်းသည် မိမိအလိုဆန္ဒအတိုင်း ဖြစ်စေနိုင်သူဖြစ်၍ အလိုတော်ရှိသောကြောင့် တိရစ္ဆာန်ဘဝသို့ ရောက်၏ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၂၂၁။ ဣဿရိယကာမကာရိတာကထာ ၂

ဘုရားအလောင်းတော်သည် မိမိအလိုတော်ရှိတိုင်း ပြီးစေနိုင်သောကြောင့် အမိဝမ်း၌ ပဋိသန္ဓေနေခြင်းဖြစ်သည်။ (အန္ဓကဂိုဏ်းသားများ)

၂၂၂။ ဣဿရိယကာမကာရိတာကထာ ၃

ဘုရားအလောင်းတော်သည် မိမိအလိုတော်ရှိတိုင်း ပြီးစေနိုင်သောကြောင့် ဒုက္ကရစရိယာအကျင့်ကို ကျင့်သည်။ (အန္ဓကဂိုဏ်းများ)

၂၂၃။ ဣ္တသရိယကာမကာရိတာကထာ ၄

ခန္ဓာကိုယ်ကို ညှဉ်းပန်းနှိပ်စက်သော (တပ)အကျင့်ကို ကျင့်ခြင်းသည် တမင်တကာကျင့်ချင်၍ ကျင့်သည်။ (အန္ဓကဂိုဏ်းများ)

၂၂၄။ ဣ္တသရိယကာမကာရိတာကထာ ၅

ဘုရားအလောင်းတော်သည် မိမိအလိုတော်ရှိတိုင်း ပြီးစေနိုင်သောကြောင့် အာဠာရ, ဥဒကဆရာကြီးများကို ဆရာတင်ခဲ့ခြင်းဖြစ်သည်ဟု ယူဆ၏။ (အန္ဓကဂိုဏ်းများ)

၂၂၅။ ပတိရူပကကထာ ။ (ပတိရူပက=အတု)

ရာဂအတု၊ ဒေါသအတု၊ မောဟအတု၊ ကိလေသာ အတုများရှိ၏ဟု ယူဆ၏။ (အန္ဓကဂိုဏ်း)

၂၂၆။ အပရိနိပ္ဖန္နကထာ ။ (ပရိနိပ္ဖန္န=အကြောင်းကြောင့်ဖြစ်ခြင်း+အ=မဟုတ်)

ဒုက္ခတရားသာလျှင် အကြောင်းတရားကြောင့်ဖြစ်၍ ဖြစ်ခြင်းပျက်ခြင်းသဘောရှိ၏။ ခန္ဓာ အာယတန ဓာတ် ဣန္ဒြေတရားတို့သည် ဖြစ်ခြင်းပျက်ခြင်း မရှိ၊ အမြဲတည်သော အပရိနိပ္ဖန္နတရားတို့မည်ကုန်၏။ (ဥတ္တရာပထကဂိုဏ်းနှင့်ဟေတုဝါဒဂိုဏ်း)



# ကထာဝတ္ထုကျမ်းလာ
## သကဝါဒ နှင့် ပရဝါဒ
# ဝေဖန်ရှင်းလင်းချက်

## ၁။ ပုဂ္ဂလကထာ

"ပုဂ္ဂလ"ဟူသော ပါဠိဝေါဟာရကို ပုဂ္ဂိုလ်ဟု မြန်မာစကား ပြုလုပ်ခဲ့ကြသည်။

သကဝါဒ။ ။ရုပ် ဝေဒနာ သညာစသော ခန္ဓာငါးပါးအစုအဝေးကိုပင် ပုဂ္ဂိုလ် (ပုဂ္ဂလ) ဟူ၍ ဆိုလိုသည်။ လောကလူသားတို့ စကားပြောဆိုရာ၌ လွယ်ကူစေခြင်းငှာ ပုဂ္ဂိုလ်ဟူ၍လည်းကောင်း၊ သတ္တဝါဟူ၍လည်းကောင်း ခေါ်ဆိုထားခြင်းဖြစ်၏။ သမ္မုတိသစ္စာ (ဝေါဟာရစကား) အားဖြင့်သာ ရှိ၍ ပရမတ္ထသစ္စာအားဖြင့် တကယ်ထင်ရှားရှိသောတရားမျိုး မဟုတ်ချေ။ ရုပ် ဝေဒနာ သညာ သင်္ခါရ ဝိညာဏ်ဟူသော ခန္ဓာငါးပါးကိုသာ ပုဂ္ဂိုလ်သတ္တဝါဟု ခေါ်ဆိုနေခြင်းဖြစ်၍ ထိုခန္ဓာငါးပါးမှ သီးခြားလွတ်ကင်းသော ပုဂ္ဂိုလ်သတ္တဝါဟူ၍ မရှိချေ။

ပရဝါဒ။ ။သာသနာပ တိတ္ထိဂိုဏ်းသားများက ပုဂ္ဂိုလ် (ပုဂ္ဂလ) ဟူသည် ပရမတ္ထအားဖြင့် အမှန်တကယ်ရှိသည်ဟု ယူဆ၏။ ထိုပုဂ္ဂလကို ဇီဝ (အသက်) ဟူ၍လည်းကောင်း၊ အတ္တဟူ၍လည်းကောင်း ခေါ်ကြ၏။ သက်ရှိသတ္တဝါ၏ ခန္ဓာကိုယ်၌ အမြဲတည်ရှိသော အနှစ်သာရတစ်စုံတစ်ခုကို 'အတ္တ'ဟု စွဲလမ်းကြ၏။ ရုပ်ဝါဒီတို့က ရုပ်ကို အတ္တဟု ယူဆကြ၏။ နာမ်ဝါဒီတို့က ဝေဒနာ (ခံစားမှု) ကို 'အတ္တ'ဟု ယူဆကြ၏။

ငါသည် ခံစားစံစားသည်၊ ခံစားစံစားတတ်သော တရားသည် ငါဖြစ်သည်ဟု ကြံဆစွဲလမ်း၏။ ရံခါ သညာ (မှတ်သားမှု)ကို 'အတ္တ'ဟု ယူဆကြ၏။ ငါသည် မှတ်သားတတ်သည်၊ မှတ်တတ်သောသဘောသည် ငါဖြစ်သည်၊ ခိုင်မာသော အတ္တဖြစ်သည်ဟု ယူဆ၏။ ရံခါ သင်္ခါရ (ပြုလုပ်မှု)ကို 'အတ္တ'ဟု ယူဆကြ၏။ ငါသည် လုပ်တတ်သည်၊ ဖန်တီးတတ်သည်၊ ပြုလုပ်ဖန်တီးတတ်သော သဘောသည် ငါဖြစ်သည်ဟု စွဲလမ်းယူဆကြ၏။ ရံခါ ဝိညာဏ် (သိမှု) ကို 'အတ္တ'ဟု ယူဆ၏။ အရာရာကို သိသိနေသော သဘောသည် ငါဖြစ်သည်၊ ငါသည် သိတတ်သောသဘောရှိသည်၊ ထိုငါသည် ခိုင်မာသော အနှစ်သာရ (အတ္တ) ဖြစ်သည်ဟု စွဲလမ်းယူဆကြသည်။ များသောအားဖြင့် ဝိညာဏ် (သိမှု)ကို 'အတ္တ'ဟု စွဲယူကြလေသည်။

ရုပ်ဝါဒီအတ္တ။ ။ရုပ်ဝါဒီတို့သည် ခြေလက်အင်္ဂါနှင့်တကွသော ဤခန္ဓာကိုယ်ကြီးကို အတ္တ (ငါ)ဟု စွဲယူကြသည်။ သတ်မှတ်ထားသော အချိန်ကာလအထိ ရုပ်ဝတ္ထုများသည် သက်တမ်းကြာရှည်စွာ တည်ရှိကြသည်။ နာရီ၊ နေ့ရက်၊ လ၊ နှစ်၊ ကပ်ကမ္ဘာကြာအောင် တည်နိုင်ခြင်းသည် ရုပ်တို့၏ခိုင်မာမှုဖြစ်သည်ဟု ယူဆကြသည်။ ထိုသို့ ရုပ်ဝတ္ထုများသည် ခိုင်မာသည်ဟု ယူဆခြင်းသည် ရုပ်ကို အတ္တဟု စွဲလမ်းခြင်းဖြစ်၏။ ရုပ်ကို အခိုင်အမာဟု ယူဆပါက ထိုရုပ်ကို တပ်မက်မှု၊ မှီခိုအားထားလောက်သည်ဟု ထင်မြင်ယူဆမှုသည်လည်း တစ်ဆက်တည်း ဖြစ်ပေါ်လာ၏။ ထို့ကြောင့် ရုပ်ဝါဒီတို့သည် ရုပ်ကို တပ်မက်မှုလွန်ကဲကြ၏။ ရုပ်ကို မှီခိုအားထားကြ၏။ မြတ်နိုးကြ၏။ ရုပ်ကို ငါ, ငါ့ဟာဟု ထင်မှတ်သိမ်းပိုက်ကြကုန်၏။ တစ်ဖန် ရုပ်တရား၏ ဖောက်ပြန်ပျက်စီးမှုနှင့် တွေ့ကြုံရသောအခါ စိတ်ဆင်းရဲကြကုန်၏။ သောက, ပရိဒေဝ မီးတောက်ကြကုန်၏။ အမှန်စင်စစ် ရုပ်သည်လည်း စက္ကန့်ပိုင်းမျှကြာအောင် မရပ်တည်နိုင်၊ ခဏမစဲ တဖွဲဖွဲ ဖြစ်ပြီးနောက် ချက်ချင်းပျက်စီး၏။ ရုပ်၌ ခိုင်မာသော အနှစ်သာရသဘော မရှိချေ။ ထို့ကြောင့် ဗုဒ္ဓ၏ တပည့်သာဝကတို့သည် ရုပ်ကို အတ္တဟု မစွဲလမ်းကြချေ။

ရုပ်ကို အတ္တဟု စွဲယူသော ရုပ်ဝါဒီတို့ကား ဤရုပ်ခန္ဓာကိုယ်ကြီး တည်ရှိနေသရွေ့ ကာလပတ်လုံး ငါရှိ၏၊ အသက်ရှိ၏၊ ရုပ်ခန္ဓာကိုယ်ကြီး ပျက်စီးသွားသောအခါ ငါဟူ၍ မရှိ၊ အသက်ဟူ၍ မရှိ၊ ငါသည် ဤဘဝ မှာပင် ပြတ်စဲလေ၏။ နောက်ဘဝသို့ ကူးပြောင်းခြင်း မရှိဟု ယူဆ၏။ (ဥစ္ဆေဒရုပ်ဝါဒီ)

အချို့သော ရုပ်ဝါဒီ (ကဏာဒဂိုဏ်းသား) တို့ကား ခြေ၊ လက်၊ ခေါင်း၊ ခါး စသော အင်္ဂါအစိတ်အပိုင်းများ စုပေါင်းထားသော ဤရုပ်ခန္ဓာကိုယ် ကြီးကို 'အတ္တ' (အခိုင်အမာ) ဟူ၍ မယူဆချေ။ ရုပ်သွင်ပုံပန်း သဏ္ဌာန်ကို မြင်တွေ့ရသော ရုပ်ဝတ္ထုအကြီးစားများသည် အဏုမြူ (ရုပ်မှုန့်ငယ်) များကို စုပေါင်းထားခြင်းဖြစ်၍ ပြိုကွဲပျက်စီးတတ်၏၊ ပြောင်းလဲတတ်၏။ အခြေခံ မူရင်းကျသော အဏုမြူ (ရုပ်မှုန့်ငယ်) များသည်ကား ပြိုကွဲပျက်စီးခြင်း မရှိဟု ဆိုကြ၏။ ရေဓာတ်အဏုမြူ၊ မြေဓာတ် အဏုမြူ၊ မီးဓာတ်အဏုမြူ၊ လေဓာတ်အဏုမြူ ဟူ၍ လေးမျိုးရှိရာ ထိုအဏုမြူဓာတ်တို့ ပေါင်းစပ်ပူးတွဲ ရာ၌ အချိုးအဆ အမျိုးမျိုးဖြင့် ပေါင်းစပ်ခြင်းကြောင့် ရေ မြေ တော တောင် သစ်ပင် ပိုးမွှား တိရစ္ဆာန် သား ငှက်တိရစ္ဆာန် လူ စသည်ဖြင့် အမျိုးမျိုး ဖြစ်ပေါ်လာကြသည်ဟု ဆို၏။ သက်ရှိသက်မဲ့ အရာဝတ္ထုများ ပြိုကွဲပျက်စီး သောအခါ မူလအဏုမြူ (ရုပ်မှုန့်ငယ်) များအဖြစ်သို့ ပြန်လည်ရောက်ရှိ သွားကြသည်။ ထို့ကြောင့် မူလအခြေခံဓာတ်ဖြစ်သော အဏုမြူ (ရုပ်မှုန့် ငယ်) များသည် မပျက်မစီး အမြဲတည်ရှိ၍ ခိုင်မာသော အနှစ်သာရဖြစ် သောကြောင့် 'အတ္တ' ဖြစ်သည်ဟု ယူဆကြ၏။ (ဧကစ္စသဿတရုပ်ဝါဒီ)

**နာမ်ဝါဒီ၏အတ္တ။** ။အတ္တသည် ပြုလုပ်ဖန်တီးတတ်သည်၊ သွားတတ် သည်၊ စားတတ်သည်၊ ခုတ်ထစ် ရိုက်နှက် သတ် ဖြတ်တတ်သည်။ ထိုသို့ ပြုလုပ်တတ်သော အစွမ်းသတ္တိကို အတ္တဟု ယူဆ ကြ၏။ (သင်္ခါရကို အတ္တစွဲခြင်း)

အချို့က ပြုလုပ် ဖန်တီးမှုသည် အတ္တနှင့် မဆိုင်၊ ပြင်ပ ဗဟိဒ္ဓ အကြောင်းတရားများက ကူညီထောက်ပံ့ရ၏။ အကြောင်းညီညွတ်မှသာ

ပြုလုပ်နိုင်၏။ ထို့ကြောင့် ပြုလုပ်ခြင်းသည် အတ္တနှင့် မဆိုင်၊ အတ္တသည် ဘာကိုမျှ မလုပ်တတ် (အကိရိယ)ဟု ယူဆ၏။

အချို့က ချမ်းသာကို ခံစားတတ်သော သဘော၊ ဆင်းရဲကို ခံစားတတ်သော သဘောသည် အတ္တမည်၏ဟု ဆိုကြ၏။ မကောင်းမှု ပြုလုပ်လျှင် ထိုပြုလုပ်သူ (အတ္တ)သည် မကောင်းကျိုး (ဆင်းရဲဒုက္ခ)ကို ခံစားရ၏။ ကောင်းမှုပြုလျှင် ထိုပြုလုပ်သူ (အတ္တ)သည် ကောင်းကျိုး (ချမ်းသာသုခ)ကို စံစားရသည်ဟု ယူဆ၏။ ခံစားတတ်သောသဘော (ဝေဒနာ)ကို ငါ (အတ္တ)ဟု စွဲယူ၏။

အချို့က မှတ်သားတတ်သော သညာကို 'အတ္တ'ဟု စွဲယူ၏။ ခံစားစံစား တွေ့ကြုံရသမျှ သိသမျှကို မှတ်သားတတ်သောသဘော (သညာ)ကို အတ္တဟု စွဲယူကြ၏။

အချို့က အတ္တကို မိမိလိုရာကို ဖြစ်စေနိုင်၏။ မိမိကိုယ်ကို အစိုးရ၏။ ချမ်းသာခံစားမှု (သုခဝေဒနာ)၊ ဆင်းရဲခံစားမှု (ဒုက္ခဝေဒနာ)တို့သည် လိုတိုင်းမဖြစ်နိုင်၊ အကြောင်းညီညွတ်မှသာ ဖြစ်ပေါ်ရ၏။ ထိုသို့မပိုင်စိုးသောကြောင့် ဝေဒနာသည် အတ္တမဟုတ်၊ မှတ်သားမှု (သညာ)သည်လည်း လိုတိုင်းမရ၊ မမှတ်စေချင်၍ မေ့ပစ်လိုသော အကြောင်းအရာကို မှတ်သားထားမိပြန်သည်။ မှတ်စေချင်သော အကြောင်းအရာကို မေ့ပစ်တတ်၏။ ထိုသို့ မပိုင်စိုးသော သညာသည်လည်း အတ္တမဟုတ်နိုင်။ ပြုလုပ်မှု (သင်္ခါရ)သည်လည်း မပိုင်စိုးသောကြောင့် အတ္တမဟုတ်။ သိမှုဝိညာဏ်သည်ကား အရာရာတိုင်း၌ ပါဝင်နေသောကြောင့် အတ္တဖြစ်သည်ဟု ယူဆ၏။ ခံစားသောအခါ၌လည်း သိမှုပါဝင်နေ၏။ မှတ်သားသောအခါ၌လည်း သိမှုပါဝင်နေ၏။ ပြုလုပ်သောအခါ၌လည်း သိမှုပါဝင်နေ၏။ သိမှု (ဝိညာဏ်)သည်ကား အမှုကိစ္စအားလုံး၌ ပါဝင်နေသောကြောင့် ဝိညာဏ်ကိုသာ (အတ္တ)ဟု ယူဆကြ၏။

အချို့က အတ္တသည် သိတတ်သောသဘော မရှိ၍ ဝိညာဏ်ကိုလည်း အတ္တဟု မခေါ်လိုကြချေ။ ယခုပြခဲ့သော ရုပ် ဝေဒနာ သညာ သင်္ခါရ ဝိညာဏ် ဟူသော ခန္ဓာငါးပါးမှ အလွတ်ဖြစ်သည်ဟု ယူဆကြ၏။

အတ္တအစစ်သည် အခြားဘာကိုမျှ မသိတတ်သော သဘောရှိ၏။ သိမှု ရှိနေပါက အကောင်းအဆိုး ခွဲခြားဦးမည်။ ချစ်ခြင်း, မုန်းခြင်း, ကြိုက်, မကြိုက် ဖြစ်ပေါ်လာနိုင်သည်။ ထို့ကြောင့် အတ္တသည် မိမိကိုယ် (အတ္တ) ကိုသာ ပြန်လည်သိနေ၍ အခြားအကြောင်းအရာကို လုံးဝ မသိတတ်ဟု ဆိုကြပြန်၏။ ထိုအတ္တသည် ခံစားခြင်း, မှတ်သားခြင်း, ပြုလုပ်စီမံခြင်း, ပြင်ပအာရုံကို သိခြင်းများ လုံးဝမရှိ။ အတ္တသည် အရှိသဘော အရှိ သဘာဝ သက်သက်မျှသာ ဖြစ်၏။ အတ္တသည် တည်ရှိရုံ သက်သက်မျှ သာဖြစ်၍ ထိုထက်မပိုဟု ဆိုကြသည်။

ရုပ်အတ္တကို ပယ်ဖျက်ခြင်း။ ။အတ္တ၏ သဘာဝမှာ ခိုင်မာခြင်း၊ ပိုင်စိုးခြင်းဖြစ်သည်ဟု သတ်မှတ်ကြ၏။ ခန္ဓာငါးပါးကို စစ်ဆေးကြည့်သောအခါ ထိုသတ်မှတ်ချက်နှင့် မညီသည်ကို တွေ့ရ၏။ ရုပ်သည် ငါတကော ကောချင်၍ မရ၊ အခြားအကြောင်း တရားများကို ငဲ့ကွက်နေရ၏။ အကြောင်းညီညွတ်ပါမှ ဖြစ်ပေါ်နိုင်၏။ ထို့ကြောင့် ရုပ်သည် ပိုင်စိုးခြင်းမရှိ၊ ခဏမစဲ တဖွဲဖွဲ ဖြစ်နေသောကြောင့် ခိုင်မာတည်မြဲမှု မရှိ။ ထို့ကြောင့် ရုပ်ကို အတ္တစွဲခြင်းသည် မှန်ကန်သော ကြောင့် မဟုတ်၊ အကြိုက်က ဦးဆောင်နေသောကြောင့် ဖြစ်၏။ ရုပ်ကို ကြိုက်သောကြောင့် ရုပ်ကို အတ္တဟု စွဲခြင်းဖြစ်သည်။

ကဏာဒဂိုဏ်းသားတို့က ရုပ်အဏုမြူများသည် မပျက်မစီး အမြဲ တည်သောကြောင့် အတ္တဖြစ်သည်ဟု ဆိုကြ၏။ မြဲသောအကြောင်းမှ မြဲသော အကျိုးသာ ပေါ်ထွက်လာရမည်။ ထို့ကြောင့် မြဲသော ရုပ်အဏုမြူ တို့ဖြင့် တည်ဆောက်ထားသော ဤလောကရှိ အရာဝတ္ထုအားလုံးလည်း မြဲရပေမည်။ လက်တွေ့အားဖြင့်ကား မမြဲဘဲ ပျက်စီးနေသည်ကို တွေ့ရ သည်။ မြဲသော အကြောင်းတရားက မမြဲသော အကျိုးတရားကို ဖြစ်စေ သည်ဟု ဆိုလျှင် အကြောင်းအကျိုး မဆီလျော်ချေ။ အကျိုးတရားသည် ပျက်တတ်သောသဘောရှိလျှင် ၎င်း၏ အကြောင်းတရားသည်လည်း ပျက်တတ်သောသဘော ဧကန်ရှိရပေမည်။ သေမျိုးဖြစ်သော မိဘနှစ် ပါးမှ မွေးသူသည် သေခြင်းသဘောမှ မလွတ်နိုင်။ သားသမီးများသည်

သေမျိုးဖြစ်လျှင် မိဘလည်း သေမျိုးဖြစ်ရပေမည်။ ထို့ကြောင့် လောက သည် ပျက်တတ်လျှင် ထိုလောက၏ အခြေခံ အဏုမြူ (ရုပ်မှုန့်ငယ်)များ သည်လည်း ပျက်တတ်သောသဘောရှိ၏ဟု သိသင့်၏။

ထို့ပြင် အကျိုးတရားကို ဖြစ်ပေါ်စေရာ၌ မူလအကြောင်းတရား ဖောက်ပြန်ပြီးမှ အကျိုးကို ပေါ်ထွက်စေနိုင်၏။ သစ်စေ့မှ အညှောက် ပေါက်ရာ၌ အညွန့်, အညှောက် ပေါ်ထွက်သည်နှင့် တစ်ပြိုင်နက် အစေ့ သည် မူလအခြေမှ ဖောက်ပြန်၍ ပျက်စီးလေပြီ။ အပျိုရည် မပျက်ဘဲ သားသမီးမွေးချင်ပါသည် ဆို၍ မဖြစ်နိုင်သကဲ့သို့ အကျိုးတရားကို ဖြစ် စေရာ၌ အကြောင်းတရားသည် တစ်စုံတစ်ခုပြောင်းလဲမှု ဖြစ်ရလေ သည်။ မပြောင်းလဲပါက မူလအကြောင်းအတိုင်းပင် တည်ရှိနေ၍ အကျိုး ဟု မခေါ်နိုင်ချေ။ ကြက်ဥသည် ကြက်ကောင် ဖြစ်မလာဘဲ မူလအတိုင်း တည်ရှိနေပါက အကြောင်း အကျိုးဟု ခွဲခြား မပြောနိုင်ချေ။ မူလကြက် ဥကို ခွဲထွက်၍ ကြက်ကောင်ငယ် အပြင်ရောက်လာသော အခါမှသာ လျှင် ကြက်ဥသည် အကြောင်း, ကြက်ကောင်ငယ်သည် အကျိုးဟု အကြောင်းအကျိုး ခွဲခြားပြောဆိုနိုင်၏။ ထို့ကြောင့် မူလအခြေခံ အဏုမြူ (ရုပ်မှုန့်ငယ်) များ မပျက်မစီး မဖောက်ပြန်ပါက ဤလောကကြီး ဖြစ် မလာနိုင်ချေ။ မူလအတိုင်းပင် ဆက်လက်တည်ရှိနေရပေမည်။

ထို့ကြောင့် ဤလောကကြီးသည် အဏုမြူမှ ဖြစ်လာသည်ဟုဆိုလျှင် ထိုအဏုမြူများသည် တစ်စုံတစ်ခုသော အတိုင်းအတာအထိ ပြောင်းလဲ ဖောက်ပြန်မှုရှိရမည် ဧကန်ဖြစ်ပေသည်။ ထို့ကြောင့် ကဏာဒဂိုဏ်းသား များ ပြောသော အဏုမြူများသည် မပျက်မစီး အမြဲတည်သည်ဟူသော အဆိုမှာ ထင်ရာမြင်ရာ မှန်းဆကြံစည်ချက်များသာ ဖြစ်၏။ လက်တွေ့ စမ်းသပ်၍ မပြနိုင်သောကြောင့် ပယ်ဖျက်အပ်၏။

**နာမ်အတ္တကို ပယ်ဖျက်ခြင်း။** ။ဆင်းရဲ ံစားမှု၊ ချမ်းသာခံစားမှု (ဝေဒနာ)သည် အမြဲမတည်နိုင်၊ ခဏ မစဲ ပြောင်းလဲ ဖောက်ပြန်နေသည်ကို မည်သူမျှ မငြင်းနိုင်၊ သညာ,

သင်္ခါရတို့သည်လည်း အမြဲမဘည်နိုင်၊ အခြားသော အကြောင်းတရားများကို ငဲ့ကွက်နေရ၍ အကြောင်းညီညွတ်မှ ဖြစ်ပေါ်သောကြောင့် မပိုင်စိုး။ ထိုသို့ မမြဲခြင်း၊ မပိုင်စိုးခြင်း၊ လိုတိုင်းမရခြင်းကြောင့် 'အတ္တ' (ငါ) မဟုတ်။ ဝိညာဏ်သည်လည်း အမျိုးမျိုး ရွေ့ပြောင်း သိနေရ၏။ အကယ်၍သာ ဝိညာဏ်သည်လည်း မပျက်မစီး အမြဲတည်နေပါက စက္ခုဝိညာဏ် (မြင်သိ) စိတ်သည် မပျောက်ပျက်တော့သဖြင့် သောတဝိညာဏ် (ကြားသိ) စိတ် ဖြစ်ပေါ်ခွင့် မရှိတော့ချေ။

မြင်သိစိတ်၊ ကြားသိစိတ်၊ နံသိစိတ်တို့သည် တစ်ပြိုင်တည်း မဖြစ်နိုင်၊ တစ်ခုပြီးမှတစ်ခု ဖြစ်လေ့ရှိ၏။ ဝိညာဏ်သည် အမြဲတည်နေပါက မြင်လျှင် မြင်မှုသည် မဆုံးတော့ဘဲ အမြဲတမ်း မြင်နေရတော့သည်။ လက်တွေ့ဘဝ၌ကား ခဏမစဲ ဖြစ်ပျက်ပြောင်းလဲနေသည်ကိုသာ တွေ့နေရ၏။ ထို့ကြောင့် ဝိညာဏ်သည် မမြဲသောကြောင့် အတ္တ မဖြစ်နိုင်၊ သိမှု ဝိညာဏ်သည် အကြောင်းတစ်ပါးကို ငဲ့ကွက်ရသေး၏။ အလင်းရောင်မရှိသော အမှောင်ထုအတွင်း၌ မြင်သိစိတ် ဖြစ်ချင်သော်လည်း မဖြစ်နိုင်။ ထိုသို့ အကြောင်းညီညွတ်မှ ဖြစ်ပေါ်လေ့ရှိသောကြောင့် ဝိညာဏ်ကို ပိုင်စိုးရန် မဖြစ်နိုင်။ ထိုသို့ မပိုင်စိုးသော်ကြောင့် ဝိညာဏ်သည် 'အတ္တ' မဟုတ်နိုင်။

**ရှိရုံမျှရှိနေသောအတ္တ။** ။အထက်ဖော်ပြပါ ခန္ဓာငါးပါးကို 'အတ္တ'ဟု စွဲယူရန် မဖြစ်နိုင်သောအခါ အတ္တသည် ခန္ဓာငါးပါးမှ အလွတ်ဟုဆိုကြ၏။ သဿတဘာသာသူ တည်ရှိ၍ ဤလောကတွင် ခန္ဓာငါးပါးနှင့် ဆက်စပ်မှုမရှိဟု ဆိုကြပြန်သည်။ ခန္ဓာငါးပါးသည် ပျက်စီးတတ်သော အနိစ္စတရားဖြစ်၍ အတ္တသည် ထိုခန္ဓာငါးပါးနှင့် တစ်စုံတစ်ရာ ပတ်သက်နေသေးသည်ဆိုပါက ထိုအတ္တလည်း ပျက်စီးခြင်းသဘောမှ မလွတ်နိုင်ချေ။ ထိခိုက်မှုရှိနိုင်၏။ ဘာမျှမပတ်သက်ဘဲ သဿတဘာသာသူ တည်ရှိရုံမျှသက်သက် တည်ရှိနေသည် ဆိုပါကထို အတ္တသည် ကျွန်ုပ်တို့နှင့် ဘာမျှမဆိုင်တော့သဖြင့် အရေးစိုက်ရန် မလိုတော့ချေ။ ၃၁

ဘုံမှ အလွတ်ပြင်ပ၌ ခေါက်ထားလိုက်ရုံသာ ရှိ၏။ ဤလောကရှိ ခန္ဓာငါးပါးနှင့် တစ်စုံတစ်ရာ ပတ်သက်မှုမရှိဘဲ သူ့ဘာသာသူ တည်ရှိနေသော 'အတ္တ'ကို ရှိသည်ဟူ၍လည်းကောင်း၊ မရှိဘူးဟူ၍လည်းကောင်း မည်သည့်အထောက်အထားဖြင့် ပြမည်နည်း။ ပြောဆိုသူသည် ထိုအတ္တမျိုးကို မည်သည့်နည်းဖြင့် သိ၍ပြောသနည်း၊ မှန်းဆချက်၊ တွေးဆချက် တစ်ရပ်မျှသာ ဖြစ်ရပေမည်။

အချို့က အတ္တ ရှိကြောင်းကို ဤသို့ သက်သေပြကြ၏။ ရုပ်ရှိသောကြောင့်သာ ရုပ်ကိုသိသော အသိစိတ် ဖြစ်ရသည်၊ ဝေဒနာရှိသောကြောင့် ဝေဒနာကို သိသော အသိစိတ် ဖြစ်ရသည်။ ထိုနည်းအတူ သတ္တဝါတိုင်း၌ ငါ (= အတ္တ) ရှိသောကြောင့်သာ သတ္တဝါတိုင်းမှာ 'ငါ ငါ'ဟု သိသော အသိစိတ်ဖြစ်ရသည်။ ထို့ကြောင့် 'ငါ'ကို သိခြင်းသည် 'ငါ'ရှိသောကြောင့်သာ ဖြစ်ရပေမည်။ ထို့ကြောင့် ငါ (အတ္တ)သည် အမှန်တကယ်ရှိ၏ဟု သက်သေပြကြ၏။ ဤအကြောင်းပြချက်မှာလည်း မခိုင်လုံချေ၊ လောက၌ 'မရှိသော အရာဝတ္ထုများကိုလည်း သိနိုင်၏။

ဥပမာ 'ယုန်ချို၊ လိပ်မွေး၊ အမြုံမ၏သား'တို့ကို လူ၏ အသိဉာဏ်ဖြင့် သိ၍ ရသော်လည်း ယင်းအသိစိတ်၏ အသိခံ အာရုံများကား တကယ်မရှိချေ။ ထို့ပြင် စိတ်သည် မရှိခြင်းသဘောကိုလည်း သိတတ်၏။ အိမ်တစ်ဆောင်အတွင်းသို့ ဝင်သွားသောအခါ ထိုအိမ်၌ ရေဒီယိုကို မမြင်ရလျှင် 'ဤအိမ်၌ ရေဒီယိုမရှိ' ဟု သိ၏။ ဤကား နှိုင်းယှဉ်စဉ်းစား၍ သိသော အသိမျိုးဖြစ်၏။ တစ်ဖန် 'သိလျှင် ရှိရမည်'ဟု ဆိုပါက 'ငါ'ကို စကားပြောဖက် လူတစ်ယောက်က 'ငါ'ကို 'သူ'ဟူ၍ ပြောဆိုသုံးနှုန်း၏။ ထို့ကြောင့် 'ငါ'သည် ပရမတ္ထအားဖြင့် ရှိသည်ဟု ဆိုလျှင် 'သင်, သူ' တို့သည်လည်း ပရမတ္ထအားဖြင့် ရှိသည်ဟု ဆိုရပေမည်။ ပုဂ္ဂိုလ်တစ်ဦးတည်းက 'ငါ'ဖြစ်လိုက် 'သင်'ဖြစ်လိုက်၊ 'သူ'ဖြစ်လိုက် အမျိုးမျိုး ပြောင်းလဲနေပါလျက် 'ငါ'သည် တကယ်ရှိသော အတ္တဖြစ်နိုင်ပါမည်လော၊ ထို့ကြောင့် ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူတစ်ပါး၊ ယောကျ်ား, မိန်းမ စသော

ဝေါဟာရစကားလုံးများသည် လောကလူသားတို့ အချင်းချင်း ဆက်သွယ်ပြောဆိုရာ၌ လွယ်ကူစေရန် သတ်မှတ်ထားသော ဝေါဟာရများသာ ဖြစ်ကြကုန်၏။ သမ္မုတိသစ္စာမျှသာဖြစ်၍ ပရမတ္ထသစ္စာ မဟုတ်ကုန်။ ထို့ကြောင့် 'ငါ'ကို သိ၍ ရသော်လည်း 'ငါ'သည် တကယ်မရှိချေ။

## ရုပ်နာမ်ရောသော အတ္တဝါဒ (ပကတိ + ပုရိသ)

ကပိလရသေ့၏ သင်္ချာဝါဒအရ အတ္တသည် ရုပ်နာမ် နှစ်ပါးစုံ ဖြစ်၏။ အတ္တကို ကြံဆရာ၌ တရား (၂၅)ပါးဖြင့် ဖြေရှင်းပြလေသည်။ သက်မဲ့ရုပ်ဝတ္ထုများနှင့် သက်ရှိသတ္တဝါ၏ ရုပ်နာမ်များသည် နူးညံ့သိမ်မွေ့သော ရုပ်နာမ် နှစ်ခုတွဲမှ ဖြစ်ပေါ်လာသည်ဟု ဆို၏။ တေဇော၊ အာကာသ၊ ပထဝီ၊ အာပေါ၊ ဝါယော ဟူသော ဓာတ်ကြီးငါးပါးသည် အကြမ်းစားရုပ်များ ဖြစ်ကြ၍ အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့၊ အထိဟူသော အနုစားရုပ်များမှ ဖြစ်ပေါ်လာကြသည်ဟု ဆို၏။ ဤ အဆင်း၊ အသံ စသော ရုပ်နုငါးပါးကို 'တမ္မတြ'ဟု ခေါ်၏။ (တံ + မတ္တ = တံ=ထို + မတ္တ=မျှ။ ထိုအရာမျှသာ၊ ဘာဟူ၍ သဲသဲကွဲကွဲ မပြောနိုင်အောင် သိမ်မွေ့သည့်အခြေအနေ) တစ်ဖန် သက်ရှိသတ္တဝါတို့၌ အသိဉာဏ်ဖြစ်ရန် အင်္ဂါအစိတ်အပိုင်း (ဗုဒ္ဓိန္ဒြေ)နှင့် လုပ်ကိုင်ဆောင်ရွက်ရန် အင်္ဂါအစိတ်အပိုင်း (ကမ္မိန္ဒြေ) ဟူ၍ ဣန္ဒြေနှစ်မျိုး ခွဲခြား၏။

ဗုဒ္ဓိန္ဒြေငါးပါး = စက္ခု သောတ ဃာန ဇိဝှါ ကာယ
= မျက်စိ နား နှာခေါင်း လျှာ ကိုယ်။
(ဗုဒ္ဓိ + ဣန္ဒြေ = အသိဉာဏ်ဖြစ်ရန် အင်္ဂါအစိတ်အပိုင်း)

ကမ္မိန္ဒြေငါးပါး = ပါးစပ် လက် ခြေ ကျင်ကြီးစွန့်ရန် အပေါက်အင်္ဂါဇာတ်။
(ကမ္မ+ဣန္ဒြေ=အလုပ်လုပ်ရန် အင်္ဂါအစိတ်အပိုင်း)

ဥဘယိန္ဒြေတစ်ပါး= မန = မနောစိတ်။

(ဥဘယ+က္ကန္ဒြေ = အသိဉာဏ်နှင့် အလုပ်လုပ်ရန် နှစ်မျိုးလုံးဆိုင်သော အင်္ဂါ အစိတ်အပိုင်း)

ဤသို့လျှင် စုစုပေါင်း က္ကန္ဒြေ ၁၁ ပါးရှိ၏။

ဤက္ကန္ဒြေ ၁၁ ပါးသည် လည်းကောင်း၊ တမ္မတြတရား ငါးပါးသည် လည်းကောင်း 'အဟံကာရ'မှ ပေါ်ထွက်လာကြ၏။ အဟံကာရအတွင်း၌ သတ္တဓာတ်သဘော လွန်ကဲသောအခါ ထို 'အဟံကာရ'မှ က္ကန္ဒြေ ၁၁ ပါး ဖြစ်ပေါ်၍ သတ္တဝါဟူ၍ ပေါ်ပေါက်လာ၏။ အဟံကာရအတွင်း၌ 'တမ' ဓာတ်သဘာဝ လွန်ကဲသောအခါ ထို 'အဟံကာရ'မှ 'တမ္မတြ' ငါးပါး၊ မဟာဘူတရုပ်ဓာတ်ကြီးငါးပါးတို့ ဆက်ကာဆက်ကာ ပေါ်ပေါက်လာကြ ကုန်၏။ 'အဟံကာရ' တစ်မျိုးတည်းမှ သတ္တဝါအဖြစ်သို့လည်းကောင်း၊ ဗဟိဒ္ဓ ရုပ်ဝတ္ထုအဖြစ်သို့လည်းကောင်း ပြောင်းလဲဖြစ်ပေါ်ကြကုန်၏ဟု ကြံစည် ရှင်းပြလေသည်။ အဟံကာရသည်လည်း 'မဟတ်'ခေါ်သော တရားမှ ပေါ်ထွက်လာ၏။ 'မဟတ်'ကား ပကတိနှင့်ပုရိသတို့ ပေါင်းဆုံ ရာမှ ဖြစ်ပေါ်လာခြင်းဖြစ်၏။ နောက်ဆုံး အသိမ်မွေ့ဆုံး အခြေခံတရား များမှာ ပကတိနှင့်ပုရိသဟူ၍ နှစ်ပါးရှိသည် ဆို၏။ ပုရိသသည် ဘာကိုမျှ မပြုတတ်၊ မခံစားတတ်၊ ထိခိုက်လှုပ်ရှားမှုမရှိ သိရုံသက်သက်မျှ သိနေ၏။ ခံစားခြင်း၊ လှုပ်ရှားခြင်း၊ ပြုလုပ်ခြင်းတို့သည် ပုရိသနှင့် ပေါင်းစပ် ထားသော ပကတိ၏ အစွမ်းသတ္တိများသာ ဖြစ်ကုန်၏။ ပကတိသည် ပုရိသနှင့်မပေါင်းဘဲ မိမိဘာသာ သီးခြားတည်ရှိနေပါက ဘာမျှ မလုပ် တတ်ဘဲ ငြိမ်သက်စွာ တည်နေ၏။ ပကတိ၌ သတ္တ၊ ရဇ၊ တမ ဟူသော ဂုဏ်သုံးပါးရှိ၏။ သတ္တသည် သုခ၏အကြောင်း၊ ရဇသည် ဒုက္ခ၏ အကြောင်း၊ တမသည် ဥပေက္ခာ၏အကြောင်း ဖြစ်သည် ဆို၏။ သတ္တ သည် ထင်ရှားတည်ရှိနေနိုင်ခြင်းသဘောရှိ၏။ ရဇသည် လှုပ်ရှားသော သဘောရှိ၏။ တမသည် ရစ်တန့်ခြင်းသဘောရှိ၏။ ထိုဂုဏ်သုံးပါးတို့သည် အညီအမျှ တည်ရှိနေကြသောအခါ ဟန်ချက်ညီနေ၍ ပကတိသည် ငြိမ် သက်နေ၏။ ထိုပကတိကို ပုရိသနှင့် ပေါင်းစပ်လိုက်သောအခါ ပကတိ

အတွင်းရှိ ဂုဏ်သုံးပါးသည် လွန်ကဲမှု၊ ဆုတ်ယုတ်မှုဖြစ်၍ ချောက်ချား သွား၏။ ထိုအခါ ပကတိ ပုရိသ နှစ်ခုပေါင်းမှ 'မဟတ်'အဖြစ်သို့ ပြောင်း လဲ၏။ 'မဟတ်'မှ 'အဟံကာရ' စသည်တို့ ပြောင်းလဲဖြစ်ပေါ် တိုး တက် လာသည်ဟု ဤလောကနှင့် သတ္တဝါတို့ ဖြစ်ပေါ်ပုံကို ရှင်းပြပါသည်။

**ပကတိဝါဒ ပယ်ဖျက်ခြင်း။** ။ထိုရှင်းလင်းချက်သည်လည်း စိတ်ကူး ယဉ်သက်သက်မျှသာဖြစ်၏။ ကပိလ ဆရာကြီး ပြောသော ပကတိနှင့် ပုရိသသည် စိတ်ကူးယဉ် မှန်းဆချက် သက်သက်မျှသာ ဖြစ်သည်။ ပကတိ၌ ဂုဏ်သုံးပါး ပါဝင်သည်ဆိုပါက သုံးခုပေါင်းထားခြင်းဖြစ် ပေမည်။ သုံးခုပေါင်းထားလျှင် ပကတိသည် မူလ အခြေခံနောက်ဆုံး အမာခံ မဟုတ်သေးချေ။ ပကတိတစ်ခုမှ သုံးခု ကွဲထွက်သွားနိုင်၏။ ပကတိနှင့်ပုရိသသည် ခိုင်မြဲ၍ ၎င်းတို့မှ ဖြစ်ပေါ် လာသော မျက်စိ, နားစသော ဣန္ဒြေများ၊ ပါးစပ် လက်စသော ကမ္မိန္ဒြေ များ၊ ပထဝီစသော ရုပ်များသည် ပျက်စီးတတ်သည်၊ မမြဲဟု ဆိုလျှင် အကြောင်းအကျိုး ဆီလျော်မှု မရှိချေ။ မြဲသောတရားမှ မမြဲသောတရား ဖြစ်ပေါ်မလာနိုင်။ ထို့ပြင် အကျိုးတရားများကို ဖြစ်စေသည် ဆိုပါက မူလအကြောင်းတရား (ပကတိ+ပုရိသ)၌ တစ်စုံတစ်ခု ထူးခြားဖောက် ပြန်မှု ရှိရပေမည်။

တစ်ဖန် အကြောင်းနှင့် အကျိုးသည် လုံးဝ ကွဲပြားခြားနားသည် မဟုတ်၊ မထင်ရှားရာမှ ထင်ရှားလာခြင်းကိုသာ အကြောင်းမှ အကျိုး ဖြစ်သည်ဟု ဆိုပြန်ပါကလည်း အပြစ်မလွတ်ချေ။ မထင်ရှားရာမှ ထင် ရှားလာခြင်းသည် တစ်စုံတစ်ခုသော အတိုင်းအတာအားဖြင့် ပြောင်းလဲ ဖောက်ပြန်မှုသာဖြစ်ကြောင်း မငြင်းသာချေ၊ ထို့ကြောင့် ကပိလဆရာ ကြီးပြောသော ပကတိနှင့်ပုရိသသည်လည်း အားကိုးအားထားပြုလောက် အောင် ခိုင်မြဲသော မပျက်မစီး အမြဲတည်သော 'အတ္တ' မဖြစ်နိုင်ချေ။

အကယ်၍ ပကတိဟု ခေါ်သော အကြောင်းတရား တစ်ခုတည်းမှ သက်ရှိ သက်မဲ့ လောက ဖြစ်ပေါ်လာသည်ဟု ဆိုပါက လောကသည်

အမျိုးမျိုး ထူးထွေကွဲပြားမှု မရှိတော့ဘဲ ပုံစံတူ ဆင်တူချည်းသာ ဖြစ်လေရာ၏။

## ကပိလမုနိ၏ စကြဝဠာ အခြေခံ
## သဘာဝတရား ၂၅ ပါး




### အမာခံအနှစ်သာရ(တည်ရာမှီရာ) (Substratum)

လောက၌ အဖြူ, အနီ စသော အဆင်း၊ အဝိုင်း၊ လေးထောင့် စသော ပုံသဏ္ဌာန်စသည်တို့ကို ဂုဏ် (Quality)ဟု ခေါ်ကြ၏။ ထိုဂုဏ်သည် တစ်စုံတစ်ခုသော အမာခံဖြပ် (Substance)ကိုမှီ၍ တည်သည်ဟု ယူဆကြ၏။ အဖြူရောင်သည် အရောက်သက်သက် မတည်ရှိနိုင်။ ထုံးကျောက်, ထုံးမှုန့် စသော ဖြပ်ဝတ္ထုကို မှီ၍ တည်နေရ၏။ အဝိုင်း၊ လေးထောင့် စသော ပုံသဏ္ဌာန်များသည်လည်း သစ်သား, သံ, ကျောက်

စသော ဒြပ်ဝတ္ထုကိုမှီ၍ တည်နေကြသည်ဟု ဆိုကြ၏။ ထိုနည်းအတူ ဝေဒနာ, သညာ စသော တရားတို့သည် 'အတ္တ'ဟူသော အမာခံဒြပ်ကို မှီ၍ တည်ရသည်ဟု ဆို၏။ စွမ်းအင် (သတ္တိ) သည်လည်း ဒြပ်ဝတ္ထုမှ ထွက်ပေါ်လာသည်။ ယမ်းမှုန့်, ယမ်းခဲတည်းဟူသော ဒြပ်ဝတ္ထုမှပေါက်ကွဲမှု စွမ်းအင်ပေါ်ထွက်လာသည်။ ထို့ကြောင့် ဝေဒနာ, သညာ, သင်္ခါရ ဝိညာဏ်တို့သည် 'အတ္တ'ဟူသော အမာခံဒြပ်မှ ပေါ်ထွက်လာသော စွမ်းအင်များ ဖြစ်ကြသည်ဟု ဆို၏။

**စိစစ်ချက်**

ဝေဒနာသည် သုခဝေဒနာ၊ ဒုက္ခဝေဒနာ၊ ဥပေက္ခာဝေဒနာ စသည်ဖြင့် အမျိုးမျိုးကွဲပြား၏။ ထိုဝေဒနာတို့သည် 'အတ္တ'တစ်ခုတည်းကို မှီတည်နေကြ၍ ထိုအတ္တမှပေါ်ထွက်လာကြသည်ဆိုလျှင် သုခနှင့် ဒုက္ခ တစ်ပြိုင်နက်တည်း ဖြစ်ပေါ်လေရာ၏။ မကွယ်ပျောက်ဘဲ အမြဲတမ်း တည်ရှိနေလေရာ၏။ ထိုသို့ဖြစ်သည်ကို မတွေ့ရချေ။ အတ္တမှ သုခ ဒုက္ခ များ ဖြစ်ပေါ်ရန် မျက်စိ နား စသော အင်္ဂါများနှင့် ရူပါရုံ သဒ္ဒါရုံ စသော အကြောင်းတရား အကူအညီများကို ငဲ့ကွက်နေရသည်။ ထို့ကြောင့် 'အတ္တ'သည် အပိုသက်သက် ဖြစ်တော့သည်။

သုခဝေဒနာ၊ ဒုက္ခဝေဒနာတို့သည် အတ္တမှ ပေါ်ထွက်လာသည်ဟု ဆိုလျှင် ထိုသုခဒုက္ခတို့ ဖြစ်ပေါ်မှုကြောင့် အတ္တ၌ အတိုးအဆုတ် ထူးခြားမှု တစ်စုံတစ်ခု ရှိရပေမည်။ ထိုသို့ အတိုးအဆုတ်ရှိပါက အတ္တသည် ပျက်စီးခြင်း၊ ဖောက်ပြန်ခြင်း မကင်းသောကြောင့် အတ္တ မဟုတ်နိုင်။ ထိုသို့ ခက်ခဲစွာ ကြံစည်ယူဆအပ်သော အတ္တကို ပရမတ္ထအားဖြင့် တကယ်ရှိကြောင်း မည်သူမျှ စမ်းသပ်မပြနိုင်ချေ။

အတ္တ၏ မပျက်မစီး အမြဲတည်ပုံကို ရွှေဖြင့် ဥပမာပေးကြ၏။ ရွှေလက်ကောက်ကို ရွှေလက်စွပ် ပြုလုပ်ရာ၌ လက်ကောက်သည် ပျက်စီး၍ လက်စွပ်အဖြစ်သို့ ပြောင်းလဲသွား၏။ အမာခံအနှစ်သာရ ရွှေမှာမူကား ပြောင်းလဲခြင်းမရှိချေ။ လက်ကောက်ဘဝမှ ရွှေသည် လက်စွပ်ဘဝ၌

လည်း ရွှေအဖြစ်ဖြင့် ဆက်လက်တည်ရှိနေ၏။ လက်ကောက် လက်စွပ် စသည်တို့သည် ပြင်ပအသွင်အပြင်များဖြစ်၍ ဖောက်ပြန်ပြောင်းလဲတတ်ကုန်၏။ ရွှေမူကား အတွင်းသား အနှစ်သာရဖြစ်၍ ဖောက်ပြန်ခြင်းမရှိ၊ အမြဲတည်၏။ ဤနည်းအတူ သုခ, ဒုက္ခ, သညာ, ဝိညာဏ် စသော တရားများကား ပြင်ပအသွင်များဖြစ်ကြ၍ ဖောက်ပြန်တတ်၏။ တကယ့် အနှစ်သာရ အမာခံ 'အတ္တ'သည်ကား မပျက်မစီး အမြဲတည်၏ဟု ဆိုကြ၏။

ဤဥပမာ၌ ရွှေသည် အမည်နာမ ပညတ်အားဖြင့် ဖောက်ပြန်ပြောင်းလဲခြင်းမရှိသော်လည်း ရွှေ၌ရှိသော ရုပ်သဘာဝများကား ပြောင်းလဲမှုရှိသည်သာဖြစ်၏။ ရွှေလက်ကောက်ကို ရွှေလက်စွပ်ဖြစ်အောင် လုပ်ရာ၌ ရွှေကို အရည်ကျိုရပေမည်။ ထိုအခါ ရွှေဟု ခေါ်သော ဒြပ်ဝတ္ထု၏ အပူအအေး ပြောင်းလဲမှု, မာမှု, ပျော့မှု, အစိုင်အခဲနှင့် အရည်သဘော, ဖွဲ့စည်းမှုနှင့် ယိုစီးမှု, အရောင် အဆင်းတောက်ပမှုနှင့် အရောင်မှိန်မှု, အသံပြောင်းလဲမှု, အနံ့ပြောင်း စသည်ဖြင့် ရွှေရည်ကျိုသောအခိုက်၌ ရုပ်ပိုင်းဆိုင်ရာ ဖောက်ပြန်ပြောင်းလဲမှု ရှိသည်သာ ဖြစ်၏။ ရွှေ ဟူသော အမည်နာမပညတ်သာလျှင် မပြောင်းမလဲဘဲ ဆက်လက်ခေါ်ဝေါ် ပြောဆိုနေခြင်းဖြစ်၏။ ပူမှု အေးမှု မာမှု ပျော့မှု ဖွဲ့စည်းမှု ယိုစီးမှု အဆင်း အနံ့တို့ကို ဖယ်ထုတ်လျှင် ရွှေဟူ၍ ညွှန်ပြရန် မကျန်တော့ချေ။ ထို့ကြောင့် ရွှေဆိုသည်မှာ အထက်ဖော်ပြပါ ရုပ်သဘာဝများကို စုပေါင်း၍ ခေါ်ဝေါ် ပညတ်ထားသော အမည်တစ်ခုသာလျှင် ဖြစ်၏။ မပြောင်းလဲ မဖောက်ပြန်သော ဒြပ်ဝတ္ထုတစ်ခုကိုမျှ ဥဒါဟရဏ်ဆောင်၍ မပြနိုင်သောကြောင့် အမာခံအနှစ်သာရ အတ္တဟူ၍ မရှိဟု မှတ်အပ်၏။

## ဇီဝအတ္တနှင့် ပရမအတ္တ

အတ္တဝါဒကို ယုံကြည်သူတို့သည် အတ္တကို နှစ်မျိုးနှစ်စား ခွဲကြ၏။ သတ္တဝါများ၏သန္တာန်၌ရှိသော အတ္တကို ဇီဝအတ္တဟု ခေါ်ကြ၏။ (ဇီဝ=အသက်) ထိုဇီဝအတ္တများသည် မူလအခြေခံ အတ္တကြီးတစ်ခုမှ ပေါ်

ပေါက်လာကြ၏။ ထိုမူလအခြေခံဝတ္ထုကြီးကို ပရမအတ္တဟု ခေါ်ကြ၏။ ပရမအတ္တသည် သက်ရှိ သက်မဲ့ အရာအားလုံးကို ဖန်ဆင်းသူဖြစ်၏။ အနန္တတန်ခိုးတော်ရှင်ဖြစ်၏။ မွေးဖွားခြင်း သေဆုံးခြင်း မရှိ၊ အဆုံးအစ မရှိ၊ အမြဲတည်၏။ နေရာတိုင်း၌ ပျံ့နှံ့တည်နေ၏။ အစိတ်အပိုင်းဟူ၍ မရှိဘဲ တစည်းတလုံး တစ်ပေါင်းတည်း တစ်ခုတည်းအဖြစ်ဖြင့် တည်နေ၏။ ပရမအတ္တကြီးသည် သတ္တဝါတို့၏ကိုယ်တွင်း၌ ပျံ့နှံ့ဝင်ရောက်တည်နေသည် ဆို၏။ နေသည် တစ်ခုတည်း ရှိသော်လည်း ရေပြည့်အိုး တစ်ရာအတွင်း၌ နေလုံးတစ်ရာ ထင်နေသကဲ့သို့ တစ်ခုတည်းသာ ဖြစ်သော ပရမအတ္တကြီးသည် သတ္တဝါအားလုံး၏ကိုယ်တွင်း၌ ဝင်ရောက်တည်နေသည်ဟု ဆိုကြ၏။ ထိုပရမအတ္တကို ရံခါ 'ဗြဟ္မာ'ဟု ခေါ်ကြ၏။ ရံခါ 'ဣဿရ'ဟု ခေါ်ကြ၏။ ရံခါ 'ပဇာပတိ'ဟု ခေါ်ကြ၏။ ရံခါ 'ပုရိသ' ဟု ခေါ်ကြ၏။

(ဗြဟ္မာ=ကြီးကျယ်မြင့်မြတ်သူ။ ဣဿရ=အစိုးရသူ။ ပဇာပတိ= သတ္တဝါတို့၏အရှင်သခင်)

## ဖန်ဆင်းရှင်ဝါဒကို ပယ်ဖျက်ခြင်း

ဤလောကကြီးကို ပရမအတ္တ=ဗြဟ္မာကြီးက ဖန်ဆင်းသည်ဟု ဆိုရလောက်အောင် အထောက်အထားပြစရာ မရှိချေ။ ဗြဟ္မာကြီး လုပ်ဆောင် ဖန်တီးထားသော အရာဝတ္ထု ဟူ၍ တစ်စုံတစ်ခုမျှ နမူနာပြစရာ မရှိချေ။ မျိုးစေ့များ အပင်ပေါက်ရန် မြေ ရေ အလင်း အပူစသော သဘာဝတရားများက အကူအညီ ပေးနေသည်ကို တွေ့ရ၏။ မျိုးစေ့ အပင်ပေါက်ရန် တန်ခိုးတော်ရှင်က ဘာမျှအကူအညီမပေးချေ။ မျက်စိ ပါသူတို့သည် အလင်းဓာတ်အကူအညီဖြင့် အဆင်းကို မြင်ကြရ၏။ မျက်စိမပါဘဲ အလင်းရောင် မရှိပါဘဲ တန်ခိုးတော်ရှင်၏ အကူအညီ သက်သက်ဖြင့် မြင်ခြင်းကိစ္စ မဖြစ်ပေါ်နိုင်။ ထို့ကြောင့် ထိုကိစ္စများ ဖြစ်ပေါ်ရန် သက်ဆိုင်ရာ အကြောင်းတရားများကို တွေ့နေရသဖြင့် မမြင်မတွေ့ရသော တန်ခိုးရှင်ကြီးနှင့် ဘာမျှ မဆိုင်ကြောင်း သိသာ၏။

လူဖြစ်လာရန် အမိအဖတို့၏ မျိုးစေ့နှင့် သင့်လျော်သော အချိန် ကာလ လို၏။ မွေးဖွားပြီးနောက် ကြီးထွားရန် ဥတုနှင့် အစာအာဟာရများကို မှီဝဲရ၏။ ထို့ကြောင့် သတ္တဝါတစ်ခု ဖြစ်ပေါ်ကြီးထွားမှု၌ ဆိုင်ရာ အကြောင်းများ တွေ့နေရပြီဖြစ်၍ မမြင်ရသော တန်ခိုးရှင်ကြီးများကို ကျေးဇူးတော်ရှင်၊ ဖန်ဆင်းရှင်ဟု စွဲလမ်းနေရန် မသင့်ချေ။

ဖန်ဆင်းရှင် ဗြဟ္မာကြီးသည် ကောင်းမှုကံနှင့် မကောင်းမှုကံကို ဆန့်ကျင်ဘက်ပြောင်းပြန် ပြုနိုင်စွမ်းသလော တစ်သက်လုံး မကောင်းမှု ဒုစရိုက်ပြုခဲ့သူကို ဖန်ဆင်းရှင်သည် နတ်ပြည်ပို့မည်လော၊ တစ်သက်လုံး ကောင်းမှု ပြုခဲ့သူများကို ငရဲပို့မည်လော၊ အမှန်စင်စစ် သတ္တဝါတို့၏ ကောင်းမှု မကောင်းမှုကံအလျောက်သာ သုခဒုက္ခ ခံစားကြရ၍ အယုတ်၊ အလတ်၊ အမြတ် ကွဲပြားကြရ၏။ ဖန်ဆင်းရှင်သည် သတ္တဝါ၏ ကံကို ပဓာနထား၍ စီမံနေရပါက ထိုဖန်ဆင်းရှင်သည် ကံတရား၏ နောက် လိုက်မျှသာ ဖြစ်ပေမည်။

စားပွဲ ကုလားထိုင် စသည်တို့ကို လက်သမားက ပြုလုပ်၏။ ခေါ ပုဆိန် စသည်တို့ကို ပန်းပဲသမားက ပြုလုပ်၏။ စေတီ အုတ်တိုက်တို့ကို ပန်းရံသမားက ပြုလုပ်၏။ လှည်း ရထား ကား လေယာဉ် သင်္ဘောတို့ ကိုလည်း လူသားတို့က ပြုလုပ်၏။ ဤသို့လျှင် အရာဝတ္ထုတိုင်း၌ ပြုလုပ်သူ (ဖန်ဆင်းရှင်) ရှိနေသည်ကို တွေ့ရသောကြောင့် သစ်ပင်၊ တော၊ တောင်၊ ရေမြေ၊ သမုဒ္ဒရာ၊ မိုးကောင်းကင် အပါအဝင် ဤလောကကြီးကိုလည်း တစ်စုံတစ်ယောက်က ပြုလုပ်ထားခြင်း ဖြစ်ရပေမည်ဟု ကြံစည်ကြ၏။ ထိုသူကို ဖန်ဆင်းရှင် ဗြဟ္မာကြီးဟု ခေါ်ဆိုကြ၏။

အရာရာတိုင်း၌ ဖန်ဆင်းသူ ပြုလုပ်သူ ရှိရမည် ဆိုလျှင် ထိုဗြဟ္မာ ကြီးကို မည်သူက ဖန်ဆင်းသနည်း၊ ထိုဖန်ဆင်းသူကို ထပ်ဆင့် ဖန်ဆင်း သူ ရှိသေးသလော၊ ဤသို့အားဖြင့် ဖန်ဆင်းသူများ အဆင့်ဆင့် မဆုံးနိုင် အောင် ရှိတော့မည်။ လောကကိုသာ ဗြဟ္မာက ဖန်ဆင်း၍ ဗြဟ္မာကိုမူ မည်သူကမျှ မဖန်ဆင်းဘဲ အလိုအလျောက် အဆုံးအစမရှိ အမြဲတည်

ရှိနေသည်ဟု ဆိုလျှင် ထိုသို့ အဆုံးအစမရှိ အမြဲတည်နေသော သဘာဝ ဓာတ်တစ်ခုကို နမူနာပုံစံ ထုတ်ဆောင်ပြသင့်လေသည်။ နမူနာ ပုံစံ ပြစရာ မရှိလျှင် အထောက်အထားကင်းမဲ့၍ ယုံကြည်စရာမရှိ၊ ထိုဗြဟ္မာ နှင့်အလားတူ အမြဲတည်သော သဘာဝဓာတ်တစ်ခုကို နမူနာပုံစံ ထုတ်ပြနိုင်လျှင်လည်း ဗြဟ္မာနှင့်တန်းတူ အဆင့်တူ နှစ်ခုဖြစ်လာမည်။ ထိုအခါ ဗြဟ္မာနှင့်ပခုံးချင်း ယှဉ်ပြိုင်နိုင်သည့် အခြားသဘာဝတစ်ခု ရှိလာ၍ ဗြဟ္မာ၏ တန်ခိုးသတ္တိကို တစ်ဝက်ခွဲ ပေးရမည်ဖြစ်၍ ဗြဟ္မာ ကြီးသည် တစ်ဦးတည်းသော အနန္တတန်ခိုးရှင်အဖြစ် မခံယူနိုင်တော့ချေ။ ဗြဟ္မာ၏ အဆင့်အတန်းမှာ နိမ့်ကျသွားပေမည်။

ဗြဟ္မာကြီးသည် ဘာမျှမရှိရာမှ ဤလောကကြီး ဖြစ်ပေါ်လာအောင် ဖန်ဆင်းသလော -

သို့မဟုတ် မိမိခန္ဓာကိုယ် အစိတ်အပိုင်းများကို ဖဲ့ထုတ်၍ ဖန်ဆင်း သလော-

သို့မဟုတ် ဗြဟ္မာမှ အခြားတစ်ပါးသော သူအလိုလို မူလကရှိနှင့် သော ကုန်ကြမ်းပစ္စည်းတစ်ခုခုကို လောကဖြစ်အောင် ပြုပြင်ဖန်ဆင်း သလော-

အကယ်၍ ဘာမျှမရှိရာမှ ဤလောက ဖြစ်ပေါ်လာအောင် ဖန် ဆင်းသည်ဟု ဆိုလျှင် မရှိတရားကို အရှိဖြစ်အောင် မည်သူမျှ မလုပ်နိုင် ချေ။ မရှိခြင်းမှ အရှိဖြစ်လာသည်ဟု ဆိုလျှင် လောက၌ ကုန်ကြမ်းပစ္စည်း မရှိဘဲ ကုန်ချောများ ထုတ်လုပ်နိုင်လေရာ၏။ ချည်မျှင်မရှိဘဲ အထည် ရက်လုပ်နိုင်လေရာ၏။ အုတ်မရှိဘဲ တိုက်ဆောက်လုပ်နိုင်လေရာ၏။ သစ်သားမရှိဘဲ စားပွဲ ကုလားထိုင်များ ပြုလုပ်နိုင်လေရာ၏။ ထိုသို့ မဖြစ်နိုင်ရာသောကြောင့် ဘာမျှမရှိရာမှ ဘာမျှ ဖြစ်မလာနိုင်ချေ။

ဗြဟ္မာကြီးသည် မိမိခန္ဓာကိုယ် အစိတ်အပိုင်းများကို ဖဲ့ထုတ်၍ ဤလောကကြီးဖြစ်အောင် ဖန်ဆင်းယူရသည် ဆိုပါက ဗြဟ္မာကြီးသည် အင်္ဂါမစုံဘဲ ချို့တဲ့နေမည်။ ဗြဟ္မာ၏အစိတ်အပိုင်းသည် ပြုပြင်ပြောင်း

လဲ၍ ရလျှင် ပျက်စီးခြင်းတစ်မျိုးဖြစ်၏။ ထိုအခါ ပြဟ္မာသည်လည်း ပျက်တတ်သောသဘောကို မလွန်ဆန်နိုင်ဟု ဝန်ခံရာ ရောက်၏။

ပြဟ္မာကြီးသည် မိမိမှတစ်ပါး ပြင်ပ၌ မရှိသော ရုပ်နာမ်သဘာဝ များကို ပြုပြင်ဖန်တီး၍ ဤလောကဖြစ်အောင် ဖန်ဆင်းသည်ဟုဆိုလျှင် ရုပ်နာမ်သဘာဝတရားတို့သည် ပြဟ္မာမှ သီးခြားဖြစ်၍ ပြဟ္မာနှင့် တန်းတူ ယှဉ်ပြိုင်လျက် ရပ်တည်နိုင်သဖြင့် ပြဟ္မာ၏ အဆင့်အတန်း နိမ့်ကျသွားပေမည်။ မိမိအလိုလို ရပ်တည်နေနိုင်သော ရုပ်နာမ် သဘာဝတရား များကို ပြဟ္မာက အစိုးရပါဦးမည်လော။ မိမိ အလိုလိုရပ်တည်နေနိုင်သော ရုပ်နာမ် သဘာဝတရားတို့သည် တန်ခိုးရှင်၏ အကူအညီမပါဘဲ မိမိတို့သဘာဝအလျောက် ပြုပြင်ပြောင်းလဲနိုင်စွမ်းရှိပေမည်။ တန်ခိုးရှင်သည် မိမိအလိုလို တည်ရှိနိုင်ပါက ရုပ်နာမ်တရားတို့သည်လည်း မိမိတို့သဘာဝအလျောက်တည်၍ ဖြစ်ပျက်ပြောင်းလဲနိုင်စွမ်း ရှိရပေမည်။

လောကကို ဖန်ဆင်းသော တန်ခိုးရှင်သည် ထိုတန်ခိုးကို မည်သို့ရရှိခဲ့သနည်း။

အကြောင်းမဲ့သက်သက် အလိုလို ရရှိသည်ဟု ဆိုလျှင် အချိန်မရွေး အကြောင်းမဲ့သက်သက် တန်ခိုးပျောက်ဆုံးသွားနိုင်ပေသည်။ တန်ခိုးရရှိအောင် ကိုယ်တိုင်ကြိုးစား လုပ်ကိုင်ယူရပါက ကိုယ်လုပ်၍ ကိုယ်ရခြင်းသည် တန်ခိုးမဟုတ်၊ တန်ခိုးမရှိရာ ရောက်၏။ ထိုသို့ ကြိုးစားအားထုတ်ခြင်းမပြုမီ ရှေးကာလက တန်ခိုးမရှိသေးဟု ဝန်ခံရာရောက်၏။ သူတစ်ပါးပေး၍ သူတစ်ပါးထံမှ တန်ခိုးရသည်ဟု ဆိုလျှင် လက်ဝေခံ၊ သူတစ်ပါးလက်အောက်ခံမျှသာ ဖြစ်ပေသည်။

တန်ခိုးရှင်သည် ဤလောကကို အဘယ်အကျိုးငှာ ဖန်ဆင်းသနည်း။

မိမိအကျိုးအတွက် ဖန်ဆင်းသည်ဟု ဆိုပါက ကိုယ့်ကိစ္စ ကိုယ်တိုင် လုပ်နေရသဖြင့် တန်ခိုးမရှိရာ ရောက်၏။ တန်ခိုးရှင်ကြီး အပျင်းပြေဖို့ ဖန်ဆင်းသည်ဟု ဆိုလျှင် သတ္တဝါတို့သည် ထိုတန်ခိုးရှင်၏ အပျင်းပြေ ကစားစရာမျှသာ တန်ဖိုးရှိတော့သည်။ သတ္တဝါတို့၏အကျိုးငှာ ဖန်

ဝေဒနာတို့သည် ရှက်ကုန်၏၊ ကြောက်ကုန်၏၊ သညာတို့သည် ရှက်ကြောက်ကုန်၏။ ခန္ဓာ အာယတန ဓာတ်တို့သည် ရှက်ကြောက်ကြကုန်၏ဟု ဟောကြားပါက တရားနာသူတို့ နားလည်မည် မဟုတ်။ အဘယ့်ကြောင့် ခန္ဓာ အာယတန ဓာတ်တို့သည် ရှက်ကြောက်ကုန်သနည်းဟု ပြန်လှန်မေးဖွယ်ရှိ၏။ ခန္ဓာ, အာယတန, ဓာတ်အချင်းချင်း ရှက်စရာဟု အောက်မေ့ကြမည်မဟုတ်။ ယောကျ်ား, မိန်းမ, မင်း, သူဌေး, ပုဏ္ဏားတို့သည် ရှက်တတ်ကုန်၏၊ ကြောက်တတ်ကုန်၏၊ အချင်းချင်း ရှက်ကြောက်အပ်၏ဟု ဟောကြားမှသာလျှင် သတ္တဝါတို့ လိုက်နာကျင့်ကြံကြပေမည်။ အရှက်အကြောက်သာ မရှိပါက ဤလောကရှိ သတ္တဝါတို့သည် ထိန်းသိမ်းကွပ်ကဲ၍ မရဘဲ ပရမ်းပတာ ဖြစ်သွားပေမည်။ ထို့ကြောင့် အရှက် အကြောက် တရားနှစ်ပါး တည်စေရန် သမ္မုတိသစ္စာအားဖြင့် ဝေါဟာရအသုံးအနှုန်းပြု၍ ပုဂ္ဂိုလ်, သတ္တဝါ, ယောကျ်ား, မိန်းမ စသည်ဖြင့် ဟောကြားရခြင်း ဖြစ်လေသည်။

'ခန္ဓာ, အာယတနဓာတ်တို့သည် ကံသာလျှင် မိမိဥစ္စာဖြစ်ကုန်၏' ဟု ဟောကြားလျှင် တရားနာသူတို့ နားမလည်နိုင်၊ သတ္တဝါတို့သည် ကံသာလျှင် မိမိဥစ္စာရှိကုန်၏။ သတ္တဝါတို့ကိုသတ်လျှင် အကုသိုလ်ကံဖြစ်၏။ ကျွဲးမွေး ထောက်ပံ့ ကယ်ဆယ်လျှင် ကုသိုလ်ကံဖြစ်၏ စသည်ဖြင့် ကုသိုလ်, အကုသိုလ်ကံတို့ကို ပြခြင်း၌ ပုဂ္ဂိုလ်, သတ္တဝါ စသည်ဖြင့် ဟောကြားတော်မူ၏။

'ဇေတဝန်ကျောင်းတော်ကို ခန္ဓာ, အာယတန, ဓာတ်တို့က ဆောက်လုပ်လှူဒါန်း၏' စသည်ဖြင့် ဟောကြားပါက လူတို့၏ လုံ့လ, ဝီရိယ စွမ်းဆောင်ချက် မထင်ရှား၊ 'အနာထပိဏ်သူဌေးသည် ဇေတဝန်ကျောင်းတော်ကို ဆောက်လုပ်၏' စသည်ဖြင့် ဟောကြားပါက လူတို့၏ စွမ်းဆောင်ချက် ထင်ရှား၍ နာကြားရသူတို့သည် ဒါနစေတနာများ တဖွားဖွားပေါ်ပေါက်လာပေမည်။ ထိုသို့ လူတို့၏စွမ်းဆောင်ချက်ကို ဖော်ပြရန် ပုဂ္ဂိုလ်, သတ္တဝါ စသည်ဖြင့် ဟောကြားတော်မူ၏။

ဆင်းသည်ဟု ဆိုလျှင် အဘယ်ကြောင့် ရောဂါအမျိုးမျိုး၊ အဆိပ်ပင်၊ အဆိပ်ရှိသော မြွေစသည်တို့ကို ဖန်ဆင်းသနည်း။ သတ္တဝါတို့၏ ဆင်းရဲဒုက္ခရောက်ရခြင်းသည် ထိုဖန်ဆင်းရှင်၏ တာဝန်သာလျှင် ဖြစ်ရပေမည်။ တစ်ဖန် အတ္တဝါဒီတို့က ဖန်ဆင်းရှင်သည် ဤလောကကို တကယ်ဖန်ဆင်းခြင်းမဟုတ်၊ မာယာဖြင့် လှည့်စားခြင်းမျှသာဖြစ်၍ သတ္တဝါတို့သည် အဝိဇ္ဇာ မောဟ မကင်းသောကြောင့် ဖန်ဆင်းသည်ဟု ထင်မြင်ယူဆခြင်း ဖြစ်သည်ဟု ရှင်းချက် ထုတ်ကြပြန်၏။ ဤသို့ ဆိုပါက ဤလောကကို တန်ခိုးရှင်က ဖန်ဆင်းသည်ဟု မယုံကြည်သူ အမြောက်အမြားရှိ၏။ ထိုသူတို့ကို တန်ခိုးရှင်က မာယာဖြင့် မလှည့်စားနိုင်ဟု ဆိုရာရောက်၏။ လူအားလုံးကို မိမိအပေါ် ယုံကြည်လာအောင် မပြုလုပ်နိုင်သော တန်ခိုးရှင်၏ အစွမ်းသတ္တိကား မည်မျှအံ့သြဖွယ်ကောင်းသနည်း။ အမှန်စင်စစ် ဖန်ဆင်းရှင်ကို ယုံကြည်သူတို့သည် ဖန်ဆင်းဝါဒကို ကြိုက်သောကြောင့်သာ ယုံကြည်ကြခြင်းဖြစ်ပေမည်။

## ပုဂ္ဂိုလ်, သတ္တဝါဟု သုံးနှုန်းဟောကြားရခြင်းအကြောင်း

ပုဂ္ဂိုလ် သတ္တဝါသည် ပရမတ္ထအားဖြင့် ထင်ရှားမရှိသော်လည်း အောက်ဖော်ပြပါ အကြောင်းရှစ်ချက်ကို ငဲ့ကွက်၍ ပုဂ္ဂိုလ်သတ္တဝါဟု ခေါ်ဆိုသုံးနှုန်း ဟောကြားရခြင်း ဖြစ်ပေသည် -

(က) မကောင်းမှုမှ ရှက်ကြောက်တတ်ရန်၊
(ခ) ကံသာလျှင် မိမိဥစ္စာဖြစ်ကြောင်းပြရန်၊
(ဂ) သတ္တဝါတို့၏ စွမ်းဆောင်ချက်ကိုပြရန်၊
(ဃ) အာနန္တရိယကံ (ကြီးလေးသော အကုသိုလ်ကံ)ကို ပြရန်၊
(င) ဗြဟ္မစိုရ်တရား လေးပါးကိုပြရန်၊
(စ) ရှေးရှေးဘဝများကို အောက်မေ့မှု
(ပုဗ္ဗေနိဝါသာနုဿတိဉာဏ်)ကို ပြရန်၊
(ဆ) အလှူ၏ စင်ကြယ်မှုကိုပြရန်၊
(ဇ) လောကပြောရိုးထုံးစံကို မပယ်စွန့်ကြောင်း ပြရန်။

'ခန္ဓာ, အာယတန, ဓာတ်တို့သည် ခန္ဓာ အာယတန, ဓာတ်တို့ကို သတ်ကုန်၏'ဟု ဟောကြားပါက နားလည်မည် မဟုတ်။ 'အမိ အဖတို့သည် ကျေးဇူးကြီးမားသူများဖြစ်ကြ၍ သတ်သူ၌ ကြီးလေးသော အကုသိုလ်ကံကြီး ထိုက်သည်'ဟု ဟောကြားပါမှ ကြားနာသူတို့ နားလည်၍ ရှောင်ကြဉ်ကြပေသည်။ ထိုသို့ ကြီးလေးသော အကုသိုလ်ကံ (အာနန္တရိယကံ)ကို ပြခြင်းငှာ ပုဂ္ဂိုလ်, သတ္တဝါ, အမိ, အဖ စသည်ဖြင့် ဟောကြားတော်မူ၏။

'ခန္ဓာ, အာယတန, ဓာတ်တို့အချင်းချင်း ချစ်ခင်ကြပါ၊ သနားကြင်နာကြပါ' စသည်ဖြင့် ဟောကြားပါက နားမလည်သဖြင့် လက်ခံကျင့်သုံးနိုင်ကြမည် မဟုတ်ချေ၊ 'သတ္တဝါအချင်းချင်း ချစ်ခင်ကြပါ၊ ဆင်းရဲသူဒုက္ခိတသတ္တဝါတို့ကို သနားကြပါ၊ ချမ်းသာသူကို တွေ့က ဝမ်းမြောက်ကြပါ'စသည်ဖြင့် ဟောကြားပါမှ သတ္တဝါတို့ နားလည်၍ လက်ခံကျင့်သုံးကြမည်။ ထိုသို့ မေတ္တာ, ကရုဏာ စသော ဗြဟ္မစိုရ်တရားများကို ပြရန် ပုဂ္ဂိုလ်, သတ္တဝါ စသည်ဖြင့် ဟောကြားတော်မူ၏။

ခန္ဓာ, အာယတန ဓာတ်တရားတို့၏ ရှေ့ဘဝကို ပြန်လည်အောက်မေ့ ဆင်ခြင်ရန် မဖြစ်နိုင်၊ ထိုခန္ဓာတို့၏ ဖြစ်စဉ်ဟု ဆိုအပ်သော သတ္တဝါ၏ရှေးဘဝတို့ကို ပြန်လည်ဆင်ခြင်အောက်မေ့၍ ရနိုင်၏။ ထိုသို့ ရှေ့ဘဝကို ပြန်လည် ဆင်ခြင်အောက်မေ့နိုင်မှု ပုဗ္ဗေနိဝါသဉာဏ်ကို ဖော်ပြရန် ပုဂ္ဂိုလ်, သတ္တဝါ စသည်ဖြင့် ဟောကြားတော်မူ၏။

ထိုနည်းအတူ အလှူခံပုဂ္ဂိုလ်တို့တွင် တရားကျင့်သောပုဂ္ဂိုလ်, သီလစင်ကြယ်သောပုဂ္ဂိုလ်တို့အား လှူဒါန်းမှ အလှူစင်ကြယ်မှု ဖြစ်ကြောင်း ပြရန် ပုဂ္ဂိုလ်, သတ္တဝါ စသည်ဖြင့် ဟောတော်မူရ၏။

တစ်ဖန် လောကလူအပေါင်းသည် ပုဂ္ဂိုလ်, သတ္တဝါ, ငါ, သူတစ်ပါး, ယောကျာ်း, မိန်းမ, ဆရာ, မိဘ စသည်ဖြင့် ပြောဆိုသုံးနှုန်းနေကြ၏။ အစဉ်အလာ ပြောထုံးကို မပယ်ကြောင်းပြရန်အတွက် ပုဂ္ဂိုလ်, သတ္တဝါ စသည်ဖြင့် သုံးနှုန်းဟောကြားတော်မူ၏။ ပုဂ္ဂိုလ်, သတ္တဝါသည် ပရမတ္ထ

အားဖြင့် ရှိသောကြောင့် (ပုဂ္ဂလ)ဟု သုံးနှုန်း၍ ဟောကြားခြင်း မဟုတ်ချေ။ "အတ္ထိ ပုဂ္ဂလော အတ္တာဟိတာယ ပဋိပန္နော" ဟူသော ဘုရားဟော ဒေသနာတော်၌ 'ပုဂ္ဂလော' ဟူသော အသုံးအနှုန်းကို အထောက်အထား ပြု၍ ပရဝါဒီဘက်က 'ပုဂ္ဂလ'ဟူသည် ပရမတ္ထသစ္စာအားဖြင့် အမှန် တကယ်ရှိပါသည်ဟု ဆိုလေသည်။ ဘုရားဟောတရားတော်ကို မိမိလိုရာ အနက်အဓိပ္ပာယ် ဆွဲ၍ပြောဆိုနေခြင်း ဖြစ်၏။

## တည်ရာဌာနအားဖြင့် အတ္တကိုစိစစ်ပုံ

ပုဂ္ဂိုလ်(ပုဂ္ဂလ)ဟု ခေါ်သော ဇီဝအတ္တသည် ခန္ဓာကိုယ်၏ မည်သည့်အစိတ်အပိုင်း၌ ရှိသနည်း။ အချို့က အတ္တသည် နှလုံးအိမ်အတွင်း၌ တည်၏။ လက်မခန့်ရှိ၍ အလင်းရောင် တောက်ပနေသည်ဟု ဆိုကြ၏။ အချို့က ခန္ဓာကိုယ်နှင့် အပြည့်တည်၏။ ခန္ဓာကိုယ် ပုံစံအတိုင်း တည်နေသည်ဟု ဆိုကြ၏။ နှလုံးအိမ်အတွင်း၌ တည်နေသည်ဟု ဆိုပါက အချို့သော ပိုးမွှားငယ်များ၌ နှလုံးအိမ်ဟူ၍ မရှိချေ။ လက်မခန့်ရှိသည်ဟု ဆိုရာ၌ သတ္တဝါ၏ပမာဏသည် အလွန်သေးငယ်လှသဖြင့် အတ္တ၏ ပမာဏသည် လက်မခန့်ရှိတော့မည် မဟုတ်ချေ။ တစ်ဖန် အတ္တသည် ခန္ဓာကိုယ်နှင့် အပြည့်တည်ရှိသည်ဟု ဆိုပါက တစ်ဘဝတည်း၌ ခန္ဓာကိုယ်သည် ကြီးထွားလာသဖြင့် အတ္တသည်လည်း ကြီးထွားခြင်း ရှိရပေမည်။ ခိုက်မိတိုက်မိ၍ ခြေလက်အင်္ဂါ ပြတ်သွားသောအခါ အတ္တ၏ အစိတ်အပိုင်းများလည်း ပဲ့ထွက်ပြုတ်ပါသွားရပေမည်။

ထိုအခါ အတ္တသည် ဖောက်ပြန်ပျက်စီး၍ မမြဲခြင်းသဘောရှိသည်ဟု ဝန်ခံရာရောက်၏။ အတ္တသည် အတိုး အဆုတ် မရှိ၊ ဖောက်ပြန် ပျက်စီးခြင်း မရှိဟု ဆိုပါက လက်မခန့်ရှိသော အတ္တသည် စာကလေး၏ နှလုံးသားအတွင်း၌ တည်နိုင်ပါမည်လော။ နှလုံးဟူ၍ သီးသန့်မရှိသော ပိုးမွှားများ၌ အတ္တတည်ရာ ရှိပါဦးမည်လော။ အတ္တသည် ဖောက်ပြန် ပျက်စီးခြင်းမရှိဘဲ ခန္ဓာကိုယ်တစ်ခုလုံး အပြည့်တည်သည်ဟု ဆိုပါက ဤဘဝ၌ လက်ပြတ်, ခြေပြတ်သူသည် နောက်နောင်ဘဝ၌ လက်ပြတ်သူ,

ခြေပြတ်သူဖြစ်ရတော့မည်လော။ ဆင်၏အတ္တသည် ကြွက်၏ ခန္ဓာကိုယ်နှင့် မဆံ့သောကြောင့် ဆင်သည် ဘဝဆက်တိုင်း ဆင်သာလျှင် ဖြစ်ရတော့မည်လော။ အခြားသတ္တဝါအသီးသီးသည်လည်း မိမိ အတ္တ၏ ပုံစံအတိုင်း ပုံသေတည်ရှိနေရတော့မည်လော။ ငယ်စဉ်က ခန္ဓာကိုယ်သည် အသက်ကြီးလာသောအခါ ကြီးထွားလာသဖြင့် အတ္တသည်လည်း ကြီးထွားလာသည်ဟု ဆိုပါက အတ္တသည် ပြောင်းလဲ ဖောက်ပြန်တတ်သည်ဟု ဝန်ခံရပေမည်။ အတ္တသည် ပြောင်းလဲဖောက်ပြန်တတ်သည်ဟု ဆိုပါက တစ်ဘဝတည်းမှာပင် ကြွက်သည် ဆင်ဖြစ်နိုင်၍ ဆင်သည် ကြွက်ဖြစ်နိုင်ပုံရပေမည်။

တစ်ဖန် အတ္တသည် ပရမာဏုမြူပမာဏမျှသာရှိ၍ ပမာဏအားဖြင့် အတိုးအဆုတ် မရှိ ဖောက်ပြန်ခြင်း မရှိ မြဲ၏ဟု ဆိုကြ၏။ သတ္တဝါ၏ နှလုံးသားအတွင်း၌ တည်နေ၍ ထိုအတ္တ၏ အရှိန်အဝါ အစွမ်းသတ္တိများသည်သာလျှင် သတ္တဝါ၏ ခန္ဓာကိုယ်ရှိသလောက် ပျံ့နှံ့ တည်နေသည်ဟု ဆို၏။ ဥပမာ - ဆီမီးတိုင်သည် အခန်းကျယ်ထဲ၌ ထွန်းထားသောအခါ ထိုအခန်းကျယ်သလောက် အလင်းရောင် ပျံ့နှံ့တည်နေသည်။ ထိုဆီမီးတိုင်ကိုပင် အခန်းကျဉ်းတစ်ခုထဲ၌ ထွန်းလျှင် ဆီမီး၏ အလင်းရောင်များသည် အခန်းငယ်၌ မဆံ့ဟူ၍ မရှိ။ ထိုဆီမီးတိုင်ကိုပင် အိုးတစ်လုံးထဲ၌ ထည့်သွင်းထွန်းလျှင်လည်း အလင်းရောင်သည် အိုးအတွင်း၌သာ ရှိ၍ အိုးနှင့်မဆံ့ဟူ၍ မရှိချေ။ ဆီမီးတိုင်၏ ပမာဏမှာ တည်မြဲ၍ ၎င်း၏ အလင်းရောင်မှာ အခန်းကိုလိုက်၍ ကျုံ့ခြင်း, ကျယ်ပြန့်ခြင်း ရှိနိုင်သည်။ ထိုနည်းအတူ အတ္တ၏ အရွယ်ပမာဏမှာ ပရမာဏုမြူမျှသာ ပုံသေတည်ရှိ၍ ထိုအတ္တ၏ အရှိန်အဝါ အရောင်သည် သတ္တဝါ၏ ခန္ဓာကိုယ်ရှိသလောက် ကြီးခြင်း, ငယ်ခြင်း ဖြစ်နိုင်သည်ဟု ရှင်းပြကြ၏။ ဤအယူအဆ၌ အတ္တ၏ တည်မြဲခြင်းကိုလည်းကောင်း၊ အတ္တနှင့်ခန္ဓာကိုယ် ဆက်စပ်ပုံကိုလည်းကောင်း အပြစ်ကင်းလွတ်အောင် ရှင်းပြထားလေ၏။ သို့ရာတွင် ဆီမီးတိုင်ဥပမာကိုပင် ပြန်လည်ဆန်းစစ်ရပေမည်။ အတောင်တစ်ရာပတ်လည်ရှိသော ခန်းမကျယ်ကြီးထဲ၌ ဆီးမီးတိုင်ငယ် တစ်ခု သည်

ထိုအခန်းကြီးတစ်ခုလုံးကို မလင်းနိုင်ချေ။ မီးတိုင်နှင့် ဝေးလေလေ အလင်းအားနည်းလေလေ ဖြစ်သည်ကို တွေ့ရ၏။ တစ်ပေပတ်လည်ရှိသော သေတ္တာထဲ၌ ထိုမီးတိုင်ကို ထွန်းညှိလျှင် သေတ္တာတစ်ခုလုံး ထိန်ထိန်လင်း၍ အလင်းအားကောင်းကာ ပိုမိုကြည်လင်တောက်ပသည်ကို တွေ့ရပေမည်။ ထိုနည်းအတူ ကြီးမားသော ခန္ဓာကိုယ်အတွင်း၌ တည်ရှိသော အတ္တသည် စွမ်းအားသတ္တိ ပြန့်ကြဲနေသဖြင့် အားနည်းနေပေမည်။ သေးငယ်သော ခန္ဓာကိုယ်အတွင်း၌ အတ္တသည် ပို၍ စွမ်းအား ကောင်းစွာ တောက်ပနိုင်ပေမည်။ ဤအတိုင်းမှန်ပါက စာကလေး၊ ပိုးမွှားငယ်စသည်တို့သည် လူတို့ထက် ပိုမို၍ အတ္တအရောင် တောက်ပပေလိမ့်မည်။ ခန္ဓာကိုယ်ငယ်လေ အတ္တစွမ်းအား ထက်လေဟု ယူဆရပေတော့မည်။

ထို့ပြင် အတ္တ၏ ပမာဏသည် အဏုမြူမျှသာရှိသဖြင့် ဆင်ကဲ့သို့ ကိုယ်ခန္ဓာကြီးမားသော သတ္တဝါများ၌ အတ္တ (ဇီဝ)များ သိန်းသန်းချီ၍ ဝင်ရောက် တည်နေလေရာ၏။ သတ္တဝါတစ်ခု၌ အတ္တပေါင်း သိန်းသန်း ပါဝင်နေလျှင် အချင်းချင်း ညှိနှိုင်း၍ ရပါမည်လော စသည်ဖြင့် မိုးမဆုံး, မြေမဆုံး အမေးပြဿနာများ ပေါ်ပေါက်လာနိုင်၍ (အမေဘုတ်ရဲ့ သူ့ချည်ခင် ဆိုသလို) တစ်စကိုင် ရှင်းလျှင် ဆယ်စလောက် ထွက်လာ၍ ရှင်းလေ ရှုပ်လေ ဖြစ်သည်ကို တွေ့ရပေမည်။ ထိုသို့ဖြစ်ရခြင်းမှာ ပုဂ္ဂလဟု ခေါ်သော အတ္တ (ဇီဝ = ဝိညာဉ် လိပ်ပြာ) သည် သဘာဝအားဖြင့် တကယ်မရှိပါဘဲ စိတ်ကူးဖြင့် မှန်းဆကာ အရှိတရားဟု သတ်မှတ်၍ ဖြေရှင်းနေခြင်းကြောင့် ဖြစ်ပေသည်။

## ကာလအားဖြင့် စိစစ်ပုံ

ပုဂ္ဂလဟုခေါ်သောအတ္တ (ဇီဝ = ငါးဝိညာဉ်လိပ်ပြာ)သည်အမြဲရှိနေ သည်။ မပျက်မစီး အမြဲတည်နေသည်။ ထိုဘဝမှ ဤဘဝသို့ ကူးပြောင်း ကျင်လည်နေသည်ဟု ပရဝါဒီက ယူဆ၏။ အတ္တသည် မပျက်မစီး အမြဲတည်ပါက သံသရာကျင်လည်သော အတ္တနှင့် နိဗ္ဗာန်ရောက်သော အတ္တ အတူတူပင်ဖြစ်ရပေမည်။ ထိုသို့မဟုတ်ဘဲ သံသရာ့ထဲရှိ အတ္တနှင့် နိဗ္ဗာန်

ရောက်သော အတ္တ မတူဟု ဆိုပါက အတ္တ၏ ဖောက်ပြန် ပြောင်းလဲမှု၊ မမြဲမှုကို ဝန်ခံရာရောက်၏။ အဆိုပါ အတ္တနှစ်ခုသည် တူညီသည် ဆိုပါက သံသရာနှင့် နိဗ္ဗာန်သည် ထူးမခြားနားဟု ဝန်ခံရာ ရောက်လေ၏။ သို့ဖြစ်၍ သံသရာနှင့်နိဗ္ဗာန်သည် အတူတူဟု ဆိုပါက နိဗ္ဗာန်ရောက်ရန် အားထုတ်ဖို့ မလိုတော့ချေ။ အကြောင်းမူ နဂိုအစ ကတည်းက နိဗ္ဗာန်ရပြီးဖြစ်တော့သည်။ မုဆိုး, တံငါ, လူသတ်ကောင် တို့သည်လည်း နဂိုအစကတည်းက နိဗ္ဗာန်ကို ရပြီးဖြစ်တော့သည်။ ဤ အယူဝါဒကို ခွင့်ပြုလိုက်ပါက လူ အပေါင်းကို အကျင့်စာရိတ္တထိန်းရန် မြှင့်တင်ရန် မလွယ်ကူတော့ချေ။

## အတ္တ၏စွမ်းရည်ကို စိစစ်ပုံ

သတ္တဝါတို့၏ ကိုယ်တွင်း၌ အတ္တရှိသည်ဟုယူဆလျှင် သတ္တဝါများ ဒုက္ခ ခံစားရခြင်းသည် အတ္တက ပြုလုပ်သလော၊ ပြင်ပ အကြောင်းတရား များက ပြုလုပ်သလော။ ဒုက္ခကို အတ္တက ပြုလုပ်သည်ဆိုလျှင် အတ္တသည် မိမိဒုက္ခရောက်အောင် အဘယ့်ကြောင့် ပြုလုပ်ရသနည်း။ မိမိပြုလုပ် သော ဒုက္ခဟုဆိုပါက အဘယ့်ကြောင့် ဒုက္ခကို ကြောက်သနည်း။ မနှစ် သက်သနည်း။ ထိုသို့ မိမိ မနှစ်သက် မလိုလားသော ဒုက္ခကို အတ္တသည် အဘယ့်ကြောင့် ပြုလေသနည်း။ ဒုက္ခခံရမည်ကို မသိ မိုက်မဲ၍ ပြုသ လော၊ မသိ မိုက်မဲ၍ ပြုသည်ဟုဆိုလျှင် အတ္တသည် အမိုက်အမဲ အဝိဇ္ဇာ ကောင် (မောဟတုံးကြီး) ဖြစ်သလော။ ဒုက္ခကို ပြင်ပအကြောင်းတရား (သူတစ်ပါး)က ပြုသည်ဟု ဆိုလျှင် အတ္တသည် အစွမ်းအစမရှိဘဲ သူတစ် ပါး ပြုသမျှ နုရမည်လော။ အတ္တသည် သူတစ်ပါးပြုသည့်ဒုက္ခကို ခံစားရ သည်ဟု ဆိုလျှင် သုခကိုလည်း သူတစ်ပါးပြုလုပ်ပေးမှ ခံစားရတော့ မည်ဟု ဝန်ခံရာရောက်၏။ ထိုသို့ မိမိ ဆင်းရဲ ချမ်းသာကိုမျှ မဖန်တီး နိုင်ဘဲ သူတစ်ပါးပြုသမျှ နုနေရသော အတ္တသည် နတ်ရွာနိဗ္ဗာန် ရောက် ရန်အတွက်လည်း သူတစ်ပါးက ပို့ပေးရမည့် အခြေအနေတွင် ရှိ၏။ ထိုအခါ အတ္တသည် အဆွံ့၊ အအ၊ အနမျှဖြစ်၍ သက်မဲ့ရုပ်ဝတ္ထုတစ်ခုနှင့် တန်းတူဖြစ်ပေမည်။

## အတ္တနှင့်သုခဒုက္ခ

သုခနှင့် ဒုက္ခသည် အတ္တ၏ ပင်ကိုယ်သဘာဝလော၊

အတ္တ၏ အင်္ဂါအစိတ်အပိုင်းလော၊

ပြင်ပမှ လာရောက်၍ ယာယီပူးကပ်နေခြင်းလော။

အတ္တ၏ ပင်ကိုသဘာဝဟု ဆိုပါက အတ္တအတွင်းမှ သုခနှင့်ဒုက္ခကို ဖယ်ထုတ်၍ ရတော့မည် မဟုတ်ချေ။ ကွီနိုင်ဆေးပြား၏ ပင်ကိုသဘာဝ သည် ခါးသော အရသာဖြစ်၍ ထိုအခါးကို ကွီနိုင်မှ ဖယ်ထုတ်ရန် မစွမ်း နိုင်၊ ထို့အတူ သုခနှင့် ဒုက္ခသည် အတ္တ၏ ပင်ကိုသဘာဝဟု ဆိုပါက ပဋိပက္ခသဘောနှစ်ခု ယှဉ်ပြိုင်တည်ရှိနေသည်။ သုခဖြစ်နေစဉ် ဒုက္ခ လည်း ဖြစ်နေရပေမည်။ ထိုသို့ သုခနှင့်ဒုက္ခသည် ယှဉ်ပြိုင်၍ ဖြစ်ပေါ် ခံစားရခြင်းမရှိသောကြောင့် သုခနှင့်ဒုက္ခသည် အတ္တ၏ ပင်ကိုသဘာဝ ဟု မဆိုသင့်ချေ။ သုခနှင့်ဒုက္ခသည် အတ္တ၏ အင်္ဂါအစိတ်အပိုင်း ဖြစ်သည် ဆိုပါက အတ္တသည် မပျက်မစီး အမြဲတည်သောကြောင့် အတ္တ၏ အစိတ် အပိုင်း သုခ,ဒုက္ခသည်လည်း မပျက်မစီး အမြဲ တည်နေပေလိမ့်မည်။ ထိုသို့ မြဲသော သုခဒုက္ခကို မြဲသော အတ္တမှ အဘယ်ကဲ့သို့ ဖယ်ထုတ်မည်နည်း။ ဖယ်ထုတ်လိုက်ပါက အတ္တ၌ အင်္ဂါမစုံ ချို့တဲ့နေရုံမျှမက အတ္တသည် တစ်စိတ်တစ်ဒေသအားဖြင့် ပျက်စီးဖောက်ပြန်တတ်၏ဟု ဝန်ခံရာ ရောက်၏။ တစ်ဖန် သုခနှင့်ဒုက္ခသည် ပြင်ပမှ လာရောက်၍ အတ္တနှင့် ယာယီ ပူးတွဲ ယှဉ်ကပ်သည်ဟု ဆိုလျှင် သုခနှင့်ဒုက္ခသည် အတ္တနှင့် အဆင့် အတန်းတူသော ဓာတ်သဘာဝဖြစ်၍ အတ္တကဲ့သို့ မြဲသော တရားတစ်ခု ဖြစ်ရပေမည်။ သာမညဖလသုတ်တွင် ပကုဓကစ္စာယန၏ သတ္တကာယ ဝါဒ၌ သုခနှင့် ဒုက္ခကို အတ္တနှင့် အဆင့်တူထားသည်ကို တွေ့ရ၏။

## အတ္တနှင့် မောဟ အဝိဇ္ဇာ

အဝိဇ္ဇာဟုခေါ်သော မောဟသည် အတ္တ၏ ပင်ကိုသဘာဝလော၊

အတ္တ၏ အင်္ဂါအစိတ်အပိုင်းလော၊

ပြင်ပမှ လာရောက်၍ အတ္တသို့ ယာယီပူးကပ် တည်နေခြင်းလော။

အဝိဇ္ဇာ(မောဟ)သည် အတ္တ၏ ပင်ကိုသဘာဝဟု ဆိုလျှင် အတ္တ၌ ဉာဏ်ပညာ ဟူ၍ လုံးဝမရှိဟု ဝန်ခံရာရောက်၏။ အဝိဇ္ဇာနှင့်ပညာသည် အမှောင်နှင့် အလင်းကဲ့သို့ ဖြောင့်ဖြောင့်ဆန့်ကျင်ဘက်ဖြစ်ကြ၍ တစ်ပြိုင်နက်တည်း အတူတကွ မတည်နိုင်ချေ၊ ထို့ကြောင့် အဝိဇ္ဇာသည် အတ္တ၏ ပင်ကိုသဘာဝ ဖြစ်ပါသည်ဟုဆိုလျှင် ပညာဉာဏ် လုံးဝမရှိဟု ဝန်ခံရပေမည်။ ပညာမရှိသောအတ္တသည် အဝိဇ္ဇာကို မပယ်နိုင်၊ အဝိဇ္ဇာ အမှောင်တိုက်အတွင်း၌ အမြဲတည်၍ ဘယ်သောအခါမျှ လွတ်မြောက်မှုကို ရနိုင်တော့မည် မဟုတ်ချေ။ အဝိဇ္ဇာသည် အတ္တ၏ အင်္ဂါအစိတ်အပိုင်း ဖြစ်သည်ဟု ဆိုလျှင်လည်း အတ္တမှ အဝိဇ္ဇာကို ခုတ်ဖြတ်ပယ်ထုတ်၍ ရနိုင်မည် မဟုတ်ချေ။ အဝိဇ္ဇာကို ပယ်ထုတ်ပါက အတ္တ၏ အင်္ဂါအစိတ်အပိုင်း ချို့တဲ့၍ အတ္တသည် ဖောက်ပြန်ပျက်စီးတတ်သည်ဟု ဝန်ခံရာရောက်၏။ အဝိဇ္ဇာသည် ပြင်ပမှ လာရောက်၍ အတ္တသို့ ယာယီ ပူးကပ်နေသည်ဟု ဆိုပြန်ပါက အဝိဇ္ဇာသည်လည်း အတ္တကဲ့သို့ သီးခြား ရပ်တည်နိုင်သည်ဟု ဆိုရာရောက်၏။ ထိုသို့ သီးခြား ရပ်တည်နိုင်စွမ်းသော အဝိဇ္ဇာဓာတ်သည်လည်း ကိုယ်ပိုင်စွမ်းအားရှိသူဖြစ်၍ သူပူးလိုက ပူးကပ်၍ သူခွာလိုက ခွာမည်။ အတ္တသည် အဝိဇ္ဇာကို ပယ်ရန် စွမ်းနိုင်မည် မဟုတ်ချေ။ အဝိဇ္ဇာ ကင်းလွတ်ပြီးသော အတ္တ (ဘုရားရဟန္တာ) များကိုလည်း အဝိဇ္ဇာသည် သူထင်သလို ဝင်ရောက် ပူးကပ် မှီတွယ်နိုင်လေရာ၏။ ထိုအခါ ရဟန္တာဖြစ်ပြီးမှ ပြန်လည်၍ ပုထုဇဉ် ဖြစ်ပြန်လေရာ၏။ သံသရာမှ လွတ်မြောက်ပြီးမှ သံသရာ၌ ပြန်လည်ကျင်လည် ပြန်သည်ဟု ဆိုရာရောက်၏။

## ဘဝကူးပြောင်းရာ၌ စိစစ်ပုံ

'ပုဂ္ဂလ'ဟု ခေါ်သော အတ္တသည် မပျက်မစီး အမြဲတည်သည်ဟု ဆိုပါက ထိုအတ္တသည်ပင်လျှင် တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းခြင်း ဖြစ်ရပေမည်။ ထိုအခါ လူဘဝမှ တိရစ္ဆာန်ဘဝသို့ ကူးပြောင်းရာ၌ ထိုလူ

သည်ပင် တိရစ္ဆာန်ဖြစ်သည်ဟု ဆိုရပေမည်။ တိရစ္ဆာန်ဘဝမှ လူ့ဘဝသို့ ကူးပြောင်းလာသူကို တိရစ္ဆာန်ကြီး ဟူ၍ပင် ဆက်၍ ခေါ်ရမည်လော၊ ထိုအတ္တတစ်ခုတည်းပင်ဖြစ်၍ ဤဘဝ၌ လက်ခြေပြတ်သူသည် နောက်ဘဝ၌ လက်ခြေပြတ်ရတော့မည်လော။ ဤဘဝမှ ရောဂါများသည် နောက်ဘဝသို့လည်း လိုက်ပါသွားသလော၊ ဤဘဝ၌ ရူးသွပ်သူသည် နောက်ဘဝ၌လည်း ရူးသလော၊ အရူး၏အတ္တသည် ဘဝဆက်တိုင်း အရူးချည်းဖြစ်၍ အရူးဘဝမှ မလွတ်နိုင်တော့ပြီလော၊ ကျွဲ, နွား, ဆိတ်, ဝက် စသည်တို့သည်လည်း ဘဝဆက်တိုင်း ကျွဲ, နွား, ဆိတ်, ဝက် ဖြစ်နေရတော့မည်လော၊ ထိုအတ္တတစ်ခုတည်းသည်ပင် မပျက်မစီး အမြဲတည်၍ ဤဘဝမှ ထိုဘဝသို့ ဘဝကူးပြောင်းသည်ဟု ဆိုပါက သေခြင်း ဟူ၍ မရှိ။ သေခြင်းမရှိလျှင် သတ်မှု အကုသိုလ်ကံ (ပါဏာတိပါတကံ) ဟူ၍ မရှိနိုင်။ ထိုအခါ ပါဏာတိပါတ အကုသိုလ်ကံကို ပယ်သဖြင့် ဤလောက၌ နိုင်ထက်စီးနင်း အဓမ္မဝါဒ ထွန်းကားလာတော့မည်။ (ဘဂဝဒ်ဂီတာ ကျမ်း၌ လူသည် အဝတ်ဟောင်းကို လဲ၍ အဝတ်သစ်ကို ဝတ်သကဲ့သို့ အတ္တသည် ခန္ဓာကိုယ်အဟောင်းကို စွန့်၍ ခန္ဓာကိုယ်အသစ်ကို လဲလှယ်ယူခြင်းကို ဘဝကူးပြောင်းသည်ဟု ဆို၏။ အတ္တကို သတ်သော်လည်း မသေသောကြောင့် သတ်ရာမရောက်၊ ထို့ကြောင့် ဆရာသမားနှင့် ဦးကြီး ဦးလေး ဆွေတော်မျိုးတော်တို့ကို တိုက်ခိုက်နှိမ်နင်းရန် ရှရီကရိရှနာက အဇ္ဇုနဘုရင်ကို တိုက်တွန်းကြောင်း ဖော်ပြထား၏။)

## ပရဝါဒီ၏ချေပချက်

ပရဝါဒီသည် ပုဂ္ဂလဟု ခေါ်သော 'အတ္တ'သည် မြဲ၍ ဤဘဝမှ ထိုဘဝသို့ ကူးပြောင်းကြောင်းကို ဘုရားဟောပါဠိတော် အထောက်အထားဖြင့်ပင် ပြန်လည်ချေပ ရှင်းပြသည်။

"သ သတ္တက္ခတ္တုပရမံ၊ သန္ဓာဝိတွာန ပုဂ္ဂလော။"

(ကထာဝတ္ထုပါဠိ၊ ၃၀။)

သ-သော ပုဂ္ဂလော၊ ထိုသောတာပန်ပုဂ္ဂိုလ်သည်။ သတ္တက္ခတ္တုပရမံ၊ အလွန်ဆုံး ခုနစ်ဘဝသာလျှင်။ သန္ဓာဝိတွာန၊ သံသရာ၌ ပြေးသွား ကျင်လည်၍'-

ဟူသော သံယုတ်ပါဠိတော်လာ စကားရပ်ကို ကိုးကား၍လည်းကောင်း၊

"အနမတဂ္ဂေါယံ ဘိက္ခဝေ သံသာရော၊ ပုဗ္ဗကောဋိ န ပညာယတိ၊ အဝိဇ္ဇာနီဝရဏာနံ သတ္တာနံ တဏှာသံယောဇနာနံ သန္ဓာဝတံ သံသရတံ။" (သံ၊ ၁၊ ၃၈၇)

"ရဟန်းတို့ ဤသံသရာ၏ အစကို မသိနိုင်၊ မသိမှု 'အဝိဇ္ဇာဖြင့်' ပိတ်ဖုံးအပ်ကုန်လျက် တဏှာနှောင်ကြိုးဖြင့် ဖွဲ့ချည်အပ်ကုန်သည်ဖြစ်၍ ဘဝများစွာ သံသရာ၌ ကျင်လည် ပြေးသွားကြရကုန်သော သတ္တဝါတို့၏ ရှေ့အစွန်းသည် မထင်။"

ဤပါဠိတော်များကို ကိုးကား၍လည်းကောင်း ထိုပုဂ္ဂိုလ် (အတ္တ) တစ်ခုတည်းသည်ပင် ဘဝ့ကူးပြောင်းသည်ဟု အခိုင်အမာပြဆို၏။

ထို့ပြင် သောတာပန်တည်ပြီးသော ပုဂ္ဂိုလ်သည် ဤလူ့ပြည်မှ စုတေသေလွန်၍ နတ်ပြည်သို့ ရောက်သောအခါ ထိုနတ်ပြည်၌ သောတာပန်ပင်ဖြစ်၏။ ထိုသို့ လူ့ဘဝ၌လည်း သောတာပန်၊ နတ်ဘဝ၌လည်း သောတာပန်ဟု ဆိုပါက ထိုနှစ်ဘဝလုံး၌ ထိုသောတာပန်ပုဂ္ဂိုလ် တစ်ဦးတည်းသာ ဖြစ်၏။ ဤသဘာဝယုတ္တိကို ထောက်ဆ၍ ဤဘဝမှပုဂ္ဂိုလ် (အတ္တ)သည် ထိုဘဝသို့ ကူးပြောင်း၏။ အတ္တတစ်ခုတည်းသာလျှင် မပျက်မစီးဘဲ ထိုဘဝ ဤဘဝ ကူးပြောင်းသည်ဟုဆို၏။

## ပရဝါဒီ၏ အယူအဆလွဲပုံ

အမှန်စင်စစ်အားဖြင့် ပုဂ္ဂိုလ်သတ္တဝါသည် ရုပ်, ဝေဒနာ, သညာတို့ကဲ့သို့ ပရမတ္ထအားဖြင့်ရှိသော တရားမဟုတ်ချေ။ ရုပ်, ဝေဒနာ, သညာတို့နှင့် အတူယှဉ်ပြိုင် ရပ်တည်နေသော သီးခြားဓမ္မတစ်ခု မဟုတ်ချေ။ ရုပ်, ဝေဒနာ, သညာ စသော ခန္ဓာငါးပါးအစုအဝေး၊ ရုပ်နာမ် အစုအဝေး

ကိုပင် သမ္မုတိသစ္စာအားဖြင့် ပုဂ္ဂိုလ် သတ္တဝါ ဟူ၍ ခေါ်ဆိုပညတ်ထားခြင်းဖြစ်၏။ ထမ်းပိုး၊ ဘီး၊ ဝင်ရိုး၊ လှည်းသံ စသည်တို့ကို စုပေါင်း၍ လှည်းဟု ခေါ်ရာ၌ လှည်းသည် ထိုထမ်းပိုး စသည်မှ သီးခြားအရာဝတ္ထု မဟုတ်ချေ။ ဤနည်းအတူ ရုပ်နာမ်အစုအဝေးကိုသာ ပုဂ္ဂိုလ်သတ္တဝါဟု ခေါ်ဆိုပညတ်ထားခြင်းဖြစ်၍ ပုဂ္ဂိုလ်သတ္တဝါသည် ရုပ်နာမ်မှ တခြား မဟုတ်ချေ။ ရုပ်နာမ်ကဲ့သို့ ပရမတ္ထတရားလည်း မဟုတ်ချေ။

ရုပ်နာမ်ဓမ္မတို့သည် ကြောင်းကျိုးဆက်စပ် ဖြစ်ပျက်နေရာ ထိုဖြစ်ပျက် အစဉ်အတန်းကြီး (သန္တတိ)ကို ပုဂ္ဂိုလ်သတ္တဝါဟု ခေါ်ရ၏။ ဤဘဝ တစ်ခုတည်းမှာပင် ကလေးဘဝနှင့် လူပျို၊ လူအိုဘဝတို့ မတူ ပြောင်းလဲ နေ၏။ အဟောင်းအဟောင်းတို့ ချုပ်ပျောက်၍ အသစ်အသစ်တို့က အစားဝင်ရောက် နေရာယူကြ၏။ ငယ်စဉ်က ရုပ်များသည် ကြီးလာသော အခါ မရှိတော့ချေ။ သို့သော်လည်း ငယ်စဉ်က မောင်ဖြူကို ကြီးသော အခါ၌လည်း ဦးဖြူဟူ၍ ဆက်လက်ခေါ်ကြရ၏။ အကြောင်းမူ ဖြစ်ပျက် အစဉ်အတန်း (သန္တတိ) မှာ တစ်ခုတည်း ဖြစ်၏။

ဖယောင်းတိုင်တစ်ခုကို ထွန်းညှိရာ၌ ဆက်လက် တောက်လောင် နေရာ တဖြည်းဖြည်း တိုသွားသည်ကို တွေ့ရပေမည်။ အမှတ်တမဲ့ကြည့် ပါက မူလထွန်းညှိစ မီးတောက် မီးလျှံသည်ပင် ဖယောင်းတိုင် တိုသည် အထိ ဆက်လက်တည်မြဲနေသည်ဟု ထင်ရ၏။ အမှန်စင်စစ် မီးစာတို သွားခြင်း၊ ဖယောင်းများ အရည်ပျော်ကာ လောင်ကျွမ်းသွား၍ ဖယောင်း တိုင် တိုသွားခြင်းတို့ကို ကြည့်ပါက ဖယောင်းတိုင်မီးသည် အသစ်အသစ် ဆက်လက် တောက်လောင်နေသည်ဟု နားလည်နိုင်၏။ မီးတောက် အဟောင်းနေရာ၌ မီးတောက်အသစ်က အစားဝင် နေရာယူလိုက်သဖြင့် ဟန်မပျက် ဆက်လက် တည်နေသော မီးတောက်ကို မူလထွန်းညှိစက မီးတောက်ဟုပင် ထင်မှတ်ကြရ၏။ ထိုမီးတောက်ဖြစ်စဉ် (သန္တတိ)မှာ တစ်ခုတည်းဖြစ်သောကြောင့် လောကဝေါဟာရအားဖြင့် လူများ နား လည်စေရန် ဖယောင်းတိုင်မှ မီးတောက်သည် ထွန်းညှိစက မီးတောက် ဟူ၍ပင် ပြောဆိုကြရ၏။

ထိုနည်းအတူ ဝေဿန္တရာမင်းကြီးဘဝက နာမ်ခန္ဓာဖြစ်စဉ်ကြီးသည် ဂေါတမဘုရားရှင်ဘဝ၌ ဆက်လက် ဖြစ်ပေါ်နေရာ အကြောင်းအကျိုး ဆက်စပ်နေသဖြင့် ဖြစ်ပျက်အစဉ်တန်း (သန္တတိ) အားဖြင့် ထိုပုဂ္ဂိုလ်တစ်ဦးတည်းပင် "ဝေဿန္တရာမင်းကြီးသည် ယခု ငါဘုရားဖြစ်လာ၏"ဟု လူများနားလည်စေရန် သမ္မုတိသစ္စာအားဖြင့် ဟောတော်မူခြင်းဖြစ်၏။

လူ့ဘဝမှ သောတာပန်သေဆုံးလျှင် နတ်ပြည်၌ သောတာပန်နတ်သား ဖြစ်သည်ဟု ဆိုရာ၌လည်း ထိုဘဝနှစ်ခု၌ နာမ်တရားတို့၏ ဖြစ်ပျက်အစဉ်အတန်း (သန္တတိ) သည် တစ်ခုတည်းသာ ဖြစ်၏။ ရှေ့ဘဝနှင့်နောက်ဘဝသည် အကြောင်းအကျိုး ဆက်စပ်နေသော ဖြစ်ပျက် အစဉ်အတန်းကြီးတစ်ခု ဖြစ်၏။

ဤဘဝမှ ရုပ်နာမ်များသည် နောက်ဘဝသို့ လိုက်ပါခြင်း မရှိချေ။ သို့ရာတွင် ထိုသောတာပန်ပုဂ္ဂိုလ်၏ နာမ်ခန္ဓာဖြစ်စဉ်သည် ဆင်တူမှုအမွေဆက်ခံမှုရှိသောကြောင့် ဤဘဝက သောတာပန်ကို နောက်ဘဝ၌လည်း သောတာပန်ဟူ၍ပင် ခေါ်ရလေသည်။ ပရဝါဒီပုဂ္ဂိုလ်သည်ကား သောတာပန်ပုဂ္ဂိုလ်၏ အတ္တသည် ဤလူ့ဘဝမှ နတ်ဘဝသို့ ရွှေ့ပြောင်းသွားသောကြောင့်သာလျှင် ထိုပုဂ္ဂိုလ်ကို သောတာပန်ဟု ဆက်လက်ခေါ်ခြင်းဖြစ်ရမည်ဟု လွဲမှားစွာ ယူဆလေသည်။

## ဘဝကူးရာ၌ ရုပ်နာမ်တို့ပါ ကူးသလော

ပရဝါဒီ ပုဂ္ဂိုလ်သည် ဘဝကူးရာ၌ အတ္တသည် ရုပ်နာမ်နှင့်တကွ ကူးပြောင်းသည်ဟု ယူဆ၏။ ရုပ်ခန္ဓာကိုယ်ကြီးကို သရီရဟု ခေါ်၍ထူလသရီရနှင့်လိင်္ဂသရီရ ဟူ၍ နှစ်မျိုးနှစ်စား ခွဲခြားကြ၏။ ဤဘဝ၌ တွေ့မြင်နေရသော အကြမ်းစား ရုပ်ခန္ဓာကိုယ်ကြီးကို ထူလသရီရဟု ခေါ်ကြ၏။ ထိုထူလသရီရနှင့် ပုံစံတူ၍ မမြင်မတွေ့နိုင်ရလောက်အောင် နူးညံ့သိမ်မွေ့သော ရုပ်ခန္ဓာ ကိုယ်တစ်မျိုးကို (သုခုမသရီရ) 'လိင်္ဂသရီရ'ဟု

ခေါ်ကြ၏။ သတ္တဝါအသက်ရှင်နေစဉ်အတွင်း၌ ထူလသရီရနှင့် လိင်္ဂသရီရသည် တစ်ထပ်တည်း တစ်သားတည်းကျနေကြ၍ သတ္တဝါ သေဆုံးသောအခါ လိင်္ဂသရီရသည် ထူလသရီရမှ ခွဲခွာထွက်လာသည်။ သတ္တဝါတို့သည် ထိုလိင်္ဂသရီရဖြင့် နောက်ဘဝသစ်သို့ ကူးပြောင်း၏။ လိင်္ဂသရီရ၌ သိမ်မွေ့သော မျက်စိ, နား, နှာခေါင်း စသော အင်္ဂါအစိတ်အပိုင်းများ အပြည့်အစုံပါရှိသည်ဟု ယူဆကြ၏။ ထို့ကြောင့် သတ္တဝါသေလျှင် နူးညံ့သိမ်မွေ့သော ရုပ်နှင့်တကွ ဘဝကူးပြောင်းသွားသည်ဟု ပရဝါဒီက ယူဆ၏။ ထို့ပြင် ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဏ်ဟူသော နာမ်တရားတို့သည်လည်း နောက်ဘဝသို့ ကူးပြောင်းလိုက်ပါကြသည်ဟု ပရဝါဒီက ယူဆ၏။

**စိစစ်ဝေဖန်ချက်**

ရုပ်ခန္ဓာကိုယ် (လိင်္ဂသရီရ)နှင့်တကွ အတ္တသည် ဘဝကူးပြောင်းသည်ဟု ဆိုလျှင် နောက်ဘဝ၌လည်း ဤဘဝက ခန္ဓာကိုယ်အတိုင်း တစ်ပုံစံတည်း ဖြစ်ရတော့မည်။ ထိုအခါ ပုံစံမှာ တစ်သမတ်တည်း တူညီနေသဖြင့် ဤဘဝ၌ ကျွဲဖြစ်သူသည် နောက်ဘဝ၌ ကျွဲပုံစံအတိုင်း ဖြစ်ရတော့မည်။ ခွေးသည်လည်း ခွေးပုံစံအတိုင်း ဖြစ်ရတော့မည်။ ဤဘဝ၌ လက်, ခြေပြတ်သူသည် နောက်ဘဝ၌ လက်ခြေပြတ်သူပင် ဖြစ်ရတော့မည်။ ဘယ်အခါမှ မပြောင်းလဲဘဲ တစ်ပုံစံတည်း ဖြစ်နေ၍ တိရစ္ဆာန်သည် တိရစ္ဆာန်ဘဝမှ လွတ်ရတော့မည် မဟုတ်။

အကယ်၍ နောက်ဘဝ၌ ပုံသဏ္ဌာန်အသစ် ပြောင်းလဲသည်ဟု ဆိုပါက ဤဘဝမှ ရုပ်ခန္ဓာကိုယ် လိုက်ပါသွားသည်ဟု မဆိုနိုင်တော့ချေ။ ဤဘဝမှ ဝေဒနာများသည် နောက်ဘဝသို့ လိုက်ပါသွားသည်ဟု ဆိုလျှင် ငရဲသားသည် လူ့ဘဝရောက်သော်လည်း ဒုက္ခဝေဒနာ မပျောက်ဘဲ ငရဲဒုက္ခကို ဆက်လက်ခံစားနေရပေလိမ့်မည်။ နတ်ဗြဟ္မာတို့သည် လူ့ပြည်ရောက်သော်လည်း သုခဝေဒနာ မပျောက်ဘဲ လူ့ပြည်မှာပင် နတ်ချမ်းသာ ဗြဟ္မာ့ချမ်းသာတို့ကို ဆက်လက်ခံစားနိုင်ကြပေလိမ့်မည်။ ထို့ပြင် ဤဘဝမှ သညာသည် နောက်ဘဝသို့ လိုက်ပါသည်ဟု ဆိုပါက ဤဘဝမှ

ကျက်မှတ်ထားသော စာပေဗဟုသုတတို့သည် နောက်ဘဝ၌ သင်ယူကျက်မှတ်ရန် လိုတော့မည် မဟုတ်ချေ။

အမှန်စင်စစ် ဝေဒနာ၊ သညာတို့သည် ဖြစ်ပြီးနောက် ချက်ချင်းချုပ်ပျက်တတ်သောကြောင့် စက္ကန့်ပိုင်းမျှကြာရှည်အောင် မတည်နိုင်ချေ။ ထိုမျှသက်တမ်းတိုသော ဝေဒနာ သညာတို့သည် အဘယ်ကဲ့သို့ နောက်ဘဝသို့ လိုက်နိုင်ကြမည်နည်း။ ထို့ပြင် ဤဘဝက ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်တို့သည် နောက်ဘဝသို့ လိုက်ပါသွားသည် ဆိုပါက ဤဘဝနှင့် နောက်ဘဝသည် ဘာမျှ ထူးခြားမှုရှိတော့မည် မဟုတ်ချေ။ ဘဝကူးသည်ဟုပင် မဆိုနိုင်တော့ချေ။ တစ်ဖန် အတ္တ (ပုဂ္ဂလ)သည် ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ် မပါဘဲ နောက်ဘဝသို့ အတ္တချည်းသက်သက် ကူးပြောင်းသွားသည်ဟု ဆိုပါက ထိုအတ္တသည် ခန္ဓာငါးပါးမှ အလွတ်ဖြစ်နေပေမည်။ ခန္ဓာငါးပါးမှ အလွတ်ဖြစ်သော အတ္တသည် မြတ်စွာဘုရားဟောကြားသော ခန္ဓာငါးပါး၌ အကျုံးမဝင်၊ ခန္ဓာငါးပါးနှင့် ဆက်စပ်ခြင်းမရှိသဖြင့် နိဗ္ဗာန်နှင့် အဆင့်တူနေပေလိမ့်မည်။

ပုဂ္ဂိုလ်သတ္တဝါဟူသည် ပရမတ္ထအားဖြင့် မရှိ၊ ပြောဆိုဆက်ဆံရာ၌ လွယ်ကူစေခြင်းငှာ သတ်မှတ်အမည်ပေးထားခြင်းမျှသာ ဖြစ်သည်ဟု သကဝါဒီက ဆိုလို၏။ ပရဝါဒီက ပုဂ္ဂိုလ်သတ္တဝါဟူသည် ရုပ်၊ ဝေဒနာတို့ကဲ့သို့ ပရမတ္ထအားဖြင့် တည်ရှိသော၊ တကယ်ရှိသောတရား၊ သီးခြားတရားတစ်ခုဟု ယူဆလေသည်။ ပုဂ္ဂိုလ်သတ္တဝါ (အတ္တ)ကို ပရဝါဒီယူဆသည့်အတိုင်း တကယ်ပင် အရှိတရားဟု ဆိုပါလျှင် -

(က) ခန္ဓာငါးပါးကိုသော်လည်း ပုဂ္ဂိုလ် (အတ္တ)ဟု ခေါ်ရပေမည်။

(ခ) ပုဂ္ဂိုလ် (အတ္တ)သည် ခန္ဓာငါးပါးမှ အလွတ်သော်လည်း ဖြစ်ရမည်။

ခန္ဓာငါးပါးကို ပုဂ္ဂိုလ် (အတ္တ)ဟု စွဲယူပါက ထိုပုဂ္ဂိုလ် (အတ္တ)သည် ခန္ဓာငါးပါးပျက်သောအခါ ပုဂ္ဂိုလ် (အတ္တ) သည်လည်း ပျက်ရပေတော့မည်။ ထိုသို့ ပုဂ္ဂိုလ် (အတ္တ)သည် ဤဘဝ၌ပင် ပျက်စီးသည်ဟု ဆိုပါက

ဥစ္ဆေဒဒိဋ္ဌိ (မိစ္ဆာဒိဋ္ဌိ) ဖြစ်ရပေတော့မည်။ ခန္ဓာငါးပါးမှ အလွတ်ဖြစ်သော ပုဂ္ဂိုလ် (အတ္တ) သည်မူကား ခန္ဓာငါးပါး ပျက်သော်လည်း အမြဲတည် နေပေလိမ့်မည်။ ထိုသို့အမြဲတည်နေသည်ဟု ဆိုပါက ပုဂ္ဂိုလ် (အတ္တ) သည် နိဗ္ဗာန်နှင့် ထပ်တူညီနေပေလိမ့်မည်။ ပုဂ္ဂိုလ် (အတ္တ) မပျက်မစီး တည်မြဲနေသည်ဟု ယူဆသောကြောင့် သဿတဒိဋ္ဌိ (မိစ္ဆာဒိဋ္ဌိ) ဖြစ်တော့ မည်။ သကဝါဒီဘက်မှမူ ပုဂ္ဂိုလ်သတ္တဝါဟူသည် ဝေါဟာရပညတ်မျှသာ ဖြစ်၍ တကယ်အရှိတရား (ပရမတ္ထ) မဟုတ်သောကြောင့် ပုဂ္ဂိုလ်သတ္တဝါ ဖြစ်ရန် မလို၊ ပျက်ရန် မလို၊ တည်မြဲရန်လည်း မလိုတော့ချေ။ ပုဂ္ဂိုလ် သတ္တဝါ (အတ္တ) ပြတ်စဲသည်ဟု ယူဆသော ဥစ္ဆေဒဒိဋ္ဌိ၊ တည်မြဲသည်ဟု ယူဆသော 'သဿတဒိဋ္ဌိ' အစွန်းနှစ်ပါးမှ လွတ်မြောက်၍ တကယ်မရှိဘဲ နာမည်မျှသာရှိသော အရာကို မြဲ မမြဲ၊ ပြတ် မပြတ် ပြောရန် မလိုတော့ချေ။ သကဝါဒီအနေဖြင့် အတ္တကို အရှိတရားဟု လက်ခံစွဲယူခြင်း မရှိသော ကြောင့် အတ္တနှင့်ဆိုင်သော ပြဿနာများကို ဖြေရှင်းရန် မလိုတော့ချေ။

## ၂။ ပရိဟာနိကထာ

### ရဟန္တာအဖြစ်မှ လျှောကျခြင်း

မဟာသံဃိကဂိုဏ်း၊ သမ္မတိယဂိုဏ်း၊ ဝဇ္ဇီပုတ္တကဂိုဏ်း၊ သဗ္ဗတ္ထိဝါဒ ဂိုဏ်းတို့၏ အယူဝါဒဖြစ်၏။ ပဌမသင်္ဂါယနာတင်ပွဲနှင့် ဒုတိယသင်္ဂါ ယနာတင်ပွဲတွင် အရှင်မဟာကဿပ၊ အရှင်မဟာယသ စသော ရဟန္တာ မထေရ်ကြီးများက အပေါ်စီးနေရာယူ၍ ဘုရားဟောတရားတော်များကို ပြင်ဆင် ဖြည့်စွက်ခြင်း မပြုရန် ဆုံးဖြတ်တော်မူခဲ့ကြသည်။ မိမိတို့ထင် သလို ပြုပြင်၍ မိမိတို့ စိတ်တိုင်းကျ နေလိုကြသော ရဟန်းများသည် သာသနာ့ဦးဆောင် ရဟန္တာ မထေရ်ကြီးများအပေါ် မကျေနပ်သဖြင့် ရဟန္တာ၏ အဆင့်အတန်းကို နှိမ့်ချရန်၊ အောက်တန်း နောက်တန်းသို့ ပို့ရန် ကြံစည် ကြိုးပမ်း တီထွင်ခဲ့သော ဝါဒဖြစ်သည်။ ရဟန္တာသည် အနာဂါမ်အဆင့်၊ သကဒါဂါမ်အဆင့်၊ သောတာပန်အဆင့်တိုင်အောင်

ပြန်လည်လျှောကျနိုင်သည်ဟု အထက်ဖော်ပြပါ ဂိုဏ်းသားများ (ပရဝါဒီ) က ဆိုကြသည်။ ထိုအဆိုကို ခိုင်မြဲစေရန် ဘုရားဟော ပါဠိတော်များကို ကိုးကားရွတ်ဆို၍ မိမိလိုရာ အဓိပ္ပာယ်ကို ဆွဲယူရှင်းပြကြသည်။

အင်္ဂုတ္တိုရ်ပါဠိတော် (၃၊ ၁၅၃) ၌ -

"အလုပ်ကိစ္စများခြင်း၊ စကားပြောမှုများခြင်း၊ အိပ်စက်မှု၌ ဝါသနာထုံခြင်း၊ ပရိသတ်နှင့် ရောနှောမှုလွန်ကဲခြင်း၊ လွတ်မြောက်ပြီးသော (ဖိုလ်) စိတ်ကို ပြန်လည်ဆင်ခြင်မှုမပြုခြင်း ဤငါးပါးသည် သမယဝိမုတ္တပုဂ္ဂိုလ်အတွက် ဆုတ်ယုတ်နိမ့်ကျရန် အကြောင်းများ ဖြစ်ကုန်၏"

ဟု မြတ်စွာဘုရား ဟောတော်မူခဲ့၏။ ထိုပါဠိတော်၌ -

ဈာန်ရသော သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် (သေက္ခ) ပုဂ္ဂိုလ်တို့ကို 'သမယဝိမုတ္တပုဂ္ဂိုလ်'ဟု ဆိုလို၏။

ထိုပုဂ္ဂိုလ်တို့သည် အထက်ဖော်ပြပါ အကြောင်းငါးချက်ကြောင့် ရှေ့တစ်ဆင့်ရမည့် တရားထူးကို မရနိုင်၊ ထိုသို့ ရသင့်သည်ကို မရခြင်းသည် ဆုတ်ယုတ်သည် မည်၏။ အမှန်စင်စစ် ရပြီးသော မဂ်ဖိုလ်တို့မှ ဆုတ်ယုတ်သည်ဟု မဆိုလိုချေ။ ရရှိပြီးသော လောကီဈာန်တရားများမှ ဆုတ်ယုတ်ခြင်းကို ဆိုလို၏။ ထိုသို့ လောကီဈာန်မှ ဆုတ်ယုတ်ခြင်း၊ ရသင့်သည့် အထက်မဂ်ဖိုလ်ကို မရခြင်းကို ရည်ရွယ်၍ စကားပြောမှုများခြင်း စသော အကြောင်းငါးပါးသည် သမယဝိမုတ္တပုဂ္ဂိုလ်အတွက် ဆုတ်ယုတ်ကြောင်းတရားများ ဖြစ်သည်ဟု မြတ်စွာဘုရား ဟောကြားတော်မူခဲ့၏။ ပရဝါဒီပုဂ္ဂိုလ်သည် ထိုပါဠိတော်၌ 'သမယဝိမုတ္တ'အရ ရဟန္တာပုဂ္ဂိုလ် ကိုပါ ထည့်သွင်းယူ၍ ရဟန္တာသည် သောတာပန်အဆင့် တိုင်အောင် ဆုတ်ယုတ်လျှောကျနိုင်သည်ဟု လိုရာဆွဲ၍ ပြောခြင်းဖြစ်လေသည်။

သကဝါဒအရ အမှန်စင်စစ် လောကုတ္တရာမဂ်တရားသည် တစ်ကြိမ်ရပါက ကိစ္စပြီး၏။ နှစ်ကြိမ် သုံးကြိမ် ထပ်ပြီး ရရန် မလိုချေ။

ရပြီးသော မဂ်ဖိုလ်မှ လျှောကျသည်ဟူ၍ မရှိချေ။ ရဟန္တာပုဂ္ဂိုလ်တို့သည် လောကီအဘိညာဉ်ကို ရပြီးပါက လျှောကျပျောက်ကွယ်သွားသည်ဟူ၍ မရှိ။ ပုထုဇဉ် သောတာပန် သကဒါဂါမ် အနာဂါမ်ပုဂ္ဂိုလ်တို့၌ လောကီ စျာန် အဘိညာဉ်တရားများသည် ပွားများအားထုတ်ခြင်း မပြုဘဲ ထား ပါက ကြာလျှင် လျှောကျ ပျောက်ကွယ်တတ်လေသည်။

## ၃။ (က) ဗြဟ္မစရိယကထာ

### နတ်ပြည်၌ မဂ်ဖိုလ်ရအောင် တရားကျင့်မှု

ပရဝါဒီသမ္မိတိယဂိုဏ်းသားတို့၏ အယူဝါဒအရ နတ်ပြည်၊ ဗြဟ္မာ့ ပြည်၌ မဂ်ဖိုလ်ရအောင် ကျင့်ကြံအားထုတ်မှု၊ ဘာဝနာပွားမှု မရှိဟုဆို ကြ၏။ နတ်ပြည် ဗြဟ္မာ့ပြည်တို့၌ ရဟန္တာ နတ်ဗြဟ္မာတို့သည် ဤလူ့ ပြည်၌ နေစဉ်ကပင် ဘာဝနာပွားများ အားထုတ်မှုကြောင့် နတ်ပြည် ဗြဟ္မာ့ပြည်သို့ ရောက်လျှင်ရောက်ချင်း ရဟန္တာဖြစ်ကြသည်။ ပဋိသန္ဓေ တည်စဉ်အခိုက်၌ ရဟန္တာဖြစ်ကြသည်ဟု ယူဆကြသည်။

သကဝါဒီက ထိုအယူအဆကို ပယ်ချ ချေဖျက်သည်။ အသညသတ် ဗြဟ္မာ့ပြည်မှလွဲ၍ ကြွင်းသော နတ်ပြည် ဗြဟ္မာ့ပြည်တို့၌ တရားကျင့်မှု ဘာဝနာ ပွားများအားထုတ်မှု အမှန်တကယ် ရှိသည်ဟု မှတ်အပ်၏။ ပုထုဇဉ် နတ် ဗြဟ္မာတို့သည် မြတ်စွာဘုရားတရားတော်ကို ကြားနာရ၍ သောတာပန် သကဒါဂါမ် အနာဂါမ် ရဟန္တာအဆင့်ဆင့်ဖြစ်သွားပုံကို လည်းကောင်း၊ ဤလူ့ပြည်မှ သောတာပန် သကဒါဂါမ်ဖြစ်ပြီး နတ်ပြည် ဗြဟ္မာ့ပြည်သို့ ဘဝကူးပြောင်းကာ ထိုနတ် ဗြဟ္မာ့ဘဝ၌ ဘာဝနာပွားများ မှုကြောင့် ရဟန္တာဖြစ်သွားပုံကိုလည်းကောင်း၊ လူ့ပြည်မှ အနာဂါမ် ပုဂ္ဂိုလ် သေလွန်လျှင် သုဒ္ဓါဝါသဗြဟ္မာ့ဘုံသို့ ရောက်၍ ဘာဝနာပွားများမှုကြောင့် ရဟန္တာဖြစ်သွားပုံကိုလည်းကောင်း သကဝါဒီဘက်က အကျယ်ရှင်းပြ တော်မူသည်။

ပရဝါဒီသည် အင်္ဂုတ္တိုရ်ပါဠိတော် (တ-၁၉၈) ၌-

"မြတ်သောအကျင့်ကို ကျင့်သုံးမှု (ဗြဟ္မစရိယဝါသ)ဖြင့် ဇမ္ဗူဒီပါ တောင်ကျွန်းသားတို့သည် တာဝတိံသာနတ်တို့ထက် သာလွန်၏"

ဟု ဟောတော်မူသော ဒေသနာတော်ကို ကိုးကား၍ နတ်ပြည်၌ မြတ်သော အကျင့်ကို ကျင့်သုံးမှု (ဗြဟ္မစရိယဝါသ) မရှိဟု ဆို၏။

သို့ရာတွင် မြတ်သောအကျင့်ကို ကျင့်သုံးမှု (ဗြဟ္မစရိယဝါသ) သည်

(၁) ရဟန်းပြုခြင်း၊

(၂) မဂ်ဖိုလ်ရအောင် ဝိပဿနာ ဘာဝနာပွားခြင်း -

ဟူ၍ နှစ်မျိုးရှိ၏။

ဤနေရာ၌ နံပါတ် (၁) အဓိပ္ပာယ်ဖြစ်သော ရဟန်းပြုခြင်းကို ဆိုလို၏။ နတ်ပြည်၌ ရဟန်းပြုခြင်း (ဗြဟ္မစရိယဝါသ) မရှိဟု မြတ်စွာဘုရား ဟောတော်မူလိုရင်းဖြစ်၏။ ပရဝါဒီသည် မြတ်စွာဘုရား ဆိုလိုချက်ကို သွေဖည်၍ ဤနေရာ၌ မလိုအပ်သော နံပါတ် (၂) အဓိပ္ပာယ်ကို ဆွဲယူလျက် "နတ်ပြည်၌ မဂ်ဖိုလ်ရအောင် ဘာဝနာပွားများမှု၊ တရားကျင့်မှု မရှိ"ဟု ဆိုလေသည်။

## ၃။ (ခ) ဩဓိသောကထာ

### ကိလေသာပယ်ရာ၌ တစ်စိတ်ချင်းခွဲပယ်မှု

ပရဝါဒီ သမ္မိတိယဂိုဏ်းသားတို့၏ အယူဝါဒအရ မဂ်သည် သစ္စာလေးပါးကို တစ်ပြိုင်နက် မသိ၊ ဒုက္ခသစ္စာကို တစ်ကြိမ်သိ၍ သမုဒယသစ္စာကို တစ်ကြိမ် သိ၏။ တစ်ဖန် နိရောဓသစ္စာကို တစ်ကြိမ်သိ၍ မဂ္ဂသစ္စာကို တစ်ကြိမ် သိ၏။ ဤသို့ လေးကြိမ်ခွဲ၍ သိသောကြောင့် သောတာပတ္တိမဂ်သည် ဒိဋ္ဌိနှင့်ဝိစိကိစ္ဆာကို ပယ်ရာ၌ ဒုက္ခသစ္စာကို မြင်ခိုက် လေးပုံတစ်ပုံ၊ သမုဒယသစ္စာကို မြင်ခိုက် လေးပုံတစ်ပုံ၊ နိရောဓ သစ္စာကို မြင်ခိုက် လေးပုံတစ်ပုံ၊ မဂ္ဂသစ္စာကို မြင်ခိုက် လေးပုံတစ်ပုံ ဟူ၍

လေးပိုင်းပိုင်း၍ ပယ်သတ်သည်။ သကဒါဂါမိမဂ်၊ အနာဂါမိမဂ်၊ အရဟတ္တမဂ်တို့သည်လည်း ဆိုင်ရာ ကိလေသာတို့ကို ပယ်သတ်ရာ၌ ဤနည်းတူ လေးစိတ်ခွဲ၍ လေးကြိမ်ပယ်သည် ဟု ယူဆ၏။

ဓမ္မပဒ ပါဠိတော် ဂါထာအမှတ် ၂၃၉ ၌-

"ပညာရှိသည် မိမိ၏ လောဘ ဒေါသ စသော အညစ်အကြေး တို့ကို ခဏခဏ အနည်းငယ်စီ ပယ်ထုတ်ရာ၏"

ဟူသော ဒေသနာတော်ကို ပရဝါဒီက ကိုးကားလေသည်။ အမှန်စင်စစ် ထိုဂါထာ၏အဓိပ္ပာယ်မှာ မဂ်ဉာဏ်က ကိလေသာပယ်ပုံကို ပြဆိုခြင်း မဟုတ်၊ လောကီကုသိုလ် ပြုလုပ်ဆည်းပူးရာ၌ ဟောကြားခြင်းဖြစ်၏။ ဒါနမှု သီလမှု ဘာဝနာမှု ဟူသော လောကီ ကုသိုလ်မှုကို မကြာခဏ အနည်းငယ်စီပြုခြင်းဖြင့် အကုသိုလ်အညစ်အကြေးကို ပယ်ထုတ်ရ မည်ဟု ဆိုလိုသည်။ ဤသို့ လောကီကုသိုလ်ဆည်းပူးရာ၌ ဟောတော်မူ သောတရားကို လောကုတ္တရာမဂ်ဖိုလ်အခန်းသို့ ယူငင်ကိုးကားခြင်းသည် နေရာဌာနလွဲမှားသဖြင့် ပရဝါဒီအတွက် အထောက်အထား မဖြစ်ချေ။

သကဝါဒီအလိုဖြင့် သစ္စာလေးပါးရှိသဖြင့် မဂ်ဉာဏ်ကို လေးဆင့် လေးမျိုး ခွဲရန် မလိုချေ။ ထိုသစ္စာလေးပါးသည် မဂ်၏ လုပ်ငန်းကိစ္စ လေးမျိုး ဖြစ်၏။ မဂ်သည် ထိုလုပ်ငန်းကိစ္စလေးခုကို တစ်ပြိုင်နက် တစ်ချက်တည်း ပြီးစီးအောင် ဆောင်ရွက်နိုင်၏။ ဆီမီးသည် အမှောင်ကို ပယ်ခွင်းခြင်း၊ အလင်းကို ဆောင်ခြင်း၊ ဆီကို ခန်းစေခြင်း၊ မီးစာကို ကုန်စေခြင်း ဤကိစ္စလေးချက်ကို တစ်ပြိုင်နက် ဆောင်ရွက်သကဲ့သို့ မဂ်ဉာဏ်သည် ဒုက္ခသစ္စာကို ပိုင်းခြား၍ သိခြင်း၊ သမုဒယသစ္စာ (ကိလေသာ)ကို ပယ်ခြင်း၊ နိရောဓသစ္စာကို မျက်မှောက်ပြုခြင်း၊ မဂ္ဂ သစ္စာ (မဂ္ဂင်ရှစ်ပါး)ကို ပွားများခြင်း၊ ဤကိစ္စလေးချက်ကို တစ်ပြိုင်နက် တစ်ချက်တည်း ဆောင်ရွက်သောကြောင့် ဝရဇိန်လက်နက် မိုးကြိုးစက် ကဲ့သို့ တစ်ချက်တည်းဖြင့်အပြီး ဆိုင်ရာ ကိလေသာတို့ကို ပယ်သည်ဟု မှတ်အပ်၏။

## ၄။ ဟေတုကထာ

### ပုထုဇဉ်သည် ကာမရာဂနှင့်ဒေါသကို ပယ်စွန့်မှု

ပရဝါဒီ သမ္မိတိယဂိုဏ်းသားတို့၏ အယူဝါဒအရ ဈာန်ရသော ပုဂ္ဂိုလ်သည် ကာမရာဂနှင့် ဒေါသကို ပယ်ခွာပြီးဖြစ်၏။ ထိုပုဂ္ဂိုလ်သည် အနာဂါမိမဂ်ကို ရသောအခါ ကာမရာဂနှင့် ဒေါသကို ထပ်မံပယ်ရန် မလိုတော့ချေ။ ရှေးအခါ ဈာန်ရသောအခိုက်ကပင် ပယ်ခွာပြီးဖြစ်သည်။ ထို့ကြောင့် ဈာန်ရပြီးနောက် တစ်ဆက်တည်း အနာဂါမိမဂ်ကို ရသူသည် ဈာန်ရခိုက် ပုထုဇဉ်ဘဝကပင် ကာမရာဂနှင့် ဒေါသကို ပယ်ပြီးဖြစ်သည်ဟု ယူဆ၏။

အင်္ဂုတ္တိုရ် ပါဠိတော် (အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ ဒု၊ ၂၉၃) ၌ -

> "သုနက္ခတ္တ စသော ဆရာကြီးခြောက်ဦးတို့သည် ကာမရာဂ၌ တပ်မက်ခြင်းကင်းသောကြောင့် ဗြဟ္မာ့ပြည်သို့ လားရောက်ကုန်၏။"

ဟူသော စကားရပ်ကို ကိုးကား၍ ပုထုဇဉ်သည် ကာမရာဂနှင့် ဒေါသကို ပယ်ကြောင်း ပရဝါဒီက ဆိုသည်။ ပရဝါဒီအလို ဈာန်ရပုထုဇဉ်သည် သောတာပတ္တိမဂ် သကဒါဂါမိမဂ်တို့ကို ရရန်မလို၊ ထိုမဂ်နှစ်ခုကို ခုန်ကျော်၍ အနာဂါမိမဂ်ကို ရ၏။ ပုထုဇဉ်ဘဝမှ အနာဂါမိဘဝသို့ ဖြတ်လမ်းမှ ကူးပြောင်းလို၏။

သကဝါဒီအလို ဈာန်သည် ကာမရာဂနှင့် ဗျာပါဒကို ဝိက္ခမ္ဘန ပဟာန်ဖြင့် ခေတ္တခွာထားခြင်း ဖြစ်သည်။ အကြွင်းမဲ့ ပယ်သတ်နိုင်သည် မဟုတ်၊ အနာဂါမိမဂ်သည်သာလျှင် ကာမရာဂနှင့် ဗျာပါဒကို သမုစ္ဆေဒ ပဟာန်ဖြင့် အကြွင်းမဲ့ပယ်သတ်နိုင်၏။ ထို့ကြောင့် ဈာန်ရသော ပုထုဇဉ်သည် ကာမရာဂနှင့် ဒေါသကို ပယ်ခွာထားသော်လည်း အကြွင်းမဲ့ သတ်ဖြတ်ခြင်း မပြုရသေး။ ထိုတရားနှစ်ပါးကို အနာဂါမိမဂ်ဖြင့် ပယ်သတ်ရမည်သာ ဖြစ်၏။

ဥပမာအားဖြင့် အဆိပ်ပင်ကြီးကို အကိုင်းအခက်မှန်သမျှ ခုတ်ချိုင်ထားလျှင် အဆိပ်သီးများ မသီးနိုင်၊ တစ်နှစ် နှစ်နှစ် စသည် ယာယီ အခိုက်အတန့်အားဖြင့် မသီးဘဲ နေလိမ့်မည်။ သို့ရာတွင် တစ်ချိန်တွင် ထိုအဆိပ်ပင်ကြီးသည် အကိုင်း အခက် အရွက်များ ထွက်လာ၍ အသီး သီးနိုင်သေး၏။ ထိုအဆိပ်ပင်ကြီးကို အမြစ်ပါနုတ်၍ တောက်တောက်စင်း၊ အခြောက်လှမ်း၊ မီးရှို့၊ ပြာချလိုက်ပါက ဘယ်သောအခါမျှ အဆိပ်သီး သီးတော့မည် မဟုတ်ချေ။ အပြီးသတ် အကြွင်းမဲ့ ပယ်သတ်လိုက်၏။

ဤဥပမာ၌ အဆိပ်ပင်၏ အကိုင်းအခက်များကို ခုတ်ချိုးထားခြင်းသည် ဈာန်ဖြင့် ကာမရာဂကို ပယ်ခွာခြင်းနှင့် တူ၏။ အမြစ်ပါမကျန် မီးရှို့ပြာချခြင်းသည် မဂ်ဖြင့် ကာမရာဂကို ပယ်ခွာခြင်းနှင့် တူ၏။ အကိုင်း ကို ချိုင်ပြီးသော်လည်း အမြစ်ကိုနုတ်၍ မီးရှို့ရန် လိုအပ်သကဲ့သို့ ဈာန်ဖြင့် ခွာထားသော ကာမရာဂ ဒေါသတို့ကို အနာဂါမိမဂ်က ပယ်သတ်ရန် လိုသေး၏။ ထိုသို့ ဈာန်သည် ကာမရာဂနှင့်ဒေါသကို အကြွင်းမဲ့ မပယ်နိုင်မူ၍ အနာဂါမိမဂ်က ပယ်သတ်ရခြင်းကြောင့် ပုထုဇဉ်သည် ကာမ ရာဂနှင့်ဒေါသကို ပယ်စွန့်နိုင်သည်ဟု မဆိုသင့်၊ ပုထုဇဉ်ဘဝမှ အနာဂါမ် ဘဝသို့ ဖြတ်လမ်းက ခုန်ကျော်တက်နိုင်သည်ဟု မဆိုသင့်။

ပရဝါဒီဂိုဏ်းသားများ ကိုးကားသော အင်္ဂုတ္တိုရ်ပါဠိတော် (၁-၄၇၇)-၌ အဆိုပါ သုနက္ခတ္တစသော ဆရာကြီးများသည် ပြဟ္မာ့ပြည် ရောက်၍ သက်တမ်းရှည်ကြာသော်လည်း ရာဂ ဒေါသကို မကုန်သေး သောကြောင့် သောက ပရိဒေဝ ဒုက္ခမှ မလွတ်ကင်းကြောင်းကို ဟော တော်မူခဲ့၏။ ပါဠိတော် စကားနှစ်ရပ်ကို ညှိနှိုင်းကြည့်တတ်ရန် သက ဝါဒီက ညွှန်ပြလေသည်။

## ၅။ သဗ္ဗမတ္ထီတိ ကထာ

### အတိတ် အနာဂတ် ရုပ်နာမ်တည်ရှိမှု = (အရှိတရား)

ပရဝါဒီ သဗ္ဗတ္ထိဝါဒဂိုဏ်းသားတို့၏ အယူဝါဒအရ ရုပ်တရား နာမ်တရားတို့သည် မိမိ၏ ပင်ကိုသဘာဝဖြစ်သော ရုပ်သဘာဝ နာမ်သဘာဝ

ကို မစွန့်သောကြောင့် အမြဲတမ်း တည်ရှိသည်။ အနာဂတ် ရုပ်နာမ်သည် အနာဂတ်ကာလ၌ တည်ရှိနေ၏။ အတိတ်ရုပ်နာမ်သည် အတိတ်ကာလ အတွင်း၌ တည်ရှိနေသည်ဟု ယူဆ၏။ အဖြူရောင် ပိတ်စတစ်ခုကို အနီရောင်ဆိုးသောအခါ အဖြူရောင်သည် အနီရောင် ပြောင်းသော်လည်း ပိတ်စမူကား မပြောင်းလဲသကဲ့သို့ အနာဂတ်ရုပ်နာမ်သည် ပစ္စုပ္ပန်အခိုက် (ဥပါဒ် ဌီဘင်) သို့ ရောက်သောအခါ အနာဂတ်သဘောကို စွန့်၍ ပစ္စုပ္ပန်သဘောကို ဆောင်၏။

သို့ရာတွင် ရုပ်နာမ်ဟူသော ပင်ကိုသဘာဝကို မစွန့်ချေ။ ရုပ်သည် ရုပ်သာလျှင်ဖြစ်၍ နာမ်သည် နာမ်သာလျှင် ဖြစ်ချေသည်။ ရုပ်သဘာဝ နာမ်သဘာဝကား တည်မြဲ၏။ ပစ္စုပ္ပန် ရုပ်နာမ်တို့သည် ချုပ်ဆုံးသောအခါ အတိတ်ရုပ်နာမ်အဖြစ်သို့ ပြောင်းလဲကုန်၏။ ပစ္စုပ္ပန်သဘာဝကို စွန့်ကုန်၍ အတိတ်သဘာဝကို ဆောင်ကုန်၏။ သို့ရာတွင် ရုပ်နာမ်တို့၏ ပင်ကိုသဘာဝကို မစွန့်ကုန်။

ဥပမာအားဖြင့် ဖောက်ပြန်တတ်သောကြောင့် ရုပ်ဟု ခေါ်ရာ၌ အတိတ်ရုပ်သည်လည်း ဖောက်ပြန်တတ်၏။ အနာဂတ်ရုပ်သည်လည်း ဖောက်ပြန်တတ်၏။ ပစ္စုပ္ပန်ရုပ်သည်လည်း ဖောက်ပြန်တတ်၏။ထို့ကြောင့် ရုပ်သည် အတိတ် အနာဂတ် ပစ္စုပ္ပန် ကာလသုံးပါး၌ ဖောက်ပြန်တတ်သော သဘာဝ (ရုပ်သဘာဝ)ကို မစွန့်ချေ။ ထို့ကြောင့် ပစ္စုပ္ပန်အခိုက်၌သာ မဟုတ်။ အတိတ် အနာဂတ် အခိုက်တို့၌လည်း ရုပ်သည် ရုပ်အဖြစ်ဖြင့် ရှိနေသည်ဟု ယူဆကြ၏။ ပုဗ္ဗေနိဝါသဉာဏ်ဖြင့် အတိတ်ဘဝများကို သိနိုင်ခြင်းသည် ထိုရုပ်နာမ်တို့သည် အတိတ်ကာလအတွင်း၌ တည်ရှိနေသောကြောင့်သာ ဖြစ်ရမည်ဟု ကြံစည်ယူဆ၏။

သံယုတ်ပါဠိတော် (၃-၃၉)၌-

"အတိတ် အနာဂတ် ပစ္စုပ္ပန် ရုပ်အားလုံးသည် ရူပက္ခန္ဓာမည်၏" ဟူသော ဘုရားဟောပါဠိတော်ကို ကိုးကား၍ အတိတ်ရုပ် အနာဂတ်ရုပ်တို့သည် တကယ်ရှိနေသောကြောင့်သာ ရူပက္ခန္ဓာ၌ ထည့်သွင်းရေတွက်ခြင်း ဖြစ်သည်ဟု ပရဝါဒီက ဆို၏။

သင်္ကဝါဒီ အလိုအရ အနာဂတ်ရုပ်နာမ်သည် မဖြစ်ပေါ်သေးသော ကြောင့် ရှိသည်ဟု မဆိုသင့်။ အတိတ်ရုပ်နာမ်သည်လည်း ချုပ်ဆုံးကွယ် ပျောက်သွားသောကြောင့် ရှိသည်ဟု မဆိုသင့်။ ပစ္စုပ္ပန်ဖြစ်ဆဲခဏ (ဥပါဒ် ဌီ ဘင်ခဏ) ၌သာလျှင် ရုပ်နာမ်တို့ကို ရှိသည်ဟု ဆိုသင့်၏။

## လုပ်ငန်းဆောင်ရွက်မှုဖြင့် စီစစ်ပုံ

ထင်ရှားရှိသော တရားသည် မိမိလုပ်ငန်းကိစ္စကို ဆောင်ရွက် နိုင်၏။ ပြီးမြောက်စေနိုင်၏။ ဥပမာအားဖြင့် မြင်သိမှု ဖြစ်ပေါ်ရာ၌ အဆင်း (ရူပါရုံ)၊ အလင်းရောင်၊ မျက်စိအကြည်ဓာတ်၊ နှလုံးသွင်းမှု (မနသိကာရ) ဤလေးချက်စုံညီလျှင် မြင်သိမှု (စက္ခုဝိညာဏ်စိတ်) ဖြစ်၏။ အတိတ်ရူပါရုံကို အတိတ်မျက်စိက မြင်ပါသလော။ အတိတ် ရူပါရုံကို အတိတ်အလင်းရောင်က ထွန်းပြနေပါသလော၊ အတိတ်စက္ခု ဝိညာဏ်က မြင်ပါသလော စသည်ဖြင့် မေးလျှင် မမြင်နိုင်ဟု ဖြေရပေ လိမ့်မည်။ ထိုနည်းအတူ အနာဂတ်ရူပါရုံကို အနာဂတ်မျက်စိက မြင် ပါသလော၊ အနာဂတ် စက္ခုဝိညာဏ်စိတ်က မြင်ပါသလော စသည်ဖြင့် မေးလျှင် မမြင်ဟု ဖြေရပေလိမ့်မည်။ ထိုအခါ အတိတ်, အနာဂတ် မျက်စိသည် မြင်ခြင်းကိစ္စကို မပြုတတ်၊ စက္ခုဝိညာဏ်စိတ်သည် မြင်ခြင်း ကိစ္စကို မပြုတတ်။ ထိုသို့ မိမိကိစ္စကို မဆောင်ရွက်နိုင်ဘဲလျက် အဘယ် သို့လျှင် ထင်ရှားရှိသည်ဟု ဆိုနိုင်ပါအံ့နည်း။ အတိတ်ကာလ၌ ရှိသော လက်ခြေတို့ဖြင့် သွားလာလှုပ်ရှား၍ ရနိုင်ပါသလော၊ အတိတ်ကာလ၌ ရှိသော ခန္ဓာကိုယ်ကြီးကို အတိတ်ကာလ၌ရှိသော ခွေး ကျီး လင်းတ တို့က ထိုးဆွကြသေးသလော၊ အတိတ်ကာလ၌ရှိသော လူကို ဘုရင်မင်း တို့က ဖမ်းဆီး နှိပ်စက်ဦးမည်လော၊ အတိတ်ကာလ၌ရှိသော ရေကို သောက်၍ ရမည်လော စသည်ဖြင့် မေးလျှင် မဖြစ်နိုင်ဟု ဖြေရပေမည်။ ထိုသို့ လုပ်ငန်းကိစ္စကို မဆောင်ရွက်နိုင်, မပြီးမြောက်စေနိုင်သော တရား မျိုးကို ရှိသည် (အတ္ထိ) ဟု မဆိုသင့်ချေ။

## ပရဝါဒီ၏ အကြောင်းပြချက်ကို ပယ်ဖျက်ပုံ

ပရဝါဒီက အဝတ်ဖြူကို အနီဆိုးရာ၌ အရောင်သာပြောင်း၍ အဝတ်ကား နဂိုအတိုင်းရှိသကဲ့သို့ ရုပ်နာမ်တို့သည် အနာဂတ်မှ ပစ္စုပ္ပန်သို့ ပြောင်း၍၊ တစ်ဖန် ပစ္စုပ္ပန်မှ အတိတ်သို့ ပြောင်းလဲကြ၏။ ထိုသို့ ကာလအားဖြင့် ပြောင်းလဲသော်လည်း ရုပ်နာမ်ကား မပြောင်းလဲ၊ မိမိ ရုပ်နာမ်သဘာဝအတိုင်း တည်၏ဟု ဆို၏။ ပရဝါဒီဆိုသော အကြောင်းပြ ချက်စကားရပ်၌ ရုပ်နာမ်တို့သည် အနာဂတ်မှ ပစ္စုပ္ပန်၊ ၎င်းမှတစ်ဖန် အတိတ်သို့ ပြောင်းလဲသည်ဟု ဆိုရာ အတိတ်အဖြစ်မှ ရှေ့သို့ ဆက် လက်၍ မပြောင်းလဲတော့ပြီလော၊ ပရဝါဒီ၏ ဥပမာ၌ အဝတ်ကို အဖြူမှ အဝါ၊ အဝါမှ အနီ၊ အနီမှ အနက် စသည်ဖြင့် ဆင့်ကဲဆင့်ကဲ ပြောင်းလဲ နိုင်သကဲ့သို့ အတိတ်ရုပ်နာမ်တို့သည် ရှေ့သို့ ဆက်လက် မပြောင်းလဲကြ တော့ပြီလော၊ အတိတ်မှ အနာဂတ်အဖြစ်သို့ တစ်ဖန် ပြန်လည်မပြောင်း တော့ပြီလော မေးရန်ရှိ၏။ ပရဝါဒီဂိုဏ်းသားတို့ကား အတိတ်ကို ရှေ့သို့ ဆက်လက်မပြောင်းလဲတော့ဘဲ အတိတ်မှာပင် ရပ်ထားကြ၏။

ပရဝါဒီ၏ အယူအဆအရ အတိတ်ဖြစ်သော မြတ်စွာဘုရားတို့ သည်လည်း အတိတ်ကာလမှာပင် ရှိနေကြ၍ ပျောက်ကွယ်မသွားကြပေ။ အနာဂတ်ဖြစ်သော ပွင့်တော်မူလတ္တံ့ ဘုရားများသည်လည်း အနာဂတ် ကာလမှာပင် ရှိနေကြ၏။ ဤသို့ဆိုပါက အတိတ်ကာလဘုရားများ၊ ပစ္စုပ္ပန်ကာလ ဘုရားများ၊ အနာဂတ်ကာလ ဘုရားများ၊ မျက်နှာချင်းဆိုင် တွေ့နိုင်ကြပါမည်လောဟု မေးလျှင် မတွေ့နိုင်ဟု ဖြေရပေလိမ့်မည်။ ထို့ကြောင့် အတိတ်ကာလပွင့်တော်မူပြီး မြတ်စွာဘုရားတို့သည် ထင်ရှား မရှိကြတော့ချေ။ အနာဂတ်ကာလ ပွင့်လတ္တံ့မြတ်စွာဘုရားတို့သည် လည်း ထင်ရှားမရှိသေးဟု မှတ်သင့်၏။

## ပါဠိတော်ကိုးကား၍ ပရဝါဒီကို ချေဖျက်ပုံ

သံယုတ်ပါဠိတော် (၃-၅၉) နိရုတ္တိပထသုတ်၌ "အတိတ်, အနာဂတ်, ပစ္စုပ္ပန် ကာလသုံးပါးကို ရောယှက်ရှုပ်ထွေးခြင်း မပြုသင့်၊ အတိတ်ကာလ

ရုပ် ဝေဒနာ သညာ စသည်တို့ကို 'ဖြစ်ပြီး'ဟူ၍သာ ဆိုသင့်၏။ ရှိသည် (အတ္ထိ)ဟု မဆိုသင့်။ 'ဖြစ်လတ္တံ့'ဟူ၍ မဆိုသင့်။ အနာဂတ်ရုပ်, ဝေဒနာ စသည်တို့ကိုလည်း 'ဖြစ်လတ္တံ့'ဟူ၍သာ ဆိုသင့်၏။ ရှိသည် (အတ္ထိ)ဟူ၍ ဆိုသင့်၏။ ရှိသည် (အတ္ထိ) ဟူ၍ မဆိုသင့်။ ဖြစ်ဆဲ ပစ္စုပ္ပန် ရုပ်နာမ် တို့ကိုသာလျှင် ရှိသည် (အတ္ထိ)ဟု ဆိုသင့်၏" စသည်ဖြင့် ဟောတော် မူသော ပါဠိတော် စကားရပ်ကို ထောက်ဆ၍ အတိတ်, အနာဂတ် ရုပ် နာမ်တို့ကို ရှိသည် (အတ္ထိ)ဟု ဆိုခြင်းသည် မြတ်စွာဘုရားဒေသနာတော် နှင့်ဆန့်ကျင်ကြောင်း ထင်ရှားလေသည်။

## ကိလေသာပယ်မှုဖြင့် စိစစ်ပုံ

ပရဝါဒအရ ပုထုဇဉ်ပုဂ္ဂိုလ်၌ အတိတ်ဖြစ်သော ဒိဋ္ဌိ, ဝိစိကိစ္ဆာ တရားများ ရှိသောကြောင့် ဒိဋ္ဌိ, ဝိစိကိစ္ဆာ မကင်းသေးသော ပုဂ္ဂိုလ်ဟု ဆိုရာရောက်၏။ ထိုသို့ဆိုပါက သောတာပန်ပုဂ္ဂိုလ်၌ ပစ္စုပ္ပန်နှင့် အနာ ဂတ် ဒိဋ္ဌိ, ဝိစိကိစ္ဆာ မရှိသော်လည်း အတိတ်ကာလဒိဋ္ဌိ, ဝိစိကိစ္ဆာကား ရှိရပေဦးမည်။ ထိုသို့ရှိနေလျှင် သောတာပန်ပုဂ္ဂိုလ်သည် ဒိဋ္ဌိ, ဝိစိကိစ္ဆာ မကင်းဟု ဆိုရပေမည်။ မပျောက်မပျက်ဘဲ အတိတ်ကာလအတွင်း၌ ရှိနေမည်သာဖြစ်၍ သောတာပန်ပုဂ္ဂိုလ်သည် ထိုအတိတ်ဒိဋ္ဌိ, ဝိစိကိစ္ဆာ နှင့် ဘယ်အခါမျှ ကင်းနိုင်တော့မည် မဟုတ်သဖြင့် ပယ်သည်ဟု မဆိုနိုင်၊ ပယ်၍မရ။ ထိုသို့ ဒိဋ္ဌိနှင့်ဝိစိကိစ္ဆာကို မပယ်နိုင်လျှင် မကင်းနိုင်လျှင် ပုထုဇဉ်ဘဝမှ မလွတ်၍ သံသရာမှ မလွတ်။ အလားတူပင် အနာဂါမ် ရဟန္တာပုဂ္ဂိုလ်တို့သည်လည်း မိမိဆိုင်ရာ ကိလေသာကို ပယ်နိုင်ကြမည် မဟုတ်၊ ထိုကိလေသာတို့သည် အတိတ်ကာလအတွင်း၌ မပျက်မစီး အမြဲတည်နေကြပေတော့မည်။ ဤသို့လျှင် ပရဝါဒီ (သဗ္ဗတ္ထိဝါဒီ)တို့၏ အယူဝါဒအရဆိုပါက ကိလေသာ မပယ်နိုင်သောကြောင့် သံသရာမှ မလွတ်နိုင်တော့ချေ။

နောက်ပိုင်းခေတ် ကျမ်းဆရာတို့သည် ရုပ်နာမ်နှစ်ပါးကို အရှိတရား (အတ္ထိ) ဟု ယူဆသောဝါဒကို သဗ္ဗတ္ထိဝါဒဟု ခေါ်ဆိုကြ၏။ အမှန်စင်စစ်

အတိတ် အနာဂတ် ရုပ်နာမ်တို့ကို အရှိတရား (အတ္ထိ)ဟု ယူဆသော ဝါဒကိုသာ သဗ္ဗတ္ထိဝါဒခေါ်ကြောင်း သတိပြုသင့်ကြ၏။ ပစ္စုပ္ပန်အခိုက်၌ ရုပ်နာမ်တို့ကို အရှိတရား (အတ္ထိ)ဟု ယူဆခြင်းကို သဗ္ဗတ္ထိဝါဒဟု မခေါ်သင့်ချေ။ ထေရဝါဒကလည်း ပစ္စုပ္ပန်ရုပ်နာမ်တို့ကို ရှိသည် (အတ္ထိ) ဟု ယူဆ၏။ အတိတ်, အနာဂတ် ရုပ်နာမ်တို့ကို ရှိသည်ဟု မယူဆချေ။ ဤသို့လျှင် သဗ္ဗတ္ထိဝါဒနှင့်ထေရဝါဒကို ခွဲခြားမှတ်သားသင့်၏။

## သဗ္ဗတ္ထိဝါဒလေးမျိုး

(က) ရွှေအိုးကို ဖျက်၍ ရွှေဖလားပြုလုပ်သော် ပုံသဏ္ဌာန်သာ ပြောင်း၍ ရွှေသား ရွှေဒြပ် ရွှေရောင်ကား မပြောင်းချေ။ နို့သည် ဒိန်ချဉ်ဖြစ်သွားရာ၌ အရသာ (အကျိုး)သာ ပြောင်းလဲ၍ အဖြူရောင်ကား မပြောင်းလဲချေ။ ထိုနည်းအတူ အနာဂတ်၌ရှိသော ရုပ်နာမ်တို့သည် ပစ္စုပ္ပန်ကာလသို့ ကူးပြောင်းရာ၌ အနာဂတ်သဘောကို စွန့်ကုန်၏။ မိမိ၏ ရုပ်နာမ်သဘာဝကို မစွန့်ချေ။ ထိုနည်းအတူ ပစ္စုပ္ပန်မှ အတိတ်သို့ ကူးပြောင်းရာ၌ ပစ္စုပ္ပန်သဘာဝကိုသာ စွန့်၍ မိမိတို့၏ ရုပ်နာမ်သဘာဝကို မစွန့်ချေ။ ဤအယူအဆမှာ ကပိလရသေ့၏ သင်္ချာဝါဒနှင့် တူ၏။ 'ပရိဏာမဝါဒ'ဟု ခေါ်၏။ အတွင်းအနှစ်သာရမှာ မပြောင်းလဲဘဲ အပေါ်ယံအသွင်မျှ ပြောင်းလဲသည်'ဟု ယူဆ၏။ ဤဝါဒကို ပုဂ္ဂလကထာ စိစစ်ခန်း၌ ပယ်ဖျက်ပြီးဖြစ်၏။

(ခ) ယောက်ျားတစ်ယောက်သည် မိန်းမတစ်ယောက်ကို တပ်မက်နေခိုက်၌ အခြားမိန်းမကို တပ်မက်ခြင်းမရှိသကဲ့သို့ ရုပ်နာမ်ဓမ္မတို့သည် အနာဂတ်လက္ခဏာနှင့် ယှဉ်တွဲခိုက်၌ ပစ္စုပ္ပန်, အတိတ်လက္ခဏာနှင့် မယှဉ်တွဲ၊ ပစ္စုပ္ပန်လက္ခဏာနှင့် ယှဉ်တွဲခိုက်၌ အတိတ်အနာဂတ်လက္ခဏာတို့နှင့် မယှဉ်တွဲ၊ အတိတ်လက္ခဏာနှင့် ယှဉ်တွဲခိုက်၌ ပစ္စုပ္ပန် အနာဂတ်လက္ခဏာ

တို့နှင့် မယှဉ်တွဲဟု ဆို၏။ ရုပ်နာမ်ဓမ္မ၏ ပင်ကိုသဘာဝကား ပြောင်းလဲခြင်းမရှိ။ ကာလသုံးပါးနှင့် ပြောင်းလဲယှဉ်တွဲသည် ဟု ဆို၏။

ဤဝါဒအရကား တစ်ခုတည်းသော ရုပ်နှင့် တစ်ခုတည်း သော နာမ်မှာပင် အတိတ်လက္ခဏာ၊ ပစ္စုပ္ပန်လက္ခဏာ၊ အနာဂတ်လက္ခဏာများ ရောထွေးနေ၏။ ဤသို့ ရောထွေး နေပါက ကာလသုံးပါး ပိုင်းခြား၍ မရဘဲ တစ်ဆက်တည်း ဖြစ်နေတော့မည်။ မဖြစ်မီ အနာဂတ်, ဖြစ်ဆဲခဏ၌ ပစ္စုပ္ပန် ချုပ်ပျောက်သောအခါ အတိတ်ဟု မခွဲနိုင်တော့ဘဲ အမြဲတည် နေသဖြင့် ကာလပိုင်းခြားရန် မဖြစ်နိုင်တော့ချေ။

(ဂ) မိန်းမတစ်ယောက်တည်းကိုပင် လင်ဖြစ်သူက မယားဟု ခေါ်၍ ဖခင်ဖြစ်သူက သမီးဟု ခေါ်၏။ သားဖြစ်သူက အမေ ဟု ခေါ်၏။ ဤသို့ အပြန်အလှန် ဆက်နွယ်တော်စပ်မှုကို ထောက်ဆ၍ မိန်းမတစ်ယောက်တည်းကို 'အမေ၊ သမီး၊ မယား'ဟု ခေါ်၏။ ဤနည်းအတူ ရုပ်နာမ်ဓမ္မ သဘာဝတစ်ခု တည်းကိုပင် အတိတ်, အနာဂတ် ကာလနှစ်ပါးကို ထောက် ဆ၍ ပစ္စုပ္ပန်ဟု ခေါ်ရ၏။ ပစ္စုပ္ပန် အနာဂတ်ကို ထောက် ဆ၍ အတိတ်ဟု ခေါ်ရ၏။ အမှန်စင်စစ် ရုပ်နာမ် ပရမတ္ထ ဓမ္မသည်ကား အပြောင်းအလဲ မရှိဟု ယူဆ၏။ ရုပ်နာမ်က မပြောင်းဘဲ ရှုထောင့်ပြောင်းသဖြင့် ကာလသုံးပါး ကွဲပြားရ သည်ဟု ဆို၏။

ဤဝါဒသည်လည်း ဒုတိယဝါဒကဲ့သို့ ကာလသုံးပါး တစ် ဆက်တည်း ရောစပ်နေ၍ ခွဲခြားမရနိုင်။

(ဃ) တစ်ဂဏန်းသည် ခုကွက်၌ရှိက တစ်ခုတန်ဖိုးသာရှိ၏။ ဆယ် ကွက်၌ရှိပါက တစ်ဆယ်တန်ဖိုးရှိ၏။ ရာကွက်၌ ရှိပါက တစ် ရာတန်ဖိုးရှိ၏။ (၀၀၁၊ ၀၁၀၊ ၁၀၀)၊ ဤသို့ အခိုက်အတန့်ကို

စွဲ၍ တန်ဖိုးပြောင်းလဲသည်။ ပင်ကိုသဘာဝကား မပြောင်း။ ဤနည်းအတူ ရုပ်နာမ်ဓမ္မတို့သည် ပစ္စုပ္ပန်, အတိတ် စသော အခိုက်အတန့်ကို စွဲ၍ သုံးမျိုးခွဲခြားခေါ်ရ၏။ ရုပ်နာမ်၏ ပင်ကိုသဘာဝကား မပြောင်းလဲဟု ယူဆ၏။

ဤသို့ အတိတ်, အနာဂတ် ရုပ်, နာမ်, ခန္ဓာ, အာယတန, ဓာတ်တို့သည် ပစ္စုပ္ပန်တရားတို့ကဲ့သို့ ထင်ရှားရှိနေသည်ဟု ဆိုပါမူ လုပ်ငန်းကိစ္စ ဆောင်ရွက်ရာ၌ ပစ္စုပ္ပန်တရားနှင့် တန်းတူညီမျှ ဆောင်ရွက်နိုင်စွမ်းရှိရမည်။ ထိုသို့ တူညီနေပါက အတိတ်, အနာဂတ်ဟု ခွဲခြားရန်ပင် မလိုတော့ချေ။ အနာဂတ်ကာလ၌ ရုပ်နာမ်တရားများရှိနေသည်ဟု ဆိုလျှင် အစကတည်းက ရှိပြီးဖြစ်၍ မရှိသေးမီ၊ မဖြစ်သေးမီဟု ပြောဆိုခြင်းငှာ မဖြစ်နိုင်။ အတိတ်ကာလ၌ ရုပ်နာမ်များ ရှိနေသည်ဟု ဆိုလျှင် ရုပ်နာမ်များ ချုပ်ပြီးနောက်ဟု ပြောဆိုရန် မဖြစ်နိုင်။ ရုပ်နာမ်သည် တောက်လျှောက် အမြဲတည်ရှိနေပါလျှင် အတိတ်, အနာဂတ်တို့သည် ပစ္စုပ္ပန်နှင့် တူနေသဖြင့် မရှိမီ မဖြစ်မီ အနာဂတ်၊ ဖြစ်ပြီး ချုပ်ပြီး အတိတ် ဟူ၍ ခွဲခြားရန် မဖြစ်နိုင်။ မရှိသေးသောတရားက ရှိလာလျှင်သာ မရှိမီက အနာဂတ်၊ ရှိလာသောအခါ ပစ္စုပ္ပန်ဟု ခွဲခြား၍ ရနိုင်၏။ ရှိပြီးတရားက ချုပ်ပျောက်သွားမှသာလျှင် ချုပ်ပျက်ပြီး နောက်ကို အတိတ်ကာလဟု ခေါ်ဆိုနိုင်၏။ ဤသို့လျှင် ရုပ်နာမ်တို့၏ ဖြစ်ပျက် အနိစ္စသဘောကို လက်ခံမှသာလျှင် အတိတ်, အနာဂတ် ပစ္စုပ္ပန် ကာလ သုံးပါးခွဲခြား၍ ရနိုင်သောကြောင့် အတိတ် အနာဂတ်တရားများ တည်ရှိနေသည် ဟူသော သဗ္ဗတ္ထိဝါဒ မှားယွင်းကြောင်း ယုံမှားမဲ့ မှတ်ယူသင့်၏။

ထို့ပြင် ပုဗ္ဗေနိဝါသဉာဏ်ဖြင့် ဆင်ခြင်အောက်မေ့ရာ၌ အတိတ်တရားတို့ကို 'ဖြစ်ခဲ့ဖူးပြီ၊ ဆိုခဲ့ဖူးပြီ'ဟူ၍ သိခြင်းဖြစ်၏။ အကယ်၍သာ အတိတ်တရားများ ရှိနေဆဲဖြစ်ပါက ပုဗ္ဗေနိဝါသဉာဏ်ဖြင့် ဆင်ခြင်ရာ၌ 'အတိတ်ဘဝများ ယခုရှိနေသည်'ဟု အသိဉာဏ်ဖြစ်လေရာ၏။ 'အတိတ်တရားများ ယခုရှိနေသည်ကို ငါသိသည်'ဟု ဟောကြားထားခြင်း မရှိချေ။

တစ်ဖန် အနာဂတ်ကို သိရာ၌လည်း ဖြစ်လတ္တံ့ ဟူ၍သာ သိ၏။ ယခု ရှိနေသည်ဟု သိခြင်းမဟုတ်၊ အတိတ်, အနာဂတ်တရားတို့သည် ပရမတ္ထ အားဖြင့် ထင်ရှားမရှိသော်လည်း စိတ်သည် အာရုံပြုနိုင်၏။ သိနိုင်၏။ မရှိခြင်းသဘောကို စိတ်ဖြင့် သိနိုင်ပုံကို ထောက်ဆ၍ မရှိသောအတိတ်, အနာဂတ်ကို စိတ်က သိနိုင်ကြောင်း ထင်ရှားလေသည်။

## ၇။ ကေစ္စိ အတ္ထီတိ ကထာ

### အချို့သော အတိတ် အနာဂတ်တရားများ တည်ရှိမှု

ပရဝါဒီ ကဿပိကဂိုဏ်းသားတို့၏ အယူဝါဒအရ အတိတ်ကုသိုလ် ကံ, အကုသိုလ်ကံတို့ကို အကျိုးပေးသောကံ, အကျိုးမပေးသေးသောကံ ဟူ၍ နှစ်မျိုးခွဲခြား၏။ အကျိုးပေးပြီးသော ကံတို့သည် မရှိတော့ချေ။ အကျိုးမပေးရသေးသော ကံတို့သည် အကျိုးပေးရန် အခါအခွင့်ကို စောင့် ဆိုင်းလျက် မပျောက်မပျက်တည်ရှိနေကြသည်ဟု ယူဆကြ၏။ ထို့ကြောင့် အကျိုးပေးပြီးသော အတိတ်ကံတို့ကို မရှိတရား (နတ္ထိ)ဟု ခေါ်၍ အကျိုး မပေးရသေးသော အတိတ်ကံတို့ကို အရှိတရား (အတ္ထိ)ဟု ဆိုကြ၏။

ထို့ပြင် အနာဂတ်တရားတို့ကိုလည်း ဧကန်အမှန် ဖြစ်လတ္တံ့သော အနာဂတ်တရားနှင့် ဧကန်မဖြစ်လတ္တံ့သော အနာဂတ်တရားဟူ၍ နှစ် မျိုးခွဲခြားကြ၏။ ဥပမာအားဖြင့် အသီးရှိသော သစ်ပင်၌ ထိုအသီးများ သည် မသီးမီကပင် အနာဂတ်ကာလအတွင်း၌ ကြိုတင်ရှိနေနှင့်သည်။ အသီးမသီးသော ရွက်လှပင်၌ အသီးများသည် အနာဂတ်ကာလအတွင်း၌ ကြိုတင်၍ ရှိမနေခဲ့ချေ။ ရဟန္တာဖြစ်မည့်ပုဂ္ဂိုလ်၌ ရဟန္တာမဖြစ်မီ ပုထုဇဉ် ဘဝကပင် ယင်း၏သန္တာန်၌ အရဟတ္တမဂ်ဉာဏ်သည် အနာဂတ်ကာလ အတွင်း၌ တည်ရှိနေ၏။ ရဟန္တာ မဖြစ်မည့် ပုထုဇဉ် (အဘဗ္ဗ)ပုဂ္ဂိုလ်၌ ယင်းပုဂ္ဂိုလ်အတွက် အရဟတ္တမဂ်ဉာဏ်သည် အနာဂတ်ကာလအတွင်း၌ ကြိုတင်ရှိမနေခဲ့ချေ။ ထို့ကြောင့် ဧကန်ဖြစ်မည့် အနာဂတ်တရားသည် အနာဂတ်ကာလ၌ ကြိုတင်ရှိနှင့်၏။ ဧကန်မဖြစ်မည့် အနာဂတ်တရား သည် အနာဂတ်ကာလ၌ ကြိုတင်မရှိဟု ယူဆကြ၏။

သကဝါဒီဘက်မှ ဤသို့ ဖြေရှင်း၏။ အတိတ်တရားဟူသည် ကုန်ဆုံး ချုပ်ပျောက် ပျက်စီးပြီးဖြစ်၍ အရှိတရားမဟုတ်၊ မရှိတရားသာလျှင်ဖြစ်၏။ အတိတ်ဖြစ်သော ကံတရားသည် ချုပ်ဆုံး ကွယ်ပျောက်ပြီးဖြစ်၍ မရှိတရားသာလျှင်ဖြစ်၏။ အကျိုးတရားကို ဖြစ်စေရာ၌ အကြောင်းတရားသည် အချို့နေရာ၌ ထင်ရှားရှိဆဲဖြစ်၍ အချို့နေရာ၌ ထင်ရှားမရှိတော့ချေ။ ဖခင် သေလွန်သွားသော်လည်း ဖခင်၏ အရှိန်အဝါကို သားသမီးများ ခံစားနေကြရပုံကို ကြည့်ပါက အကြောင်းတရား ထင်ရှားမရှိသော်လည်း အကျိုးဖြစ်စေနိုင်၏ဟု မှတ်သင့်၏။

မြတ်စွာဘုရားသည် ပဋ္ဌာန်းပါဠိတော်၌ နတ္ထိပစ္စည်းတရား (မရှိတရား)က အကျိုးဖြစ်စေနိုင်ပုံကို ဟောတော်မူခဲ့ပြီးဖြစ်သည်။ ဥပမာ ယမ်းသည် အမြောက်ဆံကို ပြေးသွားစေရာ၌ မရှိတရား အဖြစ်ဖြင့် ကျေးဇူးပြု၏။ ယမ်းသည် ယမ်းအဖြစ် တည်မြဲလျက်ရှိနေပါက အမြောက်ဆံ၏ ပြေးသွားမှုကို ဖြစ်စေနိုင်မည် မဟုတ်ချေ။ ယမ်းများမီးလောင်၍ အခိုးဖြစ်ပြီးနောက် ယမ်းမရှိသောအခါ အမြောက်ဆံ ပြေးသွားမှု ဖြစ်ရလေ၏။ ထို့ကြောင့် ယမ်းသည် အမြောက်ဆံ ပြေးသွားမှုအတွက် မရှိတရား (နတ္ထိပစ္စည်း) အဖြစ်ဖြင့် ကျေးဇူးပြုလေ၏။ ထိုနည်းအတူ ကုသိုလ် အကုသိုလ်ကံတို့သည် ပြုဆဲခဏ၌ ပျက်ပျက်သွား၍ မရှိတရား (နတ္ထိပစ္စည်း) ဖြစ်ကုန်၏။

တစ်ဖန် အနာဂတ်တရား ဆိုသည်မှာ မဖြစ်ပေါ်သေးသောကြောင့် မရှိတရား (နတ္ထိ)သာလျှင် ဖြစ်ကုန်၏။ အနာဂတ်ကာလကတည်းက ကြိုတင်ရှိနေပါက အနာဂတ်နှင့် ပစ္စုပ္ပန် တူညီနေစရာ ရှိ၏။ အစကတည်းက ရှိနေပါက ထပ်မံဖြစ်ပေါ်ရန် မလိုတော့ချေ။ သားဆယ်ယောက် မွေးမည့် မိခင်လောင်းလျာ သူငယ်မ၌ အနာဂတ်ကာလကိုပင် ထိုသားဆယ်ယောက် ရှိသည်ဟု ဆိုပါက ထိုသူငယ်မ အိမ်ထောင်ပြုရန် လိုတော့မည် မဟုတ်ချေ။ အလိုအလျောက် သားဆယ်ယောက် ရပေလိမ့်မည်။ မီးခြစ်ဆံအတွင်း၌ မီးရှိနေသည် ဆိုပါက နဂိုအတိုင်းထား၍ မီးညှိရ

ပေမည်။ ဤသို့ဆိုပါက အကြောင်းတရားနှင့် အကျိုးတရားသည် တစ်ခုတည်းဖြစ်၍ အကြောင်းအကျိုး ခွဲပြရန် ဖြစ်နိုင်မည် မဟုတ်ချေ။ မီးခြစ်ဆံနှင့် မီးသည် အတူတူဟု ဆိုရာရောက်၏။ အမှန်စင်စစ်အားဖြင့် မီးခြစ်ဆံသည် မီးကို ဖြစ်စေနိုင်သော အကြောင်းတရားသာလျှင် ဖြစ်၏။ ထိုမီးခြစ်ဆံအတွင်း၌ ကြိုတင်၍ မီးများရှိနေသည်ဟု မဆိုသင့်ချေ။

အတိတ်တရားများကို အရှိတရားဟု ယူဆပါက အတိတ် ကိလေသာ တို့သည် မပျောက်မပျက်ဘဲ ရှိနေသည်ဟု ဆိုရာ ရောက်၍ ကိလေသာ ပယ်မှုကို တားမြစ်ရာ ရောက်၏။ အနာဂတ်တရားများကို အရှိတရားဟု ယူဆပါက အကြောင်းအကျိုး ခွဲခြားမရအောင် ရောထွေးစေ၏။ ထို့ပြင် ကြိုတင်ရှိနှင့် ပီဟု ယူဆပါက လူတို့၏ လုံ့လဝီရိယကို အသိအမှတ်မပြုရာ ရောက်၏။

မလုပ်ခင်က ဖြစ်ပြီးသားဟု ယူဆရာ ရောက်သောကြောင့် အနာဂတ်ကို အရှိတရားဟု ယူဆခြင်းသည် အကိရိယဝါဒသို့ သက်ဝင်၏။

## ၈။ သတိပဋ္ဌာနကထာ

### သတိပဋ္ဌာန်မည်သော တရားများ

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့၏ အယူဝါဒအရ သတိစေတသိက်၏ အာရုံဖြစ်သော ပရမတ္ထတရားအားလုံးကို သတိပဋ္ဌာန်ဟု ယူဆကြ၏။ သကဝါဒီအလို - ကာယ၊ ဝေဒနာ၊ စိတ်၊ ဓမ္မ ဖြစ်ထိုက်သော သတိ စေတသိက်ကိုသာ သတိပဋ္ဌာန်တရားဟု ဆို၏။

## ၉။ ဟေဝတ္ထိကထာ

### ရှိ, မရှိ နှစ်မျိုးလုံးမှန်သလော

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့၏ အယူဝါဒအရ အတိတ်တရားသည် အတိတ်သဘာဝအားဖြင့် ရှိ၍ ပစ္စုပ္ပန်သဘာဝ, အနာဂတ်သဘာဝ အားဖြင့် မရှိ၊ ပစ္စုပ္ပန်တရားသည် ပစ္စုပ္ပန်သဘာဝအားဖြင့် ရှိ၍ အတိတ်

သဘာဝ၊ အနာဂတ်သဘာဝအားဖြင့် မရှိ၊ အနာဂတ်တရားသည် အနာဂတ်သဘာဝအားဖြင့် ရှိ၍ ပစ္စုပ္ပန်, အတိတ်သဘာဝအားဖြင့် မရှိဟု ယူဆ၏။ အိုးသည် မိမိအိုးသဘာဝအားဖြင့် ရှိ၍ ပုဆိုးသဘာဝအားဖြင့် မရှိချေ။ ပုဆိုးသည် မိမိပုဆိုးသဘာဝအားဖြင့် ရှိ၍ အိုးသဘာဝအားဖြင့် မရှိချေ။ ခပ်သိမ်းသော တရားတို့သည် မမြဲ၊ အနိစ္စသဘောရှိကုန်၏။ ခဏမျှသာ တည်သောကြောင့် ခဏိကမည်၏။ ထိုခဏိကတရားတို့သည် ဒေသအားဖြင့်လည်းကောင်း၊ ကာလအားဖြင့်လည်းကောင်း ကူးပြောင်းတည်နိုင်ခြင်းမရှိ။ ထို့ကြောင့် ပစ္စုပ္ပန်ကာလ၌ရှိသောတရားကို အတိတ်, အနာဂတ်ရှုထောင့်မှ ကြည့်လျှင် မရှိဟု ဆိုလို၏။ ထိုနည်းအတူ အတိတ်ကာလ၌ရှိသောတရားကို ပစ္စုပ္ပန်, အနာဂတ်ရှုထောင့်မှ ကြည့်လျှင် မရှိဟု ဆိုလို၏။ ဤသို့လျှင် တစ်ခုတည်းသော တရားကိုပင် ရှိသည်ဟုလည်း ဆိုနိုင်၏။ ရှိ, မရှိ နှစ်မျိုးစလုံး အမှန်ဟူ၍လည်း မဆိုနိုင်။ ဤအယူဝါဒမှာ ဂျိန်း (နိဂဏ္ဌ) တို့၏ သတ္တဘင်္ဂီဝါဒနှင့်တူ၏။ ထိုခေတ်က အိန္ဒိယတောင်ပိုင်း အန္ဓကတိုင်း (အန္ဓရာပြည်နယ်) တွင် ဂျိန်းသာသနာ ထွန်းကားလေသည်။ ထိုဂျိန်းဘုန်းကြီးတို့၏ အယူဝါဒကို အန္ဓကတိုင်းသား ရဟန်းများက ဗုဒ္ဓဝါဒ၌ သွတ်သွင်းရန် ကြိုးပမ်းမှုကြောင့် ရှိ, မရှိ နှစ်မျိုးလုံးသည် မှန်သည်ဟူသော ဟေဝတ္ထိကထာ ပြဿနာကို အစထောင်ကြခြင်းဖြစ်သည်။

သကဝါဒီအလိုအရ ပစ္စုပ္ပန်တရားကို ပစ္စုပ္ပန်ရှုထောင့်မှသာ ကြည့်ရန် လို၏။ အတိတ်, အနာဂတ်ရှုထောင့်မှ ကြည့်ရန် မလိုချေ။ အတိတ်တရားကို အတိတ်ရှုထောင့်မှသာ ကြည့်ရန်လို၍ ပစ္စုပ္ပန်, အနာဂတ်ရှုထောင့်မှ ကြည့်ရန် မလိုချေ။ ရှိလျှင် ရှိသည်ဟူ၍ ရှင်းရှင်းပြောရန် လိုသည်။ မရှိလျှင် မရှိဘူးဟူ၍ ရှင်းရှင်းပြောရန် လိုသည်။ ပစ္စုပ္ပန်တရားကို ထင်ရှားရှိသည်ဟု ဆိုလို၍ အတိတ်, အနာဂတ်တရားတို့ကို မရှိဟုဆိုလိုသည်။ အိုးကို အိုးအတိုင်းကြည့်၍ အိုးရှိသည်ဟု ဖော်ပြရန် လို၏။ ထိုအိုးသည် ပုဆိုးအနေဖြင့် မရှိဟု ရှုပ်ရှုပ်ထွေးထွေးဖြစ်အောင် လှည့်ပတ်ခြင်းကို သကဝါဒီဘက်က လက်မခံချေ။

ဂျိန်း (နိဂဏ္ဌ)တို့၏ အယူဝါဒအရ ရွှေလက်ကောက်ကို ရွှေလက်စွပ် ပြုလုပ်ရာ၌ လက်ကောက်သည် လက်စွပ်အဖြစ်သို့ ပြောင်းလဲသောကြောင့် အနိစ္စ ဖြစ်၏။ ရွှေကား မပြောင်းလဲသောကြောင့် နိစ္စဖြစ်၏။ ထို့ကြောင့် ရွှေလက်ကောက်၌ အနိစ္စသဘောနှင့် နိစ္စသဘောသည် တစ်ပြိုင်နက် တည်သည်ဟု ဆိုကြ၏။ တစ်ဖန် နိစ္စနှင့်အနိစ္စသည် ဆန့်ကျင်ဘက်ဖြစ်၍ တစ်ပြိုင်နက် မတည်နိုင်။ ထို့ကြောင့် ရွှေလက်ကောက်ကို နိစ္စဟူ၍လည်း မဆိုသင့်၊ အနိစ္စဟူ၍လည်း မဆိုသင့်။ ဤနည်းအတူ လူသည် နတ်ဘဝသို့ ကူးပြောင်းရာ၌ လူ့ဘဝနှင့်နတ်ဘဝသည် ပြောင်းလဲတတ်သောကြောင့် မတည်မြဲ၊ အနိစ္စဖြစ်၏။ သို့ရာတွင် ထိုလူ့ဘဝ, နတ်ဘဝတို့၌ရှိသော ဇီဝအတ္တသည်ကား အမြဲတည်သောကြောင့် နိစ္စမည်၏။ ထိုလူ၏ ဇီဝအတ္တ သည်ပင် နတ်၏ ဇီဝအတ္တ ဖြစ်လေသည်။ ထို့ကြောင့် နိစ္စသဘောနှင့် အနိစ္စသဘော အတူတကွ ယှဉ်ပြိုင် ပူးတွဲတည်နေသည်ဟု ဆိုလိုကြ၏။

## စိစစ်ချက်

ထိုဝါဒ၏ ဥပမာဆောင် ရှင်းပြချက်၌ လက်ကောက်နှင့် ရွှေသည် သီးခြားလော၊ တစ်ခုတည်းလော၊ သီးခြားဟု ယူဆပါက လက်ကောက် ပုံသဏ္ဌာန်သည် ရွှေဓာတ်သားမပါဘဲ ကင်းလွတ်စွာ တည်နိုင်လေရာ၏။ ရွှေမပါဘဲ လက်ကောက်ပြုလုပ်၍ ရနိုင်စရာမရှိ။ လက်ကောက်ပုံ သဏ္ဌာန် သည် ရွှေသားဓာတ်မပါဘဲ မိမိသဘာဝအတိုင်း သီးခြား ကင်းလွတ်၍ တည်နိုင်သည်ကို မတွေ့ရချေ။ လက်ကောက်သည် ရွှေနှင့် တစ်သား တည်းဟု ယူဆပါက လက်ကောက် မမြဲလျှင် ရွှေလည်း မြဲနိုင်တော့မည် မဟုတ်ချေ။ အမှန်စင်စစ် ရွှေ၏ အဝါရောင်ကို မျက်စိဖြင့် မြင်ကြရ၏။ ရွှေ၏ အနံ့အရသာကိုလည်း တွေ့ကြရ၏။ ရွှေကို ကိုင်တွယ်ထိတွေ့၍ ရ၏။ ရွှေဟူသည် အဝါရောင် (ရူပါရုံ)တစ်ခုတည်းကို ခေါ်သလော၊ အနံ့ တစ်ခုတည်းကို ရွှေဟု ခေါ်ဆိုသလော၊ အရသာတစ်ခုတည်းကို ရွှေဟု ခေါ်ဆိုပါသလော၊ ရွှေ၏ ပူသောအတွေ့၊ အေးသောအတွေ့၊ မာသော အတွေ့အထိသက်သက်ကိုသာ ရွှေဟု ခေါ်ဆိုပါသလော။

အမှန်စင်စစ် တစ်ခုစီကို ရွှေဟု မခေါ်နိုင်ချေ။ အဆင်းရုပ်၊ အနံ့ရုပ်၊ အရသာရုပ်၊ အတွေ့အထိရုပ်တို့ကို အားလုံးစုပေါင်း၍ ရွှေဟု ခေါ်ကြခြင်း ဖြစ်ပေသည်။ အစိတ်အစိတ် တစ်ခုစီကိုသာ ပရမတ္ထဟု ခေါ်၍ အစု အပေါင်းကို ခေါ်ဆိုထားသော 'ရွှေ' ဟူသော အရာသည် ပရမတ် မဟုတ်၊ ပညတ်သက်သက်မျှသာ ဖြစ်၏။ ထို့ကြောင့် ရွှေ၌ရှိသော အဆင်း, အနံ့, အရသာ, အတွေ့အထိတို့ကား မမြဲခြင်း အနိစ္စသဘောရှိ၏။ ရွှေကား ပညတ်မျှသာဖြစ်၍ မြဲသည်ဟူ၍လည်း မဆိုသင့်၊ မမြဲဟူ၍လည်း မဆိုသင့်၊ ထို့အတူ ရွှေနှင့်ဥပမာ ခိုင်းနှိုင်းထားသော ဇီဝအတ္တသည် ပညတ် (စိတ် အထင်) မျှသာဖြစ်၍ မြဲသည်ဟူ၍ မဆိုသင့်၊ မမြဲဟူ၍လည်း မဆိုသင့်။

မြတ်စွာဘုရား လက်ထက်တော်က သိဥ္စည်းဆရာကြီးသည် မေးခွန်း အားလုံးကို ငြင်းပယ်ဖြေဆိုခဲ့၏။ ဂျိန်း (နိဂဏ္ဌ)တို့၏ သတ္တဘင်္ဂီဝါဒကမူ မေးခွန်း အားလုံးကို ဝန်ခံဖြေဆို၏။ အဖြေအားလုံးကို အမှားမရှိ၊ အမှန် ချည်းပေး၏။ ဤသို့ အမှန်ချည်းပေးသော (ဝန်ခံ) တွေးခေါ်နည်းစနစ် နှင့် အမှားချည်းပေးသော (ငြင်းပယ်) တွေးခေါ်နည်းစနစ် နှစ်ခုတို့ကို ပေါင်းစပ်၍ နာဂအဇ္ဈုန ဆရာကြီးသည် သုညဝါဒကို တီထွင်ခဲ့သည်။ ၎င်းကို မဟာယာနဂိုဏ်းက အမွေဆက်ခံသည်ကို တွေ့ရ၏။

## ၁၀။ ပရူပဟာရကထာ

### ရဟန္တာ၌ သုက်သွေး ရှိ, မရှိ

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းနှင့် အပရသေလိယဂိုဏ်းသားတို့၏ အယူဝါဒအရ ရဟန္တာပုဂ္ဂိုလ်၌ သုက်သွေးရှိ၍ သုက်လွှတ်မှု ဖြစ်နိုင်သည် ဟု ဆို၏။ ဈာန်အဘိညာဉ်ကို မရသော ရဟန္တာကို သုက္ခဝိပဿက ရဟန္တာဟု ခေါ်၏။ ထိုရဟန္တာများသည် ကိလေသာကုန်ခန်းပြီးသော် လည်း မာရ်နတ်၏ အသင်းအပင်း နတ်များ၏ လှံ့လပယောဂကြောင့် သုက်လွှတ်မှုဖြစ်နိုင်သည်ဟု ဆိုကြ၏။ သကဝါဒီအလို သုက်သွေးဟူသည် ကိလေသာ ရာဂစိတ်ကြောင့် သွေးမှ သုက်သွေးအဖြစ်သို့ ပြောင်းလဲလာ

ခြင်းဖြစ်၏။ ရဟန္တာပုဂ္ဂိုလ်တို့၌ ကိလေသာရာဂကို အကြွင်းမဲ့ ပယ်ပြီးဖြစ်သောကြောင့် သုက်သွေးဟူ၍ မရှိတော့ချေ။ သုက်သွေးမရှိသဖြင့် သုက်လွှတ်ခြင်း မရှိတော့ချေ။ ရဟန္တာသာ မဟုတ်၊ လောကီစျာန်ရသော ရသေ့များ၊ သူတော်ကောင်းများ၊ ရာဂကို ပယ်ခွာ၍ သမထဝိပဿနာ ဘာဝနာကို အမြဲတစေ အားထုတ်နေသော ပုထုဇဉ်ပုဂ္ဂိုလ်များလည်း သုက်လွှတ်ခြင်း မရှိကြချေ။

ပရဝါဒီ ပုဗ္ဗသေလိယ နှင့် အပရသေလိယ ဂိုဏ်းသားတို့သည် အနည်းငယ်မျှ ဝိပဿနာပွားများအားထုတ်ရုံဖြင့် မိမိကိုယ်ကို ရဟန္တာဖြစ်ပြီဟု ထင်မှတ်၍ ရဟန္တာအမည်ခံကာ ပူဇော်ပသမှု ခံယူနေကြကုန်၏။ ဝိပဿနာတရားကို လက်လွှတ်၍ ကောင်းကောင်းစား ကောင်းကောင်းအိပ် အနားယူကြရာ အိပ်မက်၌ သုက်လွှတ်မှု ဖြစ်ကြကုန်၏။ ထိုအခါ ဤသို့ သုက်လွှတ်မှုဖြစ်ရခြင်းသည် မာရ်နတ်ယုတ်နှင့် အပေါင်းအဖော်နတ်ဆိုးများ၏ လှံ့လပယောဂကြောင့်ဟု ဆိုကြကုန်၏။ နတ်တို့၌ သုက်သွေးဟူ၍ မရှိသောကြောင့် အခြားလူများထံမှ သုက်သွေးကို တန်ခိုးဖြင့် ယူ၍လည်းကောင်း၊ သုက်သွေးကို နတ်တန်ခိုးဖြင့် ဖန်ဆင်း၍လည်းကောင်း ရဟန္တာ၏ကိုယ်တွင်းသို့ ထည့်သွင်း၍ အိပ်မက်၌ သုက်လွှတ်မှုကို ဖြစ်စေသည်ဟု ဆိုကြကုန်၏။ ပရဝါဒီ၏ အကြောင်းပြရှင်းလင်းချက်သည် ယုတ္တိမတန်ချေ။ ဘုရားဟော ပါဠိတော် အထောက်အထားလည်း မရှိ။ မိမိအဖြစ်မှန်ကို တည့်တည့် ရင်မဆိုင်ရဲသဖြင့် မာရ်နတ်အပေါ် အပြစ်ပုံချခြင်းဖြစ်သည်။ ဤခေတ်၌လည်း အချို့လူများသည် မိမိအပြစ်ကို မိမိဘာသာ တာဝန်မယူဘဲ မာရ်နတ်အပေါ် အပြစ်ပုံချလေ့ရှိသည်ကို တွေ့ရ၏။

## ၁၁။ အညာဏကထာ

ရဟန္တာပုဂ္ဂိုလ်၌ မောဟ အဝိဇ္ဇာ ရှိ, မရှိ။

## ၁၂။ ကင်္ခါကထာ

ရဟန္တာပုဂ္ဂိုလ်၌ ဝိစိကိစ္ဆာ (ကင်္ခါ) ရှိ, မရှိ။

## ၁၃။ ပရဝိညာဏကထာ

**သူတစ်ပါးပြောကြားချက်အပေါ် အားထား မှီခိုနေရ၍ ကိုယ်တိုင် သိမှု ရှိ, မရှိ။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းနှင့် အပါရသေလိယ ဂိုဏ်းသားများ၏ အယူဝါဒအရ ရဟန္တာသည် ယောကျ်ား မိန်းမတို့၏ အမည်နာမ၊ မြို့ရွာ သစ်ပင်တို့၏အမည်များကို မသိသောကြောင့် မသိမှု (အဝိဇ္ဇာ) မောဟ ကြွင်းကျန်နေသေး၏။ မောဟကို အကုန်အစင် မပယ်နိုင်။

ထိုနည်းအတူ လူအမည်၊ မြို့ရွာအမည်၊ သစ်ပင်အမည်တို့၌ ယုံမှား သံသယရှိသောကြောင့် ဝိစိကိစ္ဆာ (ယုံမှားကခြ်ာ) ကို အကြွင်းမဲ့ မပယ်နိုင်။ တစ်ပိုင်းတစ်စ ကြွင်းကျန်သည်။

အလားတူပင် ထိုထိုအမည်နာမများကို သူတစ်ပါးပြောပြမှ သိသော ကြောင့် ရဟန္တာသည် အသိဉာဏ်ရရှိရေးအတွက် သူတစ်ပါးကို အမှီပြုနေ ရသေး၏။ ကိုယ်တိုင်သိနိုင်စွမ်းမရှိဟု ဆိုကြ၏။

သကဝါဒီအလိုအရ ဘုရား၊ တရား၊ သံဃာ၊ အကျင့်တရား (သိက္ခာ)၊ အတိတ်အစွန်း (ပုဗ္ဗန္တ)၊ အနာဂတ်အစွန်း (အပရန္တ)၊ အတိတ် အနာဂတ် အစွန်းနှစ်ပါး၊ ပဋိစ္စသမုပ္ပါဒ် အကြောင်းအကျိုးဆက်စပ်မှု ဤတရား ရှစ်ပါးကို မသိခြင်းကိုသာ အဝိဇ္ဇာ မောဟဟု ခေါ်၏။ ယင်းရှစ်ပါး၌ ယုံမှားသံသယ ဖြစ်ခြင်းကိုသာ ဝိစိကိစ္ဆာဟု ခေါ်၏။ ရဟန္တာသည် ယင်း တရားရှစ်ပါးကို ကိုယ်ပိုင်ဉာဏ်ဖြင့် သိ၍ သူတစ်ပါးပြောစကားမျှဖြင့် မှန်းဆယုံကြည်နေခြင်း မဟုတ်ဟု ဆိုလို၏။ ထိုထို အမည်နာမတို့ကို မသိခြင်းကို အဝိဇ္ဇာ မောဟဟု မခေါ်ချေ။ ထိုအမည်တို့၌ ယုံမှားခြင်း ဝိစိကိစ္ဆာဟု မခေါ်ချေ။

ပရဝါဒီ၏အလိုအရ သတ္တဝါများ၏ ဉာဏ်ပညာသည် တစ်ပြေးညီ တူညီကြ၍ စိန်ကျောက်ကဲ့သို့ အရောင်တလက်လက် တောက်ပနေ၏။ အဝိဇ္ဇာ မောဟ ဝိစိကိစ္ဆာ စသော ကိလေသာအညစ်အကြေးများ မြေး

ယှက်ဖုံးအုပ်မှု၊ အထူအပါး အနည်းအများကို လိုက်၍ ဉာဏ်ပညာ အဆင့် အတန်းကွာခြားမှု ဖြစ်ပေါ်ရ၏။ အညစ်အကြေးများ ကုန်စင်အောင် ဖယ်ရှားပွတ်လိုက်ပါက စိန်တုံးများသည် တူညီစွာ အရောင်တောက်ပကြ သကဲ့သို့ သတ္တဝါတို့၏ ဉာဏ်ပညာသည်လည်း ကိလေသာ အညစ်အကြေး ကုန်စင်ပါက တူညီစွာ ဉာဏ်ရောင်တောက်ပလာ၍ အရာခပ်သိမ်းကို အကြွင်းမဲ့သိနိုင်သည်၊ သဗ္ဗညုဖြစ်နိုင်သည်ဟု ဆိုကြ၏။

လူသည် တိရစ္ဆာန် တို့ထက် အသိဉာဏ် သာလွန်ရခြင်းမှာ အဝိဇ္ဇာ ကိလေသာနည်းပါးသောကြောင့်ဟု ဆိုကြ၏။ ထို့အတူ လူသာမန် ပုထုဇဉ်တို့ ထက် သောတာပန်၌ အဝိဇ္ဇာကိလေသာ နည်းပါး၏။ ထို့ထက် သကဒါဂါမ်၊ ထို့ထက် အနာဂါမ်၊ ထို့ထက် ရဟန္တာ၊ ထို့ထက် ပစ္စေက ဗုဒ္ဓါတို့၌ အဝိဇ္ဇာ ကိလေသာ နည်းပါး၏။ မြတ်စွာဘုရားသည်ကား အဝိဇ္ဇာစသော ကိလေသာအားလုံး ကုန်စင်အောင် ပယ်နိုင်သောကြောင့် အရာခပ်သိမ်းကို သိသော သဗ္ဗညုတဉာဏ်ကို ရတော်မူသည်။ ရဟန္တာ သည်ကား အဝိဇ္ဇာစသော ကိလေသာကို ကုန်စင်အောင် မပယ်နိုင်သော ကြောင့် အရာခပ်သိမ်းကိုသိသော သဗ္ဗညုတဉာဏ်တော်ကို မရချေ။ ယောက်ျား၊ မိန်းမ၊ မြို့ရွာ၊ သစ်ပင်တို့၏ အမည်များကို မသိခြင်းသည် ရဟန္တာ၏ဉာဏ်ကို သိမ်မွေ့သော အဝိဇ္ဇာ မောဟတရားက ဖုံးလွှမ်း နေ၏။ ထိုအမည်နာမများ၌ ယုံမှား သံသယရှိခြင်းသည် ရဟန္တာ၏ ဉာဏ်ကို ဝိစိကိစ္ဆာဖုံးအုပ်နေခြင်းကြောင့်ဟု ယူဆကြ၏။ ဤအယူ အဆကို မဟာယာနဂိုဏ်းက အမွေဆက်ခံယူကြ၏။

သကဝါဒီဘက်မှ အယူအဆအရ သတ္တဝါတို့၏ အသိဉာဏ်ပညာ မှာ လက်နှိပ်မီးနှင့် ဥပမာတူ၏။ လက်နှိပ်မီးလင်းစေလိုပါက မှန်ချပ်နှင့် စလောင်းကို အညစ်အကြေး ကင်းစင် ကြည်လင်စေရမည်။ ထိုသို့ စလောင်းနှင့် မှန်ချပ်များ ကြည်လင်သန့်ရှင်းနေသော်လည်း ဓာတ်ခဲအား ကို လိုက်၍ မီးလင်းအားချင်း မတူကြချေ။ ထိုနည်းအတူ သတ္တဝါတို့၏ ဉာဏ်ပညာကို ဖုံးအုပ်နေသော အဝိဇ္ဇာ မောဟ စသော ကိလေသာ အညစ်အကြေး အထူအပါးအလျောက် ဉာဏ်ချင်းကွာခြားကြသကဲ့သို့

ဘဝအဆက်ဆက် ဖြည့်ဆည်းပူးခဲ့သော ပညာပါရမီအလျောက်လည်း ဉာဏ်ချင်းကွာခြားမှုရှိနိုင်သည်။

ရဟန္တာများသည် အဝိဇ္ဇာစသော ကိလေသာကို အကြွင်းမဲ့ပယ်ရာ၌ တူညီကြသော်လည်း ဖြည့်ဆည်းပူးခဲ့သော ပါရမီအလျောက် ဉာဏ်အဆင့်အတန်း ကွာခြားမှုရှိကြ၏။ ပကတိသာဝက ရဟန္တာထက် မဟာသာဝက ရဟန္တာကြီးများက ပိုမို၍ ဉာဏ်ပညာကြီးမားတော်မူကြ၏။ ထိုမဟာသာဝကကြီးများထက် အဂ္ဂသာဝက အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလ္လာန်တို့ သာလွန်၍ ဉာဏ်ပညာကြီးမားတော်မူကြ၏။ ထို့ကြောင့် ဉာဏ်ပညာ အဆင့်အတန်းကွာခြားမှုသည် ကိလေသာ အထူ အပါး အနည်းအများ တစ်ခုတည်းအပေါ်၌သာ အကြောင်းမခံဘဲ ဖြည့်ဆည်းပူးခဲ့သော ပါရမီစွမ်းအား အနည်းအများအပေါ်၌လည်း အကြောင်းခံသေးကြောင်း မှတ်သားသင့်၏။ ရဟန္တာများသည် သဗ္ဗညုတဉာဏ်တော်ကို မရခြင်း၏ အကြောင်းမှာ အဝိဇ္ဇာ ဝိစိကိစ္ဆာ ကိလေသာ မကုန်သောကြောင့် မဟုတ်၊ မြတ်စွာဘုရားကဲ့သို့ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီ မဖြည့်ခဲ့ခြင်းကြောင့်သာလျှင် ဖြစ်လေသည်။ ပကတိသာဝကတို့မှာ တစ်ဘဝ နှစ်ဘဝမျှ ပါရမီဖြည့်၍ ကျွတ်တမ်းဝင်ကြရ၏။ မဟာသာဝကကြီးများမှာ ကမ္ဘာတစ်သိန်း ပါရမီဖြည့်ကြရ၏။ ဤသို့ ဖြည့်ဆည်းပူးခဲ့သော ပါရမီစွမ်းအား မတူညီမှုကြောင့် ရဟန္တာနှင့်မြတ်စွာဘုရားတို့ ဉာဏ်ချင်းမတူညီမှု ဖြစ်ရလေသည်။

## ၁၄။ ဝစီဘေဒကထာ

### ပထမဈာန် သောတာပတ္တိမဂ်ခဏ၌ 'ဒုက္ခ'ဟု ရွတ်ဆိုခြင်း ပြု၊ မပြု။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့၏ အယူဝါဒအရ ပထမဈာန် သောတာပတ္တိမဂ်ခဏ၌ 'ဒုက္ခံ'ဟု နှုတ်မှ ရွတ်ဆိုသည်ဟု ဆိုကြ၏။ ပါဠိတော်တို့၌ "ယံကိဉ္စိ သမုဒယဓမ္မံ၊ သဗ္ဗံ တံ နိရောဓဓမ္မံ = ဖြစ်ခြင်းသဘောရှိသော တရားမှန်သမျှသည် ချုပ်ဆုံးပျက်စီးခြင်း သဘောရှိ၏" ဟု သောတာပတ္တိမဂ်ဉာဏ်အမြင် ဖြစ်ပုံကို ပြဆိုထားရာ ပရဝါဒီဂိုဏ်း

သားတို့အနေဖြင့် "သောတာပတ္တိမဂ်ခဏ၌လည်း သင်္ခါရတရားတို့ကို ဒုက္ခဟု ရှုမြင်နေသည်"ဟု ယူဆကြ၏။ ထို့ပြင် ပထမဈာန်စိတ်၌ ဝိတက် စေတသိက်နှင့် ဝိစာရစေတသိက်တို့ ပါဝင်၏။ ထိုစေတသိက်နှစ်ပါးသည် နှုတ်မှ အသံကို ရွတ်ဆို ထွက်ပေါ်စေနိုင်၏။ ဤသို့လျှင် ပထမဈာန် သောတာပတ္တိမဂ်စိတ်၌ ဝိတက် ဝိစာရစေတသိက် နှစ်ခုတို့ ပါဝင်ခြင်း၊ မဂ်ဉာဏ်သည် သင်္ခါရတရားတို့ကို ဒုက္ခဟု ရှုမှတ်နေခြင်း၊ ဤနှစ်ချက်ကို ထောက်ဆ၍ ပထမဈာန် သောတာပတ္တိမဂ်ခဏ၌ 'ဒုက္ခံ'ဟု နှုတ်မှ ရွတ်ဆိုသည်ဟု ယူဆကြ၏။

သကဝါဒီအလို သောတာပတ္တိမဂ်ခဏ၌ 'ဒုက္ခံ'ဟု ရွတ်ဆိုခြင်းမရှိ၊ ဒုက္ခသစ္စာမြင်ခြင်းကို အကြောင်းပြု၍ 'ဒုက္ခံ'ဟု ရွတ်ဆိုပါက သမုဒယ သစ္စာကို သိသောအခါ 'သမုဒယော'ဟု ရွတ်ဆိုရပေမည်။ နိရောဓသစ္စာ ကို မြင်သောအခါ 'နိရောဓော'ဟု ရွတ်ဆိုရပေမည်။ မဂ္ဂသစ္စာကို သိသောအခါ 'မဂ္ဂေါ'ဟု ရွတ်ဆိုရပေမည်။ သစ္စာလေးပါးကို တစ်ပြိုင်နက် တစ်ချက်တည်း သိမြင်သောကြောင့် 'ဒုက္ခံ'၊ 'သမုဒယော'၊ 'နိရောဓော'၊ 'မဂ္ဂေါ' ဟူသော စကားလေးလုံးကို တစ်ပြိုင်နက် ရွတ်ဆိုသည်ဟု ဆိုရ ပေမည်။ ထိုသို့ မဖြစ်နိုင်သောကြောင့် သောတာပတ္တိမဂ်ခဏ၌ 'ဒုက္ခံ'ဟု ရွတ်ဆိုခြင်း မပြုနိုင်ဟု မှတ်ယူသင့်၏။ ထို့ပြင် မည်သည့်ဈာန်ကို မဆို ဝင်စားခိုက်၌ အသံထွက်၌ ပြောဆိုခြင်း မပြုနိုင်ချေ။

## ၁၅။ ဒုက္ခာဟာရကထာ

'ဒုက္ခံ'ဟု ရွတ်ဆိုနေခြင်းသည် အရိယမဂ္ဂသစ္စာ ဟုတ်, မဟုတ်။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က 'ဒုက္ခံ ဒုက္ခံ' ဟု နှုတ်မှ ရွတ်ဆို ခြင်းသည် လောကုတ္တရာ မဂ္ဂသစ္စာ ဖြစ်သည်ဟု ယူဆကြ၏။

သကဝါဒီအလို 'ဒုက္ခံ ဒုက္ခံ'ဟု ရွတ်ဆိုခြင်းသည် မဂ္ဂသစ္စာ မဟုတ်၊ သာမညအားဖြင့် ကာမာဝစရကုသိုလ် ဝစီကံမျှသာဖြစ်၏။ 'ဒုက္ခံ ဒုက္ခံ'ဟု ရွတ်ဆိုရုံမျှဖြင့် မဂ္ဂသစ္စာဖြစ်သည်ဟု ဆိုပါက အမိသတ်၊ အဖသတ်

လူမိုက်ကြီးများပင် မဂ္ဂသစ္စာကို ရနိုင်သည်ဟု ဆိုရပေတော့မည်။ ထို့ကြောင့် ပရဝါဒီဂိုဏ်း၏ အယူဝါဒကို ပယ်မြစ်အပ်၏။

## ၁၆။ စိတ္တဋ္ဌိတိကထာ

### တစ်ဘဝ၌ စိတ်တစ်ခုသာ ရှိသလော။

ပရဝါဒီ အန္ဒကဂိုဏ်းသားများ၏ အယူအဆအရ အရူပဘုံ၌ စိတ်သည် တစ်ဘဝအတွင်း၌ မပျက်မစီး အမြဲတည်သည်ဟုဆိုကြ၏။ စိတ်နှင့်ရုပ် ပူးတွဲတည်ရှိနေသော လူ တိရစ္ဆာန်တို့၌ စိတ်သည် ခဏတိုင်း ဖြစ်ပျက်ပြောင်းလဲနေသည်ဟု ဆိုလိုက ဆိုနိုင်၏။ အကြောင်းမူ စိတ်သည် ဖြစ်ပျက်ပြောင်းလဲနေသော်လည်း ရုပ်ခန္ဓာ (ရုပ်သက်)က ဆက်လက်တည်ရှိနိုင်သေး၏။ ရုပ်ခန္ဓာမပါသော နာမ်တရားသက်သက်မျှ တည်ရှိနေသော အရူပဘုံရှိ အရူပဗြဟ္မာတို့မှာ ခဏတိုင်း ခဏတိုင်း စိတ်ချုပ်ပျက်ပါက မကြာခဏ ဖြစ်လိုက်ပျက်လိုက် (မွေးလိုက် သေလိုက်) ဖြစ်နေပေတော့မည်။ ထို့ကြောင့် စိတ်သည် အရူပဘုံ၌ မွေးသည်မှ သေသည်အထိ တောက်လျှောက် တည်ရှိနေသည်ဟု ယူဆကြ၏။ စိတ် ဝိညာဏ် နာမ်တရားကို တည်မြဲသော အတ္တအဖြစ် စွဲလမ်းကြခြင်းဖြစ်၏။

သကဝါဒီအလို မြင်သိစိတ်၊ ကြားသိစိတ်၊ နံသိစိတ်၊ လျက်သိစိတ်၊ ထိသိစိတ်၊ ကြံသိစိတ်ဟူ၍ စိတ်ကို ခြောက်မျိုးခွဲခြား၏။ ထိုစိတ်ခြောက်မျိုးကို တစ်ခုစီ သေချာစွာ ဆန်းစစ်ပါက မမြဲသော သဘောကိုသာ တွေ့ရ၏။ အကယ်၍သာ မြင်သိစိတ်သည် မြဲနေပါက အခြားစိတ်များ ဖြစ်ခွင့်ရနိုင်တော့မည် မဟုတ်ချေ။ မွေးသည်မှ သေသည်အထိ မြင်သိစိတ် တစ်ခုတည်း တောက်လျှောက်တည်ရှိနေရန်သာ ရှိတော့၏။ ပရဝါဒီ တင်ပြသော အရူပဘုံ၌ အရူပဗြဟ္မာတို့မှာ ရုပ်ဟူ၍ မရှိ၊ နာမ်တရား သက်သက်သာရှိသည် မှန်၏။ ထိုနာမ်တရားများ ခဏတိုင်း ဖြစ်ချုပ်နေသော်လည်း ဖြစ်တိုင်း ဖြစ်တိုင်း ပဋိသန္ဓေနေ (မွေး) သည်ဟု မဆိုရ။ ပျက်တိုင်းပျက်တိုင်း သေဆုံးသည်ဟု မဆိုရ၊ အမှန်စင်စစ် ဘဝတစ်ခု၌

အဆက်မပြတ် ဖြစ်ပေါ် ချုပ်ပျက်နေသော နာမ်ခန္ဓာဖြစ်ပျက် အစဉ် အတန်းကြီး (သန္တတိ) တစ်ခုရှိ၏။ ထိုဖြစ်စဉ်ကြီး၏ အစဦးစွာ ဖြစ်ပေါ် မှုကိုသာ ပဋိသန္ဓေနေ (မွေး)သည်ဟု ခေါ်ဆို၍ နောက်ဆုံး ချုပ်ပျက်မှု ကိုသာ သေဆုံးသည်ဟု ခေါ်ဆိုရ၏။ ထို့ကြောင့် အရူပဘုံရှိ အရူပဗြဟ္မာ တို့၏ စိတ်သည်လည်း ခဏတိုင်း ဖြစ်ပျက်နေ၍ တည်မြဲခြင်း မရှိဟု မှတ်အပ်၏။

## ၁၇။ ကုက္ကုဠကထာ

### သင်္ခါရတရား အားလုံးသည် ပြာပူကဲ့သို့ ပူလောင်နေသလော

ပရဝါဒီ ဂေါကုလိက ဂိုဏ်းသားများက ဤလောက၌ သုခဟူ၍ မြူမျှမရှိ၊ သုခမဖက် ဒုက္ခသက်သက်သာဖြစ်၍ ရဲရဲတောက် ပူလောင်နေ သော မီးကျီးခဲ ပြာပူအစုနှင့် တူတည်ဟု ယူဆကြ၏။ 'မျက်စိ၊ နား၊ နှာ ခေါင်း စသည်တို့၌ ရာဂမီး ဒေါသမီးတို့ဖြင့် တောက်လောင်နေ၏'ဟူ၍ လည်းကောင်း၊ 'ငရဲပြည်၌ တွေ့ကြုံခံစားရသော အာရုံခြောက်ပါးသည် မနှစ်သက်ဖွယ် အာရုံများသာ ဖြစ်ကုန်၏'ဟူ၍လည်းကောင်း၊ 'သင်္ခါရ တရားအားလုံးတို့သည် မမြဲကုန်၊ မမြဲသော တရားမှန်သမျှသည် ဒုက္ခသာ လျှင် ဖြစ်ကုန်၏'ဟူ၍လည်းကောင်း ဟောကြားတော်မူသော ဒေသနာ တို့ကို ကိုးကား၍ တစ်လောကလုံး သုခဟူ၍ မရှိ၊ ဒုက္ခသက်သက်သာရှိ၍ ပြာပူအစုကဲ့သို့ ပူလောင်နေသည်ဟု ယူဆကြ၏။

သကဝါဒီအလို အထက်ဖော်ပြပါ မြတ်စွာဘုရား ဒေသနာတော် များသည် ဒါန သီလ အခန်း၌ ဟောကြားအပ်သော ဒေသနာတော်များ မဟုတ်ချေ။ ဝိပဿနာရှုသောနေရာ ဝိပဿနာဉာဏ်အခန်း၌ ဟော ကြားအပ်သော ဒေသနာတော်များ ဖြစ်ကုန်၏။ ဒါနခန်း သီလခန်း၌မူ ကုသိုလ်ပြုလျှင် ကောင်းကျိုးချမ်းသာ (သုခ) ခံစားရသည်ဟူ၍လည်း ကောင်း၊ နတ်ပြည်၌ နတ်စည်းစိမ်ချမ်းသာ ခံစားကြရသည်ဟူ၍လည်း ကောင်း၊ သာယာဖွယ် သုခဝေဒနာရှိကြောင်းကိုလည်းကောင်း မြတ်စွာ ဘုရား ဟောကြားတော်မူခဲ့၏။ ထို့ကြောင့် ဤလောကအတွင်း ချမ်းသာ

သုခ မရှိ ဟူ၍ မဆိုလို၊ လောကီချမ်းသာသုခ အမှန်တကယ်ရှိကြောင်း မြတ်စွာဘုရား ဟောတော်မူသည်သာ ဖြစ်၏။

သို့ရာတွင် အောက်အဆင့်ရှိ ချမ်းသာသုခများကို အထက်အဆင့်ရှိ ချမ်းသာသုခများနှင့် နှိုင်းယှဉ်လိုက်ပါက ဒုက္ခဟု ဆိုရ၏။ ငစိန်ဆန်စားရလျှင် လယ်သမားအတွက် ချမ်းသာသုခဖြစ်သော်လည်း အထက်တန်းလွှာတို့အတွက် ငစိန်ဆန်စားရလျှင် ဆင်းရဲဒုက္ခဖြစ်၏။ ထိုနည်းအတူ လူတို့၏သုခသည် နတ်တို့အနေဖြင့် ကြည့်လျှင် ဒုက္ခဟု ထင်ရ၏။ တစ်ဖန် ဘုရားရဟန္တာ အရိယာသူတော်ကောင်းတို့သည် လောကုတ္တရာ ချမ်းသာ နိဗ္ဗာန်ချမ်းသာကို ရရှိပြီးသောကြောင့် လောကီချမ်းသာသုခကို ဒုက္ခဟု ရှုမြင်တော်မူကြ၏။ လောကီချမ်းသာကို စွဲမက်နေပါက လောကုတ္တရာ ချမ်းသာကို မရနိုင်။ အဆင့်မြင့်သော လောကုတ္တရာ ချမ်းသာကို ရယူစေလိုသောကြောင့် လောကီစည်းစိမ် ချမ်းသာတို့ကို ဒုက္ခဟူ၍ ဟောတော်မူခြင်းဖြစ်၏။ ငရဲဘုံ၌သာလျှင် သုခမဖက် ဒုက္ခသက်သက်မျှသာရှိသည်။ အခြားသောဘုံဌာနတို့၌ သုခအဆင့်ဆင့်ရှိပုံကို မြတ်စွာဘုရားဟောတော်မူခဲ့သည်။ ထိုသို့အရာဌာနအားလျော်စွာ ခွဲခြားမယူဘဲ ပရဝါဒီပုဂ္ဂိုလ်သည် (၃၁)ဘုံလုံးကို ငရဲပြည်နှင့် ထပ်တူပြု ယူဆကာ သင်္ခါရတရား အားလုံးတို့သည် ပြာပူအစုကဲ့သို့ ပူလောင်နေသည်ဟု ယူဆလွဲမှားလေသည်။ ဤဝါဒကို ဤခေတ်လူတို့က အဆိုးမြင်ဝါဒဟု ခေါ်ကြ၏။

## ၁၈။ အနုပုဗ္ဗာဘိသမယကထာ

**မင်ဉာဏ်သည် သစ္စာလေးပါးကို တစ်ကြိမ်စီ ခွဲခြားမြင်သလော။**

ပရဝါဒီဖြစ်သော အန္ဓကဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်း၊ သမ္မိတိယဂိုဏ်း၊ ဘဒြယာနိကဂိုဏ်းသားတို့၏ အယူဝါဒအရ မင်ဉာဏ်သည် သစ္စာလေးပါးကို တစ်ကြိမ်တည်း မသိဘဲ တစ်ကြိမ်စီခွဲ၍ လေးကြိမ် လေးခါ သိသည်ဟု ယူဆကြ၏။

သကဝါဒီအလို မင်ဉာဏ်သည် သစ္စာလေးပါးကို တစ်ပြိုင်နက်တည်း တစ်ကြိမ်တည်းဖြင့် အပြီး သိမြင်၏ဟု ဆိုလို၏။ ဤဝါဒစိစစ်ချက်ဖြေရှင်းချက်ကို နံပါတ် ၃ ဩဓိသောကထာ၌ ရေးခဲ့ပြီ။

## ၁၉။ ဝေါဟာရကထာ

**မြတ်စွာဘုရားနှုတ်တော်မှ ထွက်သော စကားလုံးများသည် လောကီတရားလော၊ လောကုတ္တရာတရားလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့၏ အယူဝါဒအရ မြတ်စွာဘုရား နှုတ်တော်မှ ထွက်သော အသံအစဉ်အတန်းဟု ဆိုအပ်သော ဝေါဟာရစကားလုံး (ပါဠိတော်) များကို လောကီတရား၌ ထည့်သွင်းမရေတွက်ရ။ လောကလူသားတို့၏ ဝေါဟာရစကားလုံးများထက် သာလွန် မွန်မြတ်သောကြောင့် လောကုတ္တရာတရား၌ ထည့်သွင်းယူလိုကြ၏။ ဤအယူအဆမှာ ဗြာဟ္မဏ ပုဏ္ဏားတို့၏ အယူမှ ဆင်းသက်ဆက်နွယ်လာခြင်းဖြစ်၏။ ဗြာဟ္မဏပုဏ္ဏားတို့သည် ဝေဒကျမ်းလာ စကားလုံးများအရ ဗြဟ္မာကြီး၏ အသံတော်များ ဖြစ်ကြ၍ လောကထက် သာလွန်၍ မွန်မြတ်သောကြောင့် လောကုတ္တရာတရားဟု ယူဆကြ၏။ ယင်းကို အတုယူ၍ မြတ်စွာဘုရား၏ အသံတော် (ဝေါဟာရ စကားလုံးများ) သည် လောကုတ္တရာတရားဟု ယူဆကြ၏။

သကဝါဒီအလို မြတ်စွာဘုရား၏ အသံတော် (ဝေါဟာရစကားလုံးများ) သည်လည်း ရုပ်သာလျှင် ဖြစ်၏။ အသံမှန်သမျှကို သဒ္ဒရုပ်ဟု ခေါ်လေ၏။ ရုပ်မှန်သမျှကို လောကီတရား၌ ထည့်သွင်းရေတွက်၍ လောကုတ္တရာတရား၌ ထည့်သွင်းရေတွက်ခြင်း မပြုချေ။ လောကုတ္တရာတရားမှာ မင်လေးပါး ဖိုလ်လေးပါး နိဗ္ဗာန် ဟူ၍ ကိုးပါးသာလျှင် ရှိ၏။ မြတ်စွာဘုရား၏ အသံတော် သဒ္ဒရုပ်ကို လောကုတ္တရာတရား၌ ထည့်သွင်းရေတွက်ပါက အဆင်းတော် အနံ့တော် အစရှိသော ရုပ်အားလုံးကိုလည်း လောကုတ္တရာတရားတို့၌ ထည့်သွင်းရပေတော့မည်။ ရုပ်ကို

လောကုတ္တရာတရားဟူ၍ မြတ်စွာဘုရား ဟောတော်မမူခဲ့ခြင်းကြောင့် ပရဝါဒီ၏အဆိုကို ပယ်သင့်၏။

## ၂၀။ နိရောဓကထာ

**အစကတည်းက မဖြစ်ဘဲ ငြိမ်းအေးပြီး (နိဗ္ဗာန်ရပြီး) ဖြစ်သလော။**

ပရဝါဒီ မဟိသာသကဂိုဏ်းနှင့် အန္ဓကဂိုဏ်းသားတို့၏ အယူဝါဒအရ နိရောဓသစ္စာကို ပဋိသင်္ခါနိရောဓ၊ အပ္ပဋိသင်္ခါနိရောဓ ဟူ၍ နှစ်မျိုးနှစ်စားခွဲခြားကြ၏။ ဖြစ်ပေါ်လာသော ကိလေသာ အာသဝေါတရားတို့သည် လောကုတ္တရာ မဂ်ဉာဏ်ပညာကြောင့် ချုပ်ငြိမ်းကုန်၏။ ထိုသို့ မဂ်ဉာဏ်ကြောင့် ချုပ်ငြိမ်းခြင်းကို ပဋိသင်္ခါနိရောဓဟု ခေါ်ဆိုကြ၏။ ထိုသို့ မဂ်ဉာဏ်၏စွမ်းအား မလိုဘဲ ကိလေသာ အာသဝေါတရားတို့သည် အစကတည်းက မဖြစ်ဘဲနေခြင်း (အလိုအလျောက်ရှိနေသော နဂိုအငြိမ်းဓာတ်သဘော) ကို အပ္ပဋိသင်္ခါနိရောဓဟု ခေါ်ဆိုကြ၏။

(ပဋိသင်္ခါ=မဂ်ပညာကြောင့်။ အပ္ပဋိသင်္ခါ=မဂ်ပညာကြောင့် မဟုတ်သော + နိရောဓ=ချုပ်ငြိမ်းခြင်း)။

တတိယသင်္ဂါယနာတင် အသောကမင်းတရားကြီး လက်ထက်က အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ် ပယ်ဖျက်ခဲ့သော အပ္ပဋိသင်္ခါနိရောဓ အယူအဆ (ပရဝါဒ) သည် သာသနာနှစ် တစ်ထောင်ကျော်တွင် မဟာယာနဂိုဏ်းအတွင်း၌ အာဒိနိဗ္ဗာနဝါဒအမည်ဖြင့် ပေါ်ပေါက်လာ၏။

တစ်ဖန် သာသနာ (၂၅၀၀) ကျော်သောအခါ ဤဝါဒသည် "စိတ်စိတ်အတိုင်းထား" ဟူသော "အတိုင်းတိုင်း"ဝါဒအမည်ဖြင့် တည်ရှိ၏။ သကဝါဒီအလို နိဗ္ဗာန်သည် တစ်ခုတည်းသာရှိ၍ နိရောဓသစ္စာ နှစ်မျိုးမခွဲခြားသင့်။ နိရောဓသစ္စာကို နှစ်မျိုးခွဲပါက ဒုက္ခသစ္စာ စသည်တို့ကိုလည်း နှစ်မျိုးစီလိုက်ခွဲရပေတော့မည်။ ထိုသို့ မဖြစ်ကောင်း၊ အပ္ပဋိသင်္ခါနိရောဓကို မြတ်စွာဘုရားလည်း ဟောတော်မမူခဲ့ချေ။

## ၂၁။ ဗလကထာ

ဗုဒ္ဓဉာဏ်တော်အားလုံးကို သာဝကတို့ ရနိုင်သလော။

## ၂၂။ အရိယန္တိ ကထာ

ဗုဒ္ဓဉာဏ်တော်အားလုံးသည် လောကုတ္တရာဉာဏ်မည်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့၏ အယူဝါဒအရ မြတ်စွာဘုရားရှင်၏ ဒသဗလဉာဏ်တော်ဆယ်ပါးလုံးသည် လောကုတ္တရာတရားများ ဖြစ်ကြသည်ဟု ဆို၏။

သကဝါဒီအလို မြတ်စွာဘုရား၏ ဒသဗလဉာဏ်တော် ဆယ်ပါးတွင် အာသဝက္ခယဉာဏ်တော် (အရဟတ္တမဂ်ဉာဏ်) တစ်ခုတည်းသာလျှင် လောကုတ္တရာဉာဏ်တော်ဖြစ်၍ ကြွင်းသော ဉာဏ်တော်ကိုးပါးသည် လောကီဉာဏ်တို့သာလျှင် ဖြစ်ကုန်၏။

## ၂၃။ ဝိမုတ္တိကထာ

ရာဂ ဒေါသ မောဟရှိသော စိတ်သည် ရာဂ ဒေါသ မောဟမှ လွတ်မြောက်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့၏ အယူဝါဒ၌ ရာဂကင်းသော စိတ်သည် ရာဂမှ လွတ်သည်ဟု ဆိုလျှင် အကျိုးမထူး၊ အရာမထင်။ ရာဂရှိသောစိတ်သည် ထိုရာဂမှ လွတ်သည်ဟု ဆိုလျှင် အကျိုးထူး ပေါ်လွင်ထင်ရှား၏။ ထိုနည်းအတူ ဒေါသ မောဟရှိသောစိတ်သည် ထိုဒေါသ မောဟတို့မှ လွတ်မြောက်သည်ဟု ဆိုလို၏။ ဥပမာအားဖြင့် ချေးရှိသော အဝတ်ကို လျှော်ဖွပ်လျှင် ထိုချေးမှ ဖြူစင်လာသည်။ ထို့အတူ ရာဂ ဒေါသ မောဟရှိသောစိတ်သည် ထိုရာဂ ဒေါသ မောဟမှ စင်ကြယ်သည်ဟု ယူဆ၏။ ဤဝါဒမှာ အကောင်အထည် ဒြပ်ရှိများ၊ ရုပ်ဝတ္ထုများ ပူးတွဲယှဉ်စပ်ထားသကဲ့သို့ စိတ်နှင့် ရာဂ ဒေါသ မောဟတရားတို့ကို ယှဉ်စပ်ထား၍ စိတ်ကို အမြဲတည်သော အတ္တအဖြစ် ထင်မြင်ယူဆရာမှ

ပေါ်ပေါက်လာရခြင်းဖြစ်၏။ စိတ်ကို အဝတ်စကဲ့သို့ အမာခံအဖြစ် ယူဆ၍ ရာဂ ဒေါသ မောဟတို့ကို စိတ်ပေါ်၌ စွန်းထင်နေသည်ကို ချေးအဖြစ် တွေးခေါ်ယူဆ၍ ပြောဆိုနေခြင်းဖြစ်၏။

သကဝါဒီအလို စိတ်သည် ဥပါဒ်ဋ္ဌီဘင် ခဏငယ် သုံးချက်စာမျှသာ သက်တမ်းရှည်၍ ဖြစ်ပြီးနောက် ချက်ချင်းပျက်စီးနေ၏။ ဤမျှ သက်တမ်းတိုသော စိတ်၌ ယှဉ်တွဲလာသော ရာဂ ဒေါသ မောဟ တရားတို့သည်လည်း စိတ်နှင့်အတူတကွ ဖြစ်ပျက်ကြကုန်၏။ ထို့ကြောင့် ပစ္စုပ္ပန်ဖြစ်ဆဲဖြစ်သော ရာဂ ဒေါသ မောဟတို့သည်လည်း ဖြစ်ပြီးနောက် ချက်ချင်း ချုပ်ပျက်ကြသောကြောင့် ၎င်းတို့ကို ပယ်ရန် မဖြစ်နိုင်ချေ။ ထို့ပြင် ရာဂ ဒေါသ မောဟနှင့် ယှဉ်တွဲနေသောစိတ်များသည် အကုသိုလ်စိတ်များဖြစ်ကြ၍ ကိလေသာကို ပယ်နိုင်စွမ်းမရှိချေ။ ရာဂ ဒေါသ မောဟတို့ယှဉ်တွဲနေသောစိတ်၌ မဂ်ဉာဏ်ယှဉ်တွဲ မဖြစ်နိုင်ချေ။ ထိုသို့ မဂ်ဉာဏ်မဖြစ်က ရာဂ ဒေါသ မောဟတို့ကို မပယ်နိုင်။ အမှန်စင်စစ် မဂ်ဉာဏ်သည် ကိလေသာပယ်ရာ၌ ပစ္စုပ္ပန် အတိတ် အနာဂတ် ကိလေသာတို့ကို တွန်းဖယ်သတ်ဖြတ်နေရခြင်းမဟုတ်။ ထိုပုဂ္ဂိုလ်၏ နာမ်ခန္ဓာဖြစ်စဉ်ကြီး၌ မဂ်ဉာဏ်အထူးဖြစ်ပေါ်လာသောအခါ နာမ်ခန္ဓာဖြစ်စဉ်သည် ဓာတ်သဘာဝတစ်မျိုးတစ်မည် ပြောင်းလဲသွား၏။ မဂ်ဉာဏ်ဖြစ်ပြီးနောက် ဆက်လက်ဖြစ်ပေါ်သော နာမ်ခန္ဓာဖြစ်စဉ်အတွင်း၌ ကိလေသာတို့ ဖြစ်ခွင့် မရှိတော့ခြင်း၊ မဖြစ်တော့ခြင်းကိုပင် ကိလေသာကို ပယ်သည်၊ ကိလေသာမှ လွတ်မြောက်သည်ဟု ဆိုရ၏။ ကိလေသာကို ပယ်၏ ဟူသည် ကိလေသာကင်းခြင်းပင် ဖြစ်၏။ ထင်ရှားဖြစ်ပေါ်လျက်နေသော ကိလေသာတို့ကို ကိုင်တွယ် တွန်းဖယ်နေရခြင်းမျိုး မဟုတ်ချေ။ စိတ်သည် ရာဂ စသည်နှင့် ယှဉ်ခိုက်၌ ဖဿ, ဝေဒနာ, သညာ, စေတနာ စသော စေတသိက်များနှင့်လည်း ယှဉ်တွဲနေ၏။ ထို့ကြောင့် စိတ်သည် ယှဉ်ဖက်ဖြစ်သော ရာဂမှ လွတ်မြောက်သည်ဟု ဆိုလျှင် ယှဉ်ဖက်ဖြစ်သော ဖဿမှလည်း လွတ်မြောက်လေရာ၏။ ဝေဒနာ သညာ စေတနာတို့မှလည်း လွတ်မြောက်လေရာ၏။ ထိုသို့ မဖြစ်နိုင်သောကြောင့် ပရဝါဒီ၏ အယူဝါဒကို ပယ်မြစ်အပ်၏။

## ၂၄။ ဝိမုတ္တမာနကထာ

**ကိလေသာမှ လွတ်မြောက်ရာ၌ မပြီးဆုံးသေးသော လွတ်မြောက်မှု ဟူ၍ ရှိသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က မဂ်ခဏ၌ စိတ်သည် ကိလေသာမှ လွတ်မြောက်ဆဲဖြစ်၏။ တစ်ပိုင်းတစ်စက လွတ်မြောက်နေ၍ တစ်ပိုင်း တစ်စက မလွတ်မြောက်သေးဟု ယူဆ၏။ ဖျာရက်လုပ်ရာ၌ တစ်ပိုင်း တစ်စ ရက်ပြီးနှင့် တစ်ပိုင်းတစ်စ မရက်ရသေးသော အပိုင်းဟူ၍ ရှိ၏။ ထိုဖျာကို တစ်ပိုင်းရက်ပြီး တစ်ပိုင်းရက်ဆဲဟု ဆိုသကဲ့သို့ မဂ်ကို မရမီ ရှေးအဖို့ သမာဓိစျာန်အခိုက်၌ ကိလေသာတို့မှ ဝိက္ခမ္ဘနပဟာန်ဖြင့် လွတ်မြောက်ပြီးဖြစ်၏။ တစ်ပိုင်း လွတ်မြောက်ပြီး ဖြစ်၏။ မဂ်ခဏ၌ လွတ်မြောက်နေဆဲ ဖြစ်၏ဟု ဖျာရက်ပုံဥပမာဖြင့် ရှင်းလင်းကြ၏။

သကဝါဒီအလို တစ်ပိုင်းတစ်စသာ လွတ်မြောက်မှုဟူ၍ မရှိ၊ လွတ်မြောက်ဆဲဟူ၍ မရှိနိုင်။ ပရဝါဒီ၏ အယူအဆကို လက်ခံလိုက်ပါက သောတာပန် တစ်ပိုင်း ပုထုဇဉ်တစ်ပိုင်း ပုဂ္ဂိုလ်များ၊ သောတာပန် မဖြစ်တဖြစ် ပုဂ္ဂိုလ်များ၊ ရဟန္တာ မဖြစ်တဖြစ် ပုဂ္ဂိုလ်များ ရှိသည်ဟု ဆိုရာ ရောက်လေ၏။ ထိုသို့ မရှိနိုင်သောကြောင့် ပရဝါဒီအယူအဆကို ပယ်မြစ် အပ်၏။

## ၂၅။ အဋ္ဌမကကထာ

**သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် ဒိဋ္ဌိ, ဝိစိကိစ္ဆာကို ပယ်ပြီးလော။**

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ဒိဋ္ဌိ ဝိစိကိစ္ဆာ တို့ကို သောတာပတ္တိမဂ်စိတ်၏ရှေ့၌ဖြစ်သော အနုလောမဉာဏ်, ဂေါတြဘူ ဉာဏ်တို့က ပယ်ခဲ့ကြ၍ သောတာပတ္တိမဂ်စိတ်ဖြစ်ခိုက်၌ ဒိဋ္ဌိ, ဝိစိကိစ္ဆာ ကို ပယ်ပြီးဖြစ်သည်ဟု ဆိုကြ၏။ ထို့ကြောင့် သောတာပတ္တိမဂ္ဂဋ္ဌာန် ပုဂ္ဂိုလ်သည် ဒိဋ္ဌိ, ဝိစိကိစ္ဆာကို ပယ်ပြီးဖြစ်သည်ဟု ဆိုကြ၏။

သကဝါဒီအလို မင်္ဂ၏ရှေ့အဖို့ဖြစ်သော အနုလောမဉာဏ်၊ ဂေါတြဘူဉာဏ်တို့သည် ဒိဋ္ဌိ၊ ဝိစိကိစ္ဆာကို မပယ်နိုင်၊ သောတာပတ္တိမဂ်ဉာဏ်သည်သာလျှင် ဒိဋ္ဌိ၊ ဝိစိကိစ္ဆာကို ပယ်သည်ဟု ဆိုလို၏။

## ၂၆။ အဋ္ဌမကဿ ဣန္ဒြိယကထာ

**သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၏ သဒ္ဓါ၊ သတိ စသော တရားများကို ဣန္ဒြေဟု ခေါ်နိုင်သလော။**

ပရဝါဒီအန္ဓကဂိုဏ်းသားတို့က သောတာပတ္တိ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၌ရှိသော သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာတို့သည် ရခါစဖြစ်၍ မပွားများရသေးချေ။ ထိုသို့ မပွားများရသေးသောကြောင့် ဣန္ဒြေဟု မခေါ်ထိုက်ဟု ဆိုကြ၏။

သကဝါဒီက သံယုတ်ပါဠိတော် (တ-၁၇၈) ၌ သဒ္ဓိန္ဒြေ၊ ဝီရိယန္ဒြေ၊ သတိန္ဒြေ၊ သမာဓိန္ဒြေ၊ ပညိန္ဒြေဟူ၍ ဤဣန္ဒြေငါးပါးမရှိသူကို ပုထုဇဉ်ဟု ဆိုအပ်၏ဟု မြတ်စွာဘုရားဟောကြားချက်ကို အထောက်အထားပြု၍ သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်၌ ထိုဣန္ဒြေငါးပါး ရှိကြောင်း အခိုင်အမာ ဆိုအပ်၏။

## ၂၇။ ဒိဗ္ဗစက္ခုကထာ

**ပကတိမျက်စိကို ဒိဗ္ဗစက္ခုဟု ခေါ်သလော။**

လူတို့၏ ပကတိမျက်စိကို မံသစက္ခုဟု ခေါ်၏။ နတ်တို့ မျက်စိကို ဒိဗ္ဗစက္ခုဟု ခေါ်၏။ မံသစက္ခုသည် မိမိမျက်လုံးသို့ ထင်ဟပ်လာသော ရုပ်ပုံသဏ္ဌာန် အဆင်းများကိုသာ မြင်ရ၏။ ဒိဗ္ဗစက္ခုသည်ကား အဝေး အနီး၊ အသေး၊ အကြီး ရှိသမျှ အဆင်းပုံသဏ္ဌာန်များကို အခြားအကွယ် မရှိ ထိုးဖောက်မြင်နိုင်စွမ်း၏။ နတ်တို့၏ မျက်စိသည် ကုသိုလ်ကံအဟုန်ကြောင့် လွန်စွာကြည်လင်၍ လူတို့ထက် မြင်နိုင်စွမ်းအား သာလွန်ပေသည်။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားများက ရူပါဝစရ စတုတ္ထဈာန် အဘိညာဉ်ကို ဒိဗ္ဗစက္ခုဟု မဆိုကြဘဲ ထိုရူပါဝစရ စတုတ္ထဈာန်၏ အထောက်အပံ့ကို ခံရသော ပကတိမျက်စိကိုပင် ဒိဗ္ဗစက္ခုဟု ယူဆကြ၏။

သကဝါဒီအလို စတုတ္ထဈာန် အဘိညာဉ်ကို ဒိဗ္ဗစက္ခုဟု ခေါ်၏။ စတုတ္ထဈာန်ရပြီးသော ပုဂ္ဂိုလ်သည် ဖြူ နီ ညို ပြာ ရူပါရုံ အကြီးအသေး တို့ကို ပကတိမျက်စိဖြင့် ကြည့်၍ ပရိကံပြုရ၏။ ဘာဝနာပွားရ၏။ ထိုသို့ ပရိကံပြုပြီးမှ စတုတ္ထဈာန် ဒိဗ္ဗစက္ခုဉာဏ်ဖြစ်နိုင်၏။ အမိဝမ်းတွင်းမှ မျက်စိကွယ်လာသူသည် ဖြူနီညိုပြာ အရောင်အဆင်း ရူပါရုံကို မမြင်ဖူး သောကြောင့် ဒိဗ္ဗစက္ခုအဘိညာဉ်ကို မရနိုင်။ ထို့ကြောင့် ပကတိမျက်စိ သည် ဒိဗ္ဗစက္ခုအဘိညာဉ်ကို ရရန် အကြောင်းတစ်ရပ်ဖြစ်၏။ သို့သော် လည်း ပကတိမျက်စိကိုကား ဒိဗ္ဗစက္ခုဟူ၍ မခေါ်သင့်ချေ။

## ၂၈။ ဒိဗ္ဗသောတကထာ

**ပကတိနားကို ဒိဗ္ဗသောတဟု ခေါ်သလော။**

အထက်ဖော်ပြပါ နည်းအတိုင်း စတုတ္ထဈာန်၏ အထောက်အပံ့ကို ရသော ပကတိနားသည် ဒိဗ္ဗသောတမည်၏ဟု ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ဆို၏။

## ၂၉။ ယထာကမ္မူပဂတဉာဏကထာ

**ယထာကမ္မူပဂဉာဏ်သည် ဒိဗ္ဗစက္ခုဉာဏ် ဖြစ်သလော။**

သကဝါဒီအလို ဒိဗ္ဗစက္ခုဉာဏ်သည် ရူပါရုံကို အာရုံပြု၏။ ယထာ ကမ္မူပဂဉာဏ်သည် သတ္တဝါတို့၏ ကုသိုလ်အကုသိုလ်ကံအလျောက် လား ရောက်ကြပုံကို ဆင်ခြင်သုံးသပ်၏။ ထိုသို့ နှလုံးသွင်းပုံ၊ အာရုံပြုပုံချင်း မတူသောကြောင့် ဒိဗ္ဗစက္ခုဉာဏ်နှင့်ယထာကမ္မူပဂဉာဏ်သည် သီးခြား စီဖြစ်၏။ အရှင်သာရိပုတ္တရာသည် ဒိဗ္ဗစက္ခုဉာဏ်ကို အသုံးပြုလေ့မရှိ၊ ယထာကမ္မူပဂဉာဏ်ကို အသုံးပြုတော်မူလေ့ရှိ၏။ ထို့ကြောင့် ဒိဗ္ဗစက္ခု

ဉာဏ်နှင့်ယထာကမ္မူပဂဉာဏ်သည် မတူ ထူးခြားသောကြောင့် သီးခြား တစ်ခုစီ မှတ်ယူသင့်၏။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ဤဉာဏ်နှစ်ပါး ကို အတူတူ တစ်ခုတည်းဖြစ်သည်ဟု ဆိုကြ၏။

## ၃၀။ သံဝရကထာ

**တာဝတိံသာ အထက်နတ်များ၌ အကုသိုလ်မပြုမိအောင် စောင့် ထိန်းမှု (သံဝရ) ရှိသလော။**

သကဝါဒီအလို စတုမဟာရာဇ်နတ်မှ အထက်နတ်ပြည်တို့၌ နှိပ် စက် သတ်ဖြတ်မှု ပါဏာတိပါတ စသော မကောင်းမှုအကုသိုလ်ကံများကို ကျူးလွန်မှု မရှိကြချေ။ စတုမဟာရာဇ်နတ်များကား ပါဏာတိပါတ စသော မကောင်းမှု, တစ်ဖက်သားကို အန္တရာယ်ပြုမှုများကို ပြုလုပ်လေ့ ရှိကြောင်း အာဋာနာဋိယသုတ်တော်၌ လာရှိ၏။ ထို့ကြောင့် တာဝတိံသာ အစရှိသော အထက်နတ်ပြည်တို့၌ ပါဏာတိပါတစသော အကုသိုလ်ကံ များ မကျူးလွန်ရအောင် စောင့်ထိန်းမှု (သံဝရ) မလိုတော့ချေ။ ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ထိုအထက်နတ်ပြည်တို့၌ ပါဏာတိပါတ စသည် အကုသိုလ်မှုများ မရှိခြင်းသည် စောင့်ထိန်းမှု (သံဝရ)ကြောင့် ဖြစ်သည်ဟု ယူဆကြ၏။

## ၃၁။ အသညကထာ

**အသညသတ်သတ္တဝါ၌ သညာရှိသလော။**

သညာခေါ် နာမ်တရား လုံးဝမရှိဘဲ ရုပ်သက်သက်သာ တည်ရှိ၍ အသက်ရှင်သော သတ္တဝါကို အသညသတ်သတ္တဝါဟု ခေါ်ကြ၏။ ပဋိ သန္ဓေကာလမှ စုတိကာလတိုင်အောင် ဘဝတစ်လျှောက်လုံး နာမ်တရား လုံးဝဖြစ်ခြင်းမရှိ။ ဇီဝိတနဝကကလာပ်ရုပ်ဟု ခေါ်သော ရုပ်သက်သက် ဖြင့် အသက်ရှင်နေကြ၏။

ပရဝါဒီ အန္ဓကဂိုဏ်းသားများက အသညသတ် သတ္တဝါသည် ပဋိသန္ဓေအခိုက်နှင့် စုတိ (သေလွန်သည့်)အခိုက်၌ သညာခေါ်သော နာမ်တရားဖြစ်သည်ဟု ယူဆ၏။ ပဋိသန္ဓေအခိုက်၌ ပဋိသန္ဓေစိတ် တစ်ကြိမ်ဖြစ်ပေါ်၍ စုတေသည့်အခိုက်၌ စုတိစိတ် ဖြစ်သည်ဟု ဆိုကြ၏။ ထိုစုတိ, ပဋိသန္ဓေ နှစ်ခုအကြား ပဝတ္တိကာလ၌ ရုပ်သက်သက်သာ တည်ရှိသည်ဟု ဆိုကြ၏။ ပရဝါဒီဆိုသည့်အတိုင်း မှန်ပါက ထိုသတ္တဝါကို ပဋိသန္ဓေအခိုက်နှင့် စုတိအခိုက်တွင် (သညသတ္တ) သညာရှိသော သတ္တဝါဟု ခေါ်ရပေလိမ့်မည်။ ထို့ကြောင့် ပရဝါဒီ၏ အယူအဆကို ပယ်မြစ်အပ်၏။

## ၃၂။ နေဝသညာနာသညာယတနကထာ

**နေဝသညာနာသညာယတနဗြဟ္မာ၌ သညာရှိ, မရှိ မဆိုနိုင်။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က နေဝသညာနာသညာယတနဗြဟ္မာတို့၌ သညာရှိသည်ဟုလည်း မဆိုနိုင်၊ သညာမရှိ ဟူ၍လည်း မဆိုနိုင်ဟု ယူဆကြ၏။ 'နေဝသညာ ॰ သညာနာမ်တရား လုံးဝမရှိ။ န အသညာ॰ သညာမရှိသည် မဟုတ်' ဟူသော အမည်နာမကို မိမိလိုသလို အဓိပ္ပာယ်ဖွင့်ဆို ရေးသားထား၏။

သကဝါဒီအလို နေဝသညာ ॰ ကြမ်းတမ်းသော သညာကား မရှိ၊ န အသညာ ॰သိမ်မွေ့သော သညာကား မရှိသည် မဟုတ်၊ ရှိသည်သာဖြစ်၏။ ထို့ကြောင့် ထိုဘုံရှိဗြဟ္မာတို့၌ ကြမ်းတမ်းသော သညာနာမ်တရားကား မရှိ၊ သိမ်မွေ့သော သညာနာမ်တရားကား ရှိသည်ဟု ဆိုလို၏။ ထို့ကြောင့် ပရဝါဒီ၏ အယူဝါဒကို ပယ်မြစ်အပ်၏။

## ၃၃။ ဂိဟိဿ အရဟာတိ ကထာ

**လူဝတ်ကြောင်ဘဝဖြင့် လူမှုသံယောဇဉ်ကို မပယ်ဘဲ ရဟန္တာဖြစ်နိုင်သလော။**

ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားတို့က ယသသူဌေးသားသည် လူ့အသွင်ဖြင့် ရဟန္တာဖြစ်ခဲ့သည်ကို ထောက်ထား၍ လူဝတ်ကြောင်သည်

မိမိပိုင်ဆိုင်သော စည်းစိမ်ဥစ္စာ, သား, မယား သံယောဇဉ်ကို မပယ်ဘဲ ရဟန္တာဖြစ်နိုင်သည်ဟု ဆိုကြသည်။

သကဝါဒီအလို လူဝတ်ကြောင်သည် လူမှုသံယောဇဉ်ကို ဖြတ်တောက် ပယ်စွန့်မှသာလျှင် ရဟန္တာဖြစ်နိုင်၏။ လူဝတ်ကြောင်ဘဝဖြင့် ရဟန္တာဖြစ်ပါက တစ်နေ့အတွင်း ရဟန်းဝတ်ရမည်။ ရဟန္တာဖြစ်ပြီးနောက် လူဝတ်ကြောင်ဘဝ၌ ဆက်လက်နေထိုင်ပါက တစ်နေ့ မကူးချေ။ ထိုနေ့မှာပင် ပရိနိဗ္ဗာန်စံဝင် (သေဆုံး)ရ၏။

ဥပမာ ။ သုဒ္ဓေါဒနမင်းကြီး၊ သန္တတိ အမတ်ကြီး။

ပရဝါဒီအလိုမူ ရဟန္တာဖြစ်ပြီးသော်လည်း ရဟန်းဝတ်ရန်မလိုဘဲ လူဝတ်ကြောင်အဖြစ် ဆက်လက်နေနိုင်သည်။ (ဝါ) လူဝတ်ကြောင်ဘဝဖြင့် ရဟန္တာဟု ဝန်ခံကြေညာ၍ အပူဇော်ခံနိုင်သည်ဟု ဆိုရာရောက်၏။ ထို့ကြောင့် ပရဝါဒီ၏ အယူအဆကို ပယ်မြစ်အပ်၏။

## ၃၄။ ဥပပတ္တိကထာ

### ပဋိသန္ဓေအခိုက်မှာပင် အရဟတ္တမဂ်ဉာဏ်ကို ရနိုင်သလော။

ပရဝါဒီအလို ဥတ္တရာပထက ဂိုဏ်းသားတို့၏ အနာဂါမ်ပုဂ္ဂိုလ်သည် ဤလူ့ပြည်၌ သေလွန်၍ သုဒ္ဓါဝါသ ဗြဟ္မာဘုံ၌ တည်နေသောအခါ ထိုပဋိသန္ဓေတည်နေခိုက်မှာပင် အရဟတ္တမဂ်ကို ရ၍ ရဟန္တာဖြစ်နိုင်သည်ဟု ယူဆကြ၏။

သကဝါဒီအလို ပဋိသန္ဓေစိတ်ခဏ၌ ရဟန္တာမဖြစ်နိုင်ချေ။ ပဋိသန္ဓေစိတ်သည် ကိလေသာပယ်မှု၊ နိဗ္ဗာန်ကို အာရုံပြုမှုစသည်ကို မပြုနိုင်ချေ။ ပဝတ္တိအခါ၌သာလျှင် အရဟတ္တမဂ်ကို ရနိုင်သည်။ ထို့ကြောင့် ပရဝါဒီ၏ အယူအဆကို ပယ်မြစ်အပ်၏။

## ၃၅။ အနာသဝကထာ

### ရဟန္တာ၏ခန္ဓာကိုယ်နှင့် အသုံးအဆောင်ပစ္စည်းများသည် အာသဝေါကင်းသလော။

ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားတို့က ရဟန္တာပုဂ္ဂိုလ်၏ ကိုယ်အင်္ဂါအစိတ်အပိုင်းများသည်လည်းကောင်း၊ သက်နံ့စသော အသုံးအဆောင်

ပစ္စည်းများသည်လည်းကောင်း အာသဝေါကင်းစင်သည်ဟု ဆိုကြလေကုန်၏။

သကဝါဒီအလို = မဂ်လေးပါး, ဖိုလ်လေးပါး, နိဗ္ဗာန် ဟူသော လောကုတ္တရာတရားကိုးပါးသာလျှင် အာသဝေါကင်းသည်ဟု ဆိုလို၏။ ကြွင်းသော လောကီနယ်အတွင်းရှိ စိတ်, စေတသိက်, ရုပ်တရားများသည် အာသဝေါကင်းသော တရားများ မဟုတ်ချေ။ အထူးအားဖြင့် ရုပ်ခန္ဓာ ရုပ်ဝတ္ထုအားလုံးသည် အာသဝေါတရားတို့၏အာရုံ၊ အာသဝေါတရားတို့၏ ကျက်စားရာသာလျှင် ဖြစ်ကုန်၏။ ထို့ကြောင့် ရဟန္တာ၏ ရုပ်ခန္ဓာ ကိုယ်နှင့် အသုံးအဆောင် ရုပ်ဝတ္ထုအားလုံးကို အာသဝေါကင်းသော တရားဟု မဆိုသင့်။ အကယ်၍ ရဟန္တာဝတ်ရုံသောသင်္ကန်းသည် အာသဝေါကင်း၍ ပုထုဇဉ်ဝတ်ရုံသော သင်္ကန်းသည် အာသဝေါမကင်းဟု ဆိုငြားအံ့။ ရဟန္တာသည် မိမိသင်္ကန်းကို ပုထုဇဉ်ရဟန်းအား ပေးစွန့်ခဲ့သော် ထိုသင်္ကန်းသည် အာသဝေါကင်းရာမှ အာသဝေါမကင်း ဖြစ်ပြန်လေရာ၏။ ပုထုဇဉ်ရဟန်းသည် မိမိသင်္ကန်းကို ရဟန္တာအား လှူသောအခါ ထိုသင်္ကန်းသည် အာသဝေါမကင်းရာမှ အာသဝေါကင်းသောပစ္စည်း ဖြစ်လေရာ၏။ ဤသို့ ယုတ္တိကင်းမဲ့သောကြောင့် ပရဝါဒီ၏ အယူဝါဒကို ပယ်မြစ်အပ်၏။

## ၃၆။ သမန္နာဂတကထာ

### ရဟန္တာပုဂ္ဂိုလ်၌ ဖိုလ်လေးပါးနှင့် ပြည့်စုံသလော။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က ရဟန္တာသည် သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ် ဟူသော ဖိုလ်လေးပါးနှင့် ပြည့်စုံ၏။ ထိုနည်းအတူ အနာဂါမ်ပုဂ္ဂိုလ်သည် ဖိုလ်သုံးပါးတို့နှင့် ပြည့်စုံ၏။ သကဒါဂါမ်ပုဂ္ဂိုလ်သည်လည်း သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်နှစ်ပါးနှင့် ပြည့်စုံနေသည်ဟု ယူဆကြ၏။

သကဝါဒီအလို ရဟန္တာ၌ အရဟတ္တဖိုလ်တစ်ခုသာရှိ၏။ အခြားသောဖိုလ်များကို လွန်မြောက်ခဲ့ပြီဖြစ်သောကြောင့် ရဟန္တာပုဂ္ဂိုလ်၌ သောတာပတ္တိဖိုလ် စသည်တို့ ဖြစ်ခွင့်မရှိတော့ချေ။ ထိုနည်းအတူ အနာ

ဂါမ်ပုဂ္ဂိုလ်၌ အနာဂါမိဖိုလ်တစ်ခုသာ ဖြစ်ခွင့်ရှိ၏။ အခြားသောဖိုလ်များ ဖြစ်ခွင့်မရှိတော့ချေ။ ဥပမာအားဖြင့် စာရေးဘဝမှ အရာရှိအဆင့်သို့ ရာထူး တက်သွားသောအခါ ထိုအရာရှိကို စာရေးဟူ၍ မခေါ်နိုင်။ ထိုအရာရှိ၌ စာရေးရာထူး ရှိသေးသည်ဟု မဆိုနိုင်။ စာရေးအဆင့်ကို ကျော်လွန် တိုးတက် လာမှသာလျှင် အရာရှိဖြစ်နိုင်၏။ ထိုနည်းအတူ သောတာပန်အဆင့်ကို ကျော်လွန်၍ သကဒါဂါမ်ဖြစ်လာ၏။ သကဒါဂါမ်အဆင့်ကို ကျော်လွန်မှ အနာဂါမ် ဖြစ်လာရ၏။ အနာဂါမ်အဆင့်ကို ကျော်လွန်ပါမှ ရဟန္တာ ဖြစ်လာရ၏။ ပရဝါဒီယူဆသကဲ့သို့ ရဟန္တာသည် အနာဂါမိဖိုလ်နှင့် ပြည့်စုံ သည်ဟု ဆိုပါက ရဟန္တာကို အနာဂါမ်ပုဂ္ဂိုလ်ဟူ၍ ခေါ်ရပေလိမ့်မည်။

## ပြည့်စုံခြင်း နှစ်မျိုး သုံးမျိုး

ပစ္စုပ္ပန်ဖြစ်ဆဲခဏ၌ ရှိခြင်းကို သမင်္ဂီဘာဝ ပြည့်စုံခြင်းဟု ခေါ်၏။ ကုသိုလ်စိတ်များဖြစ်နေခိုက်ကို ကုသိုလ်စိတ်နှင့် ပြည့်စုံသည်၊ ဒေါသဖြစ် နေခိုက်ကို ဒေါသနှင့် ပြည့်စုံသည်ဟု ခေါ်ဆိုရ၏။ ပစ္စုပ္ပန်ဖြစ်ဆဲ မဟုတ် သော်လည်း အလိုရှိပါက အချိန်မရွေး ဖော်ထုတ်အသုံးပြုနိုင် ခံစားနိုင် သော ပြည့်စုံခြင်းမျိုးကို ပဋိလာဘ ပြည့်စုံခြင်းဟု ခေါ်၏။ ရူပဈာန် လေးပါး၊ အရူပဈာန်လေးပါးတို့ကို ရရှိပြီးသူသည် မိမိသန္တာန်၌ ပစ္စုပ္ပန် ကျကျ ဖြစ်ဆဲ မဟုတ်သော်လည်း အလိုရှိပါက ထိုဈာန်များကို ဖြစ်စေ နိုင်၏။ သုံးဆောင်နိုင်၏။ ထို့ကြောင့် ထိုပုဂ္ဂိုလ်၏ ဈာန်နှင့်ပြည့်စုံမှုကို ပဋိလာဘ (ရရှိ၍ပြည့်စုံခြင်း) ဟု ခေါ်၏။ ရဟန္တာပုဂ္ဂိုလ်၌ အောက် အဆင့် ဖိုလ်သုံးပါးသည် အထက်ဖော်ပြပါ ပြည့်စုံခြင်းနှစ်မျိုးတွင် မပါ ဝင်ချေ။ ထို့ကြောင့် ပရဝါဒီသည် ပတ္တိ-ပြည့်စုံခြင်းဟူသော တတိယ အမျိုးအစား ပြည့်စုံခြင်းတစ်မျိုးကို တီထွင်ပြောဆို၏။ ပတ္တိ-ဆိုသည်မှာ ရောက်ခြင်းဟု ဆိုလိုသည်။ ရဟန္တာသည် သောတာပတ္တိဖိုလ် စသော အောက်ဖိုလ်များကို သုံးဆောင် ခံစားခြင်း မပြုချေ။ ရဟန္တာပုဂ္ဂိုလ်၌ အောက်ဖိုလ်များ ဖြစ်ပေါ်ခြင်း မရှိတော့ချေ။ သို့သော်လည်း ရဟန္တာ ပုဂ္ဂိုလ်၌ ထိုရခဲ့ဖူးသော သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိ

ဖိုလ်တို့သည် ပျောက်ပျက်မသွားဘဲ တစ်နေရာရာ၌ ရှိနေ၏။ စိတ်နှင့် မယှဉ်တွဲဘဲ သူ့ဘာသာ သီးသန့်ရှိနေ၏။ ထိုသို့ စိတ်နှင့်မယှဉ်ဘဲ အလွတ်သက်သက် ရှိနေခြင်းကို ပတ္တိ-ပြည့်စုံခြင်းဟု ခေါ်၏။

ဤပတ္တိ အယူအဆကို ဟိန္ဒူဒဿနနှင့် မဟာယာနဒဿနတို့၌ ပြဿနာအကြီးအကျယ် ပြုလုပ်ဆွေးနွေးထား၏။ ထေရဝါဒက ပတ္တိကို လက်မခံချေ။ ထို့ကြောင့် ရဟန္တာပုဂ္ဂိုလ်၌ ဖိုလ်လေးပါးနှင့် ပြည့်စုံသည် ဟူသော ပရဝါဒကို ပယ်မြစ်အပ်၏။

## ၃၇။ ဥပေက္ခာသမန္နာဂတကထာ

**ရဟန္တာပုဂ္ဂိုလ်၏ ဒွါရခြောက်ပါး၌ ဥပေက္ခာခြောက်ပါး အမြဲပြည့်စုံနေသလော။**

ရဟန္တာပုဂ္ဂိုလ်၏ မျက်စိ, နား, နှာခေါင်း, လျှာ, ကိုယ်, စိတ် မနော ဟူသော ဒွါရခြောက်ပါး၌ ဥပေက္ခာခြောက်ပါးနှင့် အမြဲပြည့်စုံနေသည်ဟု ပရဝါဒီ ဥတ္တရာပထက (မြောက်ပိုင်း) ဂိုဏ်းက ဆိုလို၏။ ရဟန္တာသည် တွေ့ကြုံသမျှ အာရုံတို့ကို ဥပေက္ခာပြု လျစ်လျူရှုသည်။ ထို့ကြောင့် ရဟန္တာ၏ ဒွါရခြောက်ပါး၌ ဥပေက္ခာအမြဲရှိသည်ဟု ဆိုကြ၏။ အထက်၌ ဖော်ပြပြီးသော ပတ္တိအတွေးအခေါ်အားဖြင့် ဆိုခြင်းဖြစ်၏။ ဥပေက္ခာ ခြောက်ပါးလုံး တစ်ပြိုင်နက်ဖြစ်သည်ဟု မဆိုလို။

သကဝါဒီအလို ရဟန္တာ၌ ဥပေက္ခာ (လျစ်လျူရှုမှု) သည် ဥပါဒ်, ဌီ, ဘင် ဖြစ်ခိုက်၌သာ ရှိသည်။ ပြည့်စုံသည်ဟု ဆိုရ၏။ မဖြစ်ခိုက်၌ မရှိဟု ဆိုရမည်။ မြောက်ပိုင်းဂိုဏ်း၏ ပတ္တိအယူအဆကို လက်မခံချေ။

## ၃၈။ ဗောဓိယာ ဗုဒ္ဓေါတိ ကထာ

**ဗုဒ္ဓသည် ဗောဓိဉာဏ်နှင့် အမြဲပြည့်စုံနေသလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က 'ပတ္တိ' အတွေးအခေါ်နည်းဖြင့် ဗုဒ္ဓသည် မဂ်ဉာဏ်လေးပါး သဗ္ဗညုတဉာဏ်တော်ဟု ဆိုအပ်သော ဗောဓိဉာဏ်နှင့် အမြဲပြည့်စုံနေသည်ဟု ဆိုကြ၏။

သကဝါဒီအလို ဗုဒ္ဓမြတ်စွာအား မဂ်ဉာဏ်တို့သည် တစ်ကြိမ်စီဖြစ်၍ ချုပ်ငြိမ်းလေပြီ၊ မဂ်စိတ်သည် နှစ်ကြိမ်ဖြစ်ရိုးမရှိ၊ ထို့ကြောင့် မြတ်စွာဘုရား၌ မဂ်ဉာဏ်လေးပါးသည် အတိတ်ကာလကသာလျှင်ဖြစ်၍ ပစ္စုပ္ပန်ဖြစ်ဆဲ မဟုတ်ကုန်။ ထို့ကြောင့် မြတ်စွာဘုရားကို မဂ်ဉာဏ် ဗောဓိဉာဏ်နှင့် အမြဲပြည့်စုံသည်ဟု မဆိုသင့်။ သဗ္ဗညုတဉာဏ်တော်ဖြစ်သော ဗောဓိဉာဏ်ဖြစ်ခိုက်၌ ဗောဓိဉာဏ်နှင့် ပြည့်စုံသည်ဟု ဆိုနိုင်၏။ ပရဝါဒီ မြောက်ပိုင်းဂိုဏ်းသားတို့ကမူ အတိတ်, အနာဂတ် ဗောဓိဉာဏ်တို့သည် စိတ်နှင့်မယှဉ်တွဲဘဲ အလွတ်သက်သက် တည်ရှိနေသည်ဟု ယူဆကြ၏။ ထို့ကြောင့် ၎င်းတို့၏ အယူဝါဒအရ မြတ်စွာဘုရားသည် ဗောဓိဉာဏ်နှင့် အမြဲတစေ ပြည့်စုံနေသည်ဟု ဆိုကြ၏။

## ၃၉။ လက္ခဏာကထာ

**လက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံသူတိုင်း ဘုရားလောင်းဖြစ်သလော။**

သကဝါဒီအလို ဘုရားလောင်း (ဗောဓိသတ္တ)သည် ဘုရားဖြစ်မည့် နောက်ဆုံးဘဝ၌ မဟာပုရိသလက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံလေသည်။ ပါရမီဖြည့်စဉ် ရှေးရှေးဘဝများ၌မူ ဘဝတိုင်း၌ လက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံခြင်းမရှိ။ ရံခါ အရုပ်ဆိုးသူ၊ ခါးကိုင်းသူ၊ ပုကွသူ ဖြစ်ရ၏။ စကြာမင်းဖြစ်ရမည့် ဘဝများ၌သာလျှင် ဘုရားလောင်းသည် လက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံတော်မူ၏။ ဘုရားလောင်း မဟုတ်သော အခြားသော စကြာမင်းလောင်းများသည်လည်း လက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံကြလေသည်။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က ဤသို့ဝေဖန်ခွဲခြားနားလည်ခြင်းမရှိဘဲ ဘုရားလောင်းမှန်လျှင် ဘဝတိုင်း၌ လက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံသည်။ လက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံသူတိုင်း ဘုရားလောင်း ဖြစ်ရမည်။ ဘုရားလောင်း မဟုတ်သူသည် လက္ခဏာတော်ကြီး ၃၂ ပါးနှင့် ပြည့်စုံခြင်းမရှိဟု ယူဆကြ၏။ မဟာ

ယာနတို့၏ ဘုရားလောင်း (ဗောဓိသတ္တ) ဝါဒ ပေါ်ပေါက်ရန် ရှေ့ပြေး အတွေးအခေါ် ဖြစ်သည်။

## ၄၀။ နိယာမောက္ကန္တိ ကထာ

**ဂေါတမဘုရားလောင်းတော်သည် ကဿပဘုရားရှင် လက်ထက်တော်ကပင် မဂ်ဉာဏ်ကို ရပြီးဖြစ်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဂေါတမ ဘုရားအလောင်းတော်သည် ကဿပဘုရားရှင် လက်ထက်တော်ကပင် မဂ်ဉာဏ်ကို ရပြီး ဖြစ်သည်ဟု ဆိုကြ၏။

သကဝါဒီအလို ဘုရားအလောင်းတော်သည် နောက်ဆုံးဘဝ၌ မဂ်ဉာဏ်လေးပါးကို အစဉ်အတိုင်း ရတော်မူ၍ ဘုရားအဖြစ်သို့ ရောက်တော်မူ၏။ အကယ်၍သာ ကဿပဘုရားလက်ထက်တော်ကပင် မဂ်ဉာဏ်ကို ရပြီးဖြစ်ပါက ဓမ္မစကြာသုတ်တော်၌ "ရှေးက မကြားဖူးကုန်သော သစ္စာလေးပါးတရားကို သိမြင်သော ဉာဏ်အလင်း ဖြစ်လေပြီ" ဟူ၍ ဟောတော်မမူလေရာ မြတ်စွာဘုရားသည် သစ္စာလေးပါးကို ဆရာမရှိ မိမိအလိုလို ကိုယ်တော်တိုင် သိတော်မူသောကြောင့် 'သမ္မာသမ္ဗုဒ္ဓ' ဟူသော ဂုဏ်ထူးကို ခံယူတော်မူ၏။ အကယ်၍သာ ကဿပမြတ်စွာဘုရား လက်ထက်တော်ကပင် မဂ်ဉာဏ်ကို ရပြီး (သစ္စာလေးပါးကို သိပြီး)ဖြစ်ပါက တပည့်သာဝကမျှသာဖြစ်၍ သမ္မာသမ္ဗုဒ္ဓဂုဏ်ထူးကို မရနိုင်တော့ချေ။ ပရဝါဒီသည် 'ဗြဟ္မစရိယ'ဟူသော ဝေါဟာရ စကားလုံး၏ အနက်အဓိပ္ပာယ်ကို လွဲမှားစွာ ယူဆလေသည်။ 'ဗြဟ္မစရိယ' သဒ္ဒါသည် သာသနာ့ဘောင်ဝင်၍ ရဟန်းပြုခြင်းကိုလည်းကောင်း၊ မဂ်ဉာဏ်ရအောင် ကျင့်သုံးခြင်းကိုလည်းကောင်း ဆိုလို၏။ ဇောတိပါလ လုလင်သည် ကဿပဘုရားရှင် သာသနာတော်၌ ရဟန်းပြုခဲ့ဖူးခြင်း (ဗြဟ္မစရိယ)ကို မဂ်ရအောင် ကျင့်ခြင်း (ဗြဟ္မစရိယ)ဟု လွဲမှားစွာ အဓိပ္ပာယ်ကောက်၍ ဂေါတမဘုရားလောင်းသည် ကဿပဘုရားရှင် လက်ထက်ကပင် မဂ်ဉာဏ်ကို ရခဲ့ပြီဟု ပရဝါဒီက ဆိုခြင်းဖြစ်လေသည်။

## ၄၁။ အပရာပိ သမန္နာဂတကထာ

အရဟတ္တမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် အောက်ဖိုလ်သုံးပါးနှင့် ပြည့်စုံသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က အရဟတ္တမဂ္ဂဋ္ဌာန် ပုဂ္ဂိုလ်သည် အောက်ဖိုလ်သုံးပါးနှင့် ပြည့်စုံ၏။ အနာဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် အောက်ဖိုလ်နှစ်ပါးနှင့် ပြည့်စုံ၏။ သကဒါဂါမိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် သောတာပတ္တိဖိုလ်နှင့် ပြည့်စုံ၏။ အထက်ကထာအမှတ်စဉ် ၃၆ သမန္နာဂတကထာနှင့် တူ၏။ ထိုကထာ၌ ဖလဋ္ဌာန်ဖိုလ်အား အောက်ဖိုလ်နှင့် ပြည့်စုံသည်ဟု ဆို၍ ဤကထာ၌ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်အား အောက်ဖိုလ်နှင့် ပြည့်စုံသည်ဟု ဖလဋ္ဌာန်နှင့်မဂ္ဂဋ္ဌာန်မျှသာ ကွဲပြား၏။ အကြွင်းတူပြီ။

## ၄၂။ သဗ္ဗသံယောဇနပဟာနကထာ

အရဟတ္တမဂ်သည် သံယောဇဉ်ဆယ်ပါးလုံးကို ပယ်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က အရဟတ္တမဂ်သည် သံယောဇဉ်ဆယ်ပါးလုံးကို ပယ်သည်ဟု ဆိုကြ၏။ ရဟန္တာပုဂ္ဂိုလ်အား သံယောဇဉ်တရားများ အကြွင်းမဲ့ပယ်ပြီးသောကြောင့် အရဟတ္တမဂ်က သံယောဇဉ်ဆယ်ပါးလုံးကို ပယ်သည်ဟု ဆိုကြ၏။

သကဝါဒီအလို မဂ်လေးပါးသည် မိမိတို့ဆိုင်ရာ သံယောဇဉ်တို့ကို ပယ်၏။ သောတာပတ္တိမဂ်သည် ဒိဋ္ဌိဝိစိကိစ္ဆာ သီလဗ္ဗတပရာမာသ သံယောဇဉ်တို့ကို ပယ်၏။ အနာဂါမိမဂ်သည် ကာမရာဂသံယောဇဉ် ပဋိဃ သံယောဇဉ်တို့ကို ပယ်၍ ထိုမှကြွင်းသော သံယောဇဉ်တို့ကို အရဟတ္တမဂ်က ပယ်၏။ ဤသို့ ဘုရားဟောနှင့် ကိုက်ညီအောင် မယူဘဲ ပရဝါဒီသည် မိမိလိုရာဆွဲ၍ အရဟတ္တမဂ် တစ်ခုတည်းက သံယောဇဉ်ဆယ်ပါးလုံးကို ပယ်၏ဟု ဆိုမှား၏။ အမှန်စင်စစ် မဂ်လေးပါးရှိရာ မိမိဆိုင်ရာ သံယောဇဉ်ကို မိမိဆိုင်ရာ မဂ်အသီးသီးက ပယ်၏။ အရဟတ္တမဂ်တစ်ခုတည်းက သံယောဇဉ်ဆယ်ပါးလုံးကို ပယ်သည် ဟူသော ဤဝါဒသည် နောင်အခါ

မဟာယာနဝါဒ၌ မဂ်ဉာဏ်ကို အဆင့်မခွဲဘဲ မဂ်ဉာဏ်တစ်ခုတည်းသာ ရှိသည် ဟူသော အယူဝါဒကို ဖြစ်ပေါ်စေ၏။

## ၄၃။ ဝိမုတ္တိဉာဏကထာ

**ဝိမုတ္တိဉာဏ်လေးပါးလုံးသည် ဝိမုတ္တိဉာဏ်မည်သလော။**

သကဝါဒီအလို ဝိပဿနာဉာဏ် မဂ်ဉာဏ် ဖိုလ်ဉာဏ် ပစ္စဝေက္ခဏာဉာဏ် ဤဉာဏ်လေးပါးလုံးကို ဝိမုတ္တိဉာဏ်ဟု သာမညအားဖြင့် ခေါ်ဆိုရ၏။ ထိုဝိမုတ္တိဉာဏ်လေးပါးအနက် ဖိုလ်ဉာဏ်တစ်မျိုးသာလျှင် မုချအားဖြင့် ဝိမုတ္တ (လွတ်မြောက်ပြီး) ဉာဏ်အမည် ရ၏။

ပရဝါဒီ အန္ဓက ဂိုဏ်းသားတို့သည် ဤသို့ မခွဲခြားဘဲ ဝိမုတ္တိဉာဏ် အားလုံးသည် ဝိမုတ္တိမည်၏ဟု ဆိုကြ၏။ ဝိပဿနာဉာဏ် မဂ်ဉာဏ် ပစ္စဝေက္ခဏာဉာဏ်တို့ကိုလည်း ဝိမုတ္တိဟု ခေါ်လိုကြ၏။

ဤအယူအဆသည် လောကုတ္တရာဉာဏ်ကို တစ်ဆင့်တည်း ထားလိုသော မဟာယာနဝါဒ၏ ရှေ့တော်ပြေးဖြစ်၏။

## ၄၄။ အသေခဉာဏကထာ

**သေခပုဂ္ဂိုလ်၌ အသေခဉာဏ်ရှိသလော။**

သောတာပန် သကဒါဂါမ် အနာဂါမ်ပုဂ္ဂိုလ်ကို သေခ (ကျင့်ဆဲ) ပုဂ္ဂိုလ်ဟု ခေါ်၏။ ရဟန္တာပုဂ္ဂိုလ်ကို အသေခ (ကျင့်ပြီး) ပုဂ္ဂိုလ်ဟု ခေါ်၏။ သကဝါဒီအလို သေခပုဂ္ဂိုလ်၌ သေခဉာဏ်သာရှိ၍ အသေခ ပုဂ္ဂိုလ်၌ အသေခဉာဏ်သာရှိသည်ဟု ယူဆ၏။ ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားတို့က သေခပုဂ္ဂိုလ်၌ အသေခဉာဏ်ရှိသည်ဟု ဆိုကြ၏။

ဤဝါဒမှာလည်း သေခနှင့် အသေခ ပုဂ္ဂိုလ်နှစ်မျိုးကို ပေါင်းစပ်ရန် သေခဉာဏ်နှင့် အသေခဉာဏ်ကို နှစ်မျိုးမခွဲဘဲ တစ်မျိုးပေါင်းစပ်ရန် ရှေ့ပြေး လမ်းခင်းပေးခြင်း ဖြစ်၏။ မဟာယာနဝါဒ ပေါ်လာသောအခါ အရိယာပုဂ္ဂိုလ်တစ်မျိုးသာရှိ၍ ဉာဏ်ကိုလည်း တစ်မျိုးတည်း၊ တစ်ဆင့်တည်းသာ ရှိသည်ဟု သတ်မှတ်ကြလေသည်။

## ၄၅။ ဝိပရီတကထာ

**ပထဝီ (မြေ) ကသိုဏ်း၌ မြေဟု မှတ်သားထား၍ ဈာန်ဝင်စားလျှင် ဖောက်ပြန်မှု (ဝိပရီတ) ဖြစ်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ပထဝီ (မြေ) ကသိုဏ်းကို ရှု၍ ပထဝီ ပညတ်နိမိတ်ကို အာရုံပြုလျက် ဈာန်သမာပတ်ဝင်စားလျှင် ဖောက်ပြန်မှု (ဝိပရီတ) ဖြစ်သည်ဟု ဆို၏။

သကဝါဒီအလို ပထဝီ ကသိုဏ်းဝန်းကို ပထဝီ (မြေ) ဟု ရှုမှတ်၍ ဈာန်ကသိုဏ်းရှုခြင်းသည် ဖောက်ပြန်မှု (ဝိပရီတ) မဟုတ်ချေ။ စိတ်ထဲ၌ ပေါ်နေသော ကသိုဏ်းဝန်း နိမိတ်သည် ပညတ် ပထဝီ ဖြစ်လေသည်။ ထိုပညတ် ပထဝီကို ပထဝီဟု ရှုမြင် ပွားခြင်းသည် ဖောက်ပြန်ခြင်း (ဝိပရီတ) မဟုတ်ချေ။

ရဟန္တာပုဂ္ဂိုလ်များသည်ပင်လျှင် ပထဝီကသိုဏ်းကို ဝင်စားကြသောကြောင့် ပထဝီကသိုဏ်း ရှုမှတ်မှုကို ဖောက်ပြန်မှု (ဝိပရီတ)ဟု မဆိုသင့်ချေ။ ထို့ကြောင့် ပရဝါဒီ၏ အဆိုကို ပယ်မြစ်အပ်၏။

## ၄၆။ နိယာမကထာ

**ပုထုဇဉ်၌ မဂ်ဉာဏ်ရှိသလော။**

မြတ်စွာဘုရားရှင်သည် ဝေနေယျသတ္တဝါတို့ကို ဉာဏ်တော်ဖြင့် ကြည့်ရှု ဆင်ခြင်တော်မူရာ ဤပုဂ္ဂိုလ်ကား ကျွတ်လတ္တံ့၊ ဤပုဂ္ဂိုလ်အား မကျွတ်လတ္တံ့ဟု သိတော်မူ၏။ ထိုသို့ ခွဲခြားသိခြင်းမှာ ကျွတ်လတ္တံ့သော ပုထုဇဉ်ဖြစ်ပေါ်မည့် မဂ်ဉာဏ်သည် ရှိနေသည်သာ ဖြစ်၏။ ထိုသို့ ရှိနေသောဉာဏ်ကို မြတ်စွာဘုရား မြင်တော်မူသောကြောင့် ဤပုဂ္ဂိုလ်ကား ကျွတ်လတ္တံ့ဟု သိတော်မူခြင်း ဖြစ်သည်။ ထို့ကြောင့် ပုထုဇဉ်၌ မဂ်ဉာဏ် ကြိုတင်ရှိနေသည်ဟု ပရဝါဒီ ဥတ္တရာပထဂိုဏ်းသားတို့က ဆိုကြ၏။ ဤဝါဒမှာ ဉာဏ်ပညာကို အရှိတရားဟူသော ဂျိန်းအယူဝါဒကို

နောက်ခံပြု၍ ပေါ်ပေါက်လာခြင်းဖြစ်၏။ သာသနာနောက်ပိုင်း၌ မဟာယာနဂိုဏ်းသည် ဤဝါဒကို ဆက်ခံ ချဲ့ထွင်၏။ မဟာယာနဝါဒအရ ပုထုဇဉ်၌ မဂ်ဉာဏ်ကိန်းအောင်း ရှိနေရုံသာမက သတ္တဝါတိုင်း၌လည်းကောင်း၊ ဖုန်မှုန့်မြူမှုန့်တိုင်း၌လည်းကောင်း ဉာဏ်ဓာတ်သဘာဝ (ဗုဒ္ဓသဘာဝ) ကိန်းအောင်းနေသည်ဟု ဆိုကြ၏။

## ၄၇။ ပဋိသမ္ဘိဒါကထာ

**အရိယာပုဂ္ဂိုလ်၏ ဉာဏ်မှန်သမျှသည် ပဋိသမ္ဘိဒါဉာဏ်ဖြစ်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က အရိယာပုဂ္ဂိုလ်၏ သန္တာန်၌ဖြစ်သော လောကီအဘိညာဉ်တို့သည် ပဋိသမ္ဘိဉာဏ်မည်၏ဟု ဆိုကြ၏။

သကဝါဒီအလို မဂ်ဉာဏ်လေးပါးသည်သာ လောကုတ္တရာဉာဏ်ဖြစ်၍ ပဋိသမ္ဘိဒါဉာဏ်မည်၏။ ထို့ပြင် အတ္ထ, ဓမ္မ နိရုတ္တိတို့ကို ခွဲခြမ်းဝေဖန်သိသော အရိယာပုဂ္ဂိုလ်၏ဉာဏ် (မဟာကုသိုလ်၊ မဟာကြိယာဉာဏ်)သည်လည်း ပဋိသမ္ဘိဒါဉာဏ်မည်၏။ အရိယာပုဂ္ဂိုလ်၏ စေတောပရိယအဘိညာဉ် စသော ဉာဏ်တို့ကို ပဋိသမ္ဘိဒါဉာဏ်ဟု မခေါ်သင့်ဟု မှတ်အပ်၏။

## ၄၈။ သမ္မုတိဉာဏကထာ

**သမ္မုတိပညတ်ကို သိသောဉာဏ်သည် သစ္စာကို အာရုံပြုသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က လူ, ခွေး, ကြောင် ကြွက် စသော သမ္မုတိပညတ်ကို သိသောဉာဏ်သည် သစ္စာလေးပါးကို အာရုံပြုသည်ဟု ဆိုကြ၏။ လူခွေးစသော အမည်နာမပညတ်တို့သည် လောကသမ္မုတိအရ မှန်ကန်သောကြောင့် သမ္မုတိသစ္စာ မည်၏။

သမ္မုတိသစ္စာနှင့်အရိယသစ္စာလေးပါးကို သစ္စာ ဟူသော နာမည်တူညီမှုဖြင့် စုပေါင်း ထပ်တူပြုလိုက်၏။ ထို့ကြောင့် သမ္မုတိသစ္စာကို သိသူသည် အရိယသစ္စာကို သိသည်ဟု ဆိုကြ၏။ အရိယသစ္စာကို လူ

လောက နေ့စဉ် ဘ၀အတွင်းသို့ ရောက်အောင် အဆင့်အတန်းဖြင့် နှိမ့်ချ၍ လူကို လူဟု သိခြင်းသည် သစ္စာတရားကို သိခြင်း၊ (ဝါ) အရိယ သစ္စာကို သိခြင်းဟု ဆိုကြ၏။

သကဝါဒီအလို သမ္မုတိသစ္စာ (ပညတ်) ကို သိသောဉာဏ်သည် အရိယသစ္စာကို အာရုံမပြုနိုင်၊ မသိနိုင်ဟု ဆိုလို၏။

## ၄၉။ စိတ္တာရမ္မဏကထာ

**စေတောပရိယဉာဏ်သည် စေတသိက်ကို အာရုံမပြုဘဲ စိတ်ကိုသာ အာရုံပြုသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က စေတောပရိယဉာဏ်သည် စိတ်ကို သာလျှင် အာရုံပြု၍ စေတသိက်တို့ကို အာရုံမပြုဟု ဆိုကြ၏။ သကဝါဒီ အလို စိတ်နှင့်စေတသိက်သည် ယှဉ်တွဲဖြစ်လေ့ရှိခြင်းကြောင့် စေတော ပရိယဉာဏ်သည် စိတ်ရော စေတသိက်ပါ နှစ်မျိုးလုံးကို စုပေါင်း၍ အာရုံ ပြုသည်ဟု ဆိုလို၏။ ပရဝါဒီဂိုဏ်းသားတို့ကာ စိတ်သည် စေတသိက်နှင့် မယှဉ်တွဲဘဲ စိတ်ချည်းသက်သက် တည်နိုင်သည်ဟု ယူဆ၍ စေတော ပရိယဉာဏ်သည် စိတ်ကိုသာလျှင် အာရုံပြု၍ စေတသိက်ကို 'အာရုံ မပြုဟု ဆိုကြ၏။

## ၅၀။ အနာဂတဉာဏကထာ

**အနာဂတံသဉာဏ်သည် မိမိနောက်၌ ကပ်လျက်ဖြစ်သော နောက် စိတ်ကို သိနိုင်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က အနာဂတံသဉာဏ်သည် မိမိ နောက်၌ ကပ်လျက်ဖြစ်ပေါ်သော နောက်နောက်စိတ်တို့ကို သိနိုင်သည် ဟု ယူဆ၏။

သကဝါဒီအလို အနာဂတ်ကို နှစ်မျိုးခွဲခြားရာ တစ်ဆက်တည်း နီးကပ်သော အနာဂတ်နှင့် ကွာဝေးသော အနာဂတ်ဟူ၍ နှစ်မျိုးရှိ၏။ တစ်ဆက်တည်း နီးကပ်သော အနာဂတ်ကိုလည်းကောင်း၊ တစ်ဝီထိ

အတွင်းရှိ အနာဂတ်ကိုလည်း မသိနိုင်ဟု ဆို၏။ ဥပမာအားဖြင့် မဂ္ဂဝီထိ၌ ဂေါတြဘူဉာဏ်သည် မိမိနောက် ကပ်လျက်ဖြစ်သော မဂ်စိတ်ကိုလည်းကောင်း၊ ဖိုလ်စိတ်ကိုလည်းကောင်း မသိနိုင်ချေ။ အနာဂတ်ကို သိသော အနာဂတံသဉာဏ် ဆိုသည်မှာ နာရီရက်ပိုင်း လပိုင်းနှစ်ပိုင်း ကွာခြားသော အနာဂတ်ကို သိသောဉာဏ်ဟု ဆိုလို၏။

## ၅၁။ ပစ္စုပ္ပန္နကထာ

### ပစ္စုပ္ပန်တည့်တည့်ကို သိနိုင်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ပစ္စုပ္ပန်တည့်တည့်ကို သိနိုင်သည်ဟု ယူဆကြ၏။ (ဝါ) ပစ္စုပ္ပန်ဖြစ်ဆဲဖြစ်သော ဉာဏ်သည် မိမိဉာဏ်သို့ ပြန်၍ သိနိုင်သည်ဟု ဆိုကြ၏။

သကဝါဒီအလို ပစ္စုပ္ပန်ကို ခဏပစ္စုပ္ပန်၊ သန္တတိပစ္စုပ္ပန်၊ အဒ္ဓါပစ္စုပ္ပန်ဟူ၍ သုံးမျိုး ခွဲခြား၏။ ဥပါဒ် ဌီ ဘင် (ဖြစ်, တည်, ပျက်) ဟု ဆိုအပ်သော ခဏငယ်သုံးချက်အတွင်းရှိ စိတ်တစ်ခု၏ သက်တမ်းကာလသည် အလွန်တိုတောင်းသော တစ်ခဏသာရှိ၍ ခဏပစ္စုပ္ပန်မည်၏။ ခဏပစ္စုပ္ပန်သည် လျှပ်တစ်ပြက်ကာလကို ကုဋေတစ်သိန်းစိတ်က တစ်စိတ်စာမျှသာ ကြာရှည်၏။ ထိုစိတ်ဖြစ်စဉ်ကြီး၌ အာရုံတူသော ဝီထိများ (နှစ်ဝီထိ၊ သုံးဝီထိခန့်)ကို သန္တတိပစ္စုပ္ပန်ဟု ခေါ်၏။ ဤနာရီ၊ ဤနေ့၊ ဤရက်၊ ဤနှစ်၊ ဤဘဝဟူသော ရှည်လျားသော ကာလကို အဒ္ဓါပစ္စုပ္ပန်ဟု ခေါ်၏။ ခဏပစ္စုပ္ပန်သည်သာ ပစ္စုပ္ပန်ဖြစ်၍ သန္တတိပစ္စုပ္ပန်နှင့် အဒ္ဓါပစ္စုပ္ပန်တို့သည် ပစ္စုပ္ပန်အစစ် မဟုတ်ကြချေ။ နီးကပ်သော (မဝေးသေးသော) အတိတ်နှင့် အနာဂတ်တို့ ပါဝင်နေ၏။ ဤနေ့၊ ဤရက်၊ ဤဘဝဟု ဆိုရာ၌ ပြောဆိုဆဲခဏ၏ အတိတ်နှင့် အနာဂတ်ကာလများ ပါဝင်နေ၏။ ထို့ကြောင့် ပစ္စုပ္ပန် ဖြစ်ပျက်နေသော ရုပ်နာမ်တို့ကို ဝိပဿနာရှု၍ရှုရာ၌ နီးကပ်သော အတိတ်ရုပ်နာမ်တို့ကိုသာ ရှုခြင်းဖြစ်၏။ ဖြစ်ဆဲစိတ်သည် မိမိ (စိတ်) ကို ပြန်၍ အာရုံမပြုနိုင်၊ ဖြစ်ဆဲ ဉာဏ်သည် မိမိ (ဉာဏ်)ကို အာရုံမပြုနိုင်။

သိမှုဖြစ်ပေါ်ရာ၌ သိတတ်သောဉာဏ်၊ သိစရာအာရုံဟူ၍ နှစ်မျိုး ကွဲပြားနေမှသာလျှင် သိမှု ဖြစ်ပေါ်နိုင်၏။ သိတတ်သော အရာမှာလည်း ဉာဏ်၊ သိစရာ အာရုံမှာလည်း ထိုဉာဏ်ဖြစ်သည်ဟု ဆိုလျှင် လက်ညှိုး ထိပ်ဖြင့် ထိုလက်ညှိုးထိပ်ကို ထိနိုင်ပါမည်လော။ ဓားတစ်ချောင်းဖြင့် ထိုဓားကို ပြန်၍ ခုတ်နိုင်ပါမည်လော။ ပုဆိန်သွားဖြင့် ထိုပုဆိန်သွားကို ပြန်၍ ခုတ်နိုင်ပါမည်လော၊ အပ်ဖြင့် ထိုအပ်ကို ပြန်၍ ချုပ်နိုင်ပါမည် လော၊ မစင်ပေကျံရာ မစင်ဖြင့် ဆေးကြော၍ ရမည်လော၊ ကျင်ငယ်ပေ ကျံရာ ထိုကျင်ငယ်ဖြင့် ပြန်လည်ဆေးကြော၍ ရနိုင်မည်လော။ တံတွေး ဖြင့် ထိုတံတွေး ပြောင်အောင် ဆေးကြောနိုင်မည်လော၊ ထိုသို့ မဖြစ်နိုင် သောကြောင့် ပစ္စုပ္ပန်တည့်တည့်ကို သိသည်။ (ဝ) ဉာဏ်သည် ထိုဉာဏ်ကို ပြန်၍ သိသည်ဟူသော ဝါဒမှာ ယုတ္တိမရှိချေ။

ပရဝါဒီက သင်္ခါရတရားအားလုံးကို အနိစ္စဟု ရှုမြင်သောဉာဏ် သည် ထိုဉာဏ်ကိုလည်း အနိစ္စဟု ရှုရပေမည်။ ထိုသို့ ဝိပဿနာဉာဏ် သည် မိမိဉာဏ်အပါအဝင် သင်္ခါရတရားအားလုံးကို အနိစ္စဟု ရှုသော ကြောင့် ပစ္စုပ္ပန်တည့်တည့်ကို သိနိုင်သည်။ (ဝါ) ဉာဏ်သည် ထိုဉာဏ်ကို သိနိုင်သည်ဟု ယုတ္တိပြဆို၏။

အမှန်စင်စစ် သင်္ခါရတရား အားလုံးကို အနိစ္စ "သဗ္ဗေ သင်္ခါရာ အနိစ္စာ"ဟု ရှုရာ၌ စုပေါင်းသိမ်းရုံးလျက် ထိုနည်းလည်းကောင်း၊ ထိုနည်း လည်းကောင်းဟု ခြုံယူဆင်ခြင်သုံးသပ်ခြင်းဖြစ်၏။ ရှိရှိသမျှ သင်္ခါရ တရားတို့ကို အာရုံပြု၍ သိခြင်းမဟုတ်ချေ။ လူတစ်ယောက်စိ၏ သေဆုံး ခြင်းကို ကြည့်၍ လူအားလုံး သေမျိုးဖြစ်သည်ဟု ခြုံယူဆင်ခြင်သုံးသပ်မှု ပြုခြင်းမျိုးဖြစ်၏။ ထို့ကြောင့် သင်္ခါရတရားတို့ကို အနိစ္စ "သဗ္ဗေ သင်္ခါရာ အနိစ္စာ"ဟူ၍ သုံးသပ်ရာ၌ ထိုသုံးသပ်သောဉာဏ်သည် ခြုံယူဆင်ခြင် နည်းအားဖြင့် အနိစ္စတရား သင်္ခါရတရားအတွင်း၌ ပါဝင်ခြင်းဖြစ်၏။ အနိစ္စဟု ရှုသောဉာဏ်က မိမိကိုယ် (=ဉာဏ်) ကိုပါ အာရုံပြုသိခြင်း မဟုတ်ချေ။

ဤသို့ ပစ္စုပ္ပန်စိတ်က ပစ္စုပ္ပန်စိတ်ကို ပြန်၍ သိမှု၊ (ဝါ) ပစ္စုပ္ပန်တည့်တည့် သိမှု၊ (ဝါ) သိတတ်သောဉာဏ်နှင့် အသိခံဉာဏ်သည် နှစ်ခုမပြား တစ်ခုတည်း, တစ်သားတည်းသာဖြစ်သည်ဟု ဆိုခြင်းသည် ဗုဒ္ဓဝါဒမဟုတ်ချေ။ ဝေဒနှင့်ဥပနိသျှဒ်ကို အခြေခံသော ဗြာဟ္မဏ ပုဏ္ဏားတို့၏ အဒွယဝါဒ (ဧကတ္တဝါဒ)သာလျှင် ဖြစ်၏။ ဤဝါဒသည် ဗုဒ္ဓဝါဒအတွင်း ထိုးဖောက်ဝင်ရောက်၍ ဝိညာဏဝါဒအမည်ဖြင့် တည်ရှိ၏။ နောက်ပိုင်း၌ မဟာယာနဂိုဏ်းက အမွေဆက်ခံထား၏။

## ၅၂။ ဖလဉာဏကထာ

**သာဝကတို့သည် မြတ်စွာဘုရားရှင်ကဲ့သို့ ဝေနေယျတို့ ရသင့် ရထိုက်သော ဖိုလ်ကို ပိုင်းခြားသိသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က မြတ်စွာဘုရားရှင်သည် သတ္တဝါတို့အား မဂ်ဖိုလ်တရားထူးရအောင် တရားဟောတော်မူ၏။ သာဝကတို့သည်လည်း သတ္တဝါတို့အား မဂ်ဖိုလ်တရားထူးရအောင် ဟောကြား၏။ ထိုသို့ တူညီချက်ကို အကြောင်းပြု၍ သာဝကတို့သည် မြတ်စွာဘုရားရှင်ကဲ့သို့ မည်သည့်သတ္တဝါသည် မည်သည့်ဖိုလ်ကို ရမည်၊ ဝေနေယျသတ္တဝါတို့၏ ရသင့်ရထိုက်သောဖိုလ်ကို သိသည်ဟု ဆိုကြ၏။

သကဝါဒီအလို သာဝကတို့သည် မြတ်စွာဘုရားရှင်တို့ကဲ့သို့ ဝေနေယျသတ္တဝါတို့ ရသင့်ရထိုက်သော ဖိုလ်ကို ပိုင်းခြား၍ မသိနိုင်ကြချေ။ ထိုသို့သိသောဉာဏ်ကို မြတ်စွာဘုရားသာလျှင် ရတော်မူ၏။ ဘုရားရှင်သာလျှင် ရနိုင်သော အသာဓာရဏဉာဏ်တော် ဖြစ်လေသည်။

## ၅၃။ နိယာမကထာ

**မဂ်စိတ်လေးခုသည် အသင်္ခတတရားလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က မဂ်စိတ်လေးခုတွင် မဂ်စိတ်တစ်ခုခု ဖြစ်ပြီးသော အရိယာပုဂ္ဂိုလ်တို့သည် ထိုမဂ်စိတ်ချုပ်သော်လည်း လားရာဂတိ မြဲ၏၊ နိဗ္ဗာန်ရောက်ရန် မြဲ၏။ ဤသို့ မြဲသော သဘောရှိသော

ကြောင့် နိဗ္ဗာန်နှင့် အလားတူ အသင်္ခတတရားဖြစ်သည်ဟု ဆိုကြ၏။ ပရဝါဒီဂိုဏ်းသားတို့သည် နိဗ္ဗာန်နှင့် စိတ်ကို ထပ်တူပြုရန် ကြိုးပမ်းခြင်း (ဝါ) နိဗ္ဗာန်ကို ဝိညာဏအဖြစ် အဓိပ္ပာယ်ပြန်ဆိုရန် ကြိုးပမ်းခြင်းဖြစ်၏။

သကဝါဒီအလို မဂ်စိတ်လေးပါးသည် ဖြစ်ခြင်း ပျက်ခြင်း သဘော ရှိသောကြောင့် အသင်္ခတတရား မဟုတ်ချေ။ နိဗ္ဗာန်တစ်ခုတည်းသာလျှင် အသင်္ခတတရားမည်၏။

## ၅၄။ ပဋိစ္စသမုပ္ပါဒကထာ

**ပဋိစ္စသမုပ္ပါဒ် ကြောင်းကျိုးဆက်စပ် ဖြစ်ပေါ်နေသော သဘော တရားသည် အသင်္ခတလော။**

ပရဝါဒီ ပုဗ္ဗသေလိယနှင့် မဟိသာသကဂိုဏ်းသားတို့က "မြတ်စွာ ဘုရား ပွင့်တော်မူသည်ဖြစ်စေ၊ ပွင့်တော်မမူသည်ဖြစ်စေ ပဋိစ္စသမုပ္ပါဒ် ကြောင်းကျိုးဆက်စပ်ဖြစ်ပေါ်မှု သဘာဝသည် အလိုအလျောက်တည်နေ သော ဓာတ်သဘာဝကြီး (ဓမ္မဋ္ဌိတတာ) မည်၏"ဟူသော သံယုတ်ပါဠိ တော် (သံ၊ ပ၊ ၂၆၄) ကို ကိုးကား၍ ပဋိစ္စသမုပ္ပါဒ် တရားသဘောကို အမြဲတည်သော ဓမ္မဓာတုဟု ယူဆကြ၍ အသင်္ခတတရားဟု ဆိုကြ၏။

သကဝါဒီအလို ပဋိစ္စသမုပ္ပါဒ် အကြောင်းအကျိုး ဆက်စပ်ဖြစ်ပေါ် နေမှုသည် သံသရာမည်၏။ သံသရာစက်လည်နေခြင်းဖြစ်၏။ ထိုသံသရာ စက်ပျက်မှသာလျှင် နိဗ္ဗာန်ကို ရနိုင်၏။ ထို့ကြောင့် နိဗ္ဗာန်သည် အသင်္ခတ ဖြစ်၍ သံသရာကား သင်္ခတဖြစ်၏။ ပရဝါဒီသည် နိဗ္ဗာန်နှင့် သံသရာကို ထပ်တူပြုရန် သံသရာသည်ပင် နိဗ္ဗာန်ဖြစ်သည်ဟု ဆိုရန် ကြိုးပမ်းခြင်း ဖြစ်၏။

## ၅၅။ သစ္စကထာ

**သစ္စာလေးပါးသည် တည်မြဲသောကြောင့် အသင်္ခတမည်သလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က သစ္စာလေးပါးသည် မပျက် မစီး အမြဲတည်နေသောကြောင့် အသင်္ခတတရားဟု ယူဆကြ၏။

အရိယသစ္စာလေးပါးတို့တွင် ဒုက္ခသစ္စာ၏ နှိပ်စက်တတ်သော သဘောလက္ခဏာသည် မြဲ၏။ သမုဒယသစ္စာ၏ ဒုက္ခကို ဖြစ်စေတတ်သော သဘောလက္ခဏာသည် မြဲ၏။ မဂ္ဂသစ္စာ၏ ဝဋ်ဆင်းရဲမှ ထုတ်ဆောင်တတ်သော သဘောလက္ခဏာသည် မြဲ၏။ ဤသစ္စာသုံးပါး၏ သဘောလက္ခဏာအားဖြင့် မြဲခြင်းကို သကဝါဒီက လက်ခံ၏။ သို့ရာတွင် ပရဝါဒီသည် ဒုက္ခသစ္စာ၌ ပါဝင်သော တရားများ၊ သမုဒယသစ္စာအမည်ရသော လောဘ၊ မဂ္ဂသစ္စာအမည်ရသော မဂ္ဂင်ရှစ်ပါး၊ ဤတရားများကို မြဲ၏ဟု ယူဆ၏။ နိရောဓသစ္စာ (နိဗ္ဗာန်)နှင့် တူညီသည်ဟု ဆိုကြ၏။ ထို့ကြောင့် သစ္စာလေးပါးထိုက်သော တရားအားလုံးကို အသင်္ခတဟု ဆိုကြ၏။ ဤဝါဒမှာလည်း သစ္စာလေးပါးကို အသင်္ခတတရားတစ်ခုတည်းအဖြစ် ပြုလုပ်ရန် ကြိုးပမ်းချက်ဖြစ်၏။ ဝိညာဏဝါဒ, မဟာယာနဝါဒတို့အတွက် လမ်းခင်းပေးထားခြင်း ဖြစ်၏။

## ၅၆။ အာရုပ္ပကထာ

### အရူပဈာန်လေးပါးသည် အသင်္ခတမည်သလော။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က 'အရူပဈာန်' လေးပါးတို့သည် တုန်လှုပ်ခြင်းမရှိ ဟူ၍ ဘုရားဟောတော်မူခြင်းကို ကိုးကား၍ အရူပဈာန်လေးပါးတို့သည် အသင်္ခတတရားမည်၏ဟု ဆိုကြ၏။

သကဝါဒီအလို အရူပဈာန် လေးပါးတို့သည် ဖြစ်ခြင်း၊ ပျက်ခြင်း သဘောရှိသောကြောင့် အသင်္ခတတရားတို့သာလျှင် ဖြစ်ကုန်၏။

ပရဝါဒီသည် ရုပ်အာရုံကင်းမဲ့၍ နာမ်သက်သက်နှင့် ပညတ်ကို အာရုံပြုသော အရူပဈာန်လေးပါးကိုလည်းကောင်း၊ ရုပ်မပါ နာမ်သက်သက်မျှသာ တည်ရှိသော အရူပသတ္တဝါ, အရူပဘုံကိုလည်းကောင်း နိဗ္ဗာန်ဘုံဟု ဆိုရန် ကြိုးပမ်းချက် တစ်ရပ်ဖြစ်၏။ နာမ်ဝိညာဏသက်သက်မျှရှိသောသဘောကို နိဗ္ဗာန်ဟု အဓိပ္ပာယ်ပြန်ဆိုရန် ကြိုးပမ်းချက်ဖြစ်၏။ ဝိညာဏဝါဒနှင့်မဟာယာနဝါဒများ ပေါ်ပေါက်လာရန် လမ်းခင်းပေးခြင်းဖြစ်၏။

## ၅၇။ နိရောဓသမာပတ္တိကထာ

**စိတ်စေတသိက် ချုပ်ငြိမ်းသော နိရောဓသမာပတ်သည် အသင်္ခတ လော။**

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသားတို့က "အနာဂါမ် ရဟန္တာ ပုဂ္ဂိုလ်တို့သည် နိရောဓသမာပတ် ဝင်စားခိုက်၌ စိတ်စေတသိက် (နာမ်ခန္ဓာလေးပါး) တို့သည် ဖြစ်ပေါ်ခြင်းမရှိ။ ချုပ်ငြိမ်းနေကြ၏။ ဖြစ်မှု ရပ်စဲနေ၏။ ထို့သို့ ဖြစ်ခြင်း၊ ပျက်ခြင်းမရှိလျှင် နိရောဓသမာပတ်ကို သင်္ခတဟု မခေါ်နိုင်၊ သင်္ခတ မဟုတ်လျှင် အသင်္ခတ ဖြစ်ရမည်"ဟု ဆိုကြ၏။

သကဝါဒီအလို နိရောဓသမာပတ် ဝင်စားခိုက်၌ စိတ် စေတသိက် တရား (နာမ်လေးပါး)တို့ ဖြစ်မှုရပ်စဲနေသောကြောင့် ဖြစ်မှု, ပျက်မှုမရှိ၊ သင်္ခတလက္ခဏာဖြစ်သော ဖြစ်ပျက်မရှိသောကြောင့် သင်္ခတဟူ၍လည်း မဆိုသင့်ချေ။ နိရောဓသမာပတ်သည် နိဗ္ဗာနဓာတ်မဟုတ်သောကြောင့် အသင်္ခတဟူ၍လည်း မဆိုသင့်ချေ။ သင်္ခတ, အသင်္ခတနှစ်မျိုးမှ လွတ်သော ပညတ်တစ်မျိုးသာလျှင် ဖြစ်၏။

## ၅၈။ အာကာသကထာ

**အာကာသသည် အသင်္ခတတရား ဖြစ်သလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းနှင့် မဟိသာသက ဂိုဏ်းသားတို့က အာကာသဓာတ်ကြီးကို နိဗ္ဗာန်နှင့် အလားတူစွာ အသင်္ခတဓာတ်ဟု ဆိုကြ၏။

'သကဝါဒီအလို အာကာသကို သုံးမျိုးခွဲ၏။ ပရိစ္ဆေဒါကာသ, ကသိဏုဂ္ဃာဋိမာကာသ, အဇဋာကာသ (=တုစ္ဆာကာသ) ဟူ၍ အာကာသ သုံးမျိုးရှိ၏။ ရုပ်ကလာပ်တို့၏ တစ်ခုနှင့်တစ်ခုအကြား ပိုင်းခြားထားသော အကြားများသည် ပရိစ္ဆေဒါကာသ မည်၏။ (ပရိစ္ဆေဒ=ပိုင်းခြား ကန့် သတ်ခြင်း) ကသိဏ်းပညတ်အာရုံနိမိတ်ကို ဖယ်ခွာလိုက်သောအခါ

စိတ်အာရုံအတွင်း၌ တည်ရှိသော ဟင်းလင်းပြင် ကွက်လပ်ကြီးသည် ကသိဏုဂ္ဃါဋိမာကာသ မည်၏။ (ကသိဏ=ကသိုဏ်းအာရုံနိမိတ်ကို + ဥဂ္ဃါဋိမ=ပယ်ခွာခြင်း)။ ပထဝီစသော မဟာဘုတ် ရုပ်ကြီးလေးပါးတို့ မရှိသလောက် ပါးလွှာသော ဟင်းလင်းပြင် လေဟာနယ်ကြီးသည် အဇဋာကာသမည်၏။ (အဇဋ=ငြိတွယ်ခြင်းကင်းသော) ထိုတွင် ပရိစ္ဆေဒါကာသသည် ရုပ်နှင့်ထိစပ်နေသောကြောင့် သင်္ခတ၌ ထည့်သွင်းရေတွက်အပ်၏။ နောက် အာကာသနှစ်မျိုးကိုမူကား သင်္ခတဟူ၍လည်း မဆိုရ၊ အသင်္ခတဟူ၍လည်း မဆိုရ၊ ပညတ်မျှသာ ဖြစ်သည်ဟု ဆိုရ၏။

အာကာသ 'ကောင်းကင်ပြင်သည် အသင်္ခတဟု ဆိုပါက မြေပြင်၌ တွင်းတူးလိုက်သောအခါ တွင်းအာကာသဖြစ်လာ၏။ တွင်းကို မြေဖို့လိုက်သောအခါတွင် အာကာသပျောက်၏။ ထိုသို့ ဖြစ်, ပျက် ပြောင်းလဲတတ်သော အာကာသကို အသင်္ခတဟု ခေါ်ဆိုနိုင်ပါမည်လော။ ခေါင်းပွသံဘောလုံး တစ်ခုကို အပေါ်မှ လေစုပ်ထုတ်၍ လေဟာနယ်အာကာသ ဖန်တီးထား၏။ ထိုသံဘောလုံးကို သယ်ဆောင်သွားပါက အတွင်းရှိ အာကာသသည် လိုက်ပါသွား၏။ ထို့ကြောင့် အသင်္ခတနိဗ္ဗာန်ကို ချုပ်နှောင်ပိတ်ဆို့၍ ရနိုင်ပါမည်လော။ ဤသို့ စိစစ်၍ အာကာသ (လေဟာနယ်)နှင့် နိဗ္ဗာန်ကို ထပ်တူပြုလိုကြသော ပရဝါဒီ၏ အယူအဆကို ပယ်မြစ်အပ်၏။

## ၅၉။ အာကာသော သနိဒဿနောတိ ကထာ

**အာကာသကို မြင်ရသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က သစ်ပင်နှစ်ခုတို့၏ အကြားကို မြင်ရ၏။ တံခါးပေါက် အိုးပေါက်တို့ကို မြင်ရ၏။ ထိုအပေါက်ကြားတို့ကို မြင်ရခြင်းသည် ဟင်းလင်းပြင် အာကာသကို မျက်စိဖြင့် မြင်ရခြင်းဖြစ်သည်ဟု ယူဆကြ၏။

သကဝါဒီအလို သစ်ပင်နှစ်ခုတို့၏ အကြားကို မျက်စိဖြင့် မမြင်၊ မျက်စိသည် သစ်ပင်နှစ်ခုကို မြင်၍ ထိုသစ်ပင်နှစ်ခု၏အကြား၌ ရုပ်ဝတ္ထု

မရှိခြင်းသဘော (အာကာသ) ကို အတွေးစိတ်ဖြင့် ဆက်လက် သိ၏။ ထိုနည်းအတူ တံခါးပေါက်၌ တံခါးပေါင် နှုတ်ခမ်းကိုသာ မျက်စိက မြင်၏။ တံခါးပေါက်၌ ရုပ်ဝတ္ထုမရှိခြင်းသဘော (အာကာသ)ကို စိတ် အတွေးဖြင့် စိတ်က ဆက်လက်သိခြင်းသာ ဖြစ်၏။ မျက်စိဖြင့် မြင်ရခြင်း မဟုတ်ချေ။ ထို့ကြောင့် အာကာသ ဟင်းလင်းပြင်ကို မျက်စိဖြင့် မမြင်ရဟု မှတ်သင့်၏။

## ၆၀။ ပထဝီဓာတု သန္နိဒဿနာတိအာဒိ ကထာ

### ပထဝီစသော မဟာဘူတဓာတ်ကြီးလေးပါးကို မြင်ရသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က မြေကြီး, ကျောက်တုံး, ကျောက်ခဲ တို့ကို မြင်ရခြင်းသည် ပထဝီဓာတ်ကို မြင်သည်ဟု ယူဆ၏။ ရေကို မြင်ရခြင်းသည် အာပေါဓာတ်ကို မြင်သည်ဟု ယူဆ၏။ မီးတောက် မီးလျှံကို မြင်ရခြင်းသည် တေဇောဓာတ်ကို မြင်သည်ဟု ယူဆ၏။ သစ်ပင် သစ်ကိုင်း သစ်ခက် လှုပ်ရှားမှုကို မြင်ရခြင်းသည် ဝါယောဓာတ်ကို မြင်ရ သည်ဟု ယူဆ၏။

သကဝါဒီအလိုအားဖြင့် ပထဝီဟူသည် မာကျော်သော လက္ခဏာ "ကက္ခဠတ္တ လက္ခဏာ"သာလျှင်ဖြစ်၍ မျက်စိဖြင့် မမြင်ရချေ။ မြေကြီးနှင့် ကျောက်တုံး, ကျောက်ခဲကို မြင်ခြင်းသည် ပထဝီကို မြင်ခြင်း မဟုတ်၊ ထိုရုပ်အစိုင်အခဲ၌ တွဲစပ်ပါဝင်နေသော ရူပါရုံအဆင်းကိုသာ မျက်စိဖြင့် မြင်နိုင်၏။ ယိုစီးခြင်း, တိုးပွားခြင်း, ပဃ္ဃရဏလက္ခဏာကို အာပေါ ဓာတ်ဟု ခေါ်ဆိုပြီး ရေ၌ မဟာဘုတ်လေးပါးလုံး ပါဝင်ဖွဲ့စည်းနေ၍ အာပေါဓာတ်ဟူ၍ မခေါ်နိုင်။ ရေကို မြင်ရာ၌ ယိုစီးခြင်းသဘောကို မြင်သည် မဟုတ်၊ ရေ၌ရှိသော ရူပါရုံ အဆင်းကိုသာ မြင်ခြင်းဖြစ်၏။ မီးတောက်မီးလျှံကို မြင်ရာ၌ မီး၏ ပူသောသဘောကို မြင်ရသည် မဟုတ် ချေ။ မီးလျှံ၌ရှိသော ရူပါရုံအဆင်းကိုသာ မြင်ခြင်းဖြစ်၏။ သစ်ကိုင်း လှုပ်ရှားသည်ကို မြင်ခြင်းသည် ဝါယောဓာတ်ကို မြင်ခြင်းမဟုတ်၊ လှုပ် သော သစ်ကိုင်း၏ ရူပါရုံအဆင်းကိုသာ မြင်ရခြင်း ဖြစ်၏။ ထို့ကြောင့် မဟာဘူတရုပ်လေးပါးကို မျက်စိဖြင့် မမြင်ရဟု မှတ်သင့်၏။

## ၆၁။ စက္ခုန္ဒြိယံ သနိဒဿနန္တိအာဒိ ကထာ

### စက္ခုစသော ပသာဒရုပ်ငါးပါးကို မြင်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားများက မျက်လုံးဖြင့် မြင်ရခြင်းသည် စက္ခု ပသာဒရုပ်ကို မြင်ရသည်ဟု ယူဆ၏။ ထိုနည်းအတူ နားရွက် နား ပေါက်ကို မြင်ရခြင်း, နှာခေါင်းပေါက်ကို မြင်ရခြင်း, ပါးစပ်ကို မြင်ရခြင်း, ကိုယ်ကာယကို မြင်ရခြင်းတို့သည် သောတပသာဒ, ဃာနပသာဒ, ဇိဝှါ ပသာဒ, ကာယပသာဒတို့ကို မြင်ရခြင်းဖြစ်သည်ဟု ယူဆကြ၏။

သကဝါဒီအလို စက္ခုပသာဒကို မမြင်ရ၊ ယင်း၏တည်ရာ မျက်လုံး ကိုသာ မြင်ရ၏။ သောတပသာဒကို မမြင်ရ၊ ယင်း၏တည်ရာ နားတွင်း ကိုသာ မြင်ရ၏။ ဃာနပသာဒကို မမြင်ရ၊ ယင်း၏တည်ရာ နှာခေါင်းပုံ သဏ္ဌာန်ကိုသာ မြင်ရ၏။ ဇိဝှါပသာဒကို မမြင်ရ၊ ယင်း၏တည်ရာလျှာ ကိုသာ မြင်ရ၏။ ကာယပသာဒရုပ်ကို မမြင်ရ၊ ယင်း၏တည်ရာ ကိုယ် ကာယကြီးကိုသာ မြင်ရ၏။ ပသာဒရုပ်ငါးပါးတို့သည် အလွန်သိမ်မွေ့ သော အကြည်ဓာတ်များဖြစ်၍ မျက်စိဖြင့် မမြင်ကောင်းဟု မှတ်အပ်၏။

## ၆၂။ ကာယကမ္မံ သနိဒဿနန္တိ ကထာ

### ခန္ဓာကိုယ်လှုပ်ရှားမှု (ကာယကံ)ကို မြင်ရသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ခန္ဓာကိုယ် လှုပ်ရှားဆောင်ရွက်မှု (ကာယကံ)ကို မျက်စိဖြင့် မြင်ရသည်ဟု ဆို၏။ လူတို့၏ သွားလာလှုပ်ရှား မှုကို မြင်တွေ့နေရသောကြောင့် ကာယကံကို မျက်စိဖြင့် မြင်ကောင်း သည်ဟု ဆို၏။

သကဝါဒီအလို ခန္ဓာကိုယ်လှုပ်ရှားမှု (ကာယကံ)ကို မမြင်စကောင်း ချေ။ လှုပ်ရှားနေသော ရုပ်ခန္ဓာ၌ မှီနေသော ရူပါရုံအဆင်းကိုသာ မြင် ရ၏။ ကာယကံကို မမြင်ရဟု မှတ်သင့်၏။

## ၆၃။ သင်္ဂဟိတကထာ

### ရုပ်နာမ်တရားတို့ကို စုပေါင်း၍ ရေတွက်နိုင်သလော။

ပရဝါဒီ ရာဇဂိရိကဂိုဏ်းနှင့်သိဒ္ဓတ္ထိကဂိုဏ်းသားတို့က ရုပ်, ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဏ်တို့ကို စုပေါင်းယူ၍ မရနိုင်။ အကောင်အထည် သီးခြားစီတည်ရှိနေသော ကျွဲနွားတို့ကို ကြိုးဖြင့် ချည်နှောင်ဖွဲ့စည်းသကဲ့သို့ ရုပ်နာမ် ပရမတ္ထတရားတို့ကို ကြိုးဖြင့် ချည်နှောင်ဖွဲ့စည်း၍ မရနိုင်။ အဘိဓမ္မာခုနစ်ကျမ်း၌ အပါအဝင်ဖြစ်သော ဓာတုကထာကျမ်းတွင် ရုပ်နာမ် ပရမတ္ထတရားတို့ကို ခန္ဓာ၌ စုပေါင်းရေတွက်ခြင်း၊ အာယတန၌ စုပေါင်းရေတွက်ခြင်း၊ ဓာတ် ၁၈ ပါး၌ စုပေါင်းရေတွက်ခြင်းပြု၍ ဟော ကြားသော သင်္ဂဟိတနည်းဟူ၍ ရှိ၏။ ထိုသင်္ဂဟိတနည်းကို ပရဝါဒီက ကန့်ကွက်ခြင်းဖြစ်၏။ ရည်ရွယ်ချက်မှာ အဘိဓမ္မာခုနစ်ကျမ်းကို ပယ် ဖျက်ရန် ဓာတုကထာကျမ်း တစ်စိတ်တစ်ဒေသကို ဖဲ့ထုတ်ပယ်ဖျက်ခြင်း ဖြစ်၏။

## ၆၄။ သမ္ပယုတ္တကထာ

### နာမ်တရားတို့သည် အချင်းချင်း ယှဉ်တွဲနေသလော။

ပရဝါဒီ ရာဇဂိရိကဂိုဏ်းနှင့် သိဒ္ဓတ္ထိကဂိုဏ်းသားတို့က စိတ် စေတသိက် နာမ်တရားတို့သည် အချင်းချင်း ယှဉ်တွဲခြင်းမရှိဟု ဆိုကြ၏။ နှမ်းစေ့အတွင်း၌ ဆီစိမ့်ဝင်ပျံ့နှံ့တည်နေသကဲ့သို့လည်းကောင်း၊ အချို အရသာသည် ကြံချောင်းအတွင်း၌ ထိုးဖောက် စိမ့်ဝင်ပျံ့နှံ့ တည်နေ သကဲ့သို့လည်းကောင်း စေတသိက်တို့သည် စိတ်အတွင်းသို့ ထိုးဖောက် တည်နေခြင်းမရှိ၊ စိတ်သည်လည်း စေတသိက်အတွင်းသို့ ထိုးဖောက် စိမ့်ဝင်ပျံ့နှံ့တည်နေခြင်း မရှိ။ ဝေဒနာနှင့်သညာသည်လည်း အချင်းချင်း ထိုးဖောက်စိမ့်ဝင်နေခြင်းမရှိ၊ ထိုသို့ ပျံ့နှံ့စိမ့်ဝင် မတည်နိုင်သောကြောင့် စိတ်, စေတသိက် နာမ်တရားအချင်းချင်း ယှဉ်တွဲမှု (သမ္ပယုတ္တ) မဖြစ်နိုင် ဟု ပရဝါဒီက ဆို၏။ ဉာဏသမ္ပယုတ်ဟူ၍ မရှိဟု ဆိုလို၏။

သကဝါဒီအလို စိတ်, စေတသိက် နာမ်တရားတို့သည် အတူတကွ ဖြစ်ခြင်း (ဧကုပ္ပါဒ)၊ အတူတကွချုပ်ခြင်း (ဧကနိရောဓ)၊ တူသော အာရုံ ရှိခြင်း (ဧကာလမ္ဗဏ)၊ တူသောမှီရာရှိခြင်း (ဧကဝတ္ထုက)၊ ဤအင်္ဂါလေး ရပ်စုံညီလျှင် ယှဉ်တွဲမှု (သမ္ပယုတ္တ)ဖြစ်သည်ဟု ဆိုလို၏။ ဤသမ္ပယုတ္တ သဘောကို ဓာတုကထာကျမ်း၌ ဟောတော်မူရာ ယှဉ်တွဲခြင်းသဘော (သမ္ပယုတ္တ)ကို ပယ်ဖျက်သော ပရဝါဒီသည် ဘုရားဟောအဘိဓမ္မာကို ပယ်ရန် ကြိုးပမ်းခြင်းဖြစ်၏။

## ၆၅။ စေတသိကကထာ

**စေတသိက်ဟူ၍ ရှိသလော။**

ပရဝါဒီ ရာဇဂိရိကဂိုဏ်းနှင့် သိဒ္ဓတ္ထိဂိုဏ်းသားတို့က စိတ်နှင့် အတူ တကွ ဖြစ်သော တရားတို့ကို စေတသိက်ဟု မခေါ်လိုကြချေ။ အကြောင်းမူ ဖဿ-နှင့်အတူတကွဖြစ်သော တရားတို့ကို ဖဿိကဟူ၍ လည်းကောင်း၊ ဝေဒနာနှင့်အတူတကွဖြစ်သော တရားတို့ကို ဝေဒနိက ဟူ၍လည်းကောင်း၊ အနောတ္တပ္ပနှင့် အတူတကွဖြစ်သော တရားတို့ကို အနောတ္တပ္ပိကဟူ၍ လည်းကောင်း မြတ်စွာဘုရား ဟောကြားခြင်းမရှိ၊ ထို့ကြောင့် စိတ်နှင့် အတူဖြစ်သော တရားတို့ကို စေတသိကဟူ၍ မခေါ်နိုင်ဟု ဆိုကြ၏။

ပရဝါဒီအလို စိတ်သည် စိတ်သက်သက် သီးသန့်တည်ရှိ၍ ဖဿ ဝေဒနာ သညာ စသော နာမ်တရားတို့နှင့် ယှဉ်တွဲပေါင်းစပ်ခြင်း မရှိဟု ယူဆ၏။ စိတ် ဝိညာဏ်၏သဘာဝသည် သန့်ရှင်းစင်ကြယ်သည်။ ဖဿ ဝေဒနာ လောဘ ဒေါသ စသော တရားတို့သည် စိတ်နှင့်ယှဉ်တွဲ ပေါင်းစပ် ခြင်း၊ ထိစပ်ခြင်းမရှိဟု ယူဆသောကြောင့် စေတသိက်ကို ငြင်းပယ်ခြင်း ဖြစ်၏။

သကဝါဒီအလို စိတ်သည် လောဘ ဒေါသ စသော တရား၊ မေတ္တာ ကရုဏာ စသော တရားတို့နှင့် ယှဉ်တွဲဖြစ်ပေါ်တတ်သည်။ ထို့ကြောင့် လောဘ ဒေါသ မေတ္တာ ကရုဏာ စသော တရားတို့ကို စေတသိက်ဟု ယူဆ၏။

## ၆၆။ ဒါနကထာ

**စေတနာသာ ဒါနမည်သလော**

ပရဝါဒီ ရာဇဂိရိကဂိုဏ်း, သိဒ္ဓတ္ထိကဂိုဏ်းသားတို့က စေတနာကိုသာ ဒါနဟု ခေါ်လို၍ လှူဖွယ်ဝတ္ထုကိုမူ ဒါနဟု မခေါ်လိုကြချေ။ အကြောင်းပြချက်ကား "ဒါနံ ဣဋ္ဌဖလဝိပါကံ = ဒါနသည် ကောင်းကျိုးကို ပေး၏"ဟု မြတ်စွာဘုရား ဟောတော်မူရာ စေတနာသာလျှင် ကောင်းကျိုးကို ပေး၏။ လှူဖွယ်ဝတ္ထုသည် ကောင်းကျိုးကို မပေးနိုင်။ အကယ်၍ အလှူဝတ္ထုပစ္စည်းသည် အကျိုးပေးနိုင်ပါက ဆေးခါးကြီးလှူသူအား ခါးသောအကျိုး ပေးလေရာ၏။ ငရုတ်သီးလှူသူအား ပူစပ်သောအကျိုး ပေးလေရာ၏။ စေတနာသာလျှင် အကျိုးပေးတတ်သောကြောင့် ခါးစပ်သောဆေးကို လှူသူ၏စေတနာသည် ကောင်းသောကြောင့် ကောင်းကျိုးကို ဖြစ်စေနိုင်၏။ ဤအကြောင်းကို ထောက်၍ စေတနာကိုသာလျှင် ဒါနဟု ခေါ်သင့်၍ အလှူဝတ္ထုပစ္စည်းကို ဒါနဟု မခေါ်လိုကြချေ။

သကဝါဒီအလို စေတနာဒါန၊ ဝတ္ထုဒါန ဟူ၍ နှစ်မျိုးခွဲခြား၍ လှူဖွယ်ဝတ္ထုပစ္စည်းကိုလည်း ဒါနဟု ခေါ်၏။

## ၆၇။ ပရိဘောဂမယပုညကထာ

**အလှူခံပုဂ္ဂိုလ်က သုံးဆောင်မှ ကုသိုလ်ရသလော။**

ပရဝါဒီ ရာဇဂိရိကဂိုဏ်း, သိဒ္ဓတ္ထိကဂိုဏ်းသားတို့က အလှူခံပုဂ္ဂိုလ်က သုံးဆောင်မှသာလျှင် လှူသူမှာ ကုသိုလ်ရ၏။ သုံးဆောင်တိုင်း သုံးဆောင်တိုင်း ကုသိုလ်ပွားနေသည်ဟု ယူဆကြ၏။ ကုသိုလ်တရားသည် တစ်ကြိမ် ဖြစ်ပြီးပါက စိတ်နှင့်မယှဉ်တွဲဘဲ သီးသန့်တည်ရှိလျက် ဆက်လက်တိုးပွားနေသည်။ ဥပမာအားဖြင့် သတ္တဝါအများ စားသုံးရန် ရည်ရွယ်၍ သရက်, ပိန္နဲ, မာလကာ စသောအပင်များ စိုက်ပျိုးထားခဲ့ပါလျှင် ထိုအပင်၏ အသီးများကို သတ္တဝါများ စားတိုင်း ကုသိုလ်တိုးပွားနေသည်။ ကျောင်းကန်ဇရပ် ဆောက်ထားလျှင် ထိုကျောင်းကန်ဇရပ်ကို သုံးဆောင်တိုင်း အလှူရှင်မှာ ကုသိုလ်ဒါန တိုးပွားနေသည်ဟု ဆိုကြ၏။

သကဝါဒီအလို အလှူဒါန ပြုရာ၌ အလှူရှင်၏ စေတနာသာလျှင် ပဓာနကျ၏။ ဒါန, စေတနာ တစ်ကြိမ်သာဖြစ်က ကုသိုလ်တစ်ကြိမ်သာ ဖြစ်၏။ ထိုကုသိုလ်ကိုသာ အထပ်ထပ်ဆင်ခြင်အောက်မေ့ ပွားများပါမှ ကုသိုလ် တိုးပွားသည်။ အလှူခံပုဂ္ဂိုလ် သုံးဆောင်မှု, မသုံးဆောင်မှုနှင့် ကုသိုလ်ပွားများမှု မသက်ဆိုင်ချေ။ လှူလိုက်သောပစ္စည်းကို အလှူခံ ပုဂ္ဂိုလ် မသုံးဆောင်မီ ခိုးသူလုယက်ခြင်း၊ မီးလောင်ခြင်း၊ ခြကိုက်ခြင်း၊ ရေမျောခြင်း စသော အကြောင်း တစ်ခုခုကြောင့် ပျက်စီးသွားခဲ့သော် လည်း အလှူရှင် ဒါယကာမှာ ကုသိုလ် ရသည်သာ ဖြစ်၏။ မိမိဒါနကို ပြန်လည်ဆင်ခြင်တိုင်း ကုသိုလ်တိုးပွား၏။ ပြန်လည် မဆင်ခြင်ပါက ကုသိုလ်တိုးပွားခြင်းမရှိဟု မှတ်သင့်၏။ ကျောင်း ကန် ဇရပ် အလှူ သရက်, ပိန္နဲ, မာလကာ စသော သစ်ပင်စိုက်၍ လှူသော အလှူတို့၌လည်း စေတနာ တစ်ကြိမ်ဖြစ်ပါက ကုသိုလ်တစ်ကြိမ်သာရ၏။ စေတနာ အထပ် ထပ်အခါခါ ဖြစ်မှသာလျှင် ကုသိုလ်တိုးပွားသည်။ သို့ရာတွင် ကြာရှည် ခံသော ဒါနဝတ္ထုကို လှူဒါန်းခြင်းသည် တစ်ကြိမ်တစ်ခါ သုံးဆောင် ရသော ပစ္စည်းမျိုးကို လှူဒါန်းခြင်းထက် ပိုမိုအကျိုးကြီး၏။ ထိုသို့ အကျိုး ကြီးခြင်းမှာ ဒါနဝတ္ထုချင်း ကွာခြားသဖြင့် ဒါနစေတနာ အင်အားချင်း လည်း ကွာခြားသောကြောင့် ဖြစ်၏။

## ၆၈။ ဣတောဒိန္နကထာ

**ပြိတ္တာတို့သည် လူတို့ပေးကျွေးသော အဝတ်အစားများကို သုံး ဆောင်ခံစားနိုင်ကြသလော။**

ရာဇဂိရိက သိဒ္ဓတ္ထိကဂိုဏ်းသားတို့က လူ့ဘဝမှသေ၍ တစ္ဆေ, သရဲ, ပြိတ္တာဖြစ်သူတို့သည် ထိုပြိတ္တာဘဝ၌ လူတို့ပေးကျွေးသော အဝတ် အစားကို သုံးဆောင်နိုင်ကြသည်ဟု ယူဆ၏။ ထိုအယူဝါဒကို ကမ္ဘာဦး လူတို့လည်း လက်ခံယုံကြည်ခဲ့ကြသည်။ ဤခေတ်၌လည်း ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့သည် လူသေအလောင်းနှင့်အတူ အဝတ်အထည် စားဖွယ်

သောက်ဖွယ်များနှင့် ကူးတို့ခ ငွေတစ်မတ်ထည့်၍ မြှုပ်နှံကြ၏။ စား သောက်ဖွယ်များဖြင့် တဈေ့, သရဲတို့ကို ကျွေးကြ၏။

သကဝါဒီအလို ထိုတစ္ဆေ, သရဲ, ပြိတ္တာတို့သည် လူတို့ပေးကျွေးသော အဝတ်အစားများကို သုံးဆောင်နိုင်ခြင်းမရှိချေ။ အလှူခံ ပုဂ္ဂိုလ်တစ် ယောက်ယောက်အား လှူဒါန်း၍ ထိုကုသိုလ်၏ အဖို့ဘာဂကို အမျှဝေ သောအခါ ထိုပြိတ္တာက သာဓုခေါ်ပါမှ အကျိုးခံစားခွင့်ရ၏။ အဝတ်ကို လှူ၍ အမျှဝေသောအခါ သာဓုခေါ်လျှင် အဝတ်ရရှိ၏။ ထိုနည်းအတူ နေစရာ, စားစရာ များကိုလှူ၍ အမျှဝေသောအခါ သာဓုခေါ်ပါလျှင် ထိုပြိတ္တာတို့သည် နေစရာ, စားစရာများ ရရှိခံစားကြရသည်။ ထို့ကြောင့် ဗုဒ္ဓဝါဒအရ လူသေလျှင် အဝတ်အစားနှင့် ကူးတို့ခထည့်ရန် မလိုချေ။ တစ္ဆေပစ်ခြင်း, သရဲစာကျွေးခြင်းပြုရန်လည်း မလိုချေ။

## ၆၉။ ပထဝီ ကမ္မဝိပါကောတိ ကထာ

**မဟာပထဝီမြေကြီးသည် ကံ၏အကျိုးလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဤမဟာပထဝီ မြေကြီးသည် သတ္တဝါအားလုံး၏ ဘုံကုသိုလ် (အများဆိုင်၊ အားလုံးဆိုင်)ကံကြောင့် ဖြစ်ပေါ်တည်ရှိ နေသည်ဟု ယူဆကြ၏။ သကဝါဒီအလို ကံ၏ အကျိုး (ကမ္မဝိပါက)သည် အကြောင်းကံတရားနှင့် ဆင်တူမှုရှိရမည်။ အကြောင်း သည် နာမ်ဖြစ်လျှင် အကျိုးသည်လည်း နာမ်ဖြစ်ရပေမည်။ ဖဿ ဝေဒနာ သညာတို့နှင့် ယှဉ်ရပေမည်။ ပထဝီမြေကြီးကား ရုပ်တရားသာလျှင်ဖြစ်၍ ကံ၏အကျိုး (ကမ္မဝိပါက) ဟု မခေါ်သင့်။ ကံ၏အကျိုး ကမ္မဝိပါကသည် တစ်ဦးဆိုင်သာလျှင် ဖြစ်၏။ ခိုးယူလုယက်၍ မရနိုင်။ မဟာပထဝီ မြေ ကြီးကား အများဆိုင်၍ သူတစ်ပါးလုယက်ယူ၍ ရ၏။ ထို့ပြင် ရဟန္တာ ပုဂ္ဂိုလ်တို့သည် အကျိုးပေးခွင့်ရပြီးရှိသော (ဩကာသကတုပ္ပန္န) ကံ၏ အကျိုးတရားကို ကုန်စင်အောင် ခံစားပြီးမှ ပရိနိဗ္ဗာန်စံရ၏။ အကယ်၍ ဤမဟာပထဝီမြေကြီးသည် ထိုရဟန္တာပုဂ္ဂိုလ်၏ ကမ္မဝိပါက ဖြစ်သည်ဟု

ဆိုပါက ထိုရဟန္တာပရိနိဗ္ဗာန်စံသောအခါ၌ ကုန်ဆုံး ပျောက်ကွယ်သွားရပေမည်။ အမှန်စင်စစ် သတ္တဝါ၏ ခန္ဓာကိုယ်ပြင်ပရှိ (ဗဟိဒ္ဓ) ရုပ်ဖြစ်သော ဤမဟာပထဝီမြေကြီးသည် ကံ၏အကျိုး (ကမ္မဝိပါက) မဟုတ်ချေ။ ကံကြောင့်ဖြစ်သော ကမ္မဇရုပ်များလည်း မဟုတ်ချေ။ ဥတုနိယာမ (ရုပ်သဘာဝ)အတိုင်း ဖြစ်ပေါ်တည်နေခြင်းဖြစ်၏။ ထိုသို့ ဥတုနိယာမအတိုင်း ဖြစ်ပေါ်တည်ရှိရာ၌ သတ္တဝါတို့နှင့် အဆင်ပြေလိုက်လျော ညီထွေစွာ ဖြစ်စေရန်အတွက် ဘုံဆိုင် အများဆိုင် ကုသိုလ်ကံ, အကုသိုလ်ကံတို့က ထောက်ပံ့ကူညီနေ၏။

## ၇၀။ ဇရာမရဏံ ဝိပါကောတိ ကထာ

**အိုခြင်း, သေခြင်းသည် ကံ၏အကျိုး (ကမ္မဝိပါက)လော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က သတ္တဝါတို့ အိုရခြင်း, သေရခြင်းသည် အကုသိုလ်ကံ၏အကျိုးဟု ဆိုကြ၏။ ကုသိုလ်တရားတို့၏ ရင့်ရော်ပျက်စီးမှု (ဇရာမရဏ)သည်လည်း အကုသိုလ်ကံ၏ အကျိုးဖြစ်သည်ဟု ဆိုကြ၏။

သကဝါဒီအလို အိုခြင်း, သေခြင်း (ဇရာမရဏ)တရားသည် ကံ၏အကျိုးတရားမဟုတ်၊ ဓမ္မတာနိယာမ သဘာဝသာလျှင် ဖြစ်၏။ ဖြစ်လျှင်ပျက်မြဲ၊ မွေးလျှင် သေရမြဲဓမ္မတာဖြစ်သည်။ အဆင်းလှစွာ ကြာရှည်တည်ခြင်းသည် ဓမ္မတာကို ဆန့်ကျင်ရသဖြင့် ကံ၏အကူအညီ အထောက်အပံ့ကြောင့် ဖြစ်သည်ဟု ဆိုနိုင်၏။ အသက်ရှည်စွာ တည်နေခြင်းသည် ကံ၏ အကူအညီ အထောက်အပံ့ကြောင့် ဖြစ်သည်ဟု ဆိုနိုင်၏။

## ၇၁။ အရိယဓမ္မဝိပါကကထာ

**မဂ်ကုသိုလ်လေးပါးသည် ဖိုလ်မှူသော အကျိုး (ဝိပါက်)ရှိသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က မဂ်ကုသိုလ်သည် ကိလေသာကို ပယ်ခြင်းကိစ္စကိုသာ ပြု၏။ ဖိုလ်ဟူသော အကျိုးဝိပါက်ကို ဖြစ်စေခြင်း

မရှိဟု ဆိုကြ၏။ ဥပမာအားဖြင့် သောတာပတ္တိမဂ်သည် ဒိဋ္ဌိ, ဝိစိကိစ္ဆာကို ပယ်ခြင်းအမှုကိုသာ ပြု၍ သောတာပတ္တိဖိုလ်ဟူသော အကျိုးဝိပါက်ကို ဖြစ်စေခြင်းမရှိဟု ဆိုကြ၏။

သကဝါဒီအလို မဂ်ကုသိုလ်သည် ကိလေသာပယ်ခြင်းအမှုကို ပြုရုံသာမက ဖိုလ်ဟူသော အကျိုးဝိပါက်ကိုလည်း ဖြစ်စေသည်။

## ၇၂။ ဝိပါကော ဝိပါကဓမ္မဓမ္မောတိ ကထာ

### အကျိုးဝိပါက်သည် အကြောင်းတရားဖြစ်နိုင်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က အကျိုးဝိပါက်တို့သည် ထပ်ဆင့်၍ အကျိုးဝိပါက်ကို ဖြစ်စေနိုင်သော အကြောင်းတရား ဖြစ်သည်။ (ဝါ) ဝိပါက်သည်ပင်လျှင် ကုသိုလ်, အကုသိုလ် ဖြစ်ပြန်သည်ဟု ယူဆကြ၏။

သကဝါဒီအလို အကျိုးဝိပါက်သည် ထင်ဆင့်၍ အကျိုးဝိပါက်ကို ဖြစ်စေနိုင်သော သဘောမရှိ။ ထိုသို့ဖြစ်နိုင်သည် ဆိုပါက အကျိုးဝိပါက်သည်ပင်လျှင် ကုသိုလ်,အကုသိုလ်ဖြစ်ပြန်သောကြောင့် အကြောင်း အကျိုးမဆုံးနိုင်၊ ပတ်လည်လိုက်၍ သံသရာမဆုံးနိုင် ဖြစ်တော့မည်။ အမှန်စင်စစ် အကျိုးဝိပါက်ဖြစ်သော စိတ်, စေတသိက် နာမ်တရားတို့သည် အညမညပစ္စည်း အကြောင်းမျှသာ ဖြစ်ကုန်၏။ ကမ္မပစ္စည်း မဖြစ်နိုင်။ ပဋ္ဌာန်းပါဠိတော်လာ အညမညပစ္စည်းနှင့် ကမ္မပစ္စည်းသဘောကို ရောယှက်ရှုပ်ထွေးအောင် ပြုမူကြခြင်းဖြစ်၏။ ဤဖော်ပြပါ ပရဝါဒီ၏ အယူအဆမှာ ဂိုဏ်းတို့၏အယူဝါဒမှ ဆက်နွယ်လာခြင်း ဖြစ်၏။ ဂိုဏ်းဝါဒ အရ ကုသိုလ် အကုသိုလ်တို့သည်လည်း ရှေးကံ၏အကျိုးဆက်ဟု ယူဆကြ၏။

## ၇၃။ ဆဂတိကထာ

### လားရာဂတိ ခြောက်ပါးရှိသလော။

သကဝါဒီအလို လားရာဂတိမှာ နိရယဂတိ (ငရဲဘုံ)၊ တိရစ္ဆာနဂတိ (တိရစ္ဆာန်ဘုံ)၊ ပေတဂတိ (ပြိတ္တာဘုံ)၊ မနုဿဂတိ (လူဘုံ)၊ ဒေဝဂတိ

(နတ်ဘုံ)ဟူ၍ လားရာဂတိ ငါးပါးရှိ၏။ သို့ရာတွင် အပါယ်လေးဘုံ ခွဲခြားရာ၌ ငရဲ တိရစ္ဆာန် ပြိတ္တာ အသူရကာယ် ဟူ၍ လေးပါးရှိ၏။ ပရဝါဒီသည် အသူရကာယ်ကို ဘုံသီးခြား၊ လားရာဂတိ သီးခြားဟု ယူဆ၍ ဂတိခြောက်ပါးဟု ဆို၏။ အမှန်စင်စစ် အသူရကာယ်ကို နှစ်မျိုးခွဲခြား၍ တစ်မျိုးကို ငရဲဘုံ၌ ထည့်သွင်း၍၊ ကျန်တစ်မျိုးကို နတ်ဘုံ၌ ထည့်သွင်းရေတွက်ရ၏။ အသူရကာယ်သည် ကာလကဥ္စိက အသူရကာယ် (ပြိတ္တာအသုရာ)၊ ဝေပစိတ္တိအသူရကာယ် (နတ်အသုရာ) ဟူ၍ နှစ်မျိုးကွဲပြား၏။ ကာလကဥ္စိက အသူရကာယ်ကို ငရဲဘုံ၌ထည့်သွင်း၍ ဝေပစိတ္တိ အသူရကာယ်ကို တာဝတိံသာနတ်ဘုံ၌ ထည့်သွင်း ရေတွက်ရ၏။ ဤသို့ ခွဲခြားမယူတတ်သောကြောင့် ပရဝါဒီဂိုဏ်းသားတို့နှင့် ဥတ္တရာပထကဂိုဏ်းသားတို့က အသူရကာယ်ကို လားရာ ဂတိတစ်ခုအဖြစ် သတ်မှတ်၍ လားရာဂတိ ခြောက်ပါးရှိ၏ဟု ဆိုကြကုန်၏။

## ၇၄။ အန္တရာဘဝကထာ

**ကြားခံဘဝ ရှိသလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ဘဝတစ်ခုမှ ဘဝတစ်ခုသို့ ကူးပြောင်းရာ၌ ချက်ချင်းဘဝသစ်သို့ ကူးပြောင်းရောက်ရှိသွားသည်မဟုတ်၊ သိမ်မွေ့သော ထူးခြားသော ရုပ်နာမ်ခန္ဓာကိုယ် (လိင်္ဂသရီရ)ဖြင့် ပဋိသန္ဓေနေရန် အမိဝမ်းတိုက် (ဝင်စားရန် မိခင်လောင်း)ကို လိုက်လံရှာဖွေ စောင့်ဆိုင်းနေရ၏။ ထိုသို့ သေပြီးနောက် အခြားဘဝသစ်တစ်ခုသို့ မရောက်သေးမီ ကြားကာလ ကြားခံဘဝရှိသေးသည်ဟု ယူဆကြ၏။ ကြားခံဘဝ၌ သတ္တဝါသည် နူးညံ့သိမ်မွေ့သော ရုပ်နာမ်ခန္ဓာရှိသောကြောင့် အတားအဆီးမရှိ နေရာတကာ ထိုးဖောက်ဝင်ထွက်သွားလာနိုင်၏။ နတ်မျက်စိကဲ့သို့ အဝေးအနီး အသေးအကြီးကို မြင်နိုင်၏။ ရှေးဘဝက ရုပ်သွင်နှင့် တူ၏။ အနံ့ကိုသာ စား၏။ မိခင်ဥတုလာပြီးနောက် ဖခင်နှင့် နှီးနှောမည့်အချိန်ကို စောင့်ဆိုင်းလျက် ခုနစ်ရက်ခန့် နေရ၏။ ထိုအခိုက်ရှိ သတ္တဝါကို အချို့က 'ဂန္ဓဗ္ဗ'ဟု ခေါ်ကြ၏။

(ကြားခံဘဝ၌ရှိသော သိမ်မွေ့သော ခန္ဓာကိုယ် (လိင်္ဂသရီရ)၊ အကြောင်းကို ပုဂ္ဂလကထာ၌ ပြဆိုခဲ့ပြီးလေပြီ။) ငရဲပြည်၊ နတ်ပြည် ရောက်မည့်သူများမှာ ကြားကာလ ကြားခံဘဝ မရှိဟု ဆိုကြ၏။ လူ့ပြည်နှင့် တိရစ္ဆာန်ဘုံသို့ ရောက်မည့်သူများအတွက်သာ ကြားခံဘဝရှိသည်ဟု ဆိုကြ၏။

သကဝါဒီအလို ဘဝတစ်ခုနှင့် တစ်ခုအကြား၌ ကြားခံဘဝဟူ၍ မရှိချေ။ တစ်ဘဝမှ တစ်ဘဝသို့ အခြားမရှိ၊ တိုက်ရိုက်ကူးပြောင်း၏။ ဤကြားခံဘဝ အယူအဆ (အန္တရာဘဝဝါဒ)ကို အခြေခံ၍ အမိဝမ်းတွင်း၌ ဝင်စားရန် တစ္ဆေဘဝဖြင့် စောင့်ဆိုင်း ကြိုးပမ်းနေခဲ့ရသော ပုံပြင်များသည် မြန်မာ့ကျေးလက်တောရွာများ၌ သက်ကြီးစကား သက်ငယ်ကြားကာ ဆက်လက်တည်ရှိနေကြသေးသည်။ အမှန်စင်စစ် ကျွန်ုပ်တို့ ပြောဆိုနေကြသော တစ္ဆေဘဝသည် ကြားခံဘဝမဟုတ်ချေ။ 'ပေတဂတိ'ခေါ် သီးခြားဘဝတစ်ခုသာလျှင် ဖြစ်သည်ဟု မှတ်ယူအပ်၏။ ရှေးဘဝနှင့် နောက်ဘဝသည် ဒေသဝေးကွာမှု၊ ကာလဝေးကွာမှုရှိရာ၌ ကြားခံဘဝဖြင့် ဆက်စပ်ပေးရန် ကြိုးပမ်းခြင်းဖြစ်၏။ အမှန်စင်စစ် ထိုဝေးကွာမှုဆိုသည်မှာ ပရမတ်မဟုတ်၊ ပညတ်မျှသာဖြစ်၍ ပြဿနာတစ်ခု လုပ်ပြီး ဖြေရှင်းနေရန် မလိုချေ။ နာမ်တရားအချင်းချင်း အကြောင်းအကျိုးဆက်ရာ၌လည်းကောင်း၊ ကံအကျိုးပေးရာ၌လည်းကောင်း၊ ကာလ ဒေသ ဝေးကွာမှုကို ထည့်တွက်ရန် မလိုချေ။

## ၇၅။ ကာမဂုဏကထာ

### ကာမဂုဏ်ငါးပါးသာလျှင် ကာမဓာတုမည်သလော

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ ဟူသော အာရုံငါးပါး ကာမဂုဏ်တရားတို့ကိုသာလျှင် 'ကာမဓာတု'ဟု ခေါ်လို၏။

သကဝါဒီအလို ကာမကို ဝတ္ထုကာမ၊ ကိလေသာကာမ ဟူ၍ နှစ်မျိုး ခွဲခြား၏။ ကာမဂုဏ်ငါးပါးကို 'ဝတ္ထုကာမ'ဟု ခေါ်လေသည်။ လောဘ

တဏှာရာဂကို ကိလေသာကာမဟု ခေါ်၏။ ဝတ္ထုကာမ, ကိလေသာ ကာမ, နှစ်ပါးစုံကို 'ကာမဓာတု'ဟု ခေါ်လို၏။ အပြည့်အစုံဆိုပါက ကာမ စိတ် (၅၄) ပါးနှင့်ယှဉ်ဘက် စေတသိက် (၅၂) ပါးကို 'ကာမဓာတု'ဟု ဆိုလို၏။

## ၇၆။ ကာမကထာ

**အာရုံငါးပါးသာလျှင် ကာမမည်သလော**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ရူပါရုံစသော အာရုံငါးပါး ကိုသာ ကာမဟု ခေါ်လိုကြ၏။

သကဝါဒီအလို ထိုအာရုံငါးပါးကို ကာမဟုခေါ်သော်လည်း မုချ ကာမ မဟုတ်၊ တဏှာရာဂ ဟူသော ကိလေသာကာမသည်သာလျှင် မုချအားဖြင့် ကာမမည်၏။

## ၇၇။ ရူပဓာတုကထာ

**ရုပ်ကိုသာလျှင် ရူပဓာတုခေါ်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ရုပ်တရားကိုသာလျှင် ရူပဓာတုဟု ခေါ်လိုကြ၏။ သကဝါဒီအလို ရူပဝိပါက်စိတ်များနှင့် ယှဉ်ဘက် စေတ သိက် နာမ်တရားတို့ကိုသာ ရူပဓာတုဟု ခေါ်၍ ရုပ် (၂၈)ပါးကို ကာမ ဓာတုအတွင်း၌ ထည့်သွင်းရေတွက်ရမည်။ အကယ်၍ ရုပ်တရားကို ရူပ ဓာတုဟု ခေါ်ပါက ကာမဘုံ၌ ရှိသော ရုပ်တရားများကိုလည်း ရူပဓာတု ဟု ခေါ်ရပေလိမ့်မည်။ ထို့ကြောင့် ပရဝါဒီ၏ အယူကို ပယ်အပ်၏။

## ၇၈။ အရူပဓာတုကထာ

**နာမ်တရားတို့ကို အရူပဓာတုဟုခေါ်သလော**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က နာမ်တရားတို့ကို အရူပဓာတုဟု ခေါ်ဆိုကြ၏။

သကဝါဒီအလို အရူပဝိပါက်စိတ်နှင့် ယှဉ်ဘက် စေတသိက် နာမ်တရားတို့ကိုသာ 'အရူပဓာတု'ဟု ခေါ်၏။ အကယ်၍ နာမ်တရားအားလုံးကို သိမ်းကျုံး၍ 'အရူပဓာတု'ဟု ဆိုပါက ကာမဘုံနှင့် ရူပဘုံရှိ နာမ်တရားတို့သည်လည်း အရူပဓာတုဟု အမည်ရရှိ၍ ရောက်ယှက်ရှုပ်ထွေးဖွယ်ရှိရာ၏။ ထို့ကြောင့် ပရဝါဒီ၏အယူကို ပယ်အပ်၏။

## ၇၉။ ရူပဓာတုယာ အာယတနကထာ

### ရူပဘုံ၌ အာယတနခြောက်ပါးရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ရူပဘုံ ရူပပြဟ္မာတို့၌ ဃာန ဇိဝှါ ကာယ ရှိသည်ဟု ယူဆ၍ အာယတနခြောက်ပါး အပြည့်အစုံရှိသည်ဟု ဆိုကြ၏။

"အဟီနိန္ဒြိယော (အဟီန+ဣန္ဒြိယော) မယုတ်မလျော့=ပြည့်စုံသော ဣန္ဒြေရှိ၏' ဟူသော ဘုရားဟော ပါဠိတော်ကို ကိုးကား၍ ရူပ ပြဟ္မာတို့၌ ဃာနဣန္ဒြေ (နှာခေါင်းအကြည်ဓာတ်)၊ ဇိဝှါဣန္ဒြေ (လျှာ အကြည်ဓာတ်)၊ ကာယဣန္ဒြေ (ကိုယ်ကာယအကြည်ဓာတ်) များရှိသည်ဟု ပရဝါဒီဆရာတို့ ဆိုကြ၏။ အချို့သော ပရဝါဒီက ရူပပြဟ္မာအား ဃာန ဇိဝှါ ကာယသာ ရှိ၍ ဂန္ဓာရုံ ရသာရုံ ဖောဋ္ဌဗ္ဗာရုံ မရှိဟု ဆို၏။ အချို့သော ပရဝါဒီကမူ ဂန္ဓာရုံစသော အာရုံများပါရှိသည်ဟု ယူဆကြ၏။

သကဝါဒီအလို ရူပဘုံ ရူပပြဟ္မာတို့၌ နှာခေါင်း လျှာ ကိုယ်ကာယတို့သည် ပုံပန်းသဏ္ဌာန်မျှသာ ရှိ၍ ဆိုင်ရာအာရုံကို ခံစားနိုင်သော (ပသာဒရုပ်) အကြည်ဓာတ်များ မရှိချေ။

## ၈၀။ အရူပေ ရူပကထာ

### အရူပပြဟ္မာဘုံ၌ သိမ်မွေ့သောရုပ်များရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က အရူပဘုံ၌ ရုပ်မရှိဟု ဆိုရာ၌ ကြမ်းတမ်းသော ရုပ်သာမရှိခြင်းဖြစ်၍ သိမ်မွေ့သောရုပ်ကား ရှိသည်ဟု

ဆိုကြ၏။ အကြောင်းပြချက်မှာ ရုပ်မှ လွတ်မြောက်ရာဌာနကား အရူပ ဈာန်နှင့် အရူပဘုံဖြစ်သည်ဟု မြတ်စွာဘုရား ဟောကြားထားရာ လုံး၀ ရုပ်မရှိပါက ရုပ်မှ လွတ်မြောက်မှု မရှိနိုင်၊ ရုပ်ရှိမှသာလျှင် ရုပ်မှ လွတ် မြောက်မှု ဖြစ်နိုင်၏။ ထို့ကြောင့် အရူပ (ရုပ်မှ လွတ်မြောက်ရာ)ဘုံ၌ သိမ်မွေ့သော သုခုမရုပ်များ ရှိသည်။ ထို့ပြင် "ဝိညာဏပစ္စယာ နာမရူပံ" ဟု ဘုရားဟောကြားတော်မူရာ အရူပစိတ်ဝိညာဏ်သည်လည်း နာမ် ရုပ်နှစ်ပါးကို ဖြစ်စေနိုင်သောကြောင့် အရူပဘုံ၌ ရုပ်ရှိရမည်ဟု ဆိုကြ၏။

သကဝါဒီအလို အရူပဘုံ၌ ရုပ်ဟူ၍ လုံး၀ မရှိ၊ (အ + ရူပ=ရုပ်၊ အ=မရှိ) ရုပ်မရှိသောဘုံကို 'အရူပဘုံ'ဟု ခေါ်လို၏။

## ၈၁။ ရူပံ ကမ္မန္တိ ကထာ

### ရုပ်သည် ကံမည်သလော။

ပရဝါဒီ မဟိသာသကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ကာယ ဝိညတ်, ဝစီဝိညတ်ဟု ဆိုအပ်သော ဝိညတ်ရုပ်ကို ကာယကံ ဝစီကံဟု ခေါ်ဆိုကြ၏။ ကုသိုလ်စိတ်ကြောင့်ဖြစ်လျှင် ကုသိုလ်ကံဟု ခေါ်၍ အကုသိုလ်စိတ်ကြောင့် ဖြစ်လျှင် အကုသိုလ်ကံဟု ခေါ်ကြ၏။

သကဝါဒီအလို စေတနာကိုသာလျှင် ကံဟု ခေါ်၏။ ရုပ်ကို ကံဟု ခေါ်ပါက ရုပ်အားလုံးကို ကံဟု ခေါ်ရပေလိမ့်မည်။ ရုပ်ကို ကံဟု ခေါ် ခြင်းသည် ဂိုဏ်းအယူဝါဒမှ ဆက်နွယ်လာခြင်းဖြစ်၏။ ထို့ကြောင့် ပရဝါဒကို ပယ်အပ်၏။

## ၈၂။ ဇီဝိတိန္ဒြိယကထာ

### ရုပ်ဇီဝိတဟူ၍ မရှိဘဲ စိတ်နှင့်မယှဉ်သော နာမ်ဇီဝိတရှိသလော။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က အသက် (ဇီဝိတ)ဟု ဆိုရာ၌ ရုပ်သက် (ရုပ်ဇီဝိတ) ဟူ၍ မရှိ၊ နာမ်သက် (နာမ် ဇီဝိတ) သာရှိ၏။ ထိုနာမ်ဇီဝိတသည် စိတ်နှင့်ယှဉ်တွဲခြင်း မရှိ၊ စိတ်နှင့် မယှဉ်ဘဲ အလွတ်သက်သက် သီးသန့်တည်ရှိနေသည် (စိတ္တဝိပ္ပယုတ္တ

မွှ)ဟု ယူဆကြ၏။ ဂျိန်းတို့၏ အယူဝါဒနှင့် ဟိန္ဒူအယူဝါဒ၌ ဇီဝဟု ခေါ်သော အသက်သည် နာမ်တရားသာလျှင်ဖြစ်၍ သူ့အလိုလို ဆက်လက် ရှင်သန်နေ၏။ စိတ်နှင့် ယှဉ်တွဲခြင်း, ဆက်စပ်ခြင်း မရှိဟု ဆို၏။ ထို့ကြောင့် ဤပရဝါဒသည် ဂျိန်းနှင့်ဟိန္ဒူအယူဝါဒမှ ဆက်နွယ် လာခြင်းဖြစ်သည်ဟု ဆိုသင့်၏။

သကဝါဒီအလို ရုပ်ဇီဝိတ၊ နာမ်ဇီဝိတဟူ၍ နှစ်မျိုးခွဲခြား၏။ ရုပ်တရားတို့ အသက်ရှင်စေရန် (ရုပ်ဇီဝိတ) ရုပ်သက်က တာဝန်ယူ စောင့်ရှောက်ရ၏။ နာမ်တရားတို့ အသက်ရှင်စေရန် နာမ်ဇီဝိတက တာဝန်ယူ စောင့်ရှောက်၏။ ရုပ်ဇီဝိတသည် မိမိဖြစ်ဖော်ရုပ်တို့နှင့် အတူတကွ ချုပ်၏။ နာမ်ဇီဝိတသည်လည်း စေတသိက်တရားဖြစ်၍ စိတ်နှင့်အတူ တကွဖြစ်၍ အတူတကွပျက်၏။ နာမ်ဇီဝိတသည် စေတသိက်တရား ဖြစ်၍ စိတ္တသမ္ပယုတ္တမည်၏။ အသညသတ်ပြဟ္မာ့ဘုံ၌ နာမ်မရှိဘဲ အသက် ရှင်နေခြင်းသည် ရုပ်ဇီဝိတသက်သက်ဖြင့် အသက်ရှင်ခြင်း ဖြစ်၏။ ထို့ပြင် အနာဂါမ်, ရဟန္တာပုဂ္ဂိုလ်တို့သည် နိရောဓသမာပတ်ဝင်စားခိုက်၌ နာမ် တရားများ ဖြစ်ပေါ်ခြင်းမရှိဘဲ (ရုပ်ဇီဝိတ) ရုပ်သက်ဖြင့်သာ အသက်ရှင် နေခြင်းဖြစ်၏။ ထို့ကြောင့် စိတ်နှင့်မယှဉ်သော နာမ်ဇီဝိတဟူ၍ မရှိ၊ ရုပ်ဇီဝိတ ဟူ၍ ရှိသေးကြောင်းကို မှတ်သားသင့်သည်။

## ၈၃။ ကမ္မဟေတုကထာ

**ရှေးဘဝ အကုသိုလ်ကံကြောင့် ရဟန္တာသည် ရဟန္တာအဖြစ်မှ လျှော ကျနိုင်သလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ရဟန္တာ သည် ရှေးဘဝက ရဟန္တာပုဂ္ဂိုလ်တို့ကို စွပ်စွဲခဲ့ဖူးပါက ထိုအကုသိုလ်ကံ၏ အကျိုးဆက်ကြောင့် ဤဘဝ၌ ရဟန္တာဖြစ်ပြီးခါမှ ပြန်လည်လျှောကျရ သည် ဆိုကြ၏။

ဤအဆိုနှင့်ပတ်သက်၍ သကဝါဒီဘက်မှ ဖြေရှင်းချက်ကို ကထာ အမှတ်စဉ် ၂ ပရိဟာနိကထာ၌ ရှုပါ။

## ၇၄။ အာနိသံသဒဿာဝီကထာ

**နိဗ္ဗာန်၏ငြိမ်းချမ်းမှုဂုဏ်ကို ရှုကာမျှဖြင့် သံယောဇဉ်ကို ပယ်နိုင်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က သင်္ခါရတရားတို့ကို အနိစ္စ, ဒုက္ခ, အနတ္တဟု ဝိပဿနာမရှုဘဲ နိဗ္ဗာန်၏ ငြိမ်းချမ်းမှုဂုဏ်ကို ရှုကာမျှဖြင့် သံယောဇဉ်ကို ပယ်နိုင်၏ဟု ယူဆကြ၏။

သကဝါဒီအလို သင်္ခါရတရားတို့ကို အနိစ္စ စသည်ဖြင့် ဝိပဿနာ ရှုခြင်း၊ နိဗ္ဗာန်၏ ငြိမ်းချမ်းမှုဂုဏ်ကို ရှုခြင်း၊ ဤနှစ်ပါးစုကို ပြုမှသာလျှင် သံယောဇဉ်ကို ပယ်နိုင်သည်ဟု ဆိုလို၏။ မဂ်စိတ်သည် နိဗ္ဗာန်ကို အာရုံ ပြု၍ သင်္ခါရတရားတို့သည် အနိစ္စ, ဒုက္ခ, အနတ္တသာလျှင် ဖြစ်၏ဟု ပိုင်းခြားသိမြင် ဆုံးဖြတ်၏။ ထို့ကြောင့် နိဗ္ဗာန်၏ ငြိမ်းချမ်းမှုဂုဏ်ကိုလည်း ကောင်း၊ သင်္ခါရတရားတို့၏ အနိစ္စအဖြစ်ကိုလည်းကောင်း ရှုမြင်သော မဂ်စိတ်သည် သံယောဇဉ်တရားတို့ကို ပယ်၏ဟု မှတ်သင့်၏။

မဟာယာနဂိုဏ်းအလို နိဗ္ဗာန်ဟူသည် တည်ငြိမ်အေးချမ်းနေသော စိတ်ဝိညာဏ်ကြီးဖြစ်၍ ယင်းကို အာရုံပြုနေပါက ကိလေသာကုန်ပြီဟု ယူဆ၏။ သင်္ခါရဒုက္ခကို ရှုရန် မလိုဟု ဆိုကြ၏။ ဤဝါဒသည် ဤခေတ် မှာလည်း ပြန်လည်ခေတ်စားလာ၏။

## ၇၅။ အမတာရမ္မဏကထာ

**ရာဂ, ဒေါသ မောဟ စသော သံယောဇဉ်တရားတို့သည် နိဗ္ဗာန်ကို အာရုံပြုနိုင်သလော၊ နိဗ္ဗာန်ကို သံယောဇဉ် ငြိတွယ်နိုင်သလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က "နိဗ္ဗာနံ မေတိ မညတိ၊ နိဗ္ဗာနံ အဘိနန္ဒတိ = နိဗ္ဗာန်ကို ငါ့ဟာဟူ၍ ထင်မှတ်၏။ နိဗ္ဗာန်ကို နှစ်သက်၏"ဟူသော ပါဠိတော်လာ စကားရပ်ကို ကိုးကား၍ နိဗ္ဗာန်ကို သံယောဇဉ်ငြိတွယ်နိုင်၏။ 'ရာဂ, ဒေါသ, မောဟတို့သည် နိဗ္ဗာန်ကို အာရုံပြုနိုင်၏'ဟု ဆိုကြ၏။ (နိဗ္ဗာန်နှင့် သံသရာကို ထပ်တူပြုရန် စတင် ကြိုးပမ်းနေခြင်းဖြစ်သည်ကို သတိထား၍ ကြည့်သင့်၏။)

သကဝါဒီအလို ထိုပါဠိတော် စကားရပ်၌ နိဗ္ဗာန်ဟူသည် တိတ္ထိတို့၏ အယူဝါဒ၌ပါရှိသော 'ဒိဋ္ဌဓမ္မနိဗ္ဗာန်'ကို ရည်၏။ ကာမဂုဏ်ခံစားမှုနှင့် နတ်စည်းစိမ်ကို ဒိဋ္ဌဓမ္မနိဗ္ဗာန်ဟု ဆိုလို၏။ ထိုဒိဋ္ဌဓမ္မနိဗ္ဗာန်ကိုသာလျှင် သံယောဇဉ် ငြိတွယ်နိုင်၏။ ဤသို့ ခွဲခြား နားမလည်သော ပရဝါဒီ၏ အယူဝါဒကို ပယ်မြစ်သင့်၏။

## ၈၆။ ရူပံ အာရမ္မဏန္တိ ကထာ

ရုပ်သည် အာရုံရှိသလော။

'အာရမ္မဏ'သဒ္ဒါသည် အကြောင်းတရားကိုလည်းကောင်း၊ သိစရာ အာရုံကိုလည်းကောင်း ဖော်ပြ၏။ ရုပ်သည် အကြောင်းတရားကြောင့် ဖြစ်ပေါ်လာရသောကြောင့် အကြောင်းရှိသောတရား 'သပ္ပစ္စယ'ဟု အမည်ရ၏။ အမှန်စင်စစ် ရုပ်သည် သိစရာအာရုံကို မသိတတ်သော ကြောင့် အာရုံမရှိ 'အနာရမ္မဏ'ဟု ဆိုအပ်၏။ အာရမ္မဏသဒ္ဒါသည် အကြောင်းဟူသော အနက်အဓိပ္ပာယ်၊ သိစရာအာရုံ ဟူသော အနက် အဓိပ္ပာယ် နှစ်ရပ်ကို မခွဲခြားဘဲ ရုပ်ကို 'သာရမ္မဏ'ဟု ရောထွေးလျက် ပရဝါဒီဥတ္တရာပထက ဂိုဏ်းသားတို့က ဆို၏။ 'သပ္ပစ္စယ'ဟု ဆိုရမည့် နေရာ၌ 'သာရမ္မဏ'ဟု လွဲမှားပြောဆိုနေကြခြင်း ဖြစ်၏။

သကဝါဒီအလို ရုပ်ကို 'အနာရမ္မဏ (အာရုံမရှိ)'ဟု ဆိုလို၏။ ရုပ် သည် သိစရာအာရုံကို သိတတ်သောသဘောမရှိသောကြောင့် 'အနာ ရမ္မဏ'ဟု မှတ်သင့်၏။

## ၈၇။ အနုသယာ အနာရမ္မဏာကထာ

အနုသယတရားတို့၌ သိစရာအာရုံ မရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသား အချို့တို့က အနုသယတရား ဟူသည် ငုပ်လျှိုးနေသော သတ္တိစွမ်းအား တစ်မျိုးဖြစ်၍ ဥပါဒ်၊ ဌီ၊ ဘင်အားဖြင့် ဖြစ်ပေါ်ခြင်းမရှိ၊ ထို့ကြောင့် သိစရာ အာရုံမရှိဟု ယူဆကြ၏။ အနုသယတရားတို့သည် စိတ်နှင့်မယှဉ်ဘဲ သီးသန့် အလွတ်

တည်နေသော စိတ္တဝိပ္ပယုတ္တတရားဖြစ်၍ ရာဂသံယောဇဉ်သည်သာ စိတ်နှင့်ယှဉ်သော စိတ္တသမ္ပယုတ္တတရားဟု ယူဆကြ၏။

သကဝါဒီအလို အနုသယ ကိလေသာသည် ကိလေသာအထူး မဟုတ်ချေ။ အခြားကိလေသာများကဲ့သို့ ဥပါဒ်, ဌီ, ဘင်ရှိ၏။ သိစရာ အာရုံရှိ၏။ သို့ရာတွင် သတ္တဝါတို့၏သန္တာန်၌ အဖြစ်များသောကြောင့် အင်အားကောင်းသည်ဟု ဆိုအပ်၏။ ကိလေသာသည် ကုသိုလ်စိတ်နှင့် မယှဉ်နိုင်၊ ကုသိုလ်စိတ်ဖြစ်နေချိန်တွင် ထိုပုဂ္ဂိုလ်၌ အနုသယရှိသလောဟု မေးပါက ရှိသည်ဟု ဖြေရပေမည်။ ဤအချက်ကို အစွဲပြု၍ ကုသိုလ်စိတ် ဖြစ်နေချိန်တွင် အနုသယကိလေသာများ ရှိသည်ဟု ဆိုပါက ထိုအနု သယတို့သည် စိတ်နှင့်မယှဉ်ကုန် (စိတ္တဝိပ္ပယုတ္တ)၊ သိစရာအာရုံ မရှိသော ကြောင့် 'အနာရမ္မဏ'ဟု ပရဝါဒီက ဆိုလို၏။ အမှန်စင်စစ် ကုသိုလ်စိတ် ဖြစ်ခိုက်၌ အနုသယ ကိလေသာများ ရှိသည်ဟု ဆိုရခြင်းမှာ မဂ်ဖြင့် မပယ်ရသေးသောကြောင့်သာလျှင် ရှိသည် ဟု ဆိုခြင်းဖြစ်၏။ ဥပါဒ်, ဌီ, ဘင်အားဖြင့် ထင်ရှားဖြစ်ရှိနေသည်ဟု မဆိုလို။

ဥပမာအားဖြင့် ထမင်းစားနေသူတစ်ဦးကို 'ဆေးလိပ်သောက်သ လား'ဟု မေးပါက ဆေးလိပ်မပြတ်သေးသူဖြစ်၍ 'ဆေးလိပ်သောက်ပါ သည်'ဟု ဖြေရ၏။ ထိုအချိန်၌ အမှန်တကယ် ဆေးလိပ်သောက်ခြင်း မရှိချေ။ မပယ်ဖြတ်ရသေးသောကြောင့်သာ ဆေးလိပ်သောက်ပါသည်ဟု ဖြေဆိုရ၏။ ဤနည်းအတူ ကုသိုလ်စိတ်ဖြစ်ခိုက်၌ အနုသယ ကိလေသာ ရှိသည်ဟု ဆိုရခြင်းမှာ မဂ်ဖြင့် မပယ်ရသေးသောကြောင့်သာ ရှိသည်ဟု ဆိုရ၏။ အမှန်တကယ် ထင်ရှားခြင်း မရှိချေ။ ထို့ကြောင့် အနုသယ ကိလေသာမှာ သိစရာအာရုံမရှိဟု မဆိုသင့်။

## ၈၈။ ဉာဏံ အနာရမ္မဏန္တိ ကထာ

ပဉ္စဝိညာဏ်ဖြစ်ခိုက်၌ ရဟန္တာပုဂ္ဂိုလ်၏ဉာဏ်သည် သိစရာအာရုံ မရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ရဟန္တာပုဂ္ဂိုလ်၏ ဉာဏ်သည် စိတ်နှင့် မယှဉ်ဘဲ သီးသန့် အလွတ်တည်ရှိသော စိတ္တဝိပ္ပယုတ္တတရားဖြစ်၍ သိစရာ

အာရုံမရှိ အထူးအားဖြင့် စက္ခုဝိညာဏ် စသော ပဉ္စဝိညာဏ်စိတ် ဖြစ်ခိုက်၌ ရဟန္တာပုဂ္ဂိုလ်၏ဉာဏ်သည် သိစရာအာရုံမရှိ (အနာရမ္မဏ) ဟု ဆိုကြ၏။

သကဝါဒီအလို ရဟန္တာပုဂ္ဂိုလ်၌ ပဉ္စဝိညာဏ်စိတ် ဖြစ်ခိုက်တွင် ဉာဏ်ရှိသည်ဟု ဆိုရသော်လည်း ဉာဏ်ဖြစ်ပေါ်ခွင့်ရှိသောကြောင့်သာ ဉာဏ်ရှိသည်ဟု ဆိုရ၏။ ထိုအခိုက်၌ ဉာဏ်သည် အမှန်တကယ် ဥပါဒ်, ဌီ, ဘင်အားဖြင့် ထင်ရှားရှိနေခြင်း မဟုတ်။ ထို့ကြောင့် ပရဝါဒီ၏ အယူဝါဒကို ပယ်မြစ်အပ်၏။

## ၇၉။ အတီတာနာဂတာရမ္မဏကထာ

**အတိတ် အနာဂတ်ကို သိသောစိတ်၌ အာရုံရှိသလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က အတိတ်, အနာဂတ်တရားတို့သည် မရှိတရားများ ဖြစ်ကြ၏။ မရှိသောတရားကို သိသော (အတိတ်, အနာဂတ်ကို သိသော) စိတ်မှာ သိစရာအာရုံမရှိဟု ယူဆကြ၏။

သကဝါဒီအလို အတိတ်, အနာဂတ်တရားတို့သည် ထင်ရှား မရှိသော်လည်း အာရုံဟူ၍ ခေါ်အပ်၏။ ထို့ကြောင့် အတိတ်ကို သိသော စိတ်မှာ အတိတ်အာရုံရှိ၏။ အနာဂတ်ကို သိသောစိတ်မှာလည်း အနာဂတ်အာရုံ ရှိ၏။ ထို့ကြောင့် အာရုံမရှိသောစိတ်ဟူ၍ မရှိဟု မှတ်သင့်၏။

## ၈၀။ ဝိတက္ကာနုပတိတကထာ

**စိတ်မှန်သမျှသည် ဝိတက်၏ နောက်လိုက်ဖြစ်သလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က စိတ်မှန်သမျှသည် ဝိတက်၏ နောက်လိုက်ဖြစ်၍ ဝိတက်နှင့်အမြဲယှဉ်၏။ ဝိတက်ကင်းသော စိတ်ဟူ၍ မရှိနိုင်ဟု ဆိုကြသည်။ ဤအယူဝါဒကို ဂိုဏ်းဘုရား မဟာဝိရနှင့် ဗုဒ္ဓ၏ တပည့်သာဝက စိတ္တသူကြွယ်တို့ ဆွေးနွေးဖူး၏။ ဂိုဏ်းဘုရား မဟာဝီရက ဝိတက်, ဝိစာရ မရှိသောစိတ် (ကြံစည်မှု ကင်းသောစိတ်)ဟူ၍ မရှိဟု ဆို၏။ ဤနေရာတွင် ဂိုဏ်းတို့၏ အယူဝါဒသည် တတိယသင်္ဂါယနာခေတ်၌ ပရဝါဒအဖြစ် ရပ်တည်၏။

သကဝါဒီအလို ဝိတက်ကင်းသော စိတ်ဟူ၍ ရှိ၏။ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန် ဟူသော အထက်ဈာန်စိတ်တို့၌ ကြံစည်မှု ဝိတက်ကင်း၏။ ထိုစိတ်တို့သည် ဝိတက်၏ နောက်လိုက် မဟုတ်ချေ။ ဝိတက်မပါဘဲ (ကြံစည်မှု မရှိဘဲ)အာရုံကို သိနိုင်ကြ၏။

## ၉၁။ ဝိတက္ကဝိပ္ဖါရသဒ္ဒကထာ

**စိတ်ထဲ၌ ကြံစည်ရုံမျှဖြင့် (မကြားရသော) အသံတစ်မျိုး ဖြစ်ပေါ်သလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က စိတ်ထဲ၌ ကြံစည် စဉ်းစား ရုံမျှဖြင့် လူတို့၏ နားဖြင့် မကြားရသော အသံတစ်မျိုး ဖြစ်ပေါ်သည်၊ တန်ခိုးရှင်တို့သည် ထိုအသံကို နားထောင်၍ လူတစ်ဦး၏ စိတ်အကြံ အစည်ကို ထုတ်ဖော်ဟောကြားနိုင်ကြသည်ဟု ဆို၏။ စကားပြောဆိုရာ၌ မပြောမီ ငါသည် ဤသို့ ဤပုံ ပြောဆိုမည်ဟု ကြံစည် တွေးတော၏။ ထိုသို့ ကြံတွေးပြီးမှ စကားပြောဆိုနိုင်သောကြောင့် ကြံစည်တွေးတော ဆင်ခြင်မှု (ဝိတက် ဝိစာရ)ကို စကားပြောတတ်သောတရား (ဝစီသင်္ခါရ) ဟု ခေါ်ဆိုရ၏။ ထိုဝစီသင်္ခါရ (ဝိတက်, ဝိစာရ)ဖြစ်တိုင်း အသံ ဖြစ်ပေါ် သည်။ လူ့နားဖြင့် မကြားရသောအသံနှင့် ကြားရသောအသံ နှစ်မျိုးကို ဖြစ်စေသည်ဟု ပရဝါဒီက ဆို၏။

သကဝါဒီအလို မကြားရသောအသံကို အသံဟု မခေါ်လို၊ အသံမှန် လျှင် လူ့နားဖြင့်လည်းကောင်း၊ နတ်နား (ဒိဗ္ဗသောတ)ဖြင့်လည်းကောင်း ကြားရပေမည်။ ဝိတက္ကဝိပ္ဖါရသဒ္ဒ (ကြံစည်ရုံဖြင့် ဖြစ်သောအသံ) ဆို သည်မှာ အိပ်ပျော်နေစဉ် ယောင်ရမ်းပြောဆိုသောအသံ၊ အမှတ်တမဲ့ လွှတ်ခနဲထွက်သွားသော အသံမျိုးကို ဆိုလို၏။

## ၉၂။ န ယထာစိတ္တဿ ဝါစာတိ ကထာ

**စကားလုံးများသည် စိတ်ကပြောလိုသည့်အတိုင်းမဟုတ်ဘဲ ပရမ်း ပတာထွက်ချင်သည့်စကား ထွက်လာသလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က စကားလုံးများသည် စိတ်က ကြံစည်ထားသည့် အတိုင်းမဟုတ်ဘဲ တလွဲတချော် ထွက်တတ်သော

ကြောင့် စကားသံသည် စိတ်နှင့်မဆိုင်ဟု ယူဆကြ၏။ (ဝါစာ) စကားသည် (စိတ္တဝိပ္ပယုတ္တဝါစာ) စိတ်နှင့်မယှဉ်တွဲဘဲ သီးသန့်လွတ်ကင်းစွာ တည်ရှိနိုင်သော တရားတစ်ခုဟု ယူဆကြ၏။ ဤအယူဝါဒသည် ဝေဒကျမ်းမှ ဆက်နွယ်လာခြင်းဖြစ်၏။ အချို့သော မေ့လျော့တတ်သူများနှင့် အသက်ကြီးသူများသည် စကားကို လွဲလွဲချော်ချော် ပြောတတ်ကြ၏။ စိတ်ထဲက 'ဦးဖြူ'ဟု ခေါ်ရန် ကြိုးစားသော်လည်း နှုတ်မှ 'ဦးလူ-ဦးတူ' စသည်ဖြင့် မဆိုင်သော စကားလုံးများ ထွက်ပေါ်လာတတ်၏။ ထို့ကြောင့် (ဝါစာ) စကားသည် စိတ်နှင့် မဆိုင်ဟု ဆိုကြ၏။

သကဝါဒီအလို (ဝါစာ)စကားသည် စိတ်နှင့် ဆိုင်၏။ ပြောချင်စိတ်မရှိပါက မပြောဘဲနေ၍ ရ၏။ ပြောချင်လျှင် စကားသံများ ထွက်ပေါ်လာ၏။ စိတ်ဖြင့် ကြံစည်စဉ်းစားခြင်း၊ နှလုံးသွင်းခြင်းပြုမှသာ စကားသံဖြစ်ပေါ်လာသည်ကို ထောက်ဆ၍ (ဝါစာ) စကားသည် စိတ်၏ ဦးစီးထိန်းချုပ်မှုအောက်၌ ရှိသည်။ တလွဲတချော် ပြောကြားမိခြင်းမှာ ဝါစာစကားအသံက လွဲမှားခြင်း မဟုတ်၊ စိတ်က လွဲမှားခြင်းသာ ဖြစ်၏။ ဦးဖြူကို 'ဦးလူ-ဦးတူ'ဟု မှားယွင်းခေါ်မိခြင်းမှာ စိတ်ထဲ၌ စိတ်ကသာလျှင် မှားယွင်းချွတ်ချော်စွာ ကြံတွေးသောကြောင့် (ဝါစာ) စကားသည် ချွတ်ချော်မှားယွင်းရခြင်း ဖြစ်လေသည်။

## ၉၃။ န ယထာစိတ္တဿ ကာယကမ္မန္တိ ကထာ

### ကိုယ်ကာယသည် စိတ်ဆန္ဒအတိုင်း လှုပ်ရှားခြင်းပြုသလော။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ကိုယ်ကာယသည် စိတ်ဆန္ဒနှင့် လိုက်လျောညီထွေစွာ လှုပ်ရှားခြင်းမပြု၊ မိမိဘာသာ ရုပ်သဘာဝအတိုင်း လှုပ်ရှားသည်ဟု ယူဆကြ၏။ အကြောင်းမူ ခြေလက်တို့ကို လှုပ်ရှားရာ၌ ရည်ရွယ်မှန်းထားသည့်အတိုင်း မဖြစ်ဘဲ တစ်မျိုးတစ်ဖုံ ဖြစ်သွားသည်ကို တွေ့ရ၏။ ချွတ်ချော်မှုများ, မတော်တဆ ထိခိုက်မှုများကို ထောက်ရှု၍ ကိုယ်ကာယသည် စိတ်ဆန္ဒအတိုင်း လှုပ်ရှားခြင်း မပြုဟု ဆိုကြ၏။

သကဝါဒီအလို ကိုယ်ကာယသည် စိတ်၏ ထိန်းချုပ်မှုအောက်၌ ရှိ၏။ လှုပ်ချင်စိတ်မရှိပါက ကိုယ်ကာယသည် ငြိမ်နေ၏။ ကိုယ်ကာယကြီးကို မိမိလိုသလို လှုပ်ရှားစေရန်လည်းကောင်း၊ တည်နေစေရန်လည်းကောင်း စိတ်က ထိန်းချုပ်နိုင်သည်ဟု ဆိုလို၏။ ရံခါ ဥတု, အာဟာရတို့၏ ဖောက်ပြန်မှုကြောင့် ဖောက်ပြန်သော 'ရောဂါရုပ်'များ ဖြစ်ချိန်တွင်မူ ကိုယ်ကာယသည် စိတ်၏ ထိန်းချုပ်မှုအောက်မှ လွတ်သည့်အခါလည်း ရှိသေး၏။ စိတ်နှင့်မဆက်စပ်ဘဲ ရုပ်သဘာဝအတိုင်း လှုပ်ရှားမှုပြခြင်းကို ကာယကံဟု မခေါ်နိုင်ချေ၊ ကံမမြောက်ချေ။

## ၉၄။ အတီတာနာဂတသမန္နာဂတကထာ

**သတ္တဝါသည် အတိတ်, အနာဂတ် ရုပ်နာမ်တရားတို့နှင့် ပြည့်စုံနေသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က အတိတ် ရုပ်နာမ်တရားတို့သည် တစ်နည်းတစ်ဖုံ ရှိနေကြသေး၏။ အနာဂတ် ရုပ်နာမ်တရားတို့သည်လည်း တစ်နည်းတစ်ဖုံ တည်ရှိနေ၏။ ထို့ကြောင့် သတ္တဝါသည် အတိတ်, အနာဂတ် ရုပ်နာမ်တရားတို့နှင့် ပြည့်စုံနေသည်ဟု ဆိုကြ၏။ အကြောင်းကား (ဈာနလာဘီ) ဈာန်ရပုဂ္ဂိုလ်တို့သည် ဈာန်သမာပတ်ရှစ်ပါးကို အချိန်မရွေး ဝင်စားနိုင်ကြ၏။ ထိုဈာန်ရှစ်ပါးသည် ဝင်စားခဲ့ဖူးသောကြောင့် အတိတ်တရားလည်း မည်၏။ နောင်ဝင်စားလတ္တံ့ဖြစ်သောကြောင့် အနာဂတ်တရားလည်း မည်၏။ ထိုသို့ ဈာန်သမာပတ်ရှစ်ပါးကို အချိန်မရွေးဝင်စားနိုင်သောကြောင့် ဈာန်ရပုဂ္ဂိုလ်သည် အတိတ် အနာဂတ် တရားနှစ်ပါးနှင့် အမြဲပြည့်စုံနေသည်ဟု ဆိုကြ၏။ ဤဝါဒကို ၅။ သဗ္ဗမတ္ထိတိကထာ၊ ၉။ ဟေဝတ္ထိကထာ၊ ၃၆။ သမန္နာဂတကထာ တို့၌ ဖြေရှင်း ရေးသားခဲ့ပြီ။

## ၉၅။ နိရောဓကထာ

**ရှေ့စိတ်၏ ဘင်ခဏသည် နောက်စိတ်၏ ဥပါဒ်ခဏနှင့် ချိတ်ဆက်လော၊ တေ့ဆက်လော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ရှေ့နောက် အဆက်မပြတ် ဖြစ်ပျက်နေသော နာမ်ခန္ဓာ ဖြစ်စဉ်ကြီးတွင် ရှေ့စိတ် ချုပ်ဆဲခဏ၌ နောက်စိတ်ဖြစ်ပေါ်၏။ (ဝါ - ဘင်ခဏနှင့်ဥပါဒ်ခဏပြိုင်၍ ဖြစ်၏)။ အပျက်နှင့်အဖြစ်သည် ချိတ်ဆက်သဘောရှိသည်ဟု ဆိုကြ၏။ သို့မှသာလျှင် စိတ်ဖြစ်စဉ်ကြီး အဆက်မပြတ်ဘဲ သတ္တဝါသည် အသက်ရှင်လျက် ရှိပေမည်။ အကယ်၍ ရှေ့စိတ်ချုပ်ပြီးမှ နောက်စိတ်ဖြစ်၍ အပျက်နှင့်အဖြစ်သည် တေ့ဆက်ဖြစ်သည်ဟု ဆိုပါက သေပြီးမှ တစ်ဖန် အသစ်ဖြစ်သည်ဟု ဆိုရာရောက်၏။ အထူးသဖြင့် နောက်ဆုံး ဘဝင်စိတ်ကို စုတိစိတ်ဟု ခေါ်ရသောကြောင့် ဘဝင်္ဂုပစ္ဆေဒစိတ်နှင့် အာဝဇ္ဇန်းစိတ်တို့၏အကြား၌ တေ့ဆက် မဆက်ဘဲ ချိတ်ဆက် ဆက်လိုကြ၏။ တေ့ဆက်ဆက်သည်ဟု ဆိုပါက ဘဝင်နှင့်အာဝဇ္ဇန်းအကြား၌ သတ္တဝါများ သေဆုံးသွားမည် စိုးကြ၏။

သကဝါဒီအလို ရှေ့စိတ်၏ ဘင်ခဏနှင့် နောက်စိတ်၏ ဥပါဒ်ခဏသည် ရှေ့နောက်ကပ်၍ တေ့ဆက်သဘောဖြင့် ဆက်စပ်ခြင်းဖြစ်၏။ နဘေထပ်၍ ချိတ်ဆက်ဆက်သည်ဟုဆိုလျှင် ရှေ့ခန္ဓာငါးပါးနှင့် နောက်ခန္ဓာငါးပါးတို့ တူပြိုင်၍ သတ္တဝါတစ်ဦးတွင် ခန္ဓာဆယ်ပါး တစ်ပြိုင်နက်တည်း ရှိသည်ဟု ဆိုရာရောက်၏။ ထိုသို့ မဖြစ်သင့်သောကြောင့် ပရဝါဒကို ပယ်အပ်၏။

## ၉၆။ ရူပံ မဂ္ဂေါတိ ကထာ

ရုပ်သည် မဂ္ဂင်အမည်ရသလော။

ပရဝါဒီ အဟိသာသကဂိုဏ်း သမ္မိတိယဂိုဏ်းနှင့် မဟာသံဃိကဂိုဏ်းသားတို့က (သမ္မာဝါစာ) ကောင်းသောစကား ဆိုသည်မှာ ဝစီဝိညတ်ရုပ်၊ (သမ္မာကမ္မန္တ) ကောင်းသောအလုပ် ဆိုသည်မှာ ကာယ

ဝိညတ်ရုပ်၊ (သမ္မာအာဇီဝ) ကောင်းသော အသက်မွေးမှု ဆိုသည်မှာ ကာယဝိညတ်, ဝစီဝိညတ်ရုပ်၊ ဤရုပ်များကို မဂ္ဂင်ဟု ခေါ်လိုကြ၏။ သမ္မာဝါစာမဂ္ဂင်၊ သမ္မာကမ္မန္တမဂ္ဂင်၊ သမ္မာအာဇီဝမဂ္ဂင်တို့သည် ရုပ်တရားသာ ဖြစ်ခြင်းကြောင့် ဤမဂ္ဂင်သုံးပါးကို ရုပ်တရားဟု ယူဆကြ၏။

သကဝါဒီအလို သမ္မာဝါစာ စသော (ဝိရတီသုံးပါး) မဂ္ဂင်တရားသည် ရုပ်မဟုတ်၊ (စေတသိက်) နာမ်တရားများသာ ဖြစ်ကုန်၏။ ကောင်းသောစကား (ဝစီဝိညတ်ရုပ်)ကို သမ္မာဝါစာဟု မဆိုလိုချေ။ မကောင်းသော မမှန်သောစကားကို မပြောမိအောင် ထိန်းသိမ်းသော စေတသိက်၊ မကောင်းသောစကားကို ပြောဆိုခြင်းမှ ရှောင်ကြဉ်သော စေတသိက်ကို သာလျှင် သမ္မာဝါစာဟု ခေါ်ခြင်းဖြစ်သည်။ ထိုနည်းအတူ သမ္မာကမ္မန္တ, သမ္မာအာဇီဝမဂ္ဂင်တို့၌လည်း စေတသိက်ကိုသာ ဆိုလို၏။ ထို့ကြောင့် ရုပ်ကို မဂ္ဂင်ဟု မခေါ်သင့်၊ စေတသိက်ကိုသာ မဂ္ဂင်ဟု ခေါ်သင့်၏။

## ၉၇။ ပဉ္စဝိညာဏမဂ်ဂီယ မဂ္ဂကထာ

### မြင်ခိုက်, ကြားခိုက်၌ မဂ်ဉာဏ်ဖြစ်နိုင်သလော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က မြင်သိစိတ် စသည်ဖြစ်ခိုက်၌ မဂ်ဉာဏ်ဖြစ်နိုင်သည်ဟု ဆိုကြ၏။ မြင်စိတ်ဖြစ်ခိုက်၌ မြင်စိတ်နှင့် တူပြိုင်လျက် မဂ်ဉာဏ်လည်း ဖြစ်သည်ဟု ဆိုကြ၏။ ထိုမဂ်ဉာဏ်သည် စိတ်နှင့်မယှဉ်ဘဲ သီးခြားကင်းလွတ်စွာ ဖြစ်နိုင်၏။ အလားတူပင် ကြားသိစိတ်၊ နံသိစိတ်၊ လျက်သိစိတ်၊ ထိသိစိတ်တို့ ဖြစ်ခိုက်၌လည်း မဂ်ဉာဏ်ဖြစ်သည်ဟု ယူဆကြ၏။

"စက္ခုနာ ရူပံ ဒိသွာ န နိမိတ္တဂ္ဂါဟီ ဟောတိ"

စက္ခုနာ၊ စက္ခုဝိညာဏစိတ်ဖြင့်။ ရူပံ၊ ရူပါရုံကို။ ဒိသွာ၊ မြင်၍။ နိမိတ္တဂ္ဂါဟီ၊ နိမိတ်ကို (ကျားမခွဲခြား၍) နှလုံးသွင်းသည်။ န ဟောတိ၊ မဖြစ်။

ဤပါဠိတော်၌ 'န နိမိတ္တနှင့် အနိမိတ္တ'မှာ တူသည်ဟု ယူဆ၍ အနိမိတ္တဟူသည်ကား နိဗ္ဗာန်ပင်တည်း၊ ထို့ကြောင့် အနိမိတ္တ = နိဗ္ဗာန်ကို

အာရုံပြုသော မဂ်ဉာဏ်သည် စက္ခုဝိညာဏ်နှင့် တူပြိုင်ဖြစ်နေသည်ဟု အယူမှားခြင်းဖြစ်၏။

သကဝါဒီအလို မဂ်ဉာဏ်သည် မဂ်စိတ်နှင့် ယှဉ်တွဲ၍ အတူတကွ ဖြစ်တတ်၏။ မြင်သိစိတ် အစရှိသော ပဉ္စဝိညာဏ်နှင့် ယှဉ်တွဲ၍ မဖြစ်နိုင်။ ပဉ္စဝိညာဏ်စိတ်သည် ရူပါရုံအစရှိသော ရုပ်ကိုသာ အာရုံပြု၏။ မဂ်ဉာဏ်သည် နိဗ္ဗာန်ကိုသာ အာရုံပြု၏။ ဤသို့ အာရုံမတူသော နာမ်တရားနှစ်ခုသည် အတူယှဉ်ပြိုင်၍ မဖြစ်နိုင်ချေ။ ထို့ပြင် မဂ်စိတ်သည် လေးမျိုးရှိ၍ ပုဂ္ဂိုလ်တစ်ဦး၏သန္တာန်၌ တစ်မျိုးလျှင် တစ်ကြိမ်စီသာ ဖြစ်ခွင့်ရှိ၏။ မြင်သိစိတ်အစရှိသော ပဉ္စဝိညာဏ်စိတ်မှုကား မရေမတွက်နိုင်အောင် ဖြစ်နိုင်သောကြောင့် ပဉ္စဝိညာဏ်ဖြစ်တိုင်း မဂ်ဉာဏ်ဖြစ်ရပါမူ ပုဂ္ဂိုလ်တစ်ဦး၏သန္တာန်၌ မဂ်ဉာဏ်ပေါင်း အကြိမ်သိန်းသန်းမက ဖြစ်လေရာ၏။ ထို့ကြောင့် ပရဝါဒကို ပယ်မြစ်အပ်၏။

## ၉၈။ ပဉ္စဝိညာဏာ ကုသလာကုသလာ

**မြင်သိစိတ် အစရှိသော ပဉ္စဝိညာဏ်စိတ်တို့သည် ကုသိုလ်စိတ်၊ အကုသိုလ်စိတ် ဖြစ်ကြသလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က အဆင်းရူပါရုံကို မြင်သော စိတ်သည် ရံခါ ကုသိုလ်ဖြစ်၍ ရံခါ အကုသိုလ်ဖြစ်သည်ဟု ယူဆကြ၏။ မျက်စိဖြင့် ရူပါရုံကို မြင်ရာ၌ သာယာဖွယ်၊ နှစ်သက်ဖွယ် ယောကျ်ား မိန်းမဟု နှလုံးသွင်းပါက အကုသိုလ်စက္ခုဝိညာဏ်စိတ်ဖြစ်၏။ ယောကျ်ား မိန်းမဟု နှလုံးမသွင်းဘဲ နေပါက ကုသိုလ်စက္ခုဝိညာဏ်စိတ် ဖြစ်သည်ဟု ယူဆကြ၏။

သကဝါဒီအလို မြင်သိစိတ် အစရှိသော ပဉ္စဝိညာဏ်စိတ်သည် ဝိပါက် (အကျိုး) စိတ်သာလျှင် ဖြစ်၍ ကုသိုလ်၊ အကုသိုလ်စိတ် မဟုတ်ချေ။ အဆင်း ရူပါရုံကို မြင်ရာ၌ ယောကျ်ား၊ မိန်းမ နှလုံးသွင်းမှုသည် မြင်ခိုက်၌ မဖြစ်ချေ။ မြင်ပြီးနောက် တစ်ဆက်တည်းဖြစ်ပေါ်သော ဇောစိတ်များကသာလျှင် ယောကျ်ား၊ မိန်းမဟု နှလုံးသွင်းမှု မသွင်းမှုကို

ပြုကြကုန်၏။ ထို့ကြောင့် မြင်ခိုက်၌ရှိသော မြင်သိစိတ်သည် ဝိပါက် (အကျိုး)စိတ်သာလျှင်ဖြစ်၍ ထိုမြင်သိစိတ်၏ နောက်၌ကပ်လျက် ဆက်လက်ဖြစ်ပေါ်သော နောက်စိတ် (ဇောစိတ်)များကိုသာ ကုသိုလ်စိတ်, အကုသိုလ်စိတ်ဟု ခေါ်သင့်၏။ စိတ်ဖြစ်စဉ်သည် လွန်စွာလျှင်မြန်ရကား မြင်သိ (စက္ခုဝိညာဏ်) စိတ်နှင့် နှလုံးသွင်းစိတ် (ဇောစိတ်)တို့ကို တစ်ပြိုင်နက် အတူဖြစ်ကြသည်ဟု ထင်မှတ်မှား၍ ပရဝါဒီသည် ဤသို့ အယူမှားခြင်းဖြစ်၏။

## ၉၉။ သာဘောဂေါတိ ကထာ

**စက္ခုဝိညာဏ် အစရှိသော ပဥ္စဝိညာဏ်စိတ်သည် အာရုံ၏ အကောင်းအဆိုးကို ခွဲခြားသိတတ်သလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ပဥ္စဝိညာဏ်စိတ်သည် အာရုံကို အကောင်းအဆိုး ခွဲခြားတတ်၍ နှစ်သက်ဖွယ်, မနှစ်သက်ဖွယ်ဟု ခွဲခြားနှလုံးသွင်းတတ်သည်ဟု ဆိုကြ၏။

သကဝါဒီအလို ပဥ္စဝိညာဏ်သည် အာရုံကို အကောင်းအဆိုး ခွဲခြားနှလုံးမသွင်းတတ်၊ ထိုသို့ အကောင်း, အဆိုး, နှစ်သက်ဖွယ်, မနှစ်သက်ဖွယ်ဟု ခွဲခြား နှလုံးသွင်းမှုမှာ ထိုပဥ္စဝိညာဏ်၏ နောက်၌ ဆက်လက်ဖြစ်ပေါ်သော ကုသိုလ်, အကုသိုလ်ဇောတို့၏ လုပ်ငန်းဖြစ်ပေသည်။

## ၁၀၀။ ဒွီဟိ သီလေဟိ ကထာ

**မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်သည် လောကီသီလ, လောကုတ္တရာသီလ နှစ်ပါးတို့နှင့် ပြည့်စုံသလော။**

ပရဝါဒီ မဟာသံဃိက ဂိုဏ်းသားတို့က ပုထုဇဉ်ပုဂ္ဂိုလ်သည် အရိယာနယ်သို့ ကူးပြောင်းဝင်ရောက်သောအခါ ပုထုဇဉ်ဘဝကရှိသော စိတ္တဝိပ္ပယုတ္တ လောကီသီလများကို ကြားကာလ၌ အဆက်ပြတ်ခြင်းမရှိစေဘဲ မဂ်စိတ်ဖြစ်သည့်အချိန်အထိ လောကီသီလနှင့် ပြည့်စုံနေရမည်။ ထို့ကြောင့် မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ် (မဂ်စိတ်ဖြစ်ခိုက်)၌ လောကီသီလများ

ဆက်လက်ပါရှိလာ၍ လောကုတ္တရာမဂ်သီလများလည်း အသစ်ဖြစ်ပေါ် လာရကား လောကီသီလ, လောကုတ္တရာ သီလနှစ်ပါးနှင့် တစ်ပြိုင်နက် ပြည့်စုံနေရမည်ဟု ယူဆကြ၏။ အကယ်၍ လောကီစိတ် (ဂေါတြဘူဇော) အခိုက်၌ရှိသော လောကီသီလများသည် မဂ်စိတ်ခဏသို့ ကူးပြောင်း လိုက်ပါခြင်းမရှိဘဲ ဂေါတြဘူစိတ်၏ ဘင်ခဏ၌သာ ချုပ်ငြိမ်းသည်ဟု ဆိုပါက သီလချုပ်ငြိမ်းပျောက်ကွယ်သူသည် သီလမရှိသူဖြစ်၏။ ထိုသို့ ဆိုပါက သီလမရှိသော (ဒုဿီလ) ပုဂ္ဂိုလ်က မဂ်ဉာဏ်ရသည်ဟု ဆိုရာ ရောက်သည်ဟု အပြစ်တင်၏။

သကဝါဒီအလို လောကီသီလများသည် မဂ်ခဏ (မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်) သို့ လိုက်ပါခြင်း မရှိချေ။ လောကုတ္တရာသီလ တစ်မျိုးတည်းသာ ရှိသည်။ သီလစေတသိက် (ဝိရတီ)များ ချုပ်ပျက်မှု (ခဏဘင်္ဂနိရောဓ)ကို သီလ ပျက်သည်။ သီလမရှိဟု မဆိုသင့်၊ သိက္ခာပုဒ်များကို ကျူးလွန်မှုသာလျှင် (မကောင်းမှု ကျူးလွန်ပြုလုပ်မှုသာလျှင်) သီလဝီတိက္ကမ သီလပျက်သည်။ သီလမရှိဟု ဆိုသင့်၏။

## ၁၀၁။ သီလံ အစေတသိကန္တိ ကထာ

**စိတ်နှင့်မယှဉ်တွဲဘဲ အလွတ်တည်နိုင်သော သီလရှိသလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က သီလသည် စိတ်နှင့် ယှဉ်တွဲခြင်းမရှိ (စိတ္တဝိပ္ပယုတ္တ)ဟု ယူဆကြ၏။ သီလကို တစ်ကြိမ် ဆောက်တည်ပြီးပါက ထိုသီလကို မလွန်ကျူးမချင်း သီလရှိသည်ဟု ဆိုနိုင်သောကြောင့် သီလသည် စိတ်နှင့်မယှဉ်ဘဲ သီးသန့်အလွတ်တည်ရှိသည်ဟု ဆိုကြ၏။

သကဝါဒီအလို သီလ ဟူသည် ဝိရတီစေတသိက်ကို ဆိုလို၏။ ဝိပါက်စိတ်, အဗျာကတစိတ်များဖြစ်ခိုက်၌ သီလရှိသူဟု သုတ္တန်နည်းအားဖြင့် ခေါ်နိုင်သော်လည်း အဘိဓမ္မာနည်းအားဖြင့် ဝိရတီစေတသိက်များရှိသည်ဟု မဆိုနိုင်ချေ။ ထို့ကြောင့် စိတ်နှင့်မယှဉ်သော သီလ (စိတ္တဝိပ္ပယုတ္တသီလ)ဟူ၍ မရှိဟု မှတ်အပ်၏။

## ၁၀၂။ သီလံ န စိတ္တာနုပရိဝတ္တိတိ ကထာ

**သီလသည် စိတ်နောက်သို့ အစဉ်တစိုက် လိုက်၍ ဖြစ်ခြင်း ရှိသလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က သီလသည် စိတ်နောက်သို့ အစဉ်တစိုက် လိုက်၍ ဖြစ်ခြင်းမရှိဟု ဆို၏။ အထက်ဖော်ပြပါ ကထာ အမှတ် ၁၀၁ နှင့် တူပြီ။

## ၁၀၃။ သမာဒါနဟေတုကထာ

**သီလကို ဆောက်တည်ထားရုံမျှဖြင့် ကုသိုလ် တိုးပွားနေသလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က သီလကို ဆောက်တည်ထား ရုံမျှဖြင့် ကုသိုလ်တိုးပွားနေမည်။ သီလသည် စိတ်နှင့်မယှဉ်ဘဲ သီးသန့် အလွတ်တည်နိုင်သော စိတ္တဝိပ္ပယုတ္တတရားဟု ယူဆကြ၏။

သကဝါဒီအလို သီလကို ဆောက်တည်ထားရုံမျှဖြင့် ကုသိုလ်တိုးပွား ခြင်းမရှိ၊ ဆောက်တည်သည့် ကုသိုလ်မျှကိုသာ ရ၏။ မိမိသီလကို အဖန် ဖန် ဆင်ခြင်အောက်မေ့သူအားသာလျှင် ကုသိုလ်တိုးပွား၏။ မအောက် မေ့ပါက ကုသိုလ်ပွားခြင်း မရှိဟု မှတ်သင့်၏။

## ၁၀၄။ ဝိညတ္တိ သီလန္တိ ကထာ

**ဝိညတ်ရုပ်သည် သီလမည်သလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ကာယ ဝိညတ်ရုပ်နှင့် ဝစီဝိညတ်ရုပ်ကို သီလဟု ယူဆကြ၏။ ထို့ကြောင့် ရှိခိုး ခြင်း၊ အရိုအသေပေးခြင်း၊ အမှုကြီးငယ် ဝေယျာဝစ္စ ဆောင်ရွက်ပေးခြင်း တို့ကို ကိုယ်ကာယ လှုပ်ရှားမှု ကာယဝိညတ်ဖြစ်သောကြောင့် သီလဟု ခေါ်ဆိုကြ၏။

သကဝါဒီအလို ပါဏာတိပါတစသည်မှ ရှောင်ကြဉ်ကြောင်း (ဝိရတီ) စေတသိက်ကိုသာ သီလဟု ခေါ်၍ ဝိညတ်ရုပ်ကို သီလဟု မခေါ်ချေ။

## ၁၀၅။ အဝိညတ္တိ ဒုဿီလျတ္တိ ကထာ

### ကိုယ်နှုတ်နှစ်ပါးဖြင့် လွန်ကျူးမှု (ဝိညတ်) မရှိဘဲ သီလပျက်သလော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ကိုယ်နှုတ်နှစ်ပါးဖြင့် မလွန်ကျူးဘဲ (ဝိညတ်မပါဘဲ) သီလပျက်စီးသည်ဟု ယူဆကြ၏။ ဥပမာအားဖြင့် လူသတ်ရန် တစ်ရက် နှစ်ရက်က ကြိုတင်၍ စေခိုင်းထားရာ ခိုင်းပြီးနောက် အခိုင်းခံရသူက တစ်ရက် နှစ်ရက်ကြာမှ သတ်ဖြတ်၏။ ထိုအမှု၌ စေခိုင်းသူသည် လူသတ်မှု အကုသိုလ်ကံထိုက်၏၊ သီလပျက်၏။ ထိုအချိန်၌ ကိုယ်တိုင်ပြုမှု (ကာယဝိညတ်)၊ သူတစ်ပါးအား စေခိုင်းမှု (ဝစီဝိညတ်)ကို ပြုလုပ်ခြင်း မရှိသောကြောင့် ဝိညတ်မပါဘဲ (ဝိညတ်ကင်းလျက်) သီလပျက်ရသည်ဟု ဆိုကြ၏။ ပရဝါဒီတို့က အကုသိုလ်မှုကို ပြုလုပ်ရန် စိတ်ဆုံးဖြတ်ထားပါက ထိုအမှုကို ပြုသည်ဖြစ်စေ၊ မပြုသည်ဖြစ်စေ အကုသိုလ်တရားသည် ဆက်တိုက် တိုးပွားနေသည်ဟု ဆိုကြ၏။

သကဝါဒီအလို ကိုယ်တိုင်ပြုမှု (ကာယဝိညတ်)၊ သူတစ်ပါးကို စေခိုင်းမှု (ဝစီဝိညတ်) နှင့်ကင်း၍ သီလပျက်စီးခြင်းမရှိ၊ ကြိုတင်စေခိုင်း၍ သတ်စေရာ၌ သတ်ချိန်တွင် စေခိုင်းမှု (ဝစီဝိညတ်) မရှိသော်လည်း ထိုသတ်မှုသည် မူလစေခိုင်းသောကြောင့်သာဖြစ်ရကား အတိတ်ဖြစ်သော ဝစီဝိညတ်သည် အကြောင်းရင်းခံသည်ဟု မှတ်သင့်၏။ သတ်ရန် စိတ်ဆုံးဖြတ်မှုပြုလျှင် ထိုဆုံးဖြတ်သည့် မနောကံအကုသိုလ်မျှသာဖြစ်၏။ နောက်ထပ် အကြိမ်ကြိမ် ထပ်မံအောက်မေ့ကြံစည်လျှင် အကုသိုလ် တိုးပွား၍ တစ်ကြိမ်မျှ ထပ်မံကြံစည်ခြင်း မရှိဘဲနေပါက အကုသိုလ် တိုးပွားမှုမရှိ၊ အကုသိုလ်သည် ပထမ ဆုံးဖြတ်ရုံသက်သက်မျှဖြင့် တိုးပွားသည် မဟုတ်၊ အထပ်ထပ် ကြံစည်အောက်မေ့မှုကြောင့်သာ အကုသိုလ် တိုးပွားရလေသည်။ ထို့ကြောင့် ဝိညတ်မပါဘဲ သီလပျက်စီးမှု မရှိဟု မှတ်အပ်၏။

## ၁၀၆။ အနုသယာ အဗျာကတကထာ

အနုသယကိလေသာသည် အဗျာကတလော။

## ၁၀၇။ အနုသယာ အဟေတုကကထာ

အနုသယကိလေသာသည် အဟိတ်လော။

## ၁၀၈။ အနုသယာ စိတ္တဝိပ္ပယုတ္တကထာ

အနုသယကိလေသာသည် စိတ်နှင့်မယှဉ်သလော။

ဤဝါဒသုံးပါးမှာ မဟာသံဃိကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့၏ ဝါဒဖြစ်၏။ အနုသယကိလေသာသည် စိတ်နှင့်ယှဉ်သော စိတ္တသမ္ပယုတ္တ ဓမ္မဟုဆိုပါက ဖြစ်ခြင်းပျက်ခြင်းမကင်းနိုင်။ ထိုသို့ ဖြစ်ပျက်သဘော ရှိပါက စိတ်နှင့် ယှဉ်တွဲ ဖြစ်ပျက်နေသော အနုသယ ကိလေသာကို အကုသိုလ်ဟူ၍သာ ဆိုရပေမည်။ ပရဝါဒီဂိုဏ်းသားတို့က အနုသယ ကိလေသာသည် တကယ်ဖြစ်ပေါ်နေသည် မဟုတ်၊ ငုပ်လျှိုးနေသော စွမ်းအားသတ္တိကို အရှိတရားဟု ယူဆကြ၏။ ထိုအနုသယသည် ဥပါဒ်၊ ဌီ၊ ဘင်သို့ မရောက်မီ ကြိုတင်ရှိနေသော စွမ်းအားတစ်မျိုးသာဖြစ်၍ စိတ်နှင့်မယှဉ်သော စိတ္တဝိပ္ပယုတ္တတရားသာ ဖြစ်ရကား အကုသိုလ် ဟုလည်း မခေါ်ဆိုသင့်၊ အနုသယသည် ကိလေသာ ဖြစ်သောကြောင့် ကုသိုလ်ဟူ၍လည်း မခေါ်ဆိုသင့်၊ ကုသိုလ် အကုသိုလ်မှ အလွတ် အဗျာကတတရားဟု ခေါ်ဆိုသင့်၏။ မူလသဘာဝအတိုင်း စွမ်းအင် အဖြစ်ဖြင့် တည်ရှိနေသော အနုသယကို 'အဗျာကတ'ဟု ခေါ်ဆို၍ ထိုအဗျာကတမှ လောဘ ဒေါသစသော အကုသိုလ်တရားများ ပေါ် ပေါက်လာကြသည်ဟု ဆိုကြ၏။

တစ်နည်း ထပ်မံရှင်းရပါမူ ကိလေသာကို ဝီတိက္ကမကိလေသာ၊ ပရိယုဋ္ဌာနကိလေသာ၊ အနုသယကိလေသာ ဟူ၍ သုံးမျိုး ခွဲခြားရာ သတ်ဖြတ်မှု၊ လုယက်မှု စသည်ကို ကိုယ်ထိလက်ရောက်ကျူးလွန်သော

ကိလေသာသည် (ကာယကံ, ဝစီကံ) ဝီတိက္ကမကိလေသာ မည်လေ၏။ ထိုမကောင်းမှုများကို ကျူးလွန်ရန် ကြံစည်မှု မနောကံ ကိလေသာသည် ပရိယုဋ္ဌာနကိလေသာ မည်၏။ ထိုမနောကံအဆင့်သို့ မရောက်မီ ဥပါဒ် ဌီ ဘင် ကင်းလျက် ငုပ်လျှိုးစွမ်းအင်အဖြစ်ဖြင့် တည်ရှိသော ကိလေသာသည် အနုသယကိလေသာ မည်၏ဟု ဆိုကြ၏။ ထိုအယူဝါဒအရ အနုသယ ကိလေသာသည် စိတ်နှင့် မယှဉ်တွဲဘဲ သီးသန့်အလွတ်တည်ရှိ၍ ကုသိုလ် အကုသိုလ်ဟု မခေါ်လိုကြ၊ အဗျာကတဟူ၍ ခေါ်လိုကြ၏။ မဖြစ်သေးသော ငုပ်လျှိုးသတ္တိဖြစ်၍ လောဘ, ဒေါသ, မောဟ ဟူသော ဟိတ်တရားတို့နှင့်လည်း မယှဉ် (အဟေတုက)ဟု ယူဆ၏။ စိတ်နှင့် မယှဉ် (စိတ္တဝိပ္ပယုတ္တ)ဟု ယူဆကြ၏။ ဤအယူအဆကို အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထက ဂိုဏ်းသားအချို့တို့ လက်ခံကြောင်းကို ကထာနံပါတ် (၈၇) အနုသယာ အနာရမ္မဏာကထာ၌ ပြခဲ့ပြီ။ ဤခေတ်တွင် မြန်မာ နိုင်ငံ၌ အနုသယနှင့် စပ်လျဉ်း၍ သကဝါဒဘက်၌ မရပ်တည်ကြဘဲ ပရဝါဒဘက်၌ ရပ်တည်၍ ရေးသား ပြောဟောနေကြသည်ကို တွေ့ရ၏။ သတိရှိတော်မူကြပါကုန်။

သကဝါဒီအလို အနုသယ ကိလေသာသည်လည်း ဥပါဒ် ဌီ ဘင် ရှိ၏။ ငုပ်လျှိုးနေသော စွမ်းအင်တစ်မျိုး မဟုတ်၊ ဖြစ်ပျက်သဘောကို မလွန်ဆန်နိုင်၊ ဖြစ်ခြင်းပျက်ခြင်းသဘော ရှိ၏။ စိတ်နှင့်ယှဉ်တွဲ၍ စိတ်နှင့်အတူတကွ ဖြစ်ပျက်နေ၏။ (စိတ္တသမ္ပယုတ္တ) အဗျာကတမဟုတ်ချေ။ စင်စစ် အကုသိုလ်တရားသာလျှင် ဖြစ်၏။ လောဘ, ဒေါသ, မောဟ တို့နှင့် ယှဉ်တွဲ၍ ဖြစ်ပေါ်သောကြောင့် အဟေတုက မဟုတ်ချေ။ စိတ်နှင့် ယှဉ်တွဲ၍ ဖြစ်၏။ အနုသယကိလေသာသည် အခြားကိလေသာတို့ကဲ့သို့ ဖြစ်ပျက်သဘောရှိ၏။

ထူးခြားချက်မှာ အနုသယကိလေသာသည် သဘောအားဖြင့် နူးညံ့ သိမ်မွေ့၏။ သာမန်အသိဉာဏ်ရှိသူတို့အနေဖြင့် အကုသိုလ်ဟူ၍ မထင်မှတ်နိုင်လောက်အောင် သိမ်မွေ့၏။ သူတစ်ပါးပစ္စည်းကို ခိုးယူ လုယက်ခြင်း၊ သူတစ်ပါးမယား, သူတစ်ပါးသားပျို, သမီးပျိုကို ဖျက်ဆီး

စော်ကားခြင်း (ကာယကံမှု၊ ဝစီကံမှု)ကို လူတိုင်းက လက်မခံနိုင်၊ လူတိုင်းက အပြစ်တင်ရှုတ်ချကြ၍ အပြစ်ဟု သတ်မှတ်ကြ၏။ ထိုသို့ ကြမ်းတမ်းသော ကိလေသာမျိုးကို ဝီတိက္ကမကိလေသာဟု ခေါ် ရ၏။ တစ်ဖန် ထိုသို့ ခိုးယူလုယက်ရန်, သူတစ်ပါးသားမယား ဖျက်ဆီးရန် ကြံစည်မှု မနောကံကိုလည်း လူတိုင်းက လက်မခံနိုင်၊ သို့ရာတွင် ကာယကံ, ဝစီကံ မမြောက်သေးသဖြင့် ဘေးလူတို့ မသိနိုင်၊ မနောကံမျှသာဖြစ်၍ သူတစ်ပါးအကျိုးပျက်စီးမှုမရှိသေး၊ ဝီတိက္ကမထက် နူးညံ့သိမ်မွေ့၏။ စိတ်တွင်း၌ ထကြွလှုပ်ရှားရုံမျှဖြစ်၍ ပရိယုဋ္ဌာနကိလေသာဟု ခေါ် ရ၏။ အနုသယကိလေသာဆိုသည်မှာ လူသာမန်တို့က အပြစ်ဟူ၍ မသတ်မှတ်ကြ၊ အပြစ်ဖြစ်မှန်း မသိကြ၊ ဘုရား, ရဟန္တာ အရိယာသူတော်ကောင်းတို့က ညွှန်ပြပါမှ အပြစ်ဟု ကြားဖူးကြသည်။ ဝိပဿနာတရားကို အားထုတ်ကြည့်ပါမှ အနုသယကိလေသာ တဖွားဖွားဖြစ်နေပုံကို သိမြင်ကြရ၏။

ဥပမာ - မိမိကိုယ်ကို ချစ်ခင်စွဲလမ်းမှု ငါ၊ ငါ့ဥစ္စာ၊ ငါ့သား ငါ့မယားဟု စွဲလမ်းမှု ထင်မှတ်မှု (အနုစား လောဘ)ကို မည်သည့်လောကီပညာရှင်မျှ အပြစ်မပြောချေ။ ထိုစွဲလမ်းချစ်ခင် ထင်မှတ်မှုများသည် တရားမျှတသည်။ မတရား မဟုတ်ဟု ယူဆကြ၏။ ဤသို့ နူးညံ့သိမ်မွေ့သော လောဘမျိုးကို အနုသယကိလေသာဟု ခေါ်၏။ သူတစ်ပါး ပစ္စည်းဥစ္စာနှင့် သားမယား လုယက်ခိုးယူသော အကြမ်းစားလောဘ (ဝီတိက္ကမကိလေသာ) ကို သီလဖြင့် ပယ်နိုင်၏။ သီလဆောက်တည်သွားပါက ထိုကိလေသာ မဖြစ်။ (ဝါ) ကျူးလွန်သည့် အခြေအနေမျိုးသို့ မရောက်တော့ဟု ဆိုလို၏။ လုယက်ခိုးယူရန် ကြံစည်မှု မနောကံ လောဘ (ပရိယုဋ္ဌာနကိလေသာ) ကို စျာန်သမာပတ်ဖြင့် ပယ်နိုင်၏။ သမာဓိဘာဝနာ (သမထ) လုပ်ငန်းလုပ်နေပါက ထိုအကြံဆိုး (မနောကံ)များ မပေါ်တော့ဟု ဆိုလို၏။

မိမိကိုယ်ကို ချစ်ခင်စွဲလမ်း၍ ငါ, ငါ့ဥစ္စာဟု ထင်မှတ်သော သိမ်မွေ့သော လောဘ ဒိဋ္ဌိ (အနုသယကိလေသာ)ကိုမူကား သီလ, သမာဓိဖြင့် မပယ်နိုင်၊ အဒိန္နာဒါနာ ဝေရမဏီ-သူတစ်ပါးပစ္စည်း မခိုးပါဟု သီလ

ဆောက်တည်သော်လည်း ငါ, ငါ့ဥစ္စာဟု ထင်မှတ်မှုကား ပျောက်မသွားချေ၊ ရှိနေသည်သာ ဖြစ်၏။ ကာမေသုမိစ္ဆာစာရာ ဝေရမဏီ = သူတစ်ပါး သားမယားကို မကျူးလွန်ပါဟု သီလဆောက်တည်သော်လည်း မိမိမယားကို ငါ့မယားဟု မှတ်ထင်မှုကား ပျောက်မသွားချေ၊ ရှိနေသည်သာ ဖြစ်သည်။ ဤကား အနုသယကိလေသာကို သီလက မပယ်နိုင်ပုံတည်း။ သမထဘာဝနာအားထုတ်၍ ဈာန်သမာဓိ အဆင့်ဆင့် ရနေသော်လည်း ငါ,ငါ့ဥစ္စာဟု မှတ်ထင်မှုကား လျော့ပါးမသွားချေ။ ဈာန်သမာဓိ အားကောင်းသော မဟာဗြဟ္မာကြီးများသည်ပင်လျှင် မိမိကိုယ်ကို ငါထင်မှတ်မှု မပျောက်ချေ။ ငါ၊ ငါ့ဥစ္စာ၊ ငါ့ပရိသတ်၊ ငါ့ဘုံဌာနဟု ထင်မှတ်မှုတည်းဟူသော သိမ်မွေ့သော လောဘ, ဒိဋ္ဌိ (အနုသယကိလေသာ)ကား လျော့ပါးမသွားချေ။ ငါစွဲတန်းလန်းဖြင့် ဈာန်ရနိုင်၏။ ထိုသို့သိမ်မွေ့သော လောဘ (အနုသယကိလေသာ)ကို မဂ်ဉာဏ်ကသာလျှင် ပယ်နိုင်၏။ ရုပ်နာမ်သဘာဝတရားတို့ကို ခွဲခြမ်းစိတ်ဖြာသုံးသပ်၍ နာမ်ရုပ်တို့၏ ဖြစ်ပျက်ကို မြင်ပြီးနောက် နိဗ္ဗာန်အာရုံကို သိသည်နှင့် တစ်ပြိုင်နက် ငါရှိသည်ဟု ထင်မှတ်မှုသည် အဆင့်ဆင့်ကွယ်ပျောက်သွား၏။ ထို့ကြောင့် အနုသယကိလေသာကို မဂ်ပညာကသာလျှင် ပယ်နိုင်သည်ဟုသာ ဆိုရမည်။

အနုသယကိလေသာဆိုသည်မှာ ဥပါဒ်, ဌီ, ဘင် အခိုက်သို့ ရောက်နေသော သိမ်မွေ့သော မနောကံ (လောဘစသည်)တို့ ဖြစ်ကြကုန်၏။ ငါ, ငါ့ဥစ္စာ စွဲလမ်း၍ ထင်မှတ်မှုကား တစ်နာရီအတွင်း အကြိမ်များစွာ ဖြစ်၏။ ပတ်ဝန်းကျင်နှင့် ဆက်ဆံရာ၌လည်းကောင်း၊ မိမိတစ်ဦးတည်း နေ၍ ကြံစည်ရာ၌လည်းကောင်း အမြဲတမ်း ပူးတွဲပါဝင်နေ၏။ ထိုသို့ အကြိမ်များစွာ ထပ်တလဲလဲဖြစ်ပေါ်နေခြင်းကြောင့် အိမ်ရှင်သဖွယ် ဖြစ်၍ အင်အားကြီးမား၏ (ထာမဂတ)။ ဝီတိက္ကမနှင့် ပရိယုဋ္ဌာန ကိလေသာတို့မှာ ရံခါမှ ဖြစ်ပေါ်ခြင်းကြောင့် ဧည့်သည်သဖွယ်ဖြစ်၍ အင်အားမကြီးမားချေ။

အနုသယကိလေသာသည် အလွန်သိမ်မွေ့သောကြောင့် ကိလေသာဖြစ်မှန်း မသိဘဲ ရှိတတ်၏။ မှန်သော အယူဝါဒ၊ မှန်သော တရားကို

ဖတ်ရှုနာကြား၍ အသိဉာဏ်ရသောအခါ ငါသိပြီဟု ကျေနပ်နှစ်သက်မှု ဖြစ်တတ်၏။ ထိုကျေနပ်မှု၌ သိမ်မွေ့သော လောဘ မာနတို့ ပါဝင်သွားသည်ကို သာမန်ပုဂ္ဂိုလ်တို့ မသိနိုင်ချေ။ ထို့ကြောင့် တရားဓမ္မ၌ တွယ်တာကပ်ငြိသော ဓမ္မတဏှာကို အကုသိုလ်မဟုတ်ဟူ၍ အချို့ အယူလွဲမှားကြ၏။ ဝိပဿနာရှုရာ၌ ဝိပဿနာဉာဏ်ထက်မြက်၍ ရှုမှတ်ကောင်းပြီး ရှုမှတ်ရန် လွယ်ကူအဆင်ပြေသောအခါ သဘောကျ ကျေနပ်နှစ်သက်မှု (နိကန္တိ-လောဘ)ကို အကုသိုလ်မှန်းမသိဘဲ မဂ်ဉာဏ်, မဂ်ကုသိုလ် ဟူ၍ ပင် ထင်မှတ်တတ်၏။ ဤသို့ အနုသယ၏သဘောအားဖြင့် သိမ်မွေ့ပုံကို ခွဲခြားနားလည်သင့်၏။ အနုသယကိုလေသာသည် ဥပါဒ်, ဌီ, ဘင် မရှိ၊ ငုပ်လျှိုးစွမ်းအင်တစ်မျိုး ဟူသော အယူဝါဒမှာ ပရဝါဒဖြစ်၍ ပယ်အပ်၏။ သတိရှိကြစေ (အကျယ်ကို သိလိုပါမူ အနုသယယမိုက်၌ ရှုတော်မူကြပါကုန်)။

## ၁၀၉။ ဉာဏကထာ

**ဉာဏဝိပ္ပယုတ်စိတ် ပဉ္စဝိညာဏ်ဖြစ်ခိုက် အရိယာပုဂ္ဂိုလ်ကို ဉာဏ်မရှိဟု ဆိုမည်လော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ဉာဏ်မပါသောစိတ် (ဉာဏဝိပ္ပယုတ်စိတ်)ဖြစ်ခိုက်၌ အရိယာပုဂ္ဂိုလ်ကို ဉာဏ်မရှိသော ပုဂ္ဂိုလ်ဟု ဆိုလို၏။ သကဝါဒအရ စိတ္တဝိပ္ပယုတ္တဉာဏ်ကို လက်မခံသောကြောင့် ဉာဏ်မယှဉ်သော ပဉ္စဝိညာဏ်ဖြစ်ခိုက်၌ ဉာဏ်မရှိသောပုဂ္ဂိုလ်ဟု ဆိုရတော့မည်ဟု သကဝါဒအပေါ် အပြစ်တင်ခြင်းဖြစ်၏။ မဟာသံဃိကဂိုဏ်းသားတို့၏ အယူဝါဒအရ ဆိုပါမူ စိတ္တဝိပ္ပယုတ္တဉာဏ်ကို လက်ခံထားသောကြောင့် ပဉ္စဝိညာဏ်ဖြစ်ခိုက်၌ စိတ်နှင့် မယှဉ်တွဲဘဲ သီးသန့်အလွတ်တည်နေသောဉာဏ် (စိတ္တဝိပ္ပယုတ္တဉာဏ်)က အလိုလို တည်ရှိနေသောကြောင့် ထိုအရိယာပုဂ္ဂိုလ်ကို ဉာဏ်ရှိသူဟု ဆိုနိုင်သတတ်။

အမှန်စင်စစ် ပရဝါဒီသည် ပုဂ္ဂလပညတ်၌ မလိမ္မာသောကြောင့် သာလျှင် ဤအတွေးအခေါ် ဝင်လာခြင်းဖြစ်၏။ ပုဂ္ဂိုလ်အနေဖြင့် ပြောရာ၌ ပစ္စုပ္ပန်ခဏ ကွက်ကွက်ကလေးကိုသာ မကြည့်ရ၊ ဘဝတစ်ခုလုံး

ခြုံ၍ ပြောရ၏။ ဘုရားရှိခိုးစာတစ်ပုဒ်ကို အလွတ်ရအောင် ကျက်ပြီးသူ တစ်ယောက်သည် အိပ်ပျော်နေခိုက်, စားသောက်နေခိုက်တို့၌ ထိုသူသည် ဘုရားရှိခိုးစာ ရသလောဟု မေးပါက ရသည်ဟု ဖြေရပေမည်။ ထိုအချိန် အခါ၌ ထိုစာကို ရွတ်ဆိုမနေသော်လည်း ထိုသူကို ဘုရားရှိခိုးစာရသူဟု ဆိုရပေမည်။ အကြောင်းမူ အချိန်မရွေး ထိုစာကို ပြန်လည်ရွတ်ပြနိုင်၏။ ထိုနည်းအတူ အရိယာပုဂ္ဂိုလ်သည် မိမိရပြီးသောဉာဏ်ကို အချိန်မရွေး ပြန်လည် အသုံးပြုနိုင်သောကြောင့် ဉာဏ်မပါသောစိတ် (ပဋ္ဌဝိညာဏ်) ဖြစ်ခိုက်၌လည်း ဉာဏ်ရှိသူ ဟူ၍ ခေါ်ဆိုရ၏။

## ၁၁၀။ ဉာဏံ စိတ္တဝိပ္ပယုတ္တန္တိ ကထာ

### အရိယာတို့၏ဉာဏ်သည် စိတ်နှင့် မယှဉ်တွဲသလော။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့၏ ဝါဒအရ စက္ခုဝိညာဏ် (မြင်သိစိတ်)မှာ ဉာဏ်နှင့်မယှဉ်၊ ထိုဉာဏ်မရှိသော စိတ်တို့ဖြစ်ခိုက်၌ အရိယာ ပုဂ္ဂိုလ်ကို ဉာဏ်ရှိသူဟု ခေါ်နိုင်၏။ အကြောင်းမှာ ဉာဏ်သည် စိတ်နှင့် မယှဉ်တွဲဘဲ သီးသန့်တည်နိုင်သည် (စိတ္တဝိပ္ပယုတ္တဉာဏ်)ဟု ယူဆ၏။ ကြွင်းအထက် ဉာဏကထာနှင့် တူပြီ။

## ၁၁၁။ ဣဒံ ဒုက္ခန္တိ ကထာ

### 'ဣဒံ ဒုက္ခံ' ရွတ်ဆိုသော ပုဂ္ဂိုလ်အား 'ဣဒံ ဒုက္ခံ'ဟူသော ဉာဏ်ဖြစ် သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က လောကုတ္တရာမဂ်စိတ် ဖြစ်ခိုက်၌ အရိယာပုဂ္ဂိုလ်၏ နှုတ်မှ 'ဣဒံ ဒုက္ခံ'ဟု ရွတ်ဆို၍ 'ဣဒံ ဒုက္ခံ -ဤကား ဆင်းရဲတည်း' ဟူသော ဉာဏ်ဖြစ်သည်ဟု ဆိုကြ၏။

သကဝါဒီအလို လောကုတ္တရာမဂ်စိတ်ဖြစ်ခိုက်၌ မည်သည့် စကား အသုံးအနှုန်းကိုမျှ ရွတ်ဆိုခြင်းမရှိချေ။ အကယ်၍သာ ပရဝါဒီဆိုသည့် အတိုင်း ဒုက္ခသစ္စာကို သိခိုက် 'ဣဒံ ဒုက္ခံ'ဟု ရွတ်ဆိုသည် ဆိုပါက

သမုဒယသစ္စာစသည်ကို သိခိုက်၌ 'အယံ သမုဒယော' စသည်ဖြင့် ရွတ်ဆို ရပေလိမ့်မည်။ ထို့ပြင် ပုထုဇဉ်တို့၏နှုတ်မှ 'ဣဒံ ဒုက္ခံ'ဟု ရွတ်ဆို လျှင်လည်း မဂ်ဉာဏ်ဖြစ်ပြီဟု ဆိုရပေလိမ့်မည်။ တစ်နေ့ အကြိမ်တစ် ထောင်ရွတ်ဆိုပါက မဂ်ဉာဏ်အကြိမ် တစ်ထောင်ဖြစ်သည်ဟု ဆိုရာ ရောက်၏။ ထို့ပြင် 'ဣဒံ ဒုက္ခံ'ဟု ရွတ်ဆိုရာ၌ 'ဣ'တစ်လုံး၊ 'ဒံ'တစ်လုံး၊ 'ဒု'တစ်လုံး၊ 'ခံ'တစ်လုံး၊ အက္ခရာလေးလုံး၌ မဂ်ဉာဏ်လေးခုဖြစ်သည်ဟု ဆိုရာရောက်၏။ ထိုသို့ အပြစ်တင်ဖွယ်ရာရှိ၍ မမှန်ကန်သောကြောင့် ပရဝါဒကို ပယ်အပ်၏။

## ၁၁၂။ ဣဒ္ဓိဗလကထာ

**တန်ခိုးဣဒ္ဓိပါဒ်ရှိသောပုဂ္ဂိုလ်သည် မဟာကပ်ပတ်လုံး အသက်ရှင် နေနိုင်သလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က တန်ခိုးဣဒ္ဓိပါဒ်ရှိသူ (ဝါ) ဣဒ္ဓိပါဒ်လေးပါးကို ပွားပြီးသူသည် မဟာကပ်ပတ်လုံး အသက်ရှည်လိုက အသက်ရှင်နေနိုင်သည်ဟု ယူဆကြ၏။ မြတ်စွာဘုရားရှင်က "ယဿ ကဿစိ အာနန္ဒ စတ္တာရော ဣဒ္ဓိပါဒါ ဘာဝိတာ၊ သော အာကင်္ခမာနော ကပ္ပံ ဝါ တိဋ္ဌေယျ = ဣဒ္ဓိပါဒ်လေးပါးကို ပွားများပြီးသူသည် အလိုဆန္ဒရှိ ပါမူ ကပ်တစ်ခု ကြာရှည်အောင် အသက်ရှင်လျက် တည်နေနိုင်၏"ဟု ဟောတော်မူ၏။

ထိုစကားရပ်၌ ကပ်ဟူသည် အာယုကပ် အသင်္ချေယျကပ် မဟာ ကပ် ဟူ၍ သုံးမျိုးရှိ၏။ သတ္တဝါတို့၏ မျိုးရိုးဘုံဌာနအလျောက် တည်ရှိ သော သက်တမ်းကို အာယုကပ်ဟု ခေါ်၏။ ကမ္ဘာပျက်ချိန်ကာလ၊ ပျက် ပြီးအတိုင်းရှိနေသောကာလ၊ ကမ္ဘာတည်ချိန်ကာလ၊ ကမ္ဘာတည်ပြီး နောက် သတ္တဝါတို့ နေထိုင်သော ကာလဟူ၍ ကမ္ဘာ၏အချိန်ကာလကို လေးပိုင်းပိုင်း၍ တစ်ပိုင်းစီကို အသင်္ချေယျကပ်ဟု ခေါ်၏။ ထိုအသင်္ချေ ယျကပ် လေးခုပေါင်းကို မဟာကပ်ဟု ခေါ်၏။ ပရဝါဒီက ဘုရားဟော ပါဠိတော်၌ 'ကပ္ပံ' အရကို မဟာကပ်ဟု ယူလို၏။

သကဝါဒီအလိုအရ 'ကပ္ပ'၌ အာယုကပ်ဟူသော သက်တမ်းကာလကို ယူရမည်။ အသက်တမ်းစေ့ အသက်ရှင်နေနိုင်သည်ဟု ဆိုလို၏။ တန်ခိုးဣဒ္ဓိပါဒ်သည် အသက်ဟူသော ဇီဝိတကို ဖန်ဆင်းနိုင်ခြင်း, ဖန်တီးနိုင်ခြင်းမရှိချေ။ လူတို့၌ နှစ်တစ်ရာသက်တမ်း စသည်ဖြင့် သက်တမ်းများရှိရာ တန်ခိုးရှိသူသည် သက်တမ်းကို တိုအောင်, ရှည်အောင် မပြုနိုင်ချေ။ အသက်ကို အန္တရာယ်ပြုတတ်သည့် ဘေးရန်အန္တရာယ်တို့မှ တန်ခိုးဖြင့် တားဆီးကာကွယ်နိုင်သောကြောင့် အကာလမရဏခေါ် အချိန်မတိုင်မီ သေရခြင်းမှ လွတ်၏။ တန်ခိုးမရှိသူမှာ ထိုသို့ မကာကွယ်နိုင်သဖြင့် သက်တမ်းမစေ့မီ သေနိုင်၏။ ထို့ကြောင့် တန်ခိုးရှင်သည် မဟာကပ်ပတ်လုံး အသက်ရှင်နိုင်သည် ဟူသော ပရဝါဒကို ပယ်အပ်၏။

## ၁၁၃။ သမာဓိကထာ

### စိတ်ဖြစ်စဉ် (စိတ္တသန္တတိ)သည် သမာဓိမည်သလော။

ပရဝါဒီ သဗ္ဗတ္ထိဝါဒဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသားတို့က ခဏတိုင်းဖြစ်ပျက်နေသော စိတ်တစ်ခုစီအတွင်း၌ ပါဝင်သော ဧကဂ္ဂတာစေတသိက်ကို သမာဓိဟု မခေါ်လိုကြချေ။ အဆက်မပြတ် ဆက်တိုက်ဖြစ်ပေါ်နေသော ဈာန်စိတ် အစဉ်အတန်း (စိတ္တသန္တတိ)ကိုသာ သမာဓိဟု ယူဆကြ၏။ အာရုံတစ်ခုတည်း၌ ကြာရှည်စွာ စိတ်စူးစိုက်နေမှုကို သမာဓိဟု ခေါ်လိုကြ၏။ ထိုသို့ စိတ်စူးစိုက်နေသော (ဝါ) အာရုံတစ်ခုတည်းကိုသာ ယူ၍ ဆက်ကာဆက်ကာ ဖြစ်နေသော စိတ်အစဉ်အတန်း (စိတ္တသန္တတိ)၌ အတိတ်, အနာဂတ်, ပစ္စုပ္ပန်စိတ်များ ပါဝင်နေ၏။ ထိုအခါ ချုပ်လေပြီးသော အတိတ်စိတ်များကို သမာဓိဟု ခေါ်ရာ ရောက်၏။ မဖြစ်သေးသော အနာဂတ်စိတ်များကိုလည်း သမာဓိဟု ခေါ်ရာရောက်၏။

သကဝါဒီအလို သမာဓိသည် စိတ္တက္ခဏတစ်ချက်စာမျှသာ သက်တမ်းရှည်၏။ စိတ္တက္ခဏ တစ်ချက်အတွင်း၌ ပါဝင်သော ဧကဂ္ဂတာစေတသိက်ကိုသာ သမာဓိဟု ဆိုလို၏။ ပရဝါဒီဘက်က သမာဓိဟူသည် စေတသိက်မဟုတ်၊ စိတ်အစဉ်အတန်းဟု ဆိုလို၏။ သကဝါဒီဘက်ကမူ

သမာဓိစေတသိက် (ဧကဂ္ဂတာ)ဟူ၍ သီးသန့်ရှိနေသည်ဟု ဆိုလို၏။ ထိုဧကဂ္ဂတာသည် စိတ်ဖြစ်တိုင်း ပါဝင်နေသောကြောင့် စက္ခုဝိညာဏ် စိတ်၌လည်း သမာဓိပါ၏။ ဈာန်စိတ်၌လည်း သမာဓိပါ၏ဟု ဆိုရာ ရောက်၏။ ထိုသို့ဖြစ်လျှင် စက္ခုဝိညာဏ်စိတ်နှင့် ဈာန်စိတ်သည် တူညီ လေရာ၏ဟု ပရဝါဒီက အပြစ်တင်၏။ ဧကဂ္ဂတာ စေတသိက်သည် စိတ်ကို အာရုံ၌ စူးစိုက်တည်ငြိမ်အောင် ပြု၏။ စက္ခုဝိညာဏ်စိတ်၌ ဧကဂ္ဂတာစေတသိက် ပါဝင်သော်လည်း စွမ်းအားနည်း၏။ ယင်း၏ လုပ် ဆောင်မှု မထင်ရှားချေ။ ထို့ကြောင့် ထိုစိတ်၌ရှိသော ဧကဂ္ဂတာကို သမာဓိဟု မခေါ်ချေ။ သမထဘာဝနာ၊ ဝိပဿနာဘာဝနာ၊ ဈာန်စိတ်တို့ ၌ရှိသော ဧကဂ္ဂတာမူကား လုံ့လပယောဂ စိုက်ထုတ် ပြုပြင်ထားသော ကြောင့် စွမ်းအားကြီးမား၏။ ထိုသို့ စွမ်းအားကြီးမားသော ဧကဂ္ဂတာ စေတသိက်ကိုသာ သမာဓိဟု ခေါ်ရလေသည်။

## ၁၁၄။ ဓမ္မဋ္ဌိတတာကထာ

**ဓမ္မနှင့် ထိုဓမ္မ၏တည်ရှိမှု (ဓမ္မဋ္ဌိတတာ) ခွဲသင့်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ပဋိစ္စသမုပ္ပါဒ် ကြောင်းကျိုးဆက်စပ် ဖြစ်ပေါ်မှု (ဓမ္မဋ္ဌိတတာ)သည်လည်း အခြားအကြောင်းတရားကြောင့် ဖြစ်ပေါ် တည်ရှိရသည်ဟု ယူဆကြ၏။ ဥပမာ- "ဝေဒနာပစ္စယာ တဏှာ" ၌ ဝေဒနာနှင့်တဏှာကို နှစ်မျိုးစီခွဲစိတ်ကြ၏။ ခံစားခြင်းသဘော (ဝေဒနာစေတသိက်) နှင့် ထိုဝေဒနာသည် ဝေဒနာအဖြစ်ဖြင့် တည်နိုင် ခြင်း (ဌိတတာ) ဟူ၍ နှစ်မျိုးရှိ၏။ သာယာတပ်မက်သော တဏှာ (လောဘ စေတသိက်)နှင့် ထိုတဏှာလောဘ၏ တဏှာလောဘအဖြစ်ဖြင့် တည်နိုင် ခြင်း၊ (ဌိတတာ)ဟူ၍ နှစ်မျိုးခွဲခြား၏။ ဝေဒနာသည် တဏှာ၏ အကြောင်း ဖြစ်သကဲ့သို့ ဝေဒနာ၏ ဌိတတာသည် တဏှာ၏ဌိတတာအား ကျေးဇူးပြု ထောက်ပံ့၏။ ဌိတတာ အချင်းချင်းလည်း ကြောင်းကျိုးဆက်စပ်နေသည် ဟု ဆိုကြ၏။

သကဝါဒီအလို ဝေဒနာနှင့် ဝေဒနာဌိတတာဟူ၍ နှစ်ပိုင်း မခွဲသင့်။ တဏှာနှင့်တဏှာဌိတတာ ဟူ၍ နှစ်ပိုင်းမခွဲသင့်။ ထိုသို့ ထပ်ဆင့်ခွဲခြား

နေပါက ဝေဒနာ၊ ဝေဒနာ၏ဌီတတာ၊ ထိုဌီတတာ၏ ဌီတတာ စသည်ဖြင့် ဌီတတာများ မဆုံးနိုင်အောင် ထပ်ဆင့်ခွဲခြားနေရတော့မည်။ ထို့ကြောင့် ရုပ်နာမ်ဓမ္မနှင့် ထိုရုပ်နာမ်ဓမ္မ၏ဌီတတာကို သီးခြားစီ မခွဲသင့်ချေ။

## ၁၁၅။ အနိစ္စတာကထာ

### အနိစ္စသဘောသည် အကြောင်းကြောင့်ဖြစ်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ရုပ်နာမ်ဓမ္မနှင့် ထိုရုပ်နာမ်ဓမ္မ၏ အနိစ္စသဘောကို သီးခြားစီခွဲ၍ ရုပ်နာမ်ဓမ္မသည် အနိစ္စဖြစ်သကဲ့သို့ ၎င်းတို့၏ အနိစ္စသဘောသည်လည်း အနိစ္စဖြစ်သည်၊ (ဝါ) အနိစ္စသဘောသည် အကြောင်းကြောင့်ဖြစ်သော အကျိုးတရားဖြစ်၍ အနိစ္စသာလျှင် ဖြစ်သည်ဟု ဆို၏။

သကဝါဒီအလို ရုပ်နာမ်ဓမ္မနှင့် ယင်းတို့၏အနိစ္စသဘောကို သီးခြားစီ ခွဲ၍မယူအပ်။ ရုပ်နာမ်ဓမ္မသည်ပင်လျှင် အနိစ္စဖြစ်၍ အနိစ္စသည် သီးခြားတရား မဟုတ်ချေ။ ထို့ကြောင့် အနိစ္စသဘောကို ရုပ်နာမ်ဓမ္မမှ ခွဲခြား၍ အကြောင်းကြောင့်ဖြစ်သည်ဟု မဆိုသင့်။ ရုပ်နာမ် အနိစ္စ၏ အနိစ္စရှိသည် ဆိုပါကထို အနိစ္စ၏ အနိစ္စစသည်ဖြင့် မဆုံးနိုင်အောင် ရှိတော့မည်။ သတ္တဝါမှ သေခြင်း (မရဏ)ကို သီးခြားစီ ခွဲထုတ်လျှင် ထိုမရဏ၏ မရဏစသည်ဖြင့် မဆုံးနိုင်အောင် ရှိတော့မည်။ ထို့ကြောင့် အနိစ္စသဘောကို ရုပ်နာမ်ဓမ္မမှ သီးခြားခွဲ၍ မကြံစည်သင့်၊ မယူဆသင့်ချေ။

## ၁၁၆။ သံဝရော ကမ္မန္တိ ကထာ

### စောင့်ထိန်းမှု (သံဝရ)သည် ကံမည်သလော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က စေတနာကို ကံဟု မခေါ်လို ကြဘဲ ဒွါရခြောက်ပါး (ဣန္ဒြေခြောက်ပါး) စောင့်ထိန်းမှုကို ကုသိုလ်ကံ ဟု ယူဆကြ၏။ ထိုခြောက်ပါးကို မစောင့်ထိန်းမှုကို အကုသိုလ်ကံဟု ယူဆကြ၏။

သကဝါဒီအလို စေတနာကိုသာ ကံဟုခေါ်၏။ မျက်စိ နား စသော ဒွါရခြောက်ပါး (ဣန္ဒြေခြောက်ပါး)ကို စောင့်ထိန်းခြင်းသည် သီလသာ မည်၏။ ဣန္ဒြိယသံဝရသီလဟု ခေါ်၏။ ကုသိုလ်ကံဟု မခေါ်ချေ။ ဣန္ဒြေ မစောင့်ထိန်းမှုကို အသံဝရဟုခေါ်၍ ထိုအသံဝရကို အကုသိုလ်ကံဟူ၍ မခေါ်ချေ။ အမှန်စင်စစ် ကာယဒွါရ ဝစီဒွါရ မနောဒွါရဟူသော ဒွါရ သုံးပါး၌ဖြစ်သော စေတနာကိုသာလျှင် ကုသိုလ်ကံ, အကုသိုလ်ကံဟု ခေါ်ရ၏။ လုပ်ငန်းကိစ္စတစ်ခုကို ထမြောက်အောင်မြင်အောင် ထိုဒွါရသုံး ပါးဖြင့် ပြုလုပ်ရ၏။ စက္ခုဒွါရ သောတဒွါရ စသော ဒွါရခြောက်ပါးကို ထိန်းချုပ်မှု, မထိန်းချုပ်မှုကိုကား ကံဟု မခေါ်သင့်ချေ။

## ၁၁၇။ ကမ္မကထာ

**ကံမှန်သမျှ အကျိုးပေးနိုင်သလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ကံဟူသမျှသည် အကျိုးကို ဖြစ်စေနိုင်သည်၊ အဟောသိကံဟူ၍ မရှိဟု ဆိုကြ၏။

သကဝါဒီအလို စေတနာကို ကံဟုခေါ်သော်လည်း ဝိပါက်စိတ်, ကြိယာစိတ်၌ ယှဉ်သော စေတနာကံသည် အကျိုးကို မဖြစ်စေနိုင်၊ အကျိုး မပေးနိုင်။ ကုသိုလ်, အကုသိုလ်စိတ်၌ ယှဉ်သော စေတနာ ကံကသာလျှင် အကျိုးပေးတတ်၏။ အကျိုးကို ဖြစ်စေတတ်၏။ ထိုကုသိုလ်, အကုသိုလ် ကံသည်လည်း (၁) ဤဘဝ၌ အကျိုးပေးနိုင်သောကံ၊ (၂) ဒုတိယဘဝ၌ အကျိုးပေးနိုင်သောကံ၊ (၃) တတိယဘဝမှစ၍ ဘဝဆက်တိုင်း အကျိုး ပေးနိုင်သောကံ ဟူ၍ ကာလအားဖြင့် ကွဲပြား၏။ ထိုကံတို့သည် မိမိတို့ အခွင့်အလှည့်မရပါက အကျိုးပေးခွင့်မရှိသဖြင့် အဟောသိကံ (အချည်း နှီးကံ) ဖြစ်လေ၏။ ဥပမာအားဖြင့် လူသတ်မှု လွန်ကျူးရာ၌ အထက်ဖော် ပြပါ ကံသုံးမျိုး (စေတနာသုံးမျိုး) ပါဝင်ကြ၏။ ကုသိုလ်အားကောင်း ပါက ဤဘဝ၌ အကျိုးပေးမည့်ကံ (ဒိဋ္ဌဓမ္မဝေဒနီယကံ) သည် အခွင့် အလှည့်မရသောကြောင့် အဟောသိကံဖြစ်လေ၏။ အင်္ဂုလိမာလ ခိုးသူ

ကြီးသည် လူအပေါင်းတို့ကို သတ်ဖြတ်ညှဉ်းဆဲရာ၌ ဒုတိယဘဝ၌ အကျိုးပေးမည့်ကံ၊ တတိယဘဝမှစ၍ ဘဝအဆက်ဆက် အကျိုးပေးမည့်ကံများ ပါဝင်၏။ သို့ရာတွင် အင်္ဂုလိမာလသည် ရဟန္တာဖြစ်သွားသောအခါ သံသရာ၌ ကျင်လည်မှု (နောက်ဘဝ) မရှိတော့သဖြင့် ထိုအကုသိုလ်ကံ နှစ်မျိုးသည် အကျိုးပေးခွင့်မရှိသဖြင့် အဟောသိကံဖြစ်ရလေ၏။ ဤဘဝ အကျိုးပေးမည့် (ဒိဋ္ဌဓမ္မဝေဒနီယကံ)သာလျှင် အရှင်အင်္ဂုလိမာလထေရ် အား အကျိုးပေးသဖြင့် ဆွမ်းခံကြွစဉ် လူတို့ပစ်လွှတ်သမျှ ခဲတုတ်တို့သည် မထေရ်၏ကိုယ်ပေါ်သို့ ကျရောက်ထိမှန်၍ ဒုက္ခဝေဒနာကို ခံစားရ၏။ အခြားအရပ်သို့ ပစ်လွှတ်လိုက်သော ခဲသည်လည်း လမ်းချော်၍ အရှင် အင်္ဂုလိမာလ၏ ကိုယ်ပေါ်သို့ ကျရောက်၏။ ဥပပဇ္ဇဝေဒနီယကံနှင့် အပရာပရိယဝေဒနီယကံတို့ကား အရှင်အင်္ဂုလိမာလအတွက် အဟောသိ ကံ ဖြစ်ရ၏။ ပရဝါဒီသည် ထိုအဟောသိကံကို ပယ်ခြင်းဖြစ်၏။

## ၁၁၈။ သဒ္ဒေါ ဝိပါကောတိ ကထာ

### အသံရုပ် (သဒ္ဒ) သည် ကံ၏ အကျိုးဝိပါက်လော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့သည် အသံရုပ် (သဒ္ဒ)ကို ကံ၏ အကျိုးဝိပါက်ဟု ဆိုကြ၏။ မြတ်စွာဘုရားရှင်သည် ကုသိုလ်ကံကို ဖြည့် ဆည်းပူးခဲ့ခြင်းကြောင့် ဗြဟ္မာမင်း၏အသံနှင့်တူသော မြတ်သော အသံ တော်ရှိ၏ ဟူသော ဒေသနာတော်ကို ကိုးကား၍ အသံသည် ကံကြောင့် ဖြစ်သည်ဟု ဆိုကြ၏။

သကဝါဒီအလို အသံသည် စိတ်ကြောင့်လည်းကောင်း၊ ဥတုကြောင့် လည်းကောင်း ဖြစ်သည် (စိတ္တဇ ဥတုဇ)ဟု ဆို၏။ ထို့ပြင် ဝိပါက်ဟု ခေါ်သော တရားတို့သည် နာမ်တရားသာလျှင် ဖြစ်ရမည်။ ရုပ်တရားကို ဝိပါက်ဟု မခေါ်ချေ။ အကြောင်းရင်း ကံတရားသည် နာမ်ဖြစ်၍ အကျိုး ဝိပါက်သည်လည်း အကြောင်းနှင့်တူညီစွာ နာမ်တရားသာ ဖြစ်ရပေမည်၊ ထို့ကြောင့် အသံရုပ်ကို ဝိပါက်ဟု မခေါ်သင့်ချေ။

## ၁၁၉။ သဠာယတနကထာ

**ရုပ်အာယတနအပါအဝင် အာယတနခြောက်ပါးလုံးကို ဝိပါက်ဟု ခေါ်နိုင်သလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယ ဟူသော ရုပ် အာယတနငါးပါးသည် (မနာယတနနှင့်အလားတူ) ဝိပါက်မည်၏ဟု ဆိုကြ၏။

သကဝါဒီအလို ရုပ်တရားကို ဝိပါက်ဟု မခေါ်ချေ။ ထို့ကြောင့် ရုပ်အာယတနငါးပါးကို ဝိပါက်ဟု ခေါ်လိုသော ပရဝါဒကို ပယ်အပ်၏။

## ၁၂၀။ သတ္တက္ခတ္တုပရမကထာ

**သတ္တက္ခတ္တုပရမသောတာပန်ပုဂ္ဂိုလ်၏ ခုနစ်ဘဝ အတိအကျ သံသရာ ကျင်လည်ရမှုသည် နိယာမတရားလော။**

သတ္တက္ခတ္တုံ=ခုနစ်ကြိမ် + ပရမံ=အလွန်ဆုံး။

သတ္တက္ခတ္တုပရမသောတာပန်သည် အလွန်ဆုံး အများဆုံးခုနစ်ဘဝ သာ ကျင်လည်ရန်ရှိ၏။ သောတာပန်ဖြစ်ပြီးသော ပုဂ္ဂိုလ်တို့၏ သဒ္ဓါ ဝီရိယ ပညာ စသည်တို့ကို ကြည့်၍ ဤပုဂ္ဂိုလ်ကား တစ်ဘဝမျှသာ သံသရာကျင်လည် ရတော့မည် (ဧကဗီဇီ)၊ ဤပုဂ္ဂိုလ်ကား နှစ်ဘဝ သုံး ဘဝမျှသာ သံသရာကျင်လည်ရတော့မည် (ကောလံကောလ)၊ ဤပုဂ္ဂိုလ် ကား ခုနစ်ဘဝသာ သံသရာကျင်လည်ရတော့မည့် (သတ္တက္ခတ္တုပရမ) ဟု မြတ်စွာဘုရားရှင် ထုတ်ဖော်ဟောကြားတော်မူလေ့ရှိ၏။ သောတာ ပတ္တိမဂ်ကို ရရုံမျှဖြင့် တစ်ဘဝ နှစ်ဘ ဝ ခုနစ်ဘဝ စသည်ဖြင့် ထိုမဂ်က သတ်မှတ်ပေးနိုင်သည် မဟုတ်၊ ထိုပုဂ္ဂိုလ်၌ရှိသော သဒ္ဓါ ဝီရိယ ပညာ စသည်တို့၏ အနုအရင့်ကသာ သောတာပန်အဆင့်ကွဲပြားမှု ဖြစ်စေ၏။ ထိုသို့ မဂ်တရားက ပုံသေသတ်မှတ်ပေးနိုင်စွမ်းမရှိသောကြောင့် အလွန် ဆုံး ခုနစ်ဘဝသာ ကျင်လည်ရမှု (သတ္တက္ခတ္တုပရမတာ)ကို နိယာမ တရားဟု မယူဆသင့်ချေ။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က ယင်းသဘောကို နိယာမတရားအဖြစ်ဖြင့် ယူဆကြ၏။

## ၁၂၁။ ကောလံကောလကထာ

**ကောလံကောလ သောတာပန်၏ နှစ်ဘဝ သုံးဘဝမျှသာ သံသရာကျင်လည်ရမှုသည် နိယာမတရားလော။**

(တူပြီ။ အထက်နည်းအတိုင်း)

## ၁၂၂။ ဧကဗီဇိကထာ

**ဧကဗီဇိသောတာပန်ပုဂ္ဂိုလ်၏ တစ်ဘဝမျှသာ သံသရာကျင်လည်ရမှုသည် နိယာမတရားလော။** (တူပြီ။ အထက်နည်းအတိုင်း)

## ၁၂၃။ ဇီဝိတာ ဝေါရောပနကထာ

**သောတာပန်သည် သူတစ်ပါးအသက်ကို သတ်သေးသလော။**

(တူပြီ။ အထက်နည်းအတိုင်း)

ပရဝါဒီ ပုဗ္ဗသေလိယနှင့် အပရသေလိယ ဂိုဏ်းသားတို့က သတ်ဖြတ်မှု (ပါဏာတိပါတ) သည် ဒေါသအရင်းခံ၏။ သောတာပန်သည် ဒေါသကို မပယ်အပ်သေး၊ ထို့ကြောင့် သောတာပန်သည် သတ်ဖြတ်မှု (ပါဏာတိပါတ)ကို ပြုသေးသည်ဟု ဆိုကြ၏။ ဘုရားစေတီတော်ကို အမှတ်တမဲ့ အရိုအသေ မပေးဘဲ နေတတ်၏။ ထိုသို့ဖြစ်ခြင်းကို ကြည့်၍ သောတာပန်သည် ဘုရားကို မရိုသေသည့်အခါ ရှိ၏။ (ဝါ) မရိုသေမှုပြုသည်ဟု ဆိုကြ၏။

သကဝါဒီအလို အထက်ပါအဆိုများကို ပယ်မြစ်၏။ သောတာပန်သည် သေစေလိုသော စေတနာဖြင့် သတ်ဖြတ်ခြင်းမျိုးကို လုံးဝ မပြုတော့ချေ။ မြတ်စွာဘုရားကိုယ်စားတော် စေတီ, ပုထိုး, ရုပ်ပွားဆင်းတု

တို့ကိုလည်း မရှိမသေ စော်ကားမှု လုံးဝမပြုတော့ချေ။ ရတနာသုံးပါး၌ အလွန်အမင်း ကြည်ညိုချေ၏။

ပရဝါဒီသည် သောတာပန်ဘွဲ့အမည်ကိုလည်း ခံယူချင်သေး၏။ သောတာပန်အင်္ဂါနှင့် ကိုက်ညီအောင်လည်း နေထိုင် ကျင့်ကြံနိုင်ခြင်း မရှိသဖြင့် သောတာပန်၏အဆင့်ကို နှိမ့်ချခြင်းဖြစ်၏။

## ၁၂၄။ ဒုဂ္ဂတိကထာ

**သောတာပန်သည် ဒုဂ္ဂတိဘုံသား ခွေး, ကြောင်, ကြက်တို့၌ နှစ်သက်မှု မရှိတော့ပြီလော။**

သကဝါဒီအလို သောတာပန်ပုဂ္ဂိုလ်သည် ဒုဂ္ဂတိဘဝသို့ သွားရောက်စေမည့် တဏှာကို ပယ်သောကြောင့် ဒုဂ္ဂတိဘဝကို ပယ်ပြီးပြီဟု ဆိုရ၏။ မိမိမွေးမြူထားသော ကျွဲ, နွား, ခွေး စသည်တို့ကို ချစ်ခင်တွယ်တာမှုကို ပယ်သည်ဟု မဆိုလိုချေ။ ထိုဒုဂ္ဂတိဘဝသို့ ရောက်စေနိုင်သော ကြမ်းတမ်း ယုတ်ညံ့သော တဏှာကို ပယ်သည်ဟု ဆိုလိုသည်။

သူတစ်ပါးပစ္စည်းကို လုယက်ယူငင်လိုသော တဏှာလောဘ၊ သူတစ်ပါး မယားကို တပ်မက်ခြင်း တဏှာလောဘတို့သည် ယုတ်ညံ့ ကြမ်းတမ်းသောကြောင့် ဒုဂ္ဂတိဘဝသို့ ရောက်စေ၏။ ထိုတဏှာမျိုးကို ပယ်သည်ဟု ဆိုလို၏။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့ကမူ သောတာပန်သည် ဒုဂ္ဂတိဘုံသား တိရစ္ဆာန်တို့၌ ချစ်ခင်နှစ်သက်မှု တဏှာကို ပယ်သည်ဟု ယူမှားကြ၏။

## ၁၂၅။ သတ္တမဘဝိကကထာ

သောတာပန်ပုဂ္ဂိုလ်ကိုပင် 'သတ္တမဘဝိက'ဟု ဆိုလို၏။ (အထက်ကထာနှင့် တူပြီ။)

ပရဝါဒီ ပုဗ္ဗသေလိယနှင့် အပရသေလိယဂိုဏ်းသားတို့က နိယတ ဗျာဒိတ်ခံယူရပြီးသော ဘုရားလောင်းသည် နောက်ဆုံးဘဝ၌ မလွဲမသွေ မဂ်ဖြစ်ရလတ္တံ့သောကြောင့် နိယတဗျာဒိတ် ခံယူရမှုသည်လည်း တတိယ မြောက် နိယာမဟု ယူဆကြ၏။ ထို့ကြောင့် နိယတဖြစ်ပြီးသောသူသည် နိယာမ (မဂ်)ကို ရနိုင်သည်ဟု ယူဆကြ၏။

## ၁၃၀။ နိဝုတကထာ

**နီဝရဏဖြင့် ရစ်ပတ်ဖုံးလွှမ်းခံနေရသူသည် နီဝရဏကို ပယ်သလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က စင်ကြယ်ပြီး ပုဂ္ဂိုလ်သည် စင်ကြယ်အောင် ပြုရန် မလိုချေ။ နီဝရဏကင်းကွာသော ပုဂ္ဂိုလ်သည် နီဝရဏပယ်ခွာရန် မလိုချေ။ နီဝရဏတို့ ပိတ်ဆို့ ဝန်းရံခံနေရသော သူသည်သာလျှင် နီဝရဏကို ပယ်ရန်လိုသည်ဟု ဆိုကြ၏။ ထို့ကြောင့် ဖြစ်ဆဲ ပစ္စုပ္ပန် နီဝရဏကို ပယ်ရမည်ဟု ဆိုကြ၏။

သကဝါဒီအလို နီဝရဏကို ပယ်ရာ၌ ဖြစ်ဆဲပစ္စုပ္ပန်အခိုက်၌ ပယ်သည် ဆိုပါက နီဝရဏက နီဝရဏကို ပယ်သည်ဟု ဆိုရာရောက်၏။ သို့မဟုတ် နီဝရဏနှင့် မဂ်စိတ်ယှဉ်ပြိုင်ဖြစ်သည်ဟု ဆိုရာရောက်၏။ ထိုသို့ မဖြစ်နိုင် သောကြောင့် နီဝရဏတို့ ပိတ်ဖုံးနေခိုက်၌ နီဝရဏကို ပယ်သည်။ (ဝါ) ပစ္စုပ္ပန် နီဝရဏကို ပယ်သည်ဟု မဆိုသင့်။ နီဝရဏ ကင်းသော မဂ်စိတ်ကသာ နီဝရဏကို ပယ်နိုင်သည်ဟု ဆိုရ၏။ ထိုသို့ ပယ်ရာ၌ နောင်တစ်ဖန် နီဝရဏတို့ မဖြစ်ခြင်း၊ မဖြစ်အောင် ပြုခြင်းကို ပယ်သည်ဟု ဆိုရ၏။ ဥပါဒ် ဌီ ဘင်အားဖြင့် ထင်ရှားရှိနေခိုက် နီဝရဏ တရားတို့ကို တွန်းဖယ် ရခြင်းမျိုး မဟုတ်ချေ။ ထို့ကြောင့် ပရဝါဒကို ပယ်မြစ်အပ်၏။

## ၁၃၁။ သမ္မုခီဘူတကထာ

**ပစ္စုပ္ပန်မဂ်က ပစ္စုပ္ပန်သံယောဇဉ်ကို ရင်ဆိုင်၍ ပယ်သလော။**

ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားတို့က လောကုတ္တရာ မဂ်တရား နှင့် အကုသိုလ် သံယောဇဉ်တရားတို့သည် ယှဉ်ပြိုင်ရင်ဆိုင် တည်ရှိကြ

လျက် မဂ်က သံယောဇဉ်ကို ပယ်သည်ဟု ဆိုကြ၏။ လူပုဂ္ဂိုလ်သည် ရန်သူကို ပယ်သတ်ရာ၌ မျက်နှာချင်းဆိုင် ယှဉ်ပြိုင်တည်ရှိ၍ ပယ်သတ်ကြသကဲ့သို့ ပစ္စုပ္ပန်တရားက ပစ္စုပ္ပန်သံယောဇဉ်ကို ပယ်သည်ဟု ယူဆကြ၏။ (သကဝါဒ အထက်နည်းတူပြီ။)

## ၁၃၂။ သမာပန္နော အဿာဒေတိ ကထာ

**ဈာန်သမာပတ်ဝင်စားနေစဉ် ဈာန်ကို သာယာမှု (နိကန္တိ) ဖြစ်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဈာန်သမာပတ် ဝင်စားနေစဉ် ထိုဈာန်ကို ပြန်လည်သာယာမှု (ဈာနနိကန္တိ) ဖြစ်နိုင်သည်ဟု ယူဆကြ၏။

သကဝါဒီအလို ဈာန်သည် ကုသိုလ်တရားဖြစ်၍ ထိုဈာန်ကို နှစ်သက်မှု (နိကန္တိ) သည် အကုသိုလ်လောဘတရားဖြစ်၏။ ကုသိုလ်နှင့် အကုသိုလ်သည် အတူယှဉ်တွဲ မဖြစ်နိုင်၊ ဖြောင့်ဖြောင့်ဆန့်ကျင်ကြ၏။ အမှန်စင်စစ် ဈာန်သမာပတ်ဝင်စားပြီးမှသာလျှင် နောင်အခါ ထိုဈာန်ကို ပြန်လည်အာရုံပြု၍ သာယာမှု (နိကန္တိတဏှာ) ဖြစ်သည်။ ရှေ့နောက်နီးကပ်စွာ ဖြစ်သည်ကို အတူယှဉ်ပြိုင်ဖြစ်သည်ဟု ပရဝါဒီ အယူမှား၏။

## ၁၃၃။ အသာတရာဂကထာ

**ဒုက္ခဝေဒနာကို သာယာနှစ်သက်သော ရာဂဖြစ်သလော။**

ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားတို့က ဒုက္ခဝေဒနာကို လိုချင်မှု၊ သာယာတပ်မက်မှု (တဏှာရာဂ) ဖြစ်နိုင်သည်ဟု ဆိုကြ၏။

သကဝါဒီအလို သတ္တဝါတို့သည် မည်သူမျှ မိမိကိုယ်ကို ဒုက္ခဖြစ်ပါစေဟု တောင့်တခြင်း မပြုကြသောကြောင့် ဒုက္ခဝေဒနာကို သာယာတပ်မက်မှု ရာဂ မဖြစ်နိုင်ဟု ဆိုကြ၏။ အမှန်စင်စစ် ဒုက္ခဝေဒနာ ဖြစ်ပေါ်သောအခါ ထိုဒုက္ခဝေဒနာ၏ ချုပ်ဆုံး ပျောက်ပျက်မှုကို တောင့်တခြင်း

သကဝါဒီအလို လိုချင်မှုကို လောဘနှင့် ဆန္ဒဟူ၍ နှစ်ပိုင်းခွဲခြား၏။ ကုသိုလ်လိုချင်မှု၊ မဂ်ဖိုလ်နိဗ္ဗာန်ကို လိုချင်မှုသည် ဆန္ဒမည်၏။ ရုပ်ဝတ္ထု အာရုံ ကာမဂုဏ်ကို လိုချင်မှုသည် လောဘမည်၏။ လောဘ၏ လိုချင်မှုသည် တွယ်တာ တပ်မက်၍ မစွန့်လွှတ်နိုင်၊ တန်းတန်းစွဲ သိမ်းပိုက်ကိုင်စွဲထား၏။ ဆန္ဒ၏ လိုချင်မှုမှာ လိုချင်ကာမတ္တမျှသာ ဖြစ်၏။ စွဲလမ်း သိမ်းပိုက်ခြင်း မရှိ၊ ဥပမာ - စစ်ပွဲအတွင်း၌ လေးသည်တော်၏မြားကို လိုချင်မှုမှာ ဆန္ဒ၏ သဘော ထင်ရှား၏။ မြားကို စုံမက်စွာ သိမ်းပိုက်ထားရန် မဟုတ်၊ ပစ်လွှတ်ရန်အတွက် လိုချင်ကာမတ္တ ရလိုကာမတ္တ ဖြစ်၏။ ဒေါသစိတ်ဖြစ်ရာ၌ လောဘစေတသိက် မယှဉ်နိုင်၊ ဆန္ဒစေတသိက်သာလျှင် ယှဉ်နိုင်၏။ ထို့ကြောင့် လူတစ်ယောက်ကို သတ်ဖြတ်ဖျက်ဆီးလိုရာ၌ လောဘမဖြစ်ဘဲ ဆန္ဒသာလျှင်ဖြစ်၏။ ထိုနည်းအတူ ကုသိုလ်လိုချင်မှု၊ နိဗ္ဗာန်မဂ်ဖိုလ်လိုချင်မှု၌ ဆန္ဒစေတသိက်သာလျှင် ပါဝင်၏။ လောဘ မပါဝင်ချေ၊ ထို့ကြောင့် ကုသိုလ်လိုချင်မှု၊ နိဗ္ဗာန်လိုချင်မှုမှာ ဆန္ဒစေတသိက်သာလျှင်ဖြစ်၍ ကုသိုလ်တရား၌ ထည့်သွင်းအပ်၏။ ငါ့တရားဟု စွဲမှတ်မှု, ဝိပဿနာဉာဏ်စဉ်၌ နှစ်သက်စွဲလမ်းမှု ဓမ္မတဏှာ (ဝိပဿနုပက္ကိလေသ)မှာ သိမ်မွေ့သော အနုသယကိလေသာ လောဘ ဖြစ်၍ အကုသိုလ်ဟု မှတ်အပ်၏။

## ၁၃၅။ ဓမ္မတဏှာ န ဒုက္ခသမုဒယောတိ ကထာ

**တရားဓမ္မလိုချင်မှု ဓမ္မတဏှာသည် ဒုက္ခကို ဖြစ်စေနိုင်သလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ဓမ္မတဏှာသည် ဒုက္ခသစ္စာ၏အကြောင်းမဟုတ်၊ ဒုက္ခကို ဖြစ်စေနိုင်ခြင်း မရှိဟု ဆိုကြ၏။ အထက်၌ ဖော်ပြပြီးဖြစ်သည့်အတိုင်း ပယ်အပ်၏။

## ၁၃၆။ ကုသလာကုသလပဋိသန္ဓဟနကထာ

**ကုသိုလ်နှင့်အကုသိုလ်သည် မူလရင်းမြစ်ချင်း ဆက်စပ်နေသလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ကုသိုလ်တရားတို့၏ ရင်းမြစ်မူလတရားမှာ မတပ်မက်ခြင်း (အလောဘ)ဖြစ်၏။ အကုသိုလ်တရား၏

(ရာဂ)ဖြစ်နိုင်၏။ ထို့ပြင် ဒုက္ခဝေဒနာ ပြင်းထန်စွာ နှိပ်စက်ခံနေရသော အခါ ထို၏ ဆန့်ကျင်ဘက် ကာမသုခကို လိုလားတောင့်တမှု ဖြစ်၏။ ထိုလိုလားတောင့်တမှု (ရာဂ)သည် ဒုက္ခဝေဒနာကို အရင်းခံ၍ ဖြစ်ပေါ် လာသောကြောင့် ဒုက္ခဝေဒနာကို သာယာသော (ရာဂ)ဟု တင်စား ပြောဆိုခြင်းဖြစ်၏။ ထို့ပြင် သတ္တဝါတို့သည် ငါစွဲ (အတ္တ) အလွန်ပြင်းထန် ကြ၏။ မိမိကို နာကျင်အောင် နှိပ်စက်နေသော အနာကို ငါ့အနာ, ငါ့ ရောဂါဟု ထင်မှတ်ကြ၏။ ထိုထင်မှတ်မှုသည် ဒုက္ခဝေဒနာကို ငါဟု အတ္တဒိဋ္ဌိစွဲဖြင့် စွဲလမ်းခြင်းဖြစ်၏။ ထိုဒိဋ္ဌိစွဲဖြင့် နှစ်သက်မှုသည် တဏှာ ဦးဆောင်သော သာယာတပ်မက်မှုနှင့် မတူချေ။ တဏှာရာဂဖြင့် တပ် မက်မှုကား ထိုဝေဒနာမျိုး ငါ့၌ အကြိမ်များစွာ ဖြစ်ပါစေ၊ အမြဲမပြတ် ဖြစ်ပါစေဟု တောင့်တခြင်းဖြစ်၏။ သုခဝေဒနာ၌သာလျှင် တဏှာဦး ဆောင်သော တပ်မက်မှုဖြစ်၏။ ဒုက္ခဝေဒနာ၌ကား ဒိဋ္ဌိဦးဆောင်၍ ငါဟု ထင်မှတ်စွဲယူမှုသာ ဖြစ်၏။ ဒုက္ခဝေဒနာ ငါ့၌ အကြိမ်များစွာ ဖြစ်ပါစေဟု တောင့်တမှု (တဏှာ)မဖြစ်ဟု မှတ်အပ်၏။

## ၁၃၄။ ဓမ္မတဏှာ အဗျာကတာတိ ကထာ

**တရားဓမ္မလိုချင်မှု တဏှာသည် ကုသိုလ်, အကုသိုလ် မဟုတ်သော အဗျာကတတရားလော။**

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ကုသိုလ်လိုချင်မှု၊ မဂ် ဖိုလ် နိဗ္ဗာန် လိုချင်မှုကို ဓမ္မတဏှာဟု ခေါ်၍ ထိုဓမ္မတဏှာသည် တဏှာဖြစ် သောကြောင့် ကုသိုလ်မဟုတ်၊ မကောင်းကျိုးပေးတတ်ခြင်း (ဒုက္ခဝိပါက) လက္ခဏာ မရှိသောကြောင့် အကုသိုလ်လည်း မဟုတ်၊ အကုသိုလ်ဆိုလျှင် မကောင်းကျိုးပေးခြင်း လက္ခဏာရှိ၏။ နိဗ္ဗာန်လိုချင်မှု၊ မဂ်ဖိုလ်လိုချင်မှု (တဏှာ)သည် မကောင်းကျိုးပေးသည်ဟု ဆိုပါက မည်သူမျှ မဂ် ဖိုလ် နိဗ္ဗာန် ရလိုပါ၏ဟု ဆုတောင်းကြတော့မည် မဟုတ်ချေ။ ထို့ကြောင့် ထိုဓမ္မတဏှာကို အဗျာကတ (ကုသိုလ်အကုသိုလ်မှအလွတ်)ဟု ဆိုကြ၏။

ရင်းမြစ် မူလတရားမှာ တပ်မက်ခြင်း (လောဘ) ဖြစ်၏။ ထိုတပ်မက်မှု (လောဘ)နှင့် မတပ်မက်မှု (အလောဘ)တို့သည် အာရုံချင်း တူကြသည်ဟု ဆို၏။ ဥပမာ - မိန်းမတစ်ယောက်အပေါ်၌ တပ်မက်ခြင်းကင်းသည်ဟု ဆိုရာ၌ ရှေးဦးစွာ ထိုမိန်းမအပေါ် တပ်မက်မှု (လောဘ အကုသိုလ်) ဖြစ်၏။ ထို့နောက် ထိုမိန်းမအပေါ်၌ တပ်မက်ခြင်းကင်းမှု (အလောဘကုသိုလ်) ဖြစ်၏။ တစ်ခုတည်းသော မိန်းမအာရုံပေါ်၌ တပ်မက်မှုနှင့် တပ်မက်ခြင်းကင်းမှု ဖြစ်ရကား လောဘနှင့်အလောဘ (အကုသိုလ်နှင့် ကုသိုလ်)သည် မူလရင်းမြစ်ချင်း တူကြသည်ဟု ဆို၏။ ပရဝါဒီသည် ကုသိုလ်နှင့်အကုသိုလ် တရားနှစ်ပါးကို တစ်ခုတည်း ဖြစ်အောင် ထပ်တူပြုပေါင်းစပ်ရန် ရည်ရွယ်၍ ဤဝါဒကို တီထွင်၏။

သကဝါဒီအလို ကုသိုလ်နှင့် အကုသိုလ်သည် ယှဉ်တွဲပေါင်းစပ်၍ မဖြစ်နိုင်၊ ကုသိုလ်စိတ်နှင့်အကုသိုလ်စိတ်တို့၏အကြား၌ ကာလခြားရမည်၊ ဓမ္မခြားရမည်။ ကုသိုလ်, အကုသိုလ် မဟုတ်သော အဗျာကတ စိတ်များ ကြားဝင်ဖြစ်ရမည်။ ဤကုသိုလ်, အကုသိုလ် တရားနှစ်ပါးသည် ဖြောင့်ဖြောင့်ဆန့်ကျင်သောကြောင့် အတူတကွ ယှဉ်ပြိုင်၍လည်း မဖြစ်နိုင်၊ ရှေ့နောက် ဆက်စပ်၍လည်း မဖြစ်နိုင်ဟု မှတ်သင့်၏။

ပရဝါဒီ၏ အကြောင်းပြချက်ဖြစ်သော တပ်မက်ခြင်း, တပ်မက်မှု ကင်းခြင်း သဘောတရားနှစ်ခုသည် အာရုံချင်း မတူချေ။ တပ်မက်ခြင်း (လောဘ) သည် ရုပ်အာရုံငါးပါးကို အာရုံပြု၏။ တပ်မက်မှု ကင်းသော စိတ်သည် လောကုတ္တရာစိတ်ဖြစ်၍ နိဗ္ဗာန်ကို အာရုံပြုနိုင်သည်။ ဤသို့ အာရုံချင်းမတူသောကြောင့် ပရဝါဒီ၏ အကြောင်းပြချက်နှင့် ဆိုလိုချက်ကို ပယ်ဖျက်အပ်၏။

## ၁၃၇။ သဠာယတနုပ္ပတ္တိကထာ

ဂဗ္ဘသေယျကသတ္တဝါအား ပဋိသန္ဓေတည်ကာစကပင် မျက်စိ နား နှာခေါင်း လျှာ မျိုးစေ့များ တစ်ပါတည်း ပါရှိသလော။

ငရဲပြည်, နတ်ပြည်တို့၌ ဥပပါတ် ပဋိသန္ဓေနေသော သတ္တဝါတို့သည် အမိဝမ်း၌ ကိန်းရန် မလို၊ ပဋိသန္ဓေတည်ဆဲ ခဏမှာပင်လျှင်

အင်္ဂါကြီးငယ် အပြည့်အစုံပါ၍ မျက်စိစသော အာယတနများလည်း အပြည့်အစုံ တစ်ပြိုင်နက် ဖြစ်ပေါ်ကြ၏။ လူနှင့်တိရစ္ဆာန်တို့မှာမူ အမိဝမ်းတွင်း၌ ရက်ပိုင်း လပိုင်း ကြာအောင် ကိန်းအောင်း တည်နေပြီးမှ မွေးဖွားရသောကြောင့် ဂဗ္ဘသေယျက သတ္တဝါဟုခေါ်၏။ (ဂဗ္ဘ=အမိဝမ်း+သေယျက=ကိန်းအောင်းရသူ) ထိုဂဗ္ဘသေယျက သတ္တဝါတို့သည် ပဋိသန္ဓေ တည်နေခါစ၌ အလွန်သေးငယ်သော ကလလရေကြည်မှ စတင်ဖြစ် ရ၏။ ကလလရေကြည်၏ ပမာဏမှာ ဆံပင်ကို (၁၆)စိတ်စိတ်၍ တစ်စိတ်သောဆံပင်ကို အကြိမ်တစ်ရာ စစ်ထားသော ဆီကြည်တွင် နှစ်၍ အကြိမ်တစ်ရာခါပြီးသောအခါ ဆံခြည်မျှင်ဖျား၌ ကပ်၍ ကျန်နေသော ဆီစက်ငယ်ထက် သေးငယ်သော ပမာဏရှိ၏ဟု ဆိုကြ၏။ ထိုကလလ ရေကြည်အခိုက်၌ မျက်စိ နား နှာခေါင်း လျှာနှင့်ဆိုင်သော ရုပ်ကလာပ် များ မပါဝင်ချေ။ ထိုမှလ ကလလရေကြည် ကြီးပွားတိုးတက် ရင့်ကျက် လာ၍ (၁၁)ပတ် (၇၇-ရက်)ပြည့်မြောက်သောနေ့၌ မျက်စိ နား နှာ လျှာ ရုပ်လေးမျိုး ဖြစ်ပေါ်ကြ၏။ ပဋိသန္ဓေတည်မှုကို ဖြစ်စေသောကံမှာ သီးခြားတစ်ခုဖြစ်၍ မျက်စိစသည်ကို ဖြစ်စေသောကံမှာ သီးခြားကံ တစ်ခုစီဖြစ်ကြသည်။ ကံတစ်ခုတည်းက ပဋိသန္ဓေရုပ်နှင့် မျက်စိ, နား စသော ရုပ်တို့ကို ဖြစ်စေသည် မဟုတ်ချေ။ ထို့ကြောင့် ပဋိသန္ဓေတည် ခါစ၌ မျက်စိ, နား စသော ရုပ်တို့ကို ဖြစ်စေသည် မဟုတ်ချေ။ ထို့ကြောင့် ပဋိသန္ဓေတည်ခါစ၌ မျက်စိ နား နှာ ခေါင်း လျှာ ရုပ်များ ပါဝင်ခြင်း မရှိသေး။ နောက်ကာလမှ ဖြစ်ပေါ်သည်ဟု မှတ်ယူသင့်၏။

ပရဝါဒီ ပုဗ္ဗသေလိယ ဂိုဏ်းသားတို့ကမူ မျိုးစေ့ (အစေ့) တစ်ခု အတွင်း၌ အမြစ်၊ အကိုင်း၊ အရွက်၊ အညွန့် ဖြစ်မည့် အစိတ်အပိုင်းများ ပါဝင်နေကြ၏။ အစေ့မှ အပင်ပေါက်လာသောအခါ ထိုဆိုင်ရာ အစိတ် အပိုင်းများက ငယ်ရာမှ ကြီးထွားလာခြင်းဖြစ်၏။ မထင်ရှားရာမှ ထင်ရှား လာခြင်းဖြစ်သည်ဟု ဆိုကြ၏။ ထိုနည်းအတူ အမိဝမ်းတွင်း၌ ပဋိသန္ဓေ တည်နေခါစ ကလလရေကြည် အခိုက်မှာပင် မျက်စိ နား နှာခေါင်း လျှာတို့သည် မျိုးစေ့အဖြစ်ဖြင့် ပါဝင်လာကြ၏။ မထင်မရှား တည်ရှိကြ၍

သန္တေကြီးထွားလာသောအခါမှ ပီပြင်ထင်ရှားစွာ ဖြစ်လာကြသည်ဟု ယူဆ၏။ ပဋိသန္ဓေ ကလလရေကြည် ရုပ်ကို ဖြစ်စေသောကံနှင့် မျက်စိစသည်ကို ဖြစ်စေသောကံသည် တစ်ခုတည်းသာဟု ယူဆကြ၏။ ကံတစ်ခုတည်းကပင်လျှင် ကလလရေကြည် ရုပ် မျက်စိ နား နှာခေါင်း လျှာ ရုပ်များကို ဖြစ်စေ၏။ ကလလရေကြည်အခိုက်၌ မျက်စိစသည်တို့ မထင်မရှား တည်ရှိကြသည်ဟု ဆို၏။ ကပိလရသေ့၏ သချ်ာဝါဒ၌ အကျိုးတရားသည် အကြောင်းတရားအတွင်း၌ ပါဝင်တည်ရှိနေ၍ မထင်ရှားရာမှ ထင်ရှားလာသည်ဟု ဆို၏။ (အဘိဗျတ္တိဝါဒ) ဂျိန်းအယူ အဆအရ ဇီဝသည် တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းလာရာ၌ မျက်စိ နား စသော အင်္ဂါအစိတ်အပိုင်းများ အပြည့်အစုံပါသည်ဟု ဆိုကြ၏။

ဤအကြောင်းကို ပုဂ္ဂလကထာလိင်္ဂသရီရအကြောင်း၌ ရှင်းလင်းဖော်ပြခဲ့လေပြီ။ ပရဝါဒီ ပုဗ္ဗသေလိယ ဂိုဏ်းသားတို့သည် သချ်ာဝါဒ, ဂျိန်းဝါဒ နောက်မြီးဆွဲများ ဖြစ်ကြကုန်၏။ ပဋိသန္ဓေတည်နေခါစ ကလလရေကြည်အခိုက်မှာပင် မျက်စိ, နား စသော ရုပ်များသည် မထင်ရှားသော မျိုးစေ့သတ္တိအဖြစ်ဖြင့် ပါဝင်သည်ဟူသော အယူဝါဒမှာ ဘုရားမပွင့်မီကပင် ရှိခဲ့၏။ ဤပြဿနာကို အာဋ္ဌာဝကဘီလူး မေးလျှောက်၍ မြတ်စွာဘုရား ဖြေရှင်းဟောကြားပြီး ဖြစ်၏။ (သဂါထာဝဂ္ဂသံယုတ်ကြည့်ပါ။)

## ၁၃၈။ အနန္တရပစ္စယကထာ

## ပဉ္စဝိညာဏ်တို့သည် အခြားမရှိ တစ်ဆက်တည်း ဖြစ်နိုင်သလော။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က စက္ခုဝိညာဏ် (မြင်သိစိတ်)၏ နောက်၌ ကပ်လျက် တစ်ဆက်တည်း သောတဝိညာဏ် (ကြားသိစိတ်) ဖြစ်နိုင်သည်ဟု ဆိုကြ၏။ ထိုနည်းအတူ ဃာနဝိညာဏ် ဇိဝှါဝိညာဏ် ကာယဝိညာဏ် စိတ်တို့သည် အချင်းချင်း ရှေ့နောက်တစ်ဆက်တည်း ဖြစ်နိုင်ကြသည်ဟု ဆို၏။

ကပွဲရုံအတွင်း၌ ချစ်သူနှင့် ယှဉ်တွဲ၍ ဆိုဖာပေါ်တွင် ထိုင်လျက် သရေစာ စားနေသူအား မြင်စိတ်၊ ကြားစိတ်၊ မွှေးစိတ်၊ အရသာခံစိတ်၊ အတွေ့အထိ ဇိမ်ယူစိတ်တို့သည် တစ်ဆက်တည်း ဖြစ်နေသည် (အနန္တရ ပစ္စည်း)ဟု ယူဆကြ၏။

သကဝါဒီအလို စက္ခုဝိညာဏ် (မြင်သိစိတ်)နှင့် သောတဝိညာဏ် (ကြားသိစိတ်) တို့သည် တစ်ဆက်တည်း မဖြစ်နိုင်ချေ။ အလားတူပင် ဃာနဝိညာဏ်၊ ဇိဝှါဝိညာဏ်၊ ကာယဝိညာဏ်တို့သည် အချင်းချင်း ရှေ့နောက် တစ်ဆက်တည်း ဖြစ်ခွင့်မရှိ၊ ထိုဝိညာဏ်တို့၏ အကြား၌ မနော ဝိညာဏ်စိတ်များ ကြားဝင်ဖြစ်ရသေး၏။ ထိုသို့အခြားသော စိတ်များ ခြားနေလျှင် စက္ခုဝိညာဏ် စသော ဝိညာဏ်ငါးပါးသည် အချင်းချင်း အနန္တရပစ္စည်း မတပ်နိုင်၊ (ဝါ) အကြားမရှိ တစ်ဆက်တည်း ဖြစ်ခွင့် မရှိချေ။ ပရဝါဒီထုတ်ပြသော ဥဒါဟရဏ်ပုံစံ၌ ဝိညာဏ်ငါးပါးတို့သည် အချင်းချင်း တစ်ဆက်တည်း မဖြစ်နိုင်ချေ။ စိတ်၏ ဖြစ်ပျက်မှု အရှိန် နှုန်းသည် အလွန်လျင်မြန်သောကြောင့် တစ်ဆက်တည်းဟု ထင်မှားခြင်း ဖြစ်၏။ အမှန်စင်စစ် မြင်စိတ်နှင့် ကြားစိတ် စသည်တို့၏ အကြား အကြား၌ မနောဝိညာဏ်စိတ်ပေါင်းများစွာ ကြားဝင်ဖြစ်သေး၏။ ဤသို့ ဖြစ်ပုံကို ဗုဒ္ဓနည်းကျ စိတ္တာနုပဿနာ သတိပဋ္ဌာန်ကမ္မဋ္ဌာန်းကို လက် တွေ့လုပ်ကြည့်လျှင် ရိပ်စားမိပါလိမ့်မည်။

## ၁၃၉။ အရိယရူပကထာ

### အရိယရုပ် (မဂ္ဂင်ထိုက်သောရုပ်)သည် မဟာဘုတ်ရုပ်ကို မှီသလော။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က သမ္မာဝါစာအရ ဝစီဝိညတ် ရုပ်၊ သမ္မာကမ္မန္တအရ ကာယဝိညတ်ရုပ်၊ သမ္မာအာဇီဝအရ ထိုဝိညတ်ရုပ် နှစ်ပါးကိုပင် ဆိုလို၏။ ထိုသမ္မာဝါစာ, သမ္မာကမ္မန္တ, သမ္မာအာဇီဝတို့သည် အရိယမဂ္ဂင်ရှစ်ပါး၌ ပါဝင်၍ အရိယရုပ်ဟု ခေါ်ကြ၏။ ထိုအရိယရုပ် သည် မဟာဘုတ်ရုပ်တို့ကို မှီတွယ်၍ ဖြစ်ပေါ်တည်ရှိရသည်ဟု ဆိုကြ၏။

ဤဝါဒဖြေရှင်းချက်ကို ကထာအမှတ် [၉၆] "ရူပံ မဂ္ဂေါတိ ကထာ" ၌ ရှုလေ။

## ၁၄၀။ အညော အနုသယောတိ ကထာ

### အနုသယကိလေသာသည် ပရိယုဋ္ဌာနကိလေသာမှ သီးခြားသော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဥပါဒ် ဌီ ဘင်အခိုက်သို့ ရောက်ရှိ ဖြစ်ပေါ်နေသော ကိလေသာကို ပရိယုဋ္ဌာနကိလေသာဟု ခေါ်ကြ၏။ (ပရိ + ဥဋ္ဌာန = ထက်ဝန်းကျင် + ထကြွ) ဥပါဒ် ဌီ ဘင် အခိုက်သို့ မရောက်မီ ငုပ်လျှိုးနေသော မဖြစ်ပေါ်သေးသော ကိလေသာ၊ (ဝါ) ဖြစ်ရန် အသင့်ရှိနေသောစွမ်းအင် အလားအလာ (ကိလေသာ)တို့ကို သာလျှင် အနုသယကိလေသာဟု ခေါ်လိုကြ၏။

သကဝါဒီအလို အနုသယ ကိလေသာသည်လည်း ဥပါဒ် ဌီ ဘင် ရှိ၏။ ဥပါဒ် ဌီ ဘင်အခိုက်သို့ မရောက်သော ကိလေသာ ဟူ၍ မရှိ။ ဥပါဒ် ဌီ ဘင်သဘောအားဖြင့် ဖြစ်ပေါ်သော ကိလေသာတို့ကိုသာလျှင် အနုသယဟု ခေါ်၏။ အနုသယ ကိလေသာတို့သည်ပင်လျှင် ထကြွဖြစ် ပေါ်သော ပရိယုဋ္ဌာနကိလေသာ မည်ကုန်၏။ ဓမ္မသင်္ဂဏီပါဠိတော်၌ "ကာမရာဂါနုသယော၊ ကာမရာဂပရိယုဋ္ဌာနံ" စသည်ဖြင့် အနုသယနှင့် ပရိယုဋ္ဌာနကို တူညီစွာ ဟောကြားတော်မူခဲ့၏။ အနုသယကိလေသာ၏ နူးညံ့သိမ်မွေ့၍ အင်အားကြီးမားပုံကို ကထာအမှတ်စဉ် (၁၀၆-၁၀၇-၁၀၈) အနုသယကထာ၌ ပြဆိုခဲ့ပြီ။

## ၁၄၁။ ပရိယုဋ္ဌာနံ စိတ္တဝိပ္ပယုတ္တန္တိ ကထာ

### ပရိယုဋ္ဌာနကိလေသာသည် စိတ်နှင့်မယှဉ်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ပရိယုဋ္ဌာနကိလေသာသည် စိတ်နှင့် မယှဉ်တွဲဘဲ မိမိဘာသာ သီးသန့်လွတ်ကင်းစွာ ဖြစ်ပေါ်နေသည်ဟု ယူဆကြ၏။ အကြောင်းမူ ကာမဂုဏ်အာရုံနှင့် ရင်ဆိုင်တွေ့ရာ ရွံ့စရာ

အသုဘဟု ရှုမည် ကြံရွယ် ကြိုးစားသော်လည်း ချစ်စရာ (သုဘ) ဟူ၍ ရှုမိတတ်၏။ စိတ်က ဝိပဿနာရှုနေစဉ် ကိလေသာတို့ ထကြွဖြစ်ပေါ် လာ၏။ ထိုထကြွဖြစ်ပေါ်လာသော ပရိယုဋ္ဌာနကိလေသာတို့သည် ဖြစ်နေဆဲ ဝိပဿနာစိတ်နှင့် မယှဉ်နိုင်။ သီးသန့်လွတ်ကင်းစွာ စိတ်နှင့် မယှဉ်ဘဲ ဖြစ်ပေါ်နေကြသည်ဟု ယူဆကြ၏။ စိတ္တဝိပ္ပယုတ္တတရားဟု ယူဆကြ၏။

သကဝါဒီအလို ပရိယုဋ္ဌာနကိလေသာသည်လည်း စိတ်နှင့်ယှဉ်သော စိတ္တသမ္ပယုတ္တသာလျှင် ဖြစ်၏။ ထိုကိလေသာနှင့်ယှဉ်သော စိတ်သည် ဝိပဿနာစိတ်၏ အကြားအကြား၌ ဖြစ်ပေါ်၏။ စိတ်ဖြစ်ပေါ်မှု လျင်မြန်သောကြောင့် ကိလေသာနှင့် ဝိပဿနာစိတ်ကို တစ်ပြိုင်နက် တူပြိုင်ဖြစ်နေသည်ဟု ယူဆသောကြောင့် ဤဝါဒပေါ်ပေါက်လာရခြင်း ဖြစ်၏။

## ၁၄၂။ ပရိယာပန္နကထာ

**ရူပရာဂါနုသယသည် ရူပဓာတ်၌ ပါဝင်၍ အရူပရာဂါနုသယသည် အရူပဓာတ်၌ ပါဝင်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ရူပဘုံ ရူပဘဝကို တပ်မက်သောရာဂ (ရူပရာဂ)သည် ရူပဓာတ်၌ ပါဝင်၏။ အရူပဘုံဘဝကို တပ်မက်သောရာဂ (အရူပရာဂ)သည် အရူပဓာတ်၌ ပါဝင်သည်ဟု ဆိုကြ၏။

သကဝါဒီအလို တပ်မက်မှုမှန်သမျှ ကာမဓာတ်၌ ပါဝင်၏။ ရူပါဝစရစိတ်နှင့် ယှဉ်ဖက် စေတသိက်တို့ကိုသာ ရူပဓာတ်ဟု ဆိုလို၏။ အရူပါဝစရစိတ်နှင့် ယှဉ်ဖက် စေတသိက်တို့ကိုသာ အရူပဓာတ်ဟု ဆိုလို၏။

## ၁၄၃။ အဗျာကတကထာ

**ဒိဋ္ဌိစေတသိက်သည် အဗျာကတဖြစ်သလော။**

ကောင်းကျိုး ဆိုးပြစ်ကို ဖြစ်စေနိုင်သော (ဝါ) အကျိုးပေးတတ်သော တရားများကို ကုသိုလ်, အကုသိုလ်ဟု ခေါ်ဆို၏။ ဝိပါက်စိတ်နှင့်

ကြိယာစိတ်တို့သည်ကား အကျိုးကို ဖြစ်စေနိုင်ခြင်း မရှိသောကြောင့် ကုသိုလ် အကုသိုလ် မမည်၊ အဗျာကတတရားဟူ၍ ခေါ်အပ်၏။ ဤကား အဘိဓမ္မာ၌ သုံးစွဲသော အဗျာကတဝေါဟာရ၏ အနက်အဓိပ္ပာယ် ဖြစ်၏။ ထို့ပြင် သုတ္တန်ပါဠိတော်တို့၌ တိတ္ထိတို့၏ သဿတအယူဝါဒ၊ ဥစ္ဆေဒအယူဝါဒနှင့် စပ်လျဉ်းသော မေးခွန်းပြဿနာမှာ ဖြေဆိုရန် မလိုသောကြောင့် မြတ်စွာဘုရား မဖြေသော ပြဿနာ (အဗျာကတ) ဟူသော အမည်ကို ရကြကုန်၏။ (အ + ဗျာကတ = မ + ဖြေအပ်)၊ ဤသို့ အဗျာကတ ဝေါဟာရနှစ်ခုကို ခွဲခြား မယူတတ်သောကြောင့် ပရဝါဒီအန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသားတို့က အဗျာကတဟု ဝေါဟာရချင်း တူညီမှုကို အကြောင်းပြု၍ သုတ္တန်နှင့် အဘိဓမ္မာကို ရောမွှေလျက် ဒိဋ္ဌိ (စေတသိက်)သည် အကုသိုလ် မဟုတ်၊ ဝိပါက်စိတ် ကြိယာစိတ်တို့ကဲ့သို့ အဗျာကတတရားဖြစ်သည်ဟု ယူမှားလေသည်။

## ၁၄၄။ အပရိယာပန္နကထာ

### ဒိဋ္ဌိစေတသိက်သည် ဘုံသုံးပါး၌ မပါဝင်သလော။

ချွန်ရသော ပုထုဇဉ်၏ ဂုဏ်ကိုချီးကျူးရာ၌ (ဝီတရာဂ) ရာဂကင်းသူ ဟုသာ ဆို၍ (ဝီတဒိဋ္ဌိက) ဒိဋ္ဌိကင်းသူဟု ချီးကျူး ပြဆိုထားခြင်းမရှိ၊ ထို့ကြောင့် ချွန်ရပုဂ္ဂိုလ်၏သန္တာန်၌ရှိသော ဒိဋ္ဌိစေတသိက်သည် ဘုံသုံးပါး လောကီတရား၌ ပါဝင်ခြင်းမရှိ၊ လောကုတ္တရာတရား၌ ပါဝင်သည်ဟု ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ဆိုကြ၏။

သကဝါဒီအလို ချွန်ရပုထုဇဉ်၌ ရာဂနှင့်အလားတူ ဒိဋ္ဌိလည်း ကင်းကွာနေ၏။ ချွန်စိတ်ဖြစ်ခိုက်၌ အကုသိုလ်တရားအားလုံး ကင်းကွာ နေ၏။ သို့ရာတွင် ရာဂကင်းခြင်းသည်သာလျှင် ချွန်ရရန် အားကြီးသော အကြောင်းဖြစ်၏ဟု ပြဆိုရန် ချွန်ရပုဂ္ဂိုလ်ကို ချီးကျူးရာ၌ (ဝီတရာဂ) ရာဂကင်းသူဟု ချီးကျူးပြဆိုထားခြင်းဖြစ်သည်။ ဒိဋ္ဌိကင်းမှုသည် ချွန် ရရန် အကြောင်းမဟုတ်သောကြောင့် ချွန်ရသောပုဂ္ဂိုလ်ကို ချီးကျူးရာ၌ ဝီတဒိဋ္ဌိကဟု ပြဆိုခြင်း မပြုခဲ့ချေ။

## ၁၄၅။ ပစ္စယတာတထာ

### တရားတစ်ခု၌ ပစ္စယသတ္တိတစ်ခုသာ ရှိသလော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က တရားတစ်ခု၌ ပစ္စယသတ္တိ တစ်ခုသာ ရှိရမည်ဟု ဆိုကြ၏။ ဥပမာ - လောဘ၌ ဟေတုပစ္စယသတ္တိ ရှိသည်ဟု ဆိုလျှင် ထိုလောဘ၌ သဟဇာတ အညမည စသော ပစ္စယ သတ္တိများ မရှိနိုင်ဟု ဆိုကြ၏။ ပဋ္ဌာန်းပါဠိတော်ကို ပယ်ဖျက်ခြင်းဖြစ်၏။

သကဝါဒီအလို လောဘတရားသည် အတူတကွ ဖြစ်ဖော်ဖြစ်ဖက် တရားတို့အား (ဟေတု သဟဇာတ အညမည နိဿယ သမ္ပယုတ္တ စသည်ဖြင့်) ပစ္စယသတ္တိအမျိုးမျိုးဖြင့် ကျေးဇူးပြု ထောက်ပံ့နိုင်၏။ ပဋ္ဌာန်း ပါဠိတော်လာသည့်အတိုင်း သကဝါဒီက လက်ခံ၏။

## ၁၄၆။ အညမညပစ္စယတထာ

### အပြန်အလှန် အကြောင်းအကျိုးဖြစ်နိုင်သလော။

ပရဝါဒီ မဟာသံဃိက ဂိုဏ်းသားတို့က အပြန်အလှန် အကြောင်း အကျိုးဖြစ်မှု (အညမညပစ္စည်း)ကို ငြင်းပယ်ကြကုန်၏။ ပဋ္ဌာန်းပါဠိ တော်လာ အညမညပစ္စည်းကို ပယ်ဖျက်လိုကြကုန်၏။ အကြောင်းတရား သည် အမြဲတမ်း အကြောင်းသာဖြစ်ရမည် အကျိုးမဖြစ်နိုင်၊ အကျိုးသည် လည်း ဘယ်အခါမျှ အကြောင်းမဖြစ်နိုင်ဟု ဆိုကြသည်။ ဇာတိကြောင့် ဇရာမရဏဖြစ်သည်ဟူ၍သာ ဘုရားဟောတော်မူရာ ဇရာမရဏကြောင့် ဇာတိဖြစ်သည်ဟု ဘုရားမဟောသောကြောင့် အကြောင်းသည် အကျိုး မဖြစ်နိုင်၊ အကျိုးသည် အကြောင်းမဖြစ်နိုင်ဟု ဆိုကြ၏။ ပရဝါဒီသည် 'အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်သည်' ဟူ၍သာ ဆိုလို၍ 'သင်္ခါရကြောင့် အဝိဇ္ဇာဖြစ်သည်'ဟု မဆိုလိုချေ။ 'တဏှာကြောင့် ဥပါဒါန်ဖြစ်သည်' ဟူ၍သာ ဆိုလို၍ 'ဥပါဒါန်ကြောင့် တဏှာဖြစ်သည်'ဟု မဆိုလိုချေ။

သကဝါဒီအလို အဝိဇ္ဇာနှင့် သင်္ခါရ, တဏှာနှင့် ဥပါဒါန်တို့သည် အချင်းချင်း အပြန်အလှန် အကြောင်းအကျိုးဖြစ်နိုင်ကြ၏။ အဝိဇ္ဇာ

ကြောင့် သင်္ခါရဖြစ်သကဲ့သို့ သင်္ခါရကြောင့်လည်း အဝိဇ္ဇာဖြစ်၏။ တဏှာကြောင့် ဥပါဒါန် ဖြစ်သကဲ့သို့ ဥပါဒါန်ကြောင့်လည်း တဏှာဖြစ်ရ၏။ ဤသို့ ပဋ္ဌာန်းပါဠိတော်လာသည့်အတိုင်း အတူတကွဖြစ်သော နာမ်တရား (သဟဇာတဓမ္မ)တို့သည် အညမညပစ္စည်းဖြစ်နိုင်ကြောင်း လက်ခံထားကြ၏။

## ၁၄၇။ အဒ္ဓါကထာ

**အချိန်ကာလသည် အကြောင်းကြောင့် ဖြစ်ပေါ်သလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ကာလသည် အကြောင်းကြောင့် ဖြစ်သော အကျိုး ပရမတ္ထတရားတစ်မျိုးဖြစ်သည်ဟု ယူဆကြ၏။ ရုပ် ဝေဒနာ သညာ စသော တရားတို့ကဲ့သို့ ထင်ရှားရှိသော တရားဟု ယူဆကြ၏။

သကဝါဒီအလို ကာလသည် ပရမတ္ထအားဖြင့် မရှိ၊ ပညတ်မျှသာဖြစ်၏။ အမှန်တကယ်ရှိသောတရားမှာ ရုပ် ဝေဒနာ သညာ စသည်တို့သာ ဖြစ်ကုန်၏။ ယနေ့၊ နက်ဖြန်၊ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ဟူသော ကာလသည် ရုပ်နာမ်ဓမ္မကို အမှီပြု၍ ခေါ်ဝေါ်ပညတ်သမုတ်ထားသော ကာလပညတ်မျှသာဖြစ်၏။ နေဟူသော အလင်းရုပ် (ရူပါရုံ)ကို အကြောင်းပြု၍ နေဝင်ချိန်၊ နေထွက်ချိန်၊ မွန်းတည့်ချိန်၊ နေ့အခါ၊ ညအခါ၊ နံနက်၊ နေ့လယ်၊ ညနေ စသည်ဖြင့် ကာလများကို ပြောဆိုခဲ့ခြားနေကြရ၏။ အကယ်၍သာ 'နေ'ဟူသော ရုပ်ဝတ္ထုကြီးမရှိပါက အထက်ဖော်ပြပါ ကာလများကို ပြောဆိုနိုင်ကြတော့မည် မဟုတ်ချေ။ ထို့ကြောင့် ကာလဟူသည် အကြောင်းကြောင့် ဖြစ်သောတရား (ပရိနိပ္ဖန္န) မဟုတ်၊ ပညတ်တရားသာလျှင် ဖြစ်သည်ဟု မှတ်ယူအပ်၏။

## ၁၄၈။ ခဏလယမုဟုတ္တကထာ

**ခဏ လယ မုဟုတ်ခေါ်သော ကာလသည် အကြောင်းကြောင့် ဖြစ်ပေါ်သလော။** (အဖြေ အထက်နည်းအတိုင်း တူပြီ။)

## ၁၄၉။ အာသဝကထာ

### အာသဝေါတရားလေးပါးတို့သည် အာသဝ၏ အာရုံမဖြစ်နိုင်သလော။

ပရဝါဒီ ဟေတုဝါဒဂိုဏ်းသားတို့က သိအပ်သော တရားနှင့် အသိခံ အာရုံသည် တခြားစီ ဖြစ်ရမည်။ ထို့ကြောင့် အာသဝေါတရားလေး ပါးသည် မိမိကိုယ်ကို ပြန်၍ မသိနိုင်။ ဤလေးပါးမှတစ်ပါး အခြားသော အာသဝေါတရားဟူ၍လည်း မရှိသောကြောင့် အာသဝေါတရား လေးပါး တို့သည် အာသဝ၏အာရုံ မဖြစ်နိုင်၊ ထို့ကြောင့် အာသဝေါတရားလေးပါး တို့ကို အာသဝေါကင်းသော တရား (အနာသဝ)ဟု ဆိုကြကုန်၏။

သကဝါဒီအလို အာသဝေါတရားလေးပါးသည် လေးပါးလုံး အမြဲ ပူးတွဲ ဖြစ်နေသည် မဟုတ်၊ တစ်ပါးစီ ခွဲခြားဖြစ်သည့်အခါလည်း ရှိ၏။ ထိုအခါ အာသဝေါတရား တစ်ပါးက ကျန် အာသဝေါတရား သုံးပါးကို အာရုံပြု၏။ လောဘသည် မောဟကို အာရုံပြုနိုင်၍ မောဟသည် လောဘကို အာရုံပြု နိုင်၏။ ထို့ပြင် ပစ္စုပ္ပန် အာသဝေါတရား လေးပါးတို့သည် အတိတ် အာသဝေါတရား လေးပါးတို့ကိုလည်း အာရုံပြုနိုင်ကြသည်။ ထို့ကြောင့် အာသဝသည် အာသဝ၏ အာရုံဖြစ်နိုင်သည်ဟု မှတ်အပ်၏။

ထို့ကြောင့် အာသဝေါတရားတို့ကို အာသဝေါကင်းသော တရား (အနာသဝ)ဟု ဆိုခွင့်မရှိချေ။

## ၁၅၀။ ဇရာမရဏကထာ

### လောကုတ္တရာတရားတို့၏ ဇရာမရဏသည် လောကုတ္တရာဖြစ်သလော။

အိုမင်းရင့်ရော်မှု (ဇရာ)၊ ပျက်စီးသေဆုံးမှု (မရဏ) ဟူသည် သီး ခြားဖြစ်ပေါ် ရပ်တည်နေသော တရားမဟုတ်၊ ရုပ်၏ ဇရာမရဏကို ရုပ်ထဲ၌ ထည့်သွင်း ရေတွက်ရသကဲ့သို့ လောကီစိတ် စေတသိက်တို့၏ ဇရာမရဏကို လောကီ၌ ထည့်သွင်းရန်၊ လောကုတ္တရာတရား (မဂ်စိတ် ဖိုလ်စိတ်)တို့၏ ဇရာမရဏကိုလည်း လောကုတ္တရာတရား၌ ထည့်သွင်း ရန် ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က အလိုရှိကြ၏။

သကဝါဒီအလို ဓမ္မသင်္ဂဏီပါဠိတော် လောကိယဒုက်၌ ဇရာ မရဏ ကို လောကီ, လောကုတ္တရာ တရားနှစ်ပါး၌ မပါဝင်ကြောင်း ပြဆိုထား သောကြောင့် ပရဝါဒီကို ပယ်မြစ်အပ်၏။ လောကုတ္တရာ တရားတို့၏ ဇရာမရဏကို လောကုတ္တရာတရားဟု မဆိုသင့်ချေ။

## ၁၅၁။ သညာဝေဒယိတကထာ

### နိရောဓသမာပတ်သည် လောကုတ္တရာတရားလော။

ပရဝါဒီဖြစ်သော ဟေတုဝါဒဂိုဏ်းသားတို့က နိရောဓသမာပတ်ကို လောကုတ္တရာတရား၌ ထည့်သွင်းရေတွက်လိုကြ၏။

သကဝါဒီအလို နိရောဓသမာပတ်မှာ သီးခြား ပရမတ္ထတရား မဟုတ်၊ နာမ်ခန္ဓာလေးပါး ချုပ်ငြိမ်းသောသဘော၊ ချုပ်ငြိမ်းနေခိုက် ကိုသာ နိရောဓသမာပတ်ဟု ဆိုလို၏။ ထို့ကြောင့် နိရောဓသမာပတ်ကို လောကီတရားဟုလည်း မဆိုသင့်၊ လောကုတ္တရာတရားဟုလည်း မဆို သင့်။

## ၁၅၂။ ဒုတိယ သညာဝေဒယိတကထာ

### နိရောဓသမာပတ်သည် လောကီတရားလော။

ပရဝါဒီဖြစ်သော ဟေတုဝါဒဂိုဏ်းသားများက နိရောဓသမာပတ် ကို လောကုတ္တရာတရား၌ ထည့်သွင်းမရေတွက်ပါက လောကီတရား၌ ထည့်သွင်းရန် အဆိုပြုကြပြန်၏။ (သကဝါဒီ အထက်နည်းအတိုင်း)

## ၁၅၃။ တတိယ သညာဝေဒယိတကထာ

### နိရောဓသမာပတ်ဝင်စားနေစဉ် သေဆုံးနိုင်သလော။

ပရဝါဒီ ရာဇဂိရိကဂိုဏ်းသားတို့က နိရောဓသမာပတ် ဝင်စား နေစဉ် မသေဆုံးရ ဟူသော (နိယာမ) သတ်မှတ်ချက် ဥပဒေသ မရှိသော

ကြောင့် နိရောဓသမာပတ် ဝင်စားနေစဉ် သေဆုံးနိုင်သည်ဟု ယူဆကြ၏။ ဤဝါဒမှာ ဂျိန်းတို့၏ အယူအဆကို အခြေခံ၏။ ဂျိန်းတို့သည် ဝေဒနာသညာချုပ်ငြိမ်းစေရန် ဂူပိတ်ပြီး အစာငတ်ခံ၍ အသက်အောင့်နေကြ၏။ အားနည်း၍ မေ့မြောသွားသောအခါ ဘာကိုမျှ မသိဘဲ နေခြင်းကို နိရောဓသမာပတ်ဝင်စားသည်ဟု ဆိုကြ၏။ မေ့မြော၍ နောက်ဆုံး၌ သေဆုံးသွားကြ၏။ ထိုပုဂ္ဂိုလ်မျိုးကို ကြည့်၍ ပရဝါဒီက နိရောဓသမာပတ်ဝင်စားနေစဉ် သေဆုံးမှုဖြစ်နိုင်သည်ဟု ဆိုကြ၏။

သကဝါဒီအလို သေဆုံးမှု ဟူသည် စုတိစိတ်ဖြစ်ခြင်းကို ခေါ်၏။ နိရောဓသမာပတ်ဝင်စားနေစဉ် စုတိစိတ်လည်း မရှိ၊ အခြား ဘာစိတ်မျှလည်းမရှိသောကြောင့် သေဆုံးခြင်း မဖြစ်နိုင်ချေ။ စက္ခုဝိညာဏ် စသော စိတ်များ၊ ကုသိုလ်, အကုသိုလ်ဇောစိတ်များ ဖြစ်ခိုက်၌လည်း သေဆုံးခြင်း မရှိချေ။ စုတိစိတ်ဖြစ်မှသာလျှင် သေဆုံးခြင်း ဖြစ်နိုင်၏။ ထို့ပြင် နိရောဓသမာပတ်ဝင်စားနေစဉ် သေရန် မဆိုထားဘိ ထိုပုဂ္ဂိုလ်၏ ကိုယ်ကာယမှာ မီးလောင်ခြင်း၊ လက်နက်ထိမှန် ပျက်စီးခြင်းပင် မရှိနိုင်ချေ။ ထို့ကြောင့် နိရောဓသမာပတ်ဝင်စားနေစဉ် သေဆုံးခြင်းမရှိဟု မှတ်အပ်၏။

## ၁၅၄။ အသညသတ္တုပိကတထာ

**အသညသတ်သမာပတ်သည် နိရောဓသမာပတ်နှင့်တူသလော။**

သတ္တဝါတို့သည် သိမှု (သညာ)ရှိနေသောကြောင့်သာ ဆင်းရဲဒုက္ခခံစားကြရ၏။ ဘာကိုမျှ မသိဘဲနေပါက ဆင်းရဲဒုက္ခဟူ၍ ရှိတော့မည်မဟုတ်။ သိမှု (သညာ)သည် ဆင်းရဲ၏။ ထိုသိမှု (သညာ)မဖြစ်ပါမူကားကောင်းလေစွဟု ဘာဝနာပွားခြင်း၊ သိမှု (သညာ)ကို အပြစ်မြင် ရွံမုန်း၍ ဘာဝနာပွားခြင်းသည် သညာဝိရာဂဘာဝနာ မည်၏။ (သညာ + ဝိရာဂ သိမှုကို + မတပ်မက်ခြင်း) ထိုသညာဝိရာဂ ဘာဝနာ၏ အစွမ်းဖြင့် စတုတ္ထစျာန်ကို ဝင်စားလျှင် ထိုစတုတ္ထစျာန်ကို အသညသတ္တုပိက

သမာပတ်ဟု ခေါ်၏။ (ဝါ) အသညသတ် သမာပတ်ဟု ခေါ်၏။ ထိုသို့ အသညသတ်သမာပတ်ဟု ခေါ်သော်လည်း သိမှု (သညာ) ကင်းပျောက် ချုပ်ငြိမ်းသွားသည် မဟုတ်ချေ။ စတုတ္ထစျာန်စိတ် (သညာ) ဆက်လက်ဖြစ်ပေါ်နေတော့၏။ ထိုစျာန်စိတ်၌ ဖဿ ဝေဒနာ သညာတို့ ယှဉ်၏။ အလောဘ အဒေါသ သဒ္ဓါ ဝီရိယစသည်တို့ ယှဉ်၏။ ထို့ကြောင့် အသညသတ္တုပိက (အသညသတ်) သမာပတ်၌ သညာဝေဒနာ ချုပ်ခြင်း မရှိရကား ယင်းကို နိရောဓသမာပတ်နှင့် တူသည်ဟု မဆိုသင့်ချေ။ ဤကား သကဝါဒတည်း။

ပရဝါဒီ ဟေတုဝါဒဂိုဏ်းသားတို့က ဝိတက်၌ တပ်မက်မှုကင်းသော (ဝိတက္ကဝိရာဂ) ဘာဝနာကြောင့် ဒုတိယစျာန်ရသောအခါ ထိုစျာန်သည် ဝိတက်ကင်းသကဲ့သို့ သညာကို တပ်မက်မှုကင်းသော (သညာဝိရာဂ) ဘာဝနာကြောင့် စတုတ္ထစျာန်ဝင်စားသောအခါ ထိုစျာန်၌ သိမှုဆိုင်ရာ နာမ်တရားအားလုံး (သညာ) ချုပ်ငြိမ်းနေသည်ဟု ယူဆ၍ အသညသတ် သမာပတ်ကို နိရောဓသမာပတ်နှင့် တူသည်ဟု ဆိုကြခြင်းဖြစ်၏။ အသညသတ်သတ္တဝါ၌ သိမှု (သညာ) နာမ်တရားအားလုံး လုံးဝဖြစ်ပေါ်ခြင်းမရှိသည်ကို အကြောင်းပြု၍ အသညသတ် သမာပတ်ဝင်စားခိုက်၌လည်း သိမှု (သညာ)အားလုံး ချုပ်ငြိမ်းနေရသည်ဟု ပရဝါဒီ အယူမှားလေ၏။

## ၁၅၅။ တမ္ဗူပစယတထာ

**စေတနာကံနှင့် စုဆောင်းလာခဲ့သော အတိတ်ကံများသည် သီးခြားစီဖြစ်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ဖြစ်ဆဲ ပြုဆဲ၌ရှိသော စေတနာကို ကံဟု ခေါ်၏။ ထိုစေတနာ ချုပ်ပျက်သွားသောအခါ ကံဟူသော အစွမ်းသတ္တိများ တစ်မျိုးတစ်ဖုံ ကျန်ရစ်၏။ ထိုကံများသည် အကျိုးပေးခွင့် မရမီ ကြားကာလ၌ စုဆောင်း သိမ်းထားသောကြောင့်

ကမ္မူ ပစယ (ကမ္မ + ဥပစယ = ကံ = သိုမှီးထားသော အစုအဝေး) ဟု ခေါ်၏။ ထိုသို့ စေတနာကံ ချုပ်ပျက်ပြီးနောက် အကျိုးပေးခွင့် မရမီ စုဆောင်းထားသော (ကမ္မူပစယ) ကံအစုအဝေးကြီးသည် စေတနာကံနှင့် သဘာဝချင်းမတူ၊ သီးခြားတရားမျိုး ဖြစ်၏။ စိတ်နှင့် မယှဉ်၊ စိတ္တဝိပ္ပယုတ္တ ဖြစ်၏။ အာရုံကို မသိတတ်၊ အနာရမ္မဏဖြစ်၏။ စိတ်လည်း မဟုတ်၊ စေတသိက်လည်း မဟုတ်။ ကမ္မူပစယကို စေတသိက်မှအလွတ် ဥပါဒ် ဌီ ဘင် ကင်းသော သဘာဝသတ္တိ စွမ်းအင်တစ်မျိုးဟု ကြံဆ၏။ အပင်မပေါက်မီ မျိုးစေ့သည် ထင်ရှားရှိနေရ၏။ အပင်ပေါက်သည်နှင့် တစ်ပြိုင်နက် မျိုးစေ့သည်ပျက်စီးရ၏။ ထိုနည်းအတူ အကျိုးဝိပါက်မဖြစ်မီ ကံရှိနေရမည်၊ အကျိုးဝိပါက်ဖြစ်သောအခါ ကံပျက်စီး၍ ကံသည် ဝိပါက် အသွင်ပြောင်းသွားသည်ဟု ယူဆကြ၏။

သကဝါဒီအလို ဥပါဒ်ဌီဘင်အခိုက်၌ ဖြစ်ပေါ်နေသော စေတနာကိုသာ ကံဟု ခေါ်လို၏။ ထိုစေတနာ ချုပ်ပျက်သွားသောအခါ မည်သည့် အသွင်သဏ္ဌာန်နှင့်မျှ တည်ရှိမနေချေ၊ စိတ်စေတသိက်မှ သီးခြား ကင်းလွတ်သော ဥပါဒ် ဌီ ဘင် ကင်းသော သိုမှီးစုဆောင်းကံ (ကမ္မူပစယ) ဟု မရှိနိုင်ချေ။ စေတနာကံသည် ချုပ်ပျက်ပြီးနောက် နေ့၊ ရက်၊ နှစ်၊ ဘဝစသည်ဖြင့် ကာလခြား၍ အကျိုးပေးခြင်းကို နာနာက္ခဏိကကံဟု ခေါ်ရ၏။ ထိုနာနာက္ခဏိက ကံတရားသည် စေတနာ၏ ဘင်ခဏာ၌ပင် ချုပ်ပျက်ခဲ့ပြီးဖြစ်၏။ ထင်ရှားမရှိသော အတိတ်တရားဟု ခေါ်ရ၏။ ကံသည် အကျိုးကို ဖြစ်စေရာ၌ မျိုးစေ့မှ အပင်ပေါက်ပုံ ဥပမာကို နည်းယူ မကြံဆသင့်ချေ။ ကံသည် အကျိုးဝိပါက်ကို ဖြစ်စေရာ၌ အကြောင်းကံသည် ထင်ရှားရှိ၍ ရပ်တည်နေရန် မလိုချေ။ ချုပ်ပျက်ခဲ့ပြီး၍ မရှိဘဲလျက် ကျေးဇူးပြုခြင်းဖြစ်၏။ နတ္ထိပစ္စည်းဖြစ်၏။ ဤသို့ နတ္ထိပစ္စည်းကို နားမလည်သောကြောင့် ပရဝါဒီသည် သိုမှီးစုဆောင်းထားသောကံ (ကမ္မူပစယ) များကို စိတ္တဝိပ္ပယုတ္တ၊ အနာရမ္မဏဟု ယူမှားလေ၏။

## ၁၅၆။ နိဂ္ဂဟကထာ

**စိတ်တန်ခိုးစွမ်းအား ကြီးမားသူသည် သူတစ်ပါး၏စိတ်ကို ဖိနှိပ်နိုင်သလော။**

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က စိတ်တန်ခိုးစွမ်းအင် ကြီးမားသူတို့သည် သူတစ်ပါး၏စိတ်ကို ဖိနှိပ် အမိန့်ပေးနိုင်ကြသည်ဟု ဆိုကြ၏၊ မိမိစိတ်ဖြင့် သူတစ်ပါးစိတ်ကို ဖိနှိပ်ဆုံးမနိုင်၍ လိုသလို အမိန့်ပေးနိုင်သည်ဟု ယုံကြည်ကြ၏။ ဤဝါဒမှာ စိတ်ညှို့ပညာနှင့် အာထဗ္ဗဏဗေဒင်များမှ ဆက်နွယ်လာခြင်းဖြစ်၏။ ဗလပ္ပတ္တာ = စိတ်တန်ခိုးစွမ်းအား ကြီးမားသော ပုဂ္ဂိုလ်များ၊ ဝသိပတ္တ = အလိုအတိုင်း ဖြစ်စေနိုင်သော စိတ်တန်ခိုးရှိသည့်ပုဂ္ဂိုလ်များ ဟူသော ဘုရားဟော ပါဠိတော်ကို ကိုးကား၍ စိတ်တန်ခိုးရှင်က သူတစ်ပါးစိတ်ကို မိမိစိတ်ဖြင့် နှိပ်ကွပ်နိုင်သည်ဟု ကြံစည်ယူဆကြ၏။

သကဝါဒီအလို စိတ်တန်ခိုးရှင်သည် သူတစ်ပါးစိတ်ကို ကိလေသာစင်ကြယ်အောင် လုပ်မပေးနိုင်၊ သူတစ်ပါးအတွက် တရားကျင့်ပေး၍ မရ၊ ဘယ်သူမပြု မိမိမှုဖြစ်၏။ ကိုယ့်အား ကိုယ်ကိုးရမည်။ သူတစ်ပါးက ဉာဏ်ဖွင့်ပေး၍၊ ဓာတ်ဖွင့်ပေး၍၊ ဓာတ်ကူးပေး၍ အသိဉာဏ် အမြင်ထူးကို ရသည် ဆိုသည်မှာ လုံးဝမဖြစ်နိုင်။ ဤအယူအဆများကို ပယ်မြစ်အပ်၏။ စိတ်တန်ခိုးရှင်သည် ဈာန်အဘိညာဉ်အစွမ်းဖြင့် ကြောက်မက်ဖွယ် အဆင်း အသံ အနံ့ တို့ကို ပြ၍ ခြောက်လှန့်နိုင်၏။ နှစ်သက်ဖွယ် အဆင်း အသံ အနံ့တို့ကို ပြ၍ ဆွဲဆောင်နိုင်၏။ စိတ်ကို စိတ်ဖြင့် တိုက်ရိုက်အမိန့်ပေးခြင်းဆိုသည်မှာ မဖြစ်နိုင်ချေ။ စိတ်ညှို့ပညာရှင်တို့က သူတစ်ပါးစိတ်ကို ညှို့ရာ၌ အဆင်းကို ပြ၍ အသံကိုပေး၍ ညှို့ကြသည်။ နတ်ရုပ် ဘီလူးရုပ် အင်းကွက် စသော အဆင်း၊ ဆရာ၏ ကြောက်မက်ဖွယ်ရာရုပ်ပုံနှင့် အမူအရာကို မပြဘဲ အသံမပေးဘဲ စိတ်ညှို့နည်းဟူ၍ မရှိချေ။ ထို့ကြောင့် စိတ်ဖြင့် စိတ်ကို ဖိနှိပ်နိုင်သည်ဟူသော အယူအဆကို ပယ်အပ်၏။

## ၁၅၇။ ပဋ္ဌဟာတထာ

**စိတ်တန်ခိုးစွမ်းအား ကြီးမားသူသည် သူတစ်ပါး၏စိတ်ကို မိမိ စိတ်ဖြင့် ချီးမြှောက်နိုင်သလော။** (အဖြေ အထက်နည်းနှင့်တူပြီ။)

## ၁၅၈။ သုခါနုပ္ပဒါနတထာ

**ချမ်းသာသုခကို သူတစ်ပါးအား ပေးနိုင်ပါသလော။**

ပရဝါဒီ ဟေတုဝါဒ ဂိုဏ်းသားတို့က အချင်းချင်း တစ်ယောက်နှင့် တစ်ယောက် ချမ်းသာသုခကို ဝေမျှပေးကမ်း၍ ရနိုင်သည်ဟု ဆိုကြ၏။

သကဝါဒီအလို ချမ်းသာသုခဆိုသည်မှာ သတ္တဝါတစ်ဦး၏ သန္တာန်၌ဖြစ်သော နာမ်တရားဖြစ်၍ မည်သူ့ကိုမျှ ဝေငှခွဲခြမ်းပေး၍ မရချေ။ သို့ရာတွင် မိမိ ဤသို့ဤပုံ ကျင့်သုံးပါက ချမ်းသာသုခဖြစ်ပုံကို သူတစ် ပါးအား နည်းပေးလမ်းပြ ဆုံးမနိုင်၏။ ချမ်းသာသုခ ဖြစ်စေနိုင်သော ရုပ်ဝတ္ထုများကို ဝေငှပေးကမ်း၍ ရနိုင်၏။ ထိုပုဂ္ဂိုလ်ဆုံးမသည့်အတိုင်း လိုက်နာကျင့်သုံးပါက ချမ်းသာသုခ ဖြစ်ပေါ်နိုင်၏။ ထိုပုဂ္ဂိုလ်ပေးသော ရုပ်ဝတ္ထုပစ္စည်းများကို သုံးဆောင်ပါက ချမ်းသာသုခ ဖြစ်နိုင်၏။ နာမ် တရားဖြစ်သော ချမ်းသာသုခ (ဝေဒနာ) ကိုမူ လွှဲပြောင်း ဝေငှပေးရန် မဖြစ်နိုင်ဟု မှတ်အပ်၏။

## ၁၅၉။ အဓိဂယှမနသိကာရကထာ

**ရှိရှိသမျှ သင်္ခါရတရား အားလုံးတို့ကို တစ်ပြိုင်နက်ပေါင်း၍ နှလုံးသွင်း နိုင်သလော။**

နှလုံးသွင်းမှုမှာ နည်းတူဟု ယူဆနှလုံးသွင်းခြင်း တိုက်ရိုက် အာရုံပြု နှလုံးသွင်းခြင်း ဟူ၍ နှစ်မျိုးရှိ၏။ ပုံနှိပ်စာအုပ်တစ်အုပ်ကို ဖတ်ရာ၌ ဖတ်သူ၏ရှေ့၌ရှိသော စာရွက်စာသားတို့ကို သိခြင်းသည် တိုက်ရိုက် အာရုံပြု နှလုံးသွင်းခြင်း ဖြစ်၏။ သို့ရာတွင် ထိုပုံနှိပ်စာအုပ်နှင့် တစ်ပြိုင်

တည်း ရိုက်နှိပ်သော စာအုပ်များ၏ စာသားများသည်လည်း ယခုဖတ်နေသော စာသားနှင့် အတူတူပင်ဖြစ်သည်ဟု သိခြင်းသည် နည်းတူဟု ယူဆ နှလုံးသွင်းခြင်းဖြစ်၏။ "သဗ္ဗေ သင်္ခါရာ အနိစ္စာ ။ သင်္ခါရတရားအားလုံးသည် အနိစ္စသာ ဖြစ်ကုန်၏"ဟု နှလုံးသွင်းရာ၌ ရှိရှိသမျှ သင်္ခါရတရားတို့ကို တိုက်ရိုက်အာရုံပြု၍ မသိနိုင်။ ဥပမာ - မိမိရှေ့ရှိ သစ်ရွက်တစ်ရွက်ကြွေကျသည်ကို အကြောင်းပြု၍ မိမိရှေ့ရှိ မကြွေကျသေးသော သစ်ရွက်များသည်လည်း ကြွေကျခြင်းသဘော ရှိ၏ဟု နှလုံးသွင်း၏။ အခြားအရပ်ရှိ သစ်ရွက်များကိုလည်း မမြင်ရပါဘဲလျက် ကြွေကျခြင်းသဘောရှိ၏ဟု နည်းတူပြု နှလုံးသွင်း၏။ အတိတ် အနာဂတ်ရှိ သစ်ရွက်များကိုလည်း ကြွေကျခြင်းသဘောရှိ၏ဟု နှလုံးသွင်း၏။ စိတ်အားလုံးသည် အနိစ္စဖြစ်၏ဟု ရှုမြင်ရာ၌ ထိုရှုမြင်စိတ်က မိမိရှုမြင်စိတ်ကို ပြန်၍ အာရုံပြုနိုင်သည် မဟုတ်၊ နည်းတူပြု၍ နှလုံးသွင်းခြင်းဖြင့် အနိစ္စဟု ရှုရာ၌ ထိုရှုဆဲ ပစ္စုပ္ပန်စိတ်ပါ အနိစ္စသဘော၌ ပါဝင်သွားခြင်းဖြစ်၏။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ရှိရှိသမျှ သင်္ခါရတရားတို့ကို တစ်ပြိုင်နက် ပေါင်းရုံးအာရုံပြုနိုင်သည်။ "သဗ္ဗေ သင်္ခါရာ အနိစ္စာတိ၊ ယဒါ ပညာယ ပဿတိ"၌ နည်းတူ ယူဆ နှလုံးသွင်းခြင်း မဟုတ်ဘဲ တိုက်ရိုက်အာရုံပြု နှလုံးသွင်းခြင်းဟု ယူဆကြ၏။ အနိစ္စဟု ရှုမှတ်သော စိတ်သည် ထိုစိတ်ကိုလည်း ပြန်လည်အာရုံပြု၍ ရှုမှတ်သည်ဟု ယူဆကြ၏။ (ဤသို့ မဖြစ်နိုင်ကြောင်းကို ကထာအမှတ် (၅၁) ပစ္စုပ္ပန္နကထာ၌ ချေပရှင်းလင်းခဲ့ပြီ။)

## ၁၆၀။ ရူပံ ဟေတူတိ ကထာ

### ရုပ်တရားသည် ဟိတ်မည်သလော။

ဟေတုသဒ္ဒါသည် ရေသောက်မြစ်ကဲ့သို့ အကြောင်းရင်း ဟူသော အနက်၊ အထောက်အပံ့ အကူအညီအကြောင်းမျှဖြစ်သော အနက် ဟူ၍ နှစ်မျိုး ရှိ၏။ ပထမ အနက်အဓိပ္ပာယ်အရ လောဘ ဒေါသ မောဟ၊ အလောဘ အဒေါသ အမောဟ ဤခြောက်ပါးကိုသာလျှင် ဟိတ်ဟူ၍

ခေါ်ရ၏။ ဒုတိယ အနက်အဓိပ္ပာယ်အားဖြင့် ရုပ်နာမ် ပရမတ္ထတရားနှင့် ပညတ်တရားတို့ကို ဟေတု-အကြောင်းတရားဟူ၍ ခေါ်နိုင်၏။ ဤသို့ ဟေတုခေါ် ဟိတ်အကြောင်း တရားနှစ်မျိုး ခွဲခြား၍ မယူဘဲ ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့သည် မဟာဘူတရုပ်ကြီးလေးပါးကို လောဘ ဒေါသ စသည်တို့နှင့် တန်းတူထား၍ ဟိတ်မည်၏ဟု ဆိုကြကုန်၏။

## ၁၆၁။ ရူပံ သဟေတုကန္တိ ကထာ

### ရုပ်၌ ဟေတုအကြောင်းတရား ရှိသလော။

အကြောင်းတရားကို ပစ္စယ အကြောင်းနှင့် ဟေတု အကြောင်းဟု နှစ်မျိုးခွဲရမည်။ အကြောင်းရင်း၊ အကြောင်းဖျား၊ အကူအညီအကြောင်း စသော အကြောင်းတရားများ အားလုံးကို ပစ္စယအကြောင်းဟု ခေါ်၏။ အရင်းအမြစ်ကျသော လောဘ ဒေါသစသော အကြောင်းတရား ခြောက်ပါးကိုသာ ဟေတု-အကြောင်းဟု ခေါ်၏။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က ဟေတု-အကြောင်းနှင့် ပစ္စယ-အကြောင်းကို ထပ်တူပြု၍ ရုပ်၌ ဟေတုအကြောင်း ရှိသည်ဟု ဆိုကြ၏။ အမှန်စင်စစ်အားဖြင့် ရုပ်၌ ပစ္စယအကြောင်းသာ ရှိ၏။ ဟေတု အကြောင်း မရှိချေ။

## ၁၆၂။ ရူပံ ကုသလာကုသလန္တိ ကထာ

### ရုပ်သည် ကုသိုလ်၊ အကုသိုလ် မည်သလော။

ပရဝါဒီ မဟိသာသကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့..၁ ကာယ ဝိညတ်ရုပ်ကို သမ္မာကမ္မန္တ မိစ္ဆာကမ္မန္တဟု ယူဆ၍ ထိုကာယ ဝိညတ် ရုပ်သည် ကုသိုလ် အကုသိုလ် မည်၏ဟု ဆိုကြကုန်၏။ ဝစီဝိညတ်ရုပ်ကို သမ္မာဝါစာ မိစ္ဆာဝါစာဟု အရကောက်၍ ထိုဝိညတ်ရုပ်ကို ကုသိုလ် အကုသိုလ်ဟု ခေါ်ဆိုကြသည်။ ဤသို့လျှင် ဝိညတ်ရုပ်ကို ကုသိုလ်၊ အကုသိုလ်ဟု ပရဝါဒီက ဆို၏။

သကဝါဒအရ အကျိုးဝိပါက်ကို ဖြစ်စေနိုင်သော နာမ်တရားတို့ကို သာလျှင် ကုသိုလ်အကုသိုလ်ဟု ခေါ်၏။ ရုပ်တရားကို ကုသိုလ်အကုသိုလ် ဟု မခေါ်ချေ။ သမ္မာဝါစာ သမ္မာကမ္မန္တအရ ဝိညတ်ရုပ်ကို မယူရ၊ ထို ဝိညတ်ရုပ်ကို ဖြစ်စေသော ဝိရတီစေတသိက်ကိုသာ ယူရမည် ဟူလို။

## ၁၆၃။ ရူပံ ဝိပါကောတိ ကထာ

### ကမ္မဇရုပ်သည် ဝိပါက်မည်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် သမ္မိတိယဂိုဏ်းသားတို့က ဝိပါက်စိတ်တို့ သည် ကုသိုလ် အကုသိုလ်ကံ၏ အကျိုးတရားဖြစ်၍ ဝိပါက်ဟု ခေါ်ရ သကဲ့သို့ ကံကြောင့်ဖြစ်သော ရုပ် (ကမ္မဇရုပ်)တို့သည်လည်း ကုသိုလ်ကံ၊ အကုသိုလ်ကံ၏ အကျိုးတရားဖြစ်၍ ဝိပါက်ဟု ခေါ်ဆိုကြ၏။

သကဝါဒီအလို ဝိပါက်သည် အကြောင်းကံတရားနှင့် နာမ်သဘာဝ ချင်း တူညီရမည်၊ အာရုံကို သိတတ်၍ သုခ ဒုက္ခကို ခံစားတတ်ရမည်။ ရုပ်၌ ထိုသဘောများမရှိသောကြောင့် ရုပ်ကို ဝိပါက်ဟု မခေါ်သင့်။

## ၁၆၄။ ရူပံ ရူပါဝစရာရူပါဝစရန္တိ ကထာ

### ရုပ်သည် ရူပါဝစရ, အရူပါဝစရ မည်သလော။

ရူပ, အရူပဘုံတို့၌ များသောအားဖြင့် ကျင်လည်တတ် ဖြစ်တတ် သော နာမ်တရားကိုသာလျှင် ရူပါဝစရ, အရူပါဝစရဟု ခေါ်ရမည်။ သို့ရာတွင် ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ရူပကုသိုလ်ကံကြောင့် ဖြစ်သော (ကမ္မဇ) ရုပ်ကို ရူပါဝစရဟု ခေါ်လိုကြ၏။ အရူပကုသိုလ် ကံကြောင့် ဖြစ်သောရုပ်ကို အရူပါဝစရဟု ခေါ်လိုကြ၏။ ပရဝါဒီသည် အရူပဘုံတို့၌လည်း ရုပ်ရှိသည် ဟုဆို၏။

သကဝါဒီအလို ရူပဘုံ၌ရှိသော ရုပ်သည်လည်းကောင်း၊ အခြား ရုပ်များသည်လည်းကောင်း ရုပ်မှန်သမျှသည် ကာမာဝစရသာ မည်၏ဟု မှတ်အပ်၏။

## ၁၆၅။ ရူပါရူပဓာတုပရိယာပန္နတထာ

**ရူပရာဂသည် ရူပဓာတ်၌ ပါဝင်၍ အရူပရာဂသည် အရူပဓာတ်၌ ပါဝင်သလော။** (ကထာအမှတ်စဉ် (၁၄၂) ပရိယာပန္နကထာနှင့်တူပြီ)

## ၁၆၆။ အရဟတော ပုညူပစယတထာ

**ရဟန္တာသည် ကုသိုလ်မှု (ကုသိုလ်ကံ) ကို ဆည်းပူးသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ရဟန္တာအရှင်မြတ်တို့သည် ပေးကမ်း ဝေမျှခြင်း၊ စေတီကို ရှိခိုးခြင်း စသော အမှုတို့ကို ပြုခြင်းသည် ကုသိုလ်ကံကို ဆည်းပူးခြင်းမည်၏ဟု ဆိုကုန်၏။

သကဝါဒီအလို ထိုထိုကောင်းမှုပြုခြင်းသည် ပြုကာမတ္တ စိတ် (ကြိယာစိတ်) ဖြင့် ပြုခြင်းဖြစ်၍ ရဟန္တာအား ကုသိုလ်စိတ်ဖြစ်ခြင်း၊ ကုသိုလ်ကံ ဆည်းပူးခြင်း မရှိတော့ချေ။ အကယ်၍ ရဟန္တာသည် ကုသိုလ်ကံကို ပြုသည်ဟု ဆိုပါက အကုသိုလ်ကံကိုလည်း ဆည်းပူးသည်ဟု ဆိုရန် ရှိပေလိမ့်မည်။ ထို့ကြောင့် ပရဝါဒီ၏အယူကို ပယ်ဖျက်အပ်၏။

## ၁၆၇။ နတ္ထိ အရဟတော အကာလမစ္စုတိ ကထာ

**ရဟန္တာပုဂ္ဂိုလ်သည် အချိန်စေ့မှ (ကံကုန်မှ) ပရိနိဗ္ဗာန်ပြုရသလော။**

ပရဝါဒီ ရာဇဂိရိကနှင့် သိဒ္ဓတ္ထိကသားတို့က ရဟန္တာပုဂ္ဂိုလ်သည် နောက်ဆုံးဘဝ ပစ္ဆိမဘဝိကဖြစ်၍ ရှိရှိသမျှကံတို့ကို ကုန်အောင် ခံစားရမည်။ ကံမကုန်မချင်း ပရိနိဗ္ဗာန်မစံရ။ ထို့ကြောင့် ရဟန္တာပုဂ္ဂိုလ်ကား အချိန်မစေ့မီ သေဆုံးမှု မဖြစ်နိုင် (အကာလမရဏ မရှိဟု ဆိုလို၏။)

သကဝါဒီအလို အကျိုးပေးရန် အခွင့်အလှည့်ရသောကံနှင့် အခွင့်အလှည့်မရသောကံဟူ၍ နှစ်မျိုးနှစ်စားရှိ၏။ အခွင့်အလှည့်ရသောကံ၏ အကျိုးကိုမူ ကုန်အောင် ခံစားရ၏။ ဒိဋ္ဌဓမ္မဝေဒနီယကံသည် ဤဘဝ၌ အကျိုးပေးခွင့်မရပါက အဟောသိကံဖြစ်လေ၏။ ဥပပဇ္ဇဝေဒနီယကံသည်လည်း နောက်ဘဝ (ဒုတိယဘဝ)၌ အကျိုးပေးခွင့်မရပါက အဟောသိ

ကံ ဖြစ်လေ၏။ အပရာပရိယဝေဒနီယကံကား တတိယဘဝမှ စ၍ နိဗ္ဗာန်မရမီ အခွင့်ရက အကျိုးပေးတတ်၏။ ထိုကံများအနက် ကံတစ်ခုခုသည် အကျိုးပေးရန် အခွင့်အလှည့်ရနေပါက ထိုကံ၏ အကျိုးကို ကုန်ဆုံးအောင် ခံစားရ၏။ အကျိုးပေးရန် အခွင့်အလှည့်မရသော ကံများ၏ အကျိုးကိုမူ ခံစားရန် မလိုချေ။ အကာလမရဏ (အချိန်မစေ့မီ သေရခြင်း)သည် ဥပစ္ဆေဒကကံကြောင့် ဖြစ်၏။ ဥပစ္ဆေဒကကံသည် အခြားကံတစ်ခု အခွင့်အလှည့်မရအောင် ပိတ်ပင်၍ မိမိကိုယ်တိုင် ကြားဖြတ်ဝင်ကာ အကျိုးပေးတတ်၏။ ထိုသို့ ကြားဖြတ်ဝင်၍ အကျိုးပေးသော အကုသိုလ် (ဥပစ္ဆေဒက)ကံကြောင့် ရဟန္တာသည် အချိန်မစေ့မီ သေဆုံးနိုင်၏။ ထို့ကြောင့် ရဟန္တာသတ်မှု (အရဟန္တဃာတကကံ) ဟူ၍ ဖြစ်နိုင်၏။ အကယ်၍ အချိန်စေ့၍ ကံကုန်မှ သေရသည် ဆိုပါက ရဟန္တာကို သတ်မှု မဖြစ်နိုင်တော့ချေ။ ထို့ကြောင့် ပရဝါဒကို ပယ်အပ်၏။

## ၁၆၈။ သဗ္ဗမိဒံ ကမ္မတောတိ ကထာ

### တစ်လောကလုံး ရှိရှိသမျှတရားအပေါင်းသည် ကံအကြောင်းတရားကြောင့်သာ ဖြစ်သလော။

ပရဝါဒီ ရာဇဂိရိကဂိုဏ်းနှင့်သိဒ္ဓတ္ထိကဂိုဏ်းသားတို့က တစ်လောကလုံး ရှိရှိသမျှ တရားအပေါင်းသည် ကံအကြောင်းတရားကြောင့် ဖြစ်သည်ဟု ဆိုကြ၏။ ကမ္မဝဋ္ဋ ကိလေသဝဋ္ဋ ဝိပါကဝဋ္ဋ ဟူ၍ သုံးမျိုးရှိရာ ပရဝါဒီသည် ဝဋ္ဋသုံးပါးလုံးကို ဝိပါကဝဋ္ဋဟု ဆိုလို၏။ ပစ္စုပ္ပန်ကုသိုလ်ကံ, အကုသိုလ်ကံသည်လည်း ရှေးအတိတ်ကံ၏ အကျိုးမျှသာဟု ဆိုလို၏။

သကဝါဒီအလို လောကရှိ သက်ရှိသက်မဲ့ တရားတို့တွင် အချို့သည် ကံကြောင့်ဖြစ်၍ အချို့ကား ဥတုကြောင့် ဖြစ်၏။ အာဟာရကြောင့် ဖြစ်၏။ စိတ်ကြောင့် ဖြစ်၏။ ဝဋ္ဋသုံးပါးရှိရာ ဝိပါကဝဋ္ဋတစ်ခုသာလျှင် ကံ၏ အကျိုးဖြစ်၏။ ပစ္စုပ္ပန်ကုသိုလ်ကံ, အကုသိုလ်ကံတို့သည် ရှေးဘဝ အတိတ်ကံ၏ အကျိုးမဟုတ်ချေ။ ပရဝါဒသည် ပုဗ္ဗေကတ ဟေတုဒိဋ္ဌိဝါဒ၌ သက်ဝင်သောကြောင့် ပယ်အပ်၏။

## ၁၆၉။ ဣန္ဒြိယဗဒ္ဓကထာ

### ဣန္ဒြိယဗဒ္ဓရုပ် (သတ္တဝါ၌ရှိသောရုပ်) သာလျှင် ဒုက္ခမည်သလော။

ဒုက္ခသည် အရိယသစ္စာထိုက်သော ဒုက္ခနှင့် ဒုက္ခသာမည ဟူ၍ နှစ်မျိုးနှစ်စားရှိ၏။ ကံတရားကြောင့်လည်းကောင်း၊ ကိလေသာကြောင့်လည်းကောင်း ဖြစ်သော သက်ရှိသတ္တဝါတို့၏ ရုပ်သည်သာလျှင် အရိယသစ္စာထိုက်သော ဒုက္ခမည်၏။ သက်မဲ့ရုပ်ဝတ္ထုတို့သည် ဥတုကြောင့်ဖြစ်ရကား အနိန္ဒြိယဗဒ္ဓရုပ် (ဗဟိဒ္ဓရုပ်)အမည် ရ၏။ ဥပမာအားဖြင့် ကျောက် ခဲ, သဲ စသော အရာများ ဖြစ်ကြ၏။ ၎င်းတို့ကို အကြောင်းပြု၍ သတ္တဝါတို့ ဒုက္ခဖြစ်ရသောကြောင့် ဒုက္ခ၏အကြောင်းဖြစ်သောကြောင့် ဒုက္ခဟု ခေါ်ကြရ၏။ တစ်ဖန် "ယဒနိစ္စံ၊ တမ္ပိ ဒုက္ခံ"ဟူသော ပါဠိတော်အရ ဗဟိဒ္ဓရုပ်တို့သည် မမြဲခြင်း အနိစ္စတရား၏ နှိပ်စက်မှုကို ခံနေရ၍ ဒုက္ခမည်၏။ ထို ဗဟိဒ္ဓရုပ် (အနိန္ဒြိယဗဒ္ဓ) သက်မဲ့ရုပ်တို့သည် ဒုက္ခသာမညသာ အမည်ရ၍ အရိယသစ္စာထိုက်သော ဒုက္ခ မဟုတ်ချေ။ အကြောင်းမူ အရိယမဂ်ဖြင့် ဗဟိဒ္ဓရုပ် (ဒုက္ခ)ကို ထိုးထွင်းသိရန် မလိုချေ။ ဘုရားသာသနာတော်၌ တရားအားထုတ် ကျင့်ကြံခြင်းသည် ပြင်ပ ဗဟိဒ္ဓရုပ်ဒုက္ခကို သိရန်အတွက် မဟုတ်ချေ။ သက်ရှိ (ဣန္ဒြိယဗဒ္ဓ)ရုပ်နာမ်တို့ကို ဒုက္ခဟု ထိုးထွင်းသိမြင်ရန်အတွက်သာလျှင် ဖြစ်၏။ ဤကား သကဝါဒတည်း။

ပရဝါဒီ ဟေတုဝါဒ ဂိုဏ်းသားတို့သည် ဤသို့ ခွဲခြားဝေဖန်၍ မယူကြဘဲ ပြင်ပဗဟိဒ္ဓရှိ (အနိန္ဒြိယဗဒ္ဓ) ရုပ်တို့ကို ဒုက္ခဟူ၍ လုံးဝ မခေါ်လိုကြ၊ သက်ရှိ (ဣန္ဒြိယဗဒ္ဓ) ရုပ်နာမ်တရားတို့ကိုသာ ဒုက္ခဟုခေါ်လိုကြ၏။

## ၁၇၀။ ဌပေတွာ အရိယမဂ္ဂံ ကထာ

### သမုဒယသစ္စာသည် ဒုက္ခသစ္စာ၌ ပါဝင်သလော။

ပရဝါဒီ ဟေတုဝါဒ ဂိုဏ်းသားတို့က သမုဒယ (လောဘ)သည်လည်း အနိစ္စဖြစ်၏။ အနိစ္စဖြစ်သောတရားသည် ဒုက္ခမည်၏။ ထို့

ကြောင့် သမုဒယသစ္စာ သီးခြားမရှိဘဲ ဒုက္ခသစ္စာ၌ ထည့်သွင်း၍ အရိယသစ္စာသုံးပါးသာ ရှိ၏ဟု ဆိုကြ၏။

သကဝါဒီအလို သမုဒယ (လောဘ)တရားသည် မမြဲခြင်း အနိစ္စဖြစ်၍ ဒုက္ခမည်သော်လည်း အရိယဒုက္ခသစ္စာ၌ မထည့်သွင်းချေ။ ယင်းသည် ဒုက္ခ၏ ထူးကဲသောအကြောင်းဖြစ်၍ အရိယသစ္စာခွဲခြားပြရာ၌ (အကြောင်းသစ္စာ) သမုဒယသစ္စာဟူ၍ သီးခြားခွဲထုတ်ပြရလေသည်။

## ၁၇၁။ န ဝတ္တဗ္ဗံ သံဃော ဒက္ခိဏံ ပဋိဂ္ဂဏှာတိ တထာ သံဃာသည် အလှူမခံတတ်သလော။

ဝေတုလ္လဂိုဏ်းကို မဟာပုညဝါဒီဟု ခေါ်ကြ၏။ ထိုဝေတုလ္လဂိုဏ်းသားတို့က မဂ်စိတ်လေးခု, ဖိုလ်စိတ်လေးခု ဟူသော လောကုတ္တရာ ပရမတ္ထတရားကိုသာလျှင် သံဃာဟု ယူဆ၏။ ထိုမဂ်လေးပါးနှင့် ဖိုလ်လေးပါးတို့သည် အလှူဝတ္ထု၊ အလှူဒါနကို မခံယူတတ်ချေ။ ထို့ကြောင့် သံဃာ (မဂ်ဖိုလ်) သည် အလှူမခံတတ်ဟု ဆိုကြ၏။

သကဝါဒီအလို မဂ်လေးပါး, ဖိုလ်လေးပါးတို့ကိုသာ သံဃာဟု ခေါ်သည် မဟုတ်သေး၊ ထိုမဂ်တရား, ဖိုလ်တရားတို့၏ ဖြစ်ပေါ်ရာ ရုပ်, နာမ်ခန္ဓာ အစဉ်ကြီးဖြစ်သော ပုဂ္ဂိုလ်ကိုလည်း သံဃာဟု ခေါ်သင့်၏။ ထိုပုဂ္ဂိုလ်ဖြစ်သော သံဃာသည် အလှူဝတ္ထုကို ခံယူတတ်သည်သာ ဖြစ်၏။ ပရဝါဒီ ဝေတုလ္လဂိုဏ်းသားတို့က သံဃာတော်များအား လှူဒါန်းသူ ကင်းမဲ့၍ သာသနာတော် ကြာရှည်မတည်နိုင်အောင် ဤဝါဒကို တီထွင် ဟောပြောကြခြင်းဖြစ်၏။

## ၁၇၂။ န ဝတ္တဗ္ဗံ သံဃော ဒက္ခိဏံ ဝိသောဓေတိ တထာ သံဃာသည် အလှူကို စင်ကြယ်အောင် ပြုစွမ်းနိုင်သလော။

အလှူတစ်ခုကို စင်ကြယ်စေရန် (ဒက္ခိဏာဝိသုဒ္ဓိ)အတွက် အလှူပေးသူ ဒါယကာ၏ စေတနာသုံးတန် ဖြူစင်မှု၊ လှူဖွယ်ဝတ္ထု၏ (ဓမ္မိယ

လဒ္ဒ)စင်ကြယ်မှု၊ အလှူခံပုဂ္ဂိုလ်၏ စင်ကြယ်မှုဟူ၍ ဤအင်္ဂါသုံးချက် ပြည့်စုံစေရမည်။ ထိုတွင် မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်လေးယောက် ဖလဋ္ဌာန်ပုဂ္ဂိုလ် လေးယောက်ဟူသော အရိယသံဃာတော်သည် စင်ကြယ်သော အလှူခံ ပုဂ္ဂိုလ် ဖြစ်၏။ ထိုအရိယာသံဃာတော်သည် အလှူကို စင်ကြယ်စေ နိုင်၏။ ဤကား သကဝါဒတည်း။

ပရဝါဒီ ဝေတုလ္လဂိုဏ်းသားတို့က သံဃာတော်သည် လူပုဂ္ဂိုလ် မဟုတ်၊ မဂ်စိတ်, ဖိုလ်စိတ် ဖြစ်၏။ ထိုမဂ်ဖိုလ်သည် အလှူမခံတတ်၊ ထို့ကြောင့် သံဃာသည် အလှူကို စင်ကြယ်အောင် မပြုနိုင်ဟု ဆိုကြ၏။

## ၁၇၃။ န ဝတ္တဗ္ဗံ သံဃော ဘုဥ္ဇတီတိ ကထာ

**သံဃာသည် ဘုဉ်းပေးသုံးဆောင်မှု မပြုတတ်သလော။**

ပရဝါဒီ ဝေတုလ္လဂိုဏ်းသားတို့က သံဃာဟူသည် မဂ်တရား, ဖိုလ် တရားဖြစ်၍ ဘုဉ်းပေးသုံးဆောင်ခြင်း မပြုတတ်ဟု ဆိုကြပြန်၏။

## ၁၇၄။ န ဝတ္တဗ္ဗံ သံဃဿ ဒိန္နံ မဟပ္ဖလန္တိ ကထာ

**သံဃာတော်အား လှူဒါန်းခြင်းသည် ကြီးမားသော အကျိုးကို ရစေ နိုင်သလော။**

ပရဝါဒီ ဝေတုလ္လဂိုဏ်းသားတို့က သံဃာသည် မဘုဉ်းပေး မသုံး ဆောင်တတ်၊ အလှူမခံတတ်သောကြောင့် သံဃာအား လှူဒါန်းခြင်းဖြင့် ကောင်းကျိုးချမ်းသာကို မရနိုင်ဟု ဆိုကြ၏။ ကထာအမှတ်စဉ် (၁၇၁) မှ (၁၇၄) အထိ ကထာလေးခုသည် ဤလောက၌ သံဃာရတနာ ကွယ်ပ စေရန် ကြိုးပမ်းကြခြင်းဖြစ်၏။ သံဃာမရှိပါက ဤသာသနာတော် အမြန် ကွယ်မည်၊ ထိုသို့ သာသနာကွယ်စေရန်အတွက် သံဃာတော်များအား ထောက်ပံ့မှု လျော့နည်း ဆုတ်ယုတ်စေရန် ဤဝါဒကို ဟောပြောကြ၏။ ထို့ပြင် ဝေတုလ္လဂိုဏ်းသား ရဟန်းတို့သည် ရှိခိုးခံ၊ ပူဇော်ခံ သံဃာရတနာ အဖြစ်ဖြင့် မနေလိုကြချေ။ ရတနာအဖြစ်ဖြင့် အပူဇော်ခံနေရပါက စောင့်ထိန်း, ရှောင်ကြဉ်, ဖြည့်ကျင့်ရမည့် တာဝန်ဝတ္တရားများကို မလွှဲ

မရှောင်သာ ပြုရပေတော့မည်။ ထိုသို့ ရဟန်းတို့၏ ဣန္ဒြေသိက္ခာကို မထိန်းကြဘဲ လူတို့နှင့် ရောနှောနေလိုသော ကြောင့် ရဟန်းဖြစ်ပါလျက် သံဃာတော်၏ဂုဏ်ကို ဖျက်လိုဖျက်ဆီး ဟောပြောကြခြင်း ဖြစ်လေသည်။

## ၁၇၅။ န ဝတ္ထုဗ္ဗံ ဗုဒ္ဓဿ ဒိန္နံ မဟပ္ဖလန္တိ ကထာ

**ဗုဒ္ဓမြတ်စွာအား လှူဒါန်းခြင်းဖြင့် ကြီးမားသောအကျိုးကို မရနိုင်သလော။**

ပရဝါဒီ ဝေတုလ္လဂိုဏ်းသားတို့က မြတ်စွာဘုရားအစစ်သည် တုသိတာနတ်ပြည်၌ စံနေတော်မူ၏။ တရားဟောရန် ဤလူ့ပြည်သို့ နိမ္မိတ (ဖန်ဆင်းရုပ်)တော်သာလျှင် ကြွလာ၏။ ထိုနိမ္မိတဘုရားရှင်သည် လူသားတို့ ကျေနပ်စေရန် ဆွမ်းဘုဉ်းပေးဟန် စသည်ကို ပြု၏။ တကယ် သုံးဆောင်မှု မရှိသောကြောင့် ဘုရားအား လှူဒါန်းခြင်းဖြင့် အလှူ၏ အကျိုးကို မရနိုင်ဟု ဆိုကြ၏။

ကထာအမှတ် (၁၇၁) မှစ၍ ကထာငါးပါးသည် ဒါယကာတို့ကို လှူဒါန်းပေးကမ်းလိုစိတ် နည်းပါးဆုတ်ယုတ်စေရန် ရည်ရွယ်၏။ သဒ္ဓါတရားချို့တဲ့၍ ပေးလှူရန် နှမြောတွန့်တိုသူတို့သည် မိမိပစ္စည်းကုန်ခန်းမှု သက်သာသောကြောင့် ဤဝါဒကို သဘောကျနှစ်ခြိုက်ကုန်၏။ လူတို့သည် မြတ်စွာဘုရားအားလည်းကောင်း၊ ရဟန်းသံဃာတော်တို့အားလည်းကောင်း ကြီးကျယ်စွာ လှူဒါန်း ပူဇော် ထောက်ပံ့နေကြကုန်၏။ ထိုထောက်ပံ့မှု ယုတ်လျော့ပါက သာသနာ ရေရှည်မတည်နိုင်ကြောင်း သိသဖြင့် သာသနာ အမြန်ကွယ်ပစေရန် ဤဝါဒများကို တီထွင်ဟောပြောကြခြင်းဖြစ်ပေသည်။

## ၁၇၆။ ဒက္ခိဏာ ဝိသုဒ္ဓိကထာ

**အလှူခံပုဂ္ဂိုလ်သည် အလှူဒါနကို စင်ကြယ်အောင် မပြုနိုင်သလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က အလှူရှင်ဒါယကာ၏ စိတ်ဓာတ်စင်ကြယ်မှု တစ်ခုသာလျှင် အလှူဒါန၏ စင်ကြယ်မှုကို ဖြစ်စေ

နိုင်၏။ အလှူခံပုဂ္ဂိုလ်ဘက်မှ စင်ကြယ်ရန် မလိုဟု ဆိုကြ၏။ မိမိစေတနာက မိမိကို အကျိုးပေးခြင်းသာဖြစ်၍ အလှူခံပုဂ္ဂိုလ်၏ စင်ကြယ်မှုကြောင့် အကျိုးကြီးမားသည်ဟု ဆိုပါက "ပရကတံ သုခဒုက္ခံ" ချမ်းသာဆင်းရဲကို အခြားသူများက ပေးနိုင်သည်ဟု ဝန်ခံရာရောက်၏။ ဤသို့ သူတစ်ပါးက ချမ်းသာဆင်းရဲ ပြုပေးသည်ဟု ဆိုပါက ဗုဒ္ဓဒေသနာတော်နှင့် ဆန့်ကျင်ပေမည်။ ထို့ကြောင့် အလှူခံပုဂ္ဂိုလ်ကြောင့် ဒါန စင်ကြယ်သည်၊ (ဝါ) အလှူခံပုဂ္ဂိုလ်၏ စင်ကြယ်မှုကြောင့် ဒါနသည် ကြီးမားသော အကျိုးကို ဖြစ်စေနိုင်သည်ဟု မယူဆချေ။ လှူသူဒါယကာဘက်မှသာ စိတ်စေတနာ စင်ကြယ်ရန် လိုသည်ဟု ဆိုကြ၏။ ဤကား အလှူခံပုဂ္ဂိုလ်၏ အရေးကြီးသော အခန်းကဏ္ဍကို ပစ်ပယ်ခြင်း ဖြစ်၏။

သကဝါဒီအလို အလှူပေးသူ အလှူခံသူ နှစ်ဦးနှစ်ဘက်လုံး စင်ကြယ်မှ ဒါနအကျိုး ကြီးမားသည်ဟု ဆိုလို၏။ အလှူရှင်နှင့် အလှူခံတို့၏ အရေးကြီးပုံကို တန်းတူထား၍ အလေးဂရုပြု၏။

## ၁၇၇။ မနုဿလောကကထာ

## မြတ်စွာဘုရားကိုယ်တော်တိုင် လူ့ပြည်၌ ရှိသလော။

ပရဝါဒီ ဝေတုလ္လကိုဏ်းသားတို့က မြတ်စွာဘုရား အစစ်သည် တုသိတာနတ်ပြည်၌ စံနေတော်မူ၍ ဤလူ့ပြည်သို့ ကြွလာခြင်းမရှိ၊ နိမ္မိတရုပ်ပွားသည်သာလျှင် လူ့ပြည်သို့ ကြွလာ၍ ကိုယ်ရောင်ပြသည်ဟု ဆိုကြ၏။ "မြတ်စွာဘုရားသည် လောကထဲ၌ မွေးဖွားဖြစ်ပေါ် ကြီးပွားလာသော်လည်း လောကကို လွှမ်းမိုး၍ လောကနှင့် မလိမ်းကျံ မထိစပ်ဘဲ နေတော်မူ၏"ဟူသော အင်္ဂုတ္တိုရ် ပါဠိတော် စကားရပ်ကို ကိုးကားလျက် တုသိတာနတ်ပြည်လောက၌ မွေးဖွားတော်မူ၍ ဤလူ့ပြည် လူသားတို့နှင့် မထိစပ်စေရန် မြတ်စွာဘုရားအစစ်သည် တုသိတာနတ်ပြည်၌သာ စံနေတော်မူ၏ဟု ဆိုကုန်၏။

သကဝါဒီအလို မြတ်စွာဘုရားရှင်သည် ဤလူ့ပြည်လောက၌ မွေးဖွားတော်မူ၍ လောကရှိအာရုံတို့ကို လွှမ်းမိုးလျက် လောကရှိ ကိလေသာ

တို့နှင့် မလိမ်းကျံ မထိစပ်ဟု ဆိုလို၏။ ထို့ကြောင့် မြတ်စွာဘုရားရှင်ကိုယ်တော်တိုင် ဤလူ့ပြည်၌ တည်ရှိ၏ဟု ဆိုလို၏။ မြတ်စွာဘုရား ဖွားတော်မူရာ၊ ဘုရားဖြစ်ရာ၊ သိတင်းသုံးရာ၊ ပရိနိဗ္ဗာန်ပြုရာ အရပ်ဌာနများ ထင်ရှားရှိသည်ကို ထောက်ဆသင့်၏။

အထက်ဖော်ပြပါ အင်္ဂုတ္တိုရ်ပါဠိတော်ကို ပရဝါဒီနှင့် သကဝါဒီတို့ အနက်အဓိပ္ပာယ် ပြန်ဆိုပုံချင်း နှိုင်းယှဉ်ဖော်ပြပါမည် -

ပရဝါဒီ - တထာဂတော၊ မြတ်စွာဘုရားသည်။ လောကေ၊ တုသိတာနတ်ပြည်လောက၌။ ဇာတော၊ မွေးဖွားတော်မူ၏။ လောကေ၊ တုသိတာနတ်ပြည်လောက၌။ သံဝဍ္ဎော၊ ကြီးပွားတော်မူ၏။ လောကံ၊ လူ့ပြည်လောကကို၊ အဘိဘုယျ၊ လွှမ်းမိုးဖိစီး အပေါ်စီးရယူ၍။ လောကေန၊ လူ့လောကနှင့်။ အနုပလိတ္တော၊ လိမ်းကျံထိစပ်မှုမရှိ။

သကဝါဒီ - လောကေ၊ လူ့လောက၌။ ဇာတော၊ မွေးဖွားတော်မူ၏။ လောကေ၊ လူ့လောက၌။ သံဝဍ္ဎော၊ ကြီးပွားတော်မူ၏။ လောကံ၊ လောကီအာရုံအပေါင်းကို။ အဘိဘုယျ၊ လွှမ်းမိုး၍။ လောကေန၊ လောကလူသားတို့၏ ကိလေသာတရားဆိုးနှင့်။ အနုပလိတ္တော၊ လိမ်းကျံခြင်းမရှိ။

## ၁၇၈။ ဓမ္မဒေသနာကထာ

## မြတ်စွာဘုရားရှင်အစစ်သည် တရားဟောသလော။

ပရဝါဒီ ဝေတုလ္လဂိုဏ်းသားတို့က မြတ်စွာဘုရားရှင်သည် တုသိတာနတ်ပြည်၌ စံနေတော်မူ၍ နိမ္မိတရုပ်ပွားတော်ကို လူ့ပြည်သို့ စေလွှတ်တော်မူ၏။ ထိုနိမ္မိတဘုရားသည် လူ့ပြည်သို့ ရောက်သောအခါ အရှင်အာနန္ဒာအား တရားအားလုံးကို လွှဲအပ်ပေးခဲ့၏။ တစ်ဖန် အရှင်အာနန္ဒာသည် လူသားအပေါင်းအား တရားဟောကြားရလေသည်။ ထို့ကြောင့် ဗုဒ္ဓအစစ်သည် တရားမဟောဟု ဆိုကြကုန်၏။

သကဝါဒီအလို တရားတော်ကို မြတ်စွာဘုရားရှင် ကိုယ်တော်တိုင်သာလျှင် ဟောကြားတော်မူခဲ့၏။ သတ္တဝါတို့အား တရားဟောကြားနိုင်ရန် ပါရမီဖြည့်ကျင့်ခဲ့ခြင်းဖြစ်၍ ပရဝါဒီ၏ အယူကို ပယ်အပ်၏။

ဤကထာနှစ်ခုသည် မြတ်စွာဘုရားရှင်ကို လူ့ပြည်မှ နတ်ပြည်သို့ မြှင့်တင်ခြင်းဖြစ်၏။ မြတ်စွာဘုရားရှင်ကို လူသားစင်စစ် မဟုတ်၊ နတ်အဖြစ်သို့ မြှင့်တင်၍ တုသိတာနတ်ပြည်၌ မွေးဖွားစံနေတော်မူ၏ဟု တီထွင် ဟောပြောကြရာ ဘုရားကြည်ညိုသော ဗုဒ္ဓဘာသာဝင်တို့မှာ ကျေနပ်လက်ခံနေကြလေသည်။ အမှန်စင်စစ် မြတ်ဗုဒ္ဓကို တုသိတာနတ်ပြည်သို့ မြှင့်တင်လိုက်ခြင်းသည် သမိုင်းဝင်လူသား ဘုရားစင်စစ်မှ မသေချာ မရေရာသော ဒဏ္ဍာရီပုံပြင်အဖြစ်သို့ ရောက်အောင် ပြုလုပ်ရာ ရောက်လေသည်။ ထို့ကြောင့် မြတ်စွာဘုရားကို ချီးကျူးသည်ဟု ဆိုတိုင်း ချီးကျူးရာ မရောက်သည်ကို သတိပြုသင့်၏။ ပရဝါဒီ ဝေတုလ္လဂိုဏ်းသားတို့သည် မြတ်စွာဘုရားရှင်ကို တုသိတာနတ်သားဘဝမှ ကောင်းကင်ဘုံရှိ တန်ခိုးတော်ရှင် ဖန်ဆင်းရှင် နတ်ဘုရားအဖြစ်သို့ ထပ်ဆင့် ပြောင်းလဲခဲ့ကြလေသည်။

## ၁၇၉။ ကရုဏာကထာ

### ဘုရားအစစ်သည် သနားခြင်း ကရုဏာ မရှိသလော။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က ကြင်နာသနားခြင်းသည် ရာဂရှိမှသာ ဖြစ်နိုင်၏။ ဥပမာအားဖြင့် သားသမီး၊ သားမယား၌ ချစ်နှစ်သက်မှု၊ ပစ္စည်းဝတ္ထုအပေါ်၌ ချစ်နှစ်သက်မှု (ရာဂ) ရှိသူသည် ထိုသူ၊ ထိုပစ္စည်း ပျက်စီးသွားသောအခါ နာကျင်မှု၊ စိတ်ပင်ပန်းမှုဖြစ်၏။ ထိုသို့ဖြစ်သည်ကို သနားကြင်နာသည်ဟု ယူဆကြ၏။ မိမိသားသမီးကို သနားခြင်းသည် ကရုဏာဟု ယူဆကြ၏။ မြတ်စွာဘုရား၌ ဇနီး၊ သားသမီး ပစ္စည်းအပေါ် ခင်တွယ်မှု (ရာဂ) မရှိသောကြောင့် ထိုသူ၊ ထိုပစ္စည်း ပျက်စီးသောအခါ စိတ်ထဲ၌ နာကျင်မှု၊ စိတ်ပင်ပန်းမှု မဖြစ်ချေ။ ထို့ကြောင့် မြတ်စွာဘုရားမှာ သနားကြင်နာခြင်း ကရုဏာမရှိဟု ဆိုကြ၏။

သကဝါဒီအလို မိမိဇနီးမယား၊ သားသမီးတို့ ပျက်စီးမှုနှင့် ကြုံရသောအခါ စိတ်ထဲ၌ နာကျင်မှု ပင်ပန်းမှု လောကလူများစုပြောသော သနားမှုသည် ကရုဏာအစစ် မဟုတ်ချေ။ သောကစိတ်သာလျှင် ဖြစ်၏။

ကရုဏာအစစ်ကား ရန်သူ, မိတ်ဆွေ ခွဲခြားခြင်းမပြုဘဲ ကြင်နာသနား ခြင်းဖြစ်၏။ ဥပမာအားဖြင့် မိမိကို နှိပ်စက်နေသော ရန်သူတစ်ယောက် သေဆုံးပျက်စီး ဒုက္ခရောက်နေသောအခါ ကိုယ်ချင်းစာ၍ ထိုသူကို ဒုက္ခမှ ကယ်တင်လိုမှု၊ ဒုက္ခကင်းဝေးအောင် ကူညီလိုမှုကိုသာလျှင် ကရုဏာဟု ခေါ်ရ၏။ ကရုဏာသည် ပုဂ္ဂိုလ်အကန့်အသတ် ခွဲခြားမှုမပြုဘဲ အဆုံး မရှိသော အနန္တသတ္တဝါတို့ကို သနားကြင်နာ၏။ ထိုကရုဏာအစစ်ကား မြတ်စွာဘုရား၌ အမှန်တကယ်ရှိလေသည်။ နေ့စဉ် မဟာကရုဏာ သမာ ပတ်ကို ဝင်စားတော်မူသည်။ ဤသို့ သောကနှင့်ကရုဏာကို ခွဲခြား နား မလည်သောကြောင့် ပရဝါဒီသည် မြတ်စွာဘုရားမှာ ကရုဏာမရှိဟု အယူမှားလေသည်။

## ၁၈၀။ ဝဏ္ဏဇာတိကထာ

## မြတ်စွာဘုရားရှင်၏ ကျင်ကြီးကျင်ငယ်သည် မွှေးကြိုင်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသားတို့က မြတ်စွာ ဘုရား၏ ကျင်ကြီး ကျင်ငယ်တို့သည် အလွန်မွှေးကြိုင်သည်ဟု ဆိုကြ ကုန်၏။ မြတ်စွာဘုရား၌ ကြည်ညိုလွန်ကဲ၍ ဤဝါဒကို တီထွင် ဟော ပြောကြလေသည်။

သကဝါဒီအလို မြတ်စွာဘုရားရှင်သည် အခြားလူများကဲ့သို့ ထမင်း နှင့်မုန့်တို့ကို ဘုဉ်းပေးသုံးဆောင်တော်မူ၏။ ပန်းနံ့သာတို့ကို ဘုဉ်းပေး ခြင်းမရှိ၊ ထို့ကြောင့် မြတ်စွာဘုရား၏ ကျင်ကြီး ကျင်ငယ်သည် မွှေးကြိုင် ခြင်းမရှိ၊ အများထုံးစံအတိုင်းသာလျှင် ဖြစ်၏ဟု ဆိုကုန်၏။

## ၁၈၁။ ဧကမဂ္ဂကထာ

## မြတ်စွာဘုရားသည် အရဟတ္တမဂ် တစ်ခုတည်းဖြင့် ဖိုလ်လေးပါးကို ရရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသားတို့က မြတ်စွာ ဘုရားသည် သောတာပတ္တိမဂ်ကို ရပြီးနောက် သောတာပတ္တိဖိုလ်ကို ရ

လေ၏။ ထို့နောက် သကဒါဂါမိမင်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိမင်၊ အနာဂါမိဖိုလ်တို့ကို တစ်ဆင့်စီ အစဉ်အတိုင်း ဉာဏ်စဉ်တက်ရန် မလိုဟု ယူဆကြ၏။ ပထမ အစကတည်းက အရဟတ္တမင်ကို ရ၍ မင်လေးပါးက ပယ်ရမည့် ကိလေသာအားလုံးကိုလည်း အရဟတ္တမင်က တစ်ကြိမ်တည်း အပြီးပယ်၏။ ဖိုလ် (ဖလ=မင်၏အကျိုး) ဆိုသည်မှာ ဖိုလ်စိတ်ကို မဆိုလိုချေ။ ဖိုလ်စိတ်ဆိုသည်မှာ မရှိဟု အန္ဓကဂိုဏ်းက ယူဆကြောင်းကို ကထာအမှတ် (၇၁) အရိယဓမ္မဝိပါကကထာ၌ ပြဆိုခဲ့လေပြီ။

ထို့ကြောင့် လောကုတ္တရာမင်ဉာဏ်များတွင် အရဟတ္တမင်ဉာဏ် တစ်မျိုးကိုသာ လက်ခံ၏။ ဤအယူအဆကို မဟာယာနဂိုဏ်း၌ ရုတ်တရက် ဉာဏ်ပွင့်ခြင်း (Abrupt Enlightenment)ဟု ခေါ်ကြ၏။ မြတ်စွာဘုရားကို သောတာပန်ဟု မခေါ်နိုင်၊ သကဒါဂါမ်, အနာဂါမ်ဟူ၍ မခေါ်နိုင်၊ ရဟန္တာဟူ၍သာ ခေါ်နိုင်၏။ ထို့ကြောင့် မြတ်စွာဘုရားရှင်သည် အရဟတ္တမင်ဉာဏ်တစ်မျိုးတည်းကိုသာ တစ်ခါတည်း အပြီးအပိုင်ရသည်ဟု ဆိုကြ၏။

သကဝါဒီအလို မင်ဉာဏ်လေးပါး၊ ဖိုလ်ဉာဏ်လေးပါးကို အစဉ်အတိုင်း ရကြသည်။ မြတ်စွာဘုရားသည်လည်း ဉာဏ်လေးပါးအဆင့်များကို ခုန်ကျော်တက်ခြင်း မရှိ၊ ထူးခြားချက်မှာ မြတ်စွာဘုရားသည် ထိုမင်ဉာဏ် ဖိုလ်ဉာဏ်လေးပါးကို တကျာမခြားဘဲ တစ်ဆက်တည်း ရရှိတော်မူ၏။ အကြား၌ ကိလေသာတို့ ဖြစ်ပေါ်ခြင်း၊ ကိလေသာခြားခြင်း မရှိ။ သာဝကရဟန်းများမှာမူ တစ်ဆက်တည်း ရသူနည်းပါး၍ ကိလေသာခြား၍ မင်ဉာဏ်တစ်ဆင့်ချင်း တက်ရသူက များလေ၏။ ထိုသို့ မြတ်စွာဘုရား၏ လောကုတ္တရာဉာဏ်စဉ်တက်ပုံမှာ တစ်ဆက်တည်းဖြစ်၍ လျင်မြန်သောကြောင့် တစ်ကြိမ်တည်းဖြင့် အရဟတ္တမင်ဉာဏ်ကို ရသည်ဟု အထင်မှားစရာရှိ၏။ အမှန်စင်စစ် ထိုသို့မမှတ်အပ်။ မြတ်စွာဘုရားရှင်ကို သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်ဟု မခေါ်ခြင်းမှာ အမြင့်ဆုံးအဆင့် ရဟန္တာဖြစ်ပြီးသူကို အမြင့်ဆုံးဂုဏ်ထူးဖြင့်သာ ခေါ်ရ၏။ အောက်အဆင့်

ဂုဏ်ထူးဖြင့် ခေါ်ပါက စော်ကားရာရောက်၏။ ဉပမာအားဖြင့် စာရေး ကြီးဘဝမှ အရာရှိအဆင့်သို့ ရာထူးတက်ပြီးသူကို စာရေးဟု ခေါ်ပါက တမင်နှိမ့်ချရာ ရောက်လေသည်။ ဤဉပမာအတူ မြတ်စွာဘုရားရှင်ကို သောတာပန်ပုဂ္ဂိုလ်စသည်ဖြင့် မခေါ်ရခြင်း ဖြစ်လေသည်။

## ၁၈၂။ ဈာနသင်္ကန္တိကထာ

### ဈာန်တစ်ခုမှ တစ်ခုသို့ တိုက်ရိုက်ကူးပြောင်းနိုင်သလော။

ပရဝါဒီ မဟိသာသကဂိုဏ်းနှင့် အန္ဓကဂိုဏ်းသားတို့က ပထမဈာန် ဝင်စားနေစဉ် တစ်ဆက်တည်း ဒုတိယဈာန်သို့ ကူးပြောင်းနိုင်သည်။ ပထမဈာန်နှင့် ဒုတိယဈာန်တို့အကြား၌ ဘဝင်စိတ်များ, ပရိကံ, ဥပစာ, အနုလုံ ဇောများ ကြားခံမရှိဟု ဆိုကြ၏။ ထိုနည်းအတူ ဒုတိယဈာန်မှ တတိယဈာန်သို့၊ ၎င်းမှ စတုတ္ထဈာန်သို့ အစဉ်အတိုင်း တစ်ဆက်တည်း ကူးပြောင်းနိုင်သည်ဟု ဆိုကြ၏။

သကဝါဒီအလို ပထမဈာန်မှ ဒုတိယဈာန်သို့ ကူးပြောင်းလိုသော အခါ ပထမဈာန်မှ ထ၍ ထိုဈာန်ရှိ ဝိတက်, ဝိစာရတို့ကို အပြစ်ဟု ရှုမြင်သုံးသပ်ရ၏။ ထိုနောက်မှ ဒုတိယဈာန် ဖြစ်ပေါ်၏။ ဤသို့ ဈာန် တစ်ခုနှင့်တစ်ခုအကြား၌ ဘာဝနာဝီထိ တစ်ခုခြားရ၏။ ပရဝါဒီ ဆို သကဲ့သို့ ပထမဈာန်နှင့်ဒုတိယဈာန် အခြားမရှိ၊ တစ်ဆက်တည်းဖြစ် သည်ဟု ဆိုပါက ဇောစိတ်ချင်း ဆက်စပ်နေသဖြင့် ဤကား ပထမဈာန်၊ ဤကား ဒုတိယဈာန်ဟူ၍ ခွဲခြားရန် မဖြစ်နိုင်တော့ချေ။ ထို့ကြောင့် ပရဝါဒကို ပယ်အပ်၏။

## ၁၈၃။ ဈာနန္တရိကကထာ

### ကြားခံဈာန်တစ်မျိုး ရှိသေးသလော။

စတုက္ကနည်းဖြင့် ဟောကြားရာ၌ ဈာန်လေးပါးသာ ရှိ၏။ ပဉ္စက နည်းဖြင့် ဟောကြားရာ၌ ဈာန်ငါးပါးရှိ၏။

**စတုတ္ထနည်း ဈာန်လေးပါး**

(၁) ဝိတက်, ဝိစာရ, ပီတိ, သုခ, ဧကဂ္ဂတာပါသောပဌမဈာန်၊

(၂) ပီတိ, သုခ, ဧကဂ္ဂတာပါသော ဒုတိယဈာန်၊

(၃) သုခ, ဧကဂ္ဂတာပါသော တတိယဈာန်၊

(၄) ဥပေက္ခာ, ဧကဂ္ဂတာပါသော စတုတ္ထဈာန်။

**ပဥ္စကနည်းဈာန်ငါးပါး**

(၁) ဝိတက်, ဝိစာရ, ပီတိ, သုခ, ဧကဂ္ဂတာပါသော ပဌမဈာန်၊

(၂) ဝိစာရ, ပီတိ, သုခ, ဧကဂ္ဂတာပါသော ဒုတိယဈာန်၊

(၃) ပီတိ, သုခ, ဧကဂ္ဂတာပါသော တတိယဈာန်၊

(၄) သုခ, ဧကဂ္ဂတာပါသော စတုတ္ထဈာန်၊

(၅) ဥပေက္ခာ, ဧကဂ္ဂတာပါသော ပဥ္စမဈာန်။

ပဥ္စကနည်း၌ တတိယဈာန်သည် စတုတ္ထနည်း၌ ဒုတိယဈာန် ဖြစ်၏။ ပဥ္စကနည်း၌ ဒုတိယဈာန်သည် စတုတ္ထနည်း၌ မပါရှိချေ။ စတုတ္ထနည်း၌ ဝိတက်, ဝိစာရ နှစ်ပါးကို တစ်ပြိုင်နက် တစ်ခါတည်း ဖြင်းပယ်ပုံကို ပြ၏။ ဉာဏ်ထက်သူအတွက် ဖြစ်၏။ ပဥ္စကနည်း၌ ဝိတက်နှင့် ဝိစာရကို တစ်ကြိမ်စီ ခွဲပယ်၏။ ဝိတက်ကို ပယ်လျှင် ဒုတိယဈာန် မည်၏။ ဝိစာရကို ပယ်လျှင် တတိယဈာန်မည်၏။ ဤနည်းမှာ ဉာဏ်နုံ့သူတို့ အတွက် ဖြစ်၏။ ဤသို့ ပဥ္စကနည်းအကြောင်းကို မသိသော ပရဝါဒီ သမ္မိတိယဂိုဏ်းနှင့် အန္ဓကဂိုဏ်း အချို့က ပဥ္စကနည်း၌ ပြထားသော ဒုတိယဈာန်ကို ဈာန်ဟု မခေါ်လိုကြချေ။ ၎င်းသည် စတုတ္ထနည်းတွင် ပဌမဈာန်နှင့်ဒုတိယဈာန် အကူးအပြောင်း စပ်ကူးမပ်ကူး (ကြား) ဈာန် တစ်မျိုးဟု ဆိုကြသည်။ ဤဂိုဏ်းသားတို့ကား ဘဝတစ်ခုနှင့်တစ်ခု အကြား ကြားခံဘဝတစ်ခု ရှိသေးသည်ဟု ယူဆကြောင်းကို အန္တရာဘဝ ကထာ၌ ပြဆိုခဲ့ပြီ။ ကြားဘဝ ကြားဈာန် တွေးခေါ်မှု ဆင်တူကြ၏။

## ၁၈၄။ သမာပန္နော သဒ္ဒံ သုဏာတီတိ ကထာ

### ပထမဈာန်ဝင်စားခိုက် အသံကို ကြားနိုင်သလော။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ပထမဈာန် ဝင်စားနေစဉ် အသံကို ကြားနိုင်သည်ဟု ဆိုကြ၏။ အကြောင်းမူ "ပထမဈာန်၏ ဆူးငြောင့်ကား အသံတည်း"ဟု မြတ်စွာဘုရား ဟောတော်မူရာ ပထမဈာန်ကို ဝင်စားနေစဉ် အသံကို ကြားရမည်ဟု ဆိုကြ၏။

သကဝါဒီအလို ပထမဈာန်စသော မည်သည့်သမာပတ်ကို မဆို ဝင်စားနေစဉ် အသံကိုမကြားနိုင်၊ အသံသည် ပထမဈာန်၏ ဆူးငြောင့်ဟု ဟောတော်မူခြင်းမှာ ပထမဈာန်အဆင့်၌ သမာဓိစွမ်းအားမှာ အလွန်နည်း၏။ ထို့ကြောင့် ပထမဈာန်ဝင်စားနေသူ၏နားသို့ ပြင်းထန် ကျယ်လောင်သောအသံများ ရိုက်ခတ်လာပါက ပထမဈာန်မှထ၏။ (ဝါ) ပထမဈာန်စိတ်အစဉ် ရပ်စဲ၍ ကြားသိစိတ် (သောတဝိညာဏဝီထိ) ပြောင်းလဲဖြစ်ပေါ်၏။ ထို့ကြောင့် ထိုအသံကို ဈာန်ဝင်စားနေစဉ် ကြားခြင်းမဟုတ်၊ ဈာန်မှ ထပြီးနောက် သောတဝိညာဏဝီထိဖြင့် ကြား၏ဟု မှတ်အပ်၏။

## ၁၈၅။ စက္ခုနာ ရူပံ ပဿတီတိ ကထာ

### အဆင်းရူပါရုံကို စက္ခုပသာဒရုပ်က မြင်သလော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က စက္ခုဝိညာဏ်၊ သောတဝိညာဏ်၊ ဃာနဝိညာဏ်၊ ဇိဝှါဝိညာဏ်၊ ကာယဝိညာဏ် ဟူသော ဝိညာဏ်ငါးပါး (ပဉ္စဝိညာဏ်)ကို လက်မခံကြချေ။ မနောဝိညာဏ် တစ်မျိုးတည်းသာရှိသည်ဟု ဆိုကြ၏။ ပသာဒရုပ်များသို့ ထင်ဟပ်လာသော အာရုံများကို မနောဝိညာဏ်သို့ တိုက်ရိုက် ပေးပို့ကြသည်။ သိစရာကိစ္စကို မနောဝိညာဏ်ကသာ သိသည်ဟု ဆိုကြ၏။

သကဝါဒီအလို စက္ခုဝိညာဏ် စသော ဝိညာဏ်ငါးပါးသည် အမှန်တကယ် ရှိ၏။ မြင်မှု, ကြားမှုကို ထိုဝိညာဏ်ငါးပါးက ပြုလုပ်၏၊ မနောဝိညာဏ်ကား ထိုဝိညာဏ်ငါးပါးက မြင်၊ ကြား၊ နံ၊ လျက်၊ ထိ၊ သိပြီးနောက် ဆက်လက် အာရုံလွှဲပြောင်းယူခြင်း ဖြစ်၏။ ပြင်ပရှိ အဆင်းရူပါရုံကို

မနောဝိညာဏ်က တိုက်ရိုက် အာရုံမယူနိုင်၊ မသိနိုင်ချေ။ စက္ခုပသာဒ သောတပသာဒစသော ပသာဒရုပ်တို့သည်လည်း သိတတ်သော သဘော မရှိချေ။ မသိတတ်သောသဘောကို ရုပ်ဟု ခေါ်ထားရာ ရုပ်ကို ရုပ်က သိသည်ဟု မဆိုသင့်ချေ။ ထို့ကြောင့် စက္ခုပသာဒခေါ်သော မျက်စိ အကြည်ဓာတ်အတွင်း၌ ဖြစ်ပေါ်သော မြင်သိစိတ် (စက္ခုဝိညာဏ်) စသည် ရှိကြောင်းကို မှတ်သင့်၏။

အကယ်၍သာ ပရဝါဒီဆိုသည့်အတိုင်းမှန်ပါက စိတ်က နှလုံး မသွင်းဘဲလည်း မျက်စိရှေ့ရှိသမျှ ရူပါရုံကို မြင်လေရာ၏။ ဓာတ်ပုံ ရိုက်ရာ၌ ကင်မရာ မှန်ဘီလူးရှေ့ရှိသမျှ အရုပ်ထင်သကဲ့သို့ မျက်စိရုပ် ရှေ့၌ ရှိသမျှ မြင်လေရာ၏။ အမှန်စင်စစ် မျက်စိရှေ့မှောက်၌ ရှိသော် လည်း ရှိသမျှကို မမြင်ဘဲ ကြည့်လိုရာ အာရုံစိုက်ရာကိုသာ မြင်လေ၏။ ထို့ကြောင့် ရုပ်က မမြင်နိုင်ဟု မှတ်လေ။

## ၁၈၆။ ကိလေသဇဟနကထာ

### အတိတ် အနာဂတ် ပစ္စုပ္ပန် ကိလေသာတို့ကိုပယ်သလော။

ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားတို့က ကိလေသာသည် အတိတ် အနာဂတ် ပစ္စုပ္ပန် ဟူ၍ သုံးမျိုး ရှိ၏။ ကိလေသာကို ပယ်သည်ဟု ဆို ပါက အကြွင်းမဲ့ပယ်ရမည်ဖြစ်၍ အတိတ် အနာဂတ် ပစ္စုပ္ပန် ကိလေသာ သုံးမျိုးလုံးကို ပယ်ရမည်ဟုဆိုကြ၏။

သကဝါဒီအလို အတိတ်, အနာဂတ်, ပစ္စုပ္ပန် ကိလေသာတို့ကို ပယ်ရန် မလိုချေ။ အတိတ် ကိလေသာမှာ ချုပ်ပျောက်လေပြီဖြစ်၍ ပယ်ရန် မလို။ သေပြီးသူကို သတ်ပါက အချည်းနှီးသာတည်း။ အနာဂတ် ကိလေသာကို ပယ်သည် ဆိုပါက မသီးသေးသော အသီးကို ခြွေလိုသူနှင့် တူ၏။ ပစ္စုပ္ပန်ဖြစ်ပေါ်နေဆဲ ကိလေသာကို ပယ်ရန်မှာလည်း မဖြစ်နိုင်။ မဂ်စိတ်ဖြစ်ပေါ် နေခိုက်ဖြစ်၍ မဂ်စိတ်နှင့် ကိလေသာ ယှဉ်ပြိုင်ဖြစ်ခွင့် မရှိ။ ထိုသို့ ကိလေသာနှင့်ယှဉ်ပြိုင် ဖြစ်ပါကလည်း မဂ်စိတ် မဟုတ်နိုင် တော့ချေ။

အမှန်စင်စစ် ပရဝါဒီ၏ အယူအဆမှာ ကိလေသာပယ်မှုကို အမှိုက်စွန့်သူကဲ့သို့ ထင်ရှားရှိသောအရာများကို ထမ်းပိုး သယ်ဆောင်စွန့်ပယ်၏ဟု ရုပ်ပိုင်းဆန်ဆန် စဉ်းစားခြင်းကြောင့် ဤဝါဒပေါ်လာခြင်းဖြစ်၏။ နိဗ္ဗာန်ကို အာရုံပြုသော မဂ်စိတ်ခေါ် စိတ်အထူးတစ်ခု တစ်ကြိမ် ဖြစ်ပေါ်လျှင် ထိုပုဂ္ဂိုလ်၏ နာမ်ခန္ဓာဖြစ်စဉ် အစဉ်အတန်းထဲ၌ ဆိုင်ရာကိလေသာတို့ ဘယ်သောအခါမျှ မဖြစ်ဘဲနေခြင်းကို ပယ်သည်ဟု ဆိုခြင်းဖြစ်၏။ ရန်သူကို ခုတ်သတ်သလို သတ်ခြင်းမဟုတ်၊ အမှိုက်စွန့်သလို စွန့်ပယ်ခြင်း မဟုတ်ချေ။ မဂ်သည် ကိလေသာတို့ကို ရင်ဆိုင်ကိုင်တွယ်ခုတ်ထစ် ဖယ်ရှားနေခြင်း မဟုတ်ချေ။

## ၁၈၇။ သုညတာကထာ

### နိဗ္ဗာန်သည် သင်္ခါရက္ခန္ဓာ၌ ပါဝင်သလော။

ရုပ် နာမ် သင်္ခါရတရားတို့သည် အစိုးမရ၊ အနှစ်သာရ တစ်စုံတစ်ခုမျှ မရှိသောကြောင့် အနတ္တ မည်ကုန်၏။ အတ္တမှ ကင်းဆိတ်ခြင်း အနတ္တသဘောကို အတ္တသုညတာဟု ခေါ်၏။ နိဗ္ဗာန်သည် သင်္ခါရတရားတို့၏ ဆိတ်သုဉ်းရာဖြစ်ရာ သင်္ခါရသုညတာ မည်၏။ ထိုတွင် အတ္တသုညတာသည် သင်္ခါရက္ခန္ဓာ၌ ပါဝင်၍ သင်္ခါရသုညတာ (နိဗ္ဗာန်)သည်ကား သင်္ခါရက္ခန္ဓာ၌ မပါဝင်ချေ။ ဤကား သကဝါဒတည်း။

ပရဝါဒ အန္ဓကဂိုဏ်းသားတို့ကား ထိုသုညတာ နှစ်မျိုးကို ခွဲခြားနားလည်ခြင်းမရှိဘဲ နိဗ္ဗာန် ဟူသော သုညတာသည်လည်း သင်္ခါရက္ခန္ဓာ၌ ပါဝင်၏ဟု ဆိုကြကုန်၏။

## ၁၈၈။ သာမညဖလကထာ

### မဂ်၏အကျိုးတရား ဖိုလ်လေးပါးသည် အသင်္ခတတရားဖြစ်သလော။

မဂ္ဂဝီထိ၌ပါဝင်သော ဖိုလ်ဇောကိုလည်းကောင်း၊ ဖလသမာပတ္တိဝီထိ၌ ပါဝင်သော ဖိုလ်ဇောများကိုလည်းကောင်း၊ (ဖလ=ဖိုလ်) မဂ်၏

အကျိုးဟု ဆိုလိုသည်။ မဂ်၏အကျိုး (ဖိုလ်) ဟူသည် လောကုတ္တရာ ဝိပါက်စိတ်လေးပါးပင် ဖြစ်၏။ သောတာပတ္တိဖိုလ်စိတ်၊ သကဒါဂါမိဖိုလ်စိတ်၊ အနာဂါမိဖိုလ်စိတ်၊ အရဟတ္တဖိုလ်စိတ်ဟူသော ဝိပါက်စိတ်လေးမျိုးကို ဖိုလ်လေးပါးဟု ခေါ်၏။ ၎င်းဖိုလ်လေးပါးသည် အကြောင်းတရားတို့သည် ပြုပြင်အပ်သောကြောင့် သင်္ခတတရားသာလျှင်ဖြစ်၏။ ဖြစ်ပျက် (အနိစ္စ) သဘောကို မလွန်ဆန်နိုင်ချေ။ ထို့ကြောင့် ဤဖိုလ်လေးပါးကို အသင်္ခတဟု မခေါ်သင့်။ ဤကား သကဝါဒတည်း။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က လောကုတ္တရာ ဝိပါက်စိတ်ကို မဂ်၏ အကျိုးဖိုလ်ဟု မဆိုလိုကြချေ။ မဂ်၏အကျိုးဖိုလ်ကား ကိလေသာပယ်မှုတည်း။ ထိုကိလေသာကို ပယ်နိုင်မှုဟူသော အကျိုးကိုရခြင်း (ပတ္တိ) သည်လည်း ဖိုလ်မည်၏။ ထိုဖိုလ်သည် ပျက်စီးခြင်းမရှိသောကြောင့် အသင်္ခတမည်၏ဟု ဆိုကြကုန်၏။ ထို့ကြောင့် ပရဝါဒအလို နိဗ္ဗာန်သည်သာ အသင်္ခတ မည်သည် မဟုတ်သေး၊ မဂ်၏အကျိုး (ကိလေသာပယ်မှု) ဖိုလ်လေးပါးသည်လည်း အသင်္ခတမည်၏ဟု ဆိုလို၏။

## ၁၈၉။ ပတ္တိကထာ

### ရခြင်း (ပတ္တိ) သည် အသင်္ခတမည်သလော။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ရခြင်း၏ အနက်အဓိပ္ပာယ်ကို လေးနက်စွာ ကြံစည်ကြကုန်၏။ "ရဟန်းသည် သင်္ကန်းကို ရ၏"ဟု ဆိုရာ၌ ရဟန်းသည် ရုပ်နာမ်တရား နှစ်ပါးရှိ၍ ခန္ဓာငါးပါး အစုအဝေးဖြစ်၏။ သင်္ကန်းသည် သက်မဲ့ရုပ်ဖြစ်၍ ရူပက္ခန္ဓာ၌ ပါဝင်၏။ "ရ၏"ဟု ဆိုရာ၌ 'ရခြင်း'သည် ရဟန်းလည်း မဟုတ်၊ သင်္ကန်းလည်း မဟုတ်၊ ထိုရခြင်းသဘောကား ရုပ်နာမ်နှစ်ပါးမှ လွတ်၏။ ခန္ဓာငါးပါး၌ ပါဝင်ခြင်းမရှိ၊ ခန္ဓာငါးပါးက သင်္ခတတရားဖြစ်၍ ခန္ဓာငါးပါးမှ လွတ်သော 'ရခြင်း' (ပတ္တိ) သည်ကား အသင်္ခတ တရားဖြစ်၏။ နိဗ္ဗာန်နှင့် တူညီ၏။ ပေးခြင်း, ယူခြင်းတို့ကား ပေးသူ, ယူသူတို့၏ အပြုအမူဖြစ်၍ ပေးသူ ယူသူအတွင်း၌ ထည့်သွင်း ရေတွက်နိုင်၏။

အထက်ပါဝါကျ၌ 'ရခြင်း' ကား ရဟန်း၏အမူအရာ ကြိယာလည်း မဟုတ်၊ သက်န်း၏ အမူအရာ ကြိယာလည်းမဟုတ်၊ ထို့ကြောင့် ရခြင်း သဘောသည် ရဟန်း၌လည်း မပါဝင်၊ သက်န်း၌လည်း မပါဝင်၊ သီးသန့် သဘောတစ်ခုဖြစ်၍ အမြဲတည်သောကြောင့် အသင်္ခတတရားဟု ဆိုလို ကြ၏။ ဤနည်းအတူ ကျောင်းရခြင်း၊ ဆေးပစ္စည်းရခြင်း၊ ရွှေ, ငွေ, ဆင်, မြင်း, ကျွဲ, နွား ရခြင်း ဟူသော ရခြင်းမှန်သမျှသည် အသင်္ခတ မည်၏။ မင်္ဂလေးပါး, ဖိုလ်လေးပါးကို ရခြင်း (ပတ္တိ)သည်လည်း အသင်္ခတ မည်၏။ ဤသို့လျှင် အသင်္ခတတရားများ မရေမတွက်နိုင် ဖြစ်ရလေတော့သည်။ အသင်္ခတဟူသည့် နိဗ္ဗာနဓာတ်ကြီး တစ်ခုကိုသာလျှင် ဒီးကျူးဂုဏ်ပြုစရာ စကားလုံးဖြစ်၏။ ပရဝါဒီသည် ထူးမြတ်သော အသင်္ခတကို အပေါစား ဖြစ်အောင် ကြံဆောင်နေခြင်းဖြစ်၏။ မဟာယာနဂိုဏ်း၌ ဤရခြင်းသဘော (ပတ္တိ)ကို တခမ်းတနား အဓိပ္ပာယ်အကျယ်ချဲ့ ဖွင့်ပြထား၏။

သကဝါဒီအလို သင်္ကန်းရခြင်း၊ ရွှေငွေရခြင်း၊ မဂ်ဖိုလ်ရခြင်း စသည်ဖြင့် ရခြင်းသဘော (ပတ္တိ) သည် သီးခြား ပရမတ္ထတရား မဟုတ်။ သင်္ကန်းရ၏ ဟု ဆိုရာ၌ သင်္ကန်းကို လက်ခံရယူမှု၊ (ဝါ) လက်ခံရယူသော စိတ် ဖြစ်ပေါ် မှုကို ဆိုလို၏။ မဂ်ဖိုလ်ရခြင်း ဟူသည် မဂ်စိတ်ဖြစ်ခြင်း၊ ဖိုလ်စိတ်ဖြစ်ခြင်း ပင်တည်း။ ထို့ကြောင့် မဂ်ဖိုလ်ရခြင်း၌ ရခြင်းသည် မဂ်ဖိုလ်မှ သီးခြားကင်းလွတ် သော သီးခြား ပရမတ်တရား မဟုတ်ချေ။ စကားပြောဖြစ်စေရန် နှစ်ပိုင်း ခြား၍ (၁) မဂ်ဖိုလ်ကို (၂) ရခြင်းဟု ခွဲခြားပြောနေကြခြင်းဖြစ်၏။ ဥပမာ- ရောဂါဖြစ်ခြင်းကိုပင် ရောဂါရခြင်းဟု ပြောဆိုကြသကဲ့သို့ မှတ်အပ်၏။

## ၁၉၀။ တထတာတထာ

**တထတာသည် အသင်္ခတ (နိဗ္ဗာန်) ဖြစ်သလော။**

ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားအချို့က တထတာသည် အသင်္ခတမည်၏ဟု ဆိုကြကုန်၏။ ဤတထာတာကား မဟာယာန ဝိညာဏ ဂိုဏ်း၌ အလွန်အရေးပါ၏။ တထတာအကြောင်းကို ဝိညာဏ

ဝါဒအခန်း၌ အကျယ်ရေးခဲ့ပြီးဖြစ်၍ ဤ၌ အကျဉ်းမျှသာ ရေးပါမည်။ ရုပ်သည် ရုပ်သာလျှင်ဖြစ်၍ နာမ်အဖြစ်သို့ ဘယ်တော့မျှ ပြောင်းမသွားချေ။ ရုပ်သဘာဝအတိုင်း တည်မြဲ၏။ နဂိုမူလ ရုပ်သဘာဝအတိုင်းရှိ၏။ ထိုနည်းအတူ ဝေဒနာသည် ခံစားခြင်းသဘောရှိ၏။ ခံစားခြင်းသဘောမှ မှတ်သားခြင်း (သညာ) ဖြစ်သွားလိမ့်မည် မဟုတ်ချေ။ ဘယ်အခါမဆို ဝေဒနာမှန်လျှင် ခံစားခြင်းသဘောသာရှိ၏။ နဂိုမူလ ဝေဒနာသဘာဝမှ ပြောင်းရွှေ့ဖောက်ပြန်ခြင်းမရှိ။ ဤသို့ စသည်ဖြင့် ရုပ်, ဝေဒနာ, သညာ စသော တရားတို့သည် မိမိသဘာဝမွတာ နဂိုမူရင်းသဘောမှ မဖောက်ပြန်မှုကို တထတာဟု ခေါ်၏။ (တထာ + တာ = တထာ=ထိုအတိုင်း နဂိုအတိုင်း + တာ=ဖြစ်ခြင်း)။ ထိုတထတာသည် မပြောင်းလဲ မဖောက်ပြန် နဂိုပကတိအတိုင်း တည်သောကြောင့် အသင်္ခတမည်၏ဟု ဆိုကြကုန်၏။ ဤကား အသင်္ခတအစစ် နိဗ္ဗာန်ကို တထတာဟု ခေါ်သော သင်္ခတ တရားနှင့် ထပ်တူပြုရန်၊ (ဝါ) နိဗ္ဗာန်နှင့် လောကသံသရာကို ထပ်တူပြုရန် စတင်ကြိုးပမ်းခြင်းဖြစ်၏။

သကဝါဒီအလို ရုပ်သည် ရုပ်သဘာဝအတိုင်းရှိမှု၊ နာမ်သည် နာမ်သဘာဝ အတိုင်းရှိမှုသည် သီးခြား ပရမတ္ထတရား မဟုတ်ချေ။ ရုပ်၏ ဖောက်ပြန်ခြင်းသဘောသည် ရုပ်မှ သီးခြားခွဲ၍ တည်နေခြင်း မဟုတ်။ ဖောက်ပြန်ခြင်းသဘောကိုပင် ရုပ်ဟူ၍ခေါ်၏။ ခံစားခြင်းနှင့် ဝေဒနာသည် သီးခြားစီ မဟုတ်၊ ခံစားခြင်း (ခံစားမှု) သဘောကိုသာလျှင် ဝေဒနာဟူ၍ ခေါ်ရ၏။

ရုပ်၏ ရုပ်သဘာဝအတိုင်း တည်မှုဟူသည် စကားအရာ နှစ်ပိုင်းကွဲပြားနေခြင်းသည် ဖြစ်၏။ ထိုသို့ မိမိသဘာဝအတိုင်း အမြဲတည်မှု (တထတာ)သည် သီးခြား မဟုတ်လျှင် ရုပ်နာမ်ဓမ္မအတွင်း၌ ပါဝင်နေသဖြင့် ရုပ်နာမ်ဓမ္မသည် သင်္ခတ အနိစ္စဖြစ်လျှင် တထတာသည်လည်း သင်္ခတ အနိစ္စသာလျှင် ဖြစ်ရပေမည်။ ထို့ကြောင့် တထတာသည် သီးခြား ပရမတ် မဟုတ်သည့်အပြင် အသင်္ခတတရားလည်း မဟုတ်ဟူ၍ မှတ်အပ်၏။

## ၁၉၁။ ကုသလကထာ

### နိဗ္ဗာန်သည် ကုသိုလ်တရားလော။

အပြစ်ကင်းမဲ့ခြင်း (အနဝဇ္ဇ)၊ ကောင်းကျိုးချမ်းသာ (ဝိပါက်)ကို ဖြစ်စေနိုင်ခြင်း (သုခဝိပါက)၊ ဤလက္ခဏာနှစ်ချက်နှင့် ပြည့်စုံသော တရားကိုသာလျှင် ကုသိုလ်တရားဟု ဆိုရ၏။ နိဗ္ဗာန်သည် အပြစ်ကင်းမဲ့သော်လည်း ကောင်းကျိုးချမ်းသာ ဟူသော ဝိပါက် (သုခဝိပါက)ကို ဖြစ်စေနိုင်ခြင်း မရှိသောကြောင့် ကုသိုလ်ဟူသည် အမည်ကို မရချေ။ ကုသိုလ်စိတ်တို့သည်သာလျှင် အထက်ပါ လက္ခဏာနှစ်ပါးနှင့် ပြည့်စုံသောကြောင့် ကုသိုလ်ဟူသော အမည်ကို ရကုန်၏။ ဤကား သကဝါဒတည်း။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့ကား အပြစ်ကင်းမဲ့ခြင်း (အနဝဇ္ဇ) လက္ခဏာတစ်ပါးကိုသာ ကုသိုလ်၏အင်္ဂါလက္ခဏာဟု ယူဆကြ၍ နိဗ္ဗာန်သည် အပြစ်ကင်းမဲ့သောကြောင့် ကုသိုလ်မည်၏ဟု ဆိုကုန်၏။

## ၁၉၂။ အစ္စန္တနိယာမကထာ

### နိယတ မိစ္ဆာဒိဋ္ဌိအယူရှိသူအတွက် ဧရဲဘဝ တစ်ခုတည်းသာ ရှိသလော။

သောတာပန်ပုဂ္ဂိုလ်သည် အလွန်ဆုံး ခုနစ်ဘဝသာလျှင် သံသရာ၌ ကျင်လည်ရန် ရှိတော့၏။ သကဒါဂါမ်ပုဂ္ဂိုလ်သည် ဤလူ့ပြည်တွင် တစ်ကြိမ်သာလျှင် ပဋိသန္ဓေနေခွင့်ရှိတော့၏။ အနာဂါမ်ပုဂ္ဂိုလ်သည် ကာမဘုံ၌ လုံးဝ ပဋိသန္ဓေနေခြင်း မရှိတော့ချေ။ သုဒ္ဓါဝါသ ဗြဟ္မာဘုံ၌သာ ပဋိသန္ဓေနေရတော့၏။ ရဟန္တာပုဂ္ဂိုလ်အတွက်ကား ဤဘဝသည် နောက်ဆုံး ပစ္ဆိမဘဝ ဖြစ်လေတော့သည်။ ဤကား အရိယာပုဂ္ဂိုလ်တို့အတွက် ဘဝသံသရာကို ပိုင်းခြားကန့်သတ်ပြီးဖြစ်ပုံတည်း။

ပရဝါဒီ ဥတ္တရာပထက ဂိုဏ်းသားတို့က နိယတ မိစ္ဆာဒိဋ္ဌိအယူရှိသူတို့သည် အပါယ်ဘုံသို့ တစ်ကြိမ် ကျရောက်သွားပါက လွတ်လမ်း မရှိ၊

အပါယ်ဘုံ၌သာ အမြဲကျင်လည်ရတော့သည်ဟု ဆိုကုန်၏။ သကဝါဒီ အလို ပဥ္စာနန္တရိယကံကြီးငါးပါး ကျူးလွန်သူတို့သည် နောက်ဘဝ (ဒုတိယ ဘဝ)၌ ငရဲကျရန် သေချာ၏ (မိစ္ဆတ္တနိယတ)။ ထိုမှ နောက်တစ်ဘဝ (တတိယဘဝ)၌ကား သတ်မှတ်ချက် မရှိချေ။ သဿတဒိဋ္ဌိနှင့် ဥစ္ဆေဒ ဒိဋ္ဌိ အယူရှိသော မက္ခလိဂေါသာလ၊ ပူရဏကဿပ စသော တိတ္ထိများကို နိယတမိစ္ဆာဒိဋ္ဌိအယူရှိသည်ဟု ဆိုအပ်ကုန်၏။ ထိုကဲ့သို့သော အယူရှိသူ တို့သည် ထိုအယူကို သေခါနီးအချိန်အထိ မစွန့်ဘဲ ထိုမိစ္ဆာဒိဋ္ဌိ အယူတန်း လန်းဖြင့် သေဆုံးပါက နောက်ဘဝ (ဒုတိယဘဝ)၌ ငရဲ တိရစ္ဆာန် စသော အပါယ်ဘုံသို့ ရောက်ရန် သေချာ၏။ အကယ်၍ အချိန်မီ ထိုမိစ္ဆာဒိဋ္ဌိ အယူကို စွန့်လွှတ်ပါက အပါယ်ငရဲသို့ ကျရန် မသေချာတော့ချေ။ အပါယ် မှ လွတ်မြောက်ခွင့်ရ၏။ ထိုနိယတမိစ္ဆာဒိဋ္ဌိအယူရှိသူသည်လည်း အယူ ဝါဒ ပြောင်းလဲခြင်း၊ ဖောက်ပြန်ခြင်း၊ အယူစွန့်ခြင်း ဖြစ်နိုင်သောကြောင့် ဤဘဝမှ သေလျှင် နောက်ဘဝ (ဒုတိယဘဝ)၌ အပါယ်ကျမည်ဟု ယတိပြတ် မဆိုနိုင်၊ မသေမီ အယူစွန့်လိုက်ပါက အပါယ်မှ လွတ်နိုင်၏။ တစ်ဖန် နောက်ဘဝ (ဒုတိယဘဝ)၌ အပါယ်ဘုံတွင် ထိုမိစ္ဆာဒိဋ္ဌိအယူကို စွန့်လိုက် ပါက ထိုနောက်ဘဝ (တတိယဘဝ)၌ အပါယ် မကျနိုင်တော့ချေ။

ပရဝါဒီဂိုဏ်းသားတို့က (နိယ = မြဲသော၊ မိစ္ဆာဒိဋ္ဌိ = မှားသောအယူ) နိယတမိစ္ဆာဒိဋ္ဌိ ဟူသည် ဘယ်အခါမျှ မပြောင်းတော့ဘဲ ဘဝအဆက်ဆက် စွဲမြဲစွာ တည်နေသောကြောင့် ထိုမိစ္ဆာဒိဋ္ဌိကံ၏ အကျိုးပေးမှုကြောင့် အပါယ် ဘုံမှ ဘယ်တော့မျှ မတက်နိုင်ဘဲ သံသရာ့သစ်ငုတ် (သံသာရ ခါဏုက) ဖြစ်ရတော့မည်ဟု ဆိုကြကုန်၏။ သကဝါဒီဘက်ကဆိုလိုသော သံသရာ့ သစ်ငုတ်၊ ငရဲသစ်ငုတ်ဆိုသည်မှာ အပါယ်၌ အမြဲ တည်သည်ကို ဆိုလိုသည် မဟုတ်၊ အခြားသော အကုသိုလ်ကံတို့ထက် စွမ်းအားကြီးသောကြောင့် အလွန်တရာ ကြာရှည်စွာ အပါယ်၌ ဖြစ်ရခြင်းကို ရည်ရွယ်၍သာ ငရဲ သစ်ငုတ်၊ သံသရာ့သစ်ငုတ် ဆိုခြင်းဖြစ်သည်။ ခွဲခြား နားလည်သင့်ပေ သည်။

## ၁၉၃။ ဣန္ဒြိယတထာ

### လောကီသဒ္ဓါ, ဝီရိယ, သတိ, သမာဓိ, ပညာတို့သည် ဣန္ဒြေမည် သလော။

ပရဝါဒီ ဟေတုဝါဒဂိုဏ်းနှင့် မဟိသာသကဂိုဏ်းသားတို့က ပုထုဇဉ်တို့၏သန္တာန်၌ဖြစ်သော သဒ္ဓါ, ဝီရိယ, သတိ, သမာဓိ, ပညာတို့ကို ဣန္ဒြေဟု မခေါ်လိုကြချေ။ အရိယာတို့၏သန္တာန်၌ဖြစ်သော လောကုတ္တရာ သဒ္ဓါ, ဝီရိယ စသည်တို့ကိုသာလျှင် ဣန္ဒြေဟု ခေါ်လိုကြ၏။ ဣန္ဒြေ ဆိုသည်မှာ ဆိုင်ရာလုပ်ငန်းခွင်ကို ပိုင်စိုးခြင်းကို ဆိုလို၏။ ပုထုဇဉ်တို့သည် မိမိသဒ္ဓါ (ယုံကြည်မှု)ကို မပိုင်စိုးသောကြောင့် ယုံကြည်မှု အပြောင်းအလဲ ဖြစ်ရခြင်း ဖြစ်၏။ မိမိ ဝီရိယကို မပိုင်စိုးသောကြောင့် ပျင်းရိမှု ဖြစ်ရ၏။ ပုဂ္ဂိုလ်နှင့် ဓမ္မကို ခွဲခြားနားမလည်သဖြင့် ဤသို့ တွေးခေါ်ခြင်း ဖြစ်လေသည်။

သကဝါဒီအလို သဒ္ဓါသည် ပုထုဇဉ်, အရိယာမည်သူ့ သန္တာန်၌ ဖြစ်စေ ယုံကြည်သက်ဝင်ခြင်းကိစ္စ၌ သဒ္ဓါစေတသိက်က ပိုင်စိုး၏။ ထို့ကြောင့် ပုထုဇဉ်၌ရှိသော သဒ္ဓါကိုလည်း ဣန္ဒြေဟု ခေါ်ရမည်။ ဝီရိယသည် အားထုတ်မှု၌ ပိုင်စိုး၏။ ထို့ကြောင့် ပုထုဇဉ်၌ရှိသော ဝီရိယကိုလည်း ဣန္ဒြေဟု ခေါ်ရ၏။ ထို့ကြောင့် မြတ်စွာဘုရားသခင်သည် တရားဟောတော်မမူမီ ပုထုဇဉ်လောကကို ကြည့်တော်မူရာ "သဒ္ဓါ, ဝီရိယ စသော ဣန္ဒြေထက်မြက်သူ (တိက္ခိန္ဒြိယ)၊ သဒ္ဓါ, ဝီရိယ စသော ဣန္ဒြေနုသူ (မုဒိန္ဒြိယ)ပုဂ္ဂိုလ်များကို မြင်တော်မူ၏" စသော ပါဠိတော်များကို ထောက်၍ ပုထုဇဉ်၏ သဒ္ဓါ, ဝီရိယစသည်တို့သည်လည်း ဣန္ဒြေမည်၏ဟု မှတ်သင့်၏။

## ၁၉၄။ အသဉ္စိစ္စတထာ

### စေတနာမပါဘဲ အမှတ်တမဲ့ ပြုမူပြောဆိုမိပါက အာနန္တရိယကံကြီး ထိုက်နိုင်သလော။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသား အချို့တို့က အာနန္တရိယကံကြီး ငါးပါးသည် အလွန်ကြီးလေးသော ဂရုကဖြစ်သောကြောင့် စေတနာမပါဘဲ အမှတ်မဲ့ ကျူးလွန်မိသော် အကုသိုလ်ကံမြောက်သည်ဟု ဆိုကြ၏။

သာမန်အားဖြင့် သူ့အသက်သတ်မှုမှာ အပြစ်သေးငယ်သောကြောင့် စေတနာမပါဘဲ အမှတ်တမဲ့ ကျူးလွန်ပါက အကုသိုလ်ကံမမြောက်၊ အာနန္တရိယကံကြီးငါးပါးကိုသာလျှင် စေတနာမပါဘဲ ကံမြောက်သည်ဟု ယူဆကြ၏။ ဥပမာအားဖြင့် မိခင်၊ ဖခင် ကျန်းမာစေရန် ဆေးတိုက်ရာ ဆေးမှား၍ သေဆုံးပါက ဆေးတိုက်သူ သားသမီးမှာ မာတုဃာတကကံ (အမိသတ်မှု)၊ ပိတုဃာတကကံ (အဖသတ်မှု) အကုသိုလ်ဖြစ်သည်ဟု ဆိုကြ၏။ မိမိက တရားလမ်းကြောင်းအမှန် (ဓမ္မ)ဟု ထင်၍ ထိုသို့ ထင်မြင်ယူဆသည့်အတိုင်း ရပ်တည်မှုကြောင့် သံဃာကွဲပြားသွားပါက သံဃဘေဒကကံကြီးထိုက်သည်ဟု ဆိုကြ၏။

သကဝါဒီအလို တမင်တကာ ရည်ရွယ်ချက် (စေတနာ)ဖြင့် ပြုလုပ်ခြင်း မဟုတ်သောကြောင့် မိဘကို ဆေးမှားတိုက်သော သားသမီးအား ကံကြီး မထိုက်ပေ၊ တရားအမှန် (ဓမ္မ)ဟု ထင်၍ ထိုဓမ္မဘက်မှ ရပ်တည် ဟောပြော မှုကြောင့် သံဃာကွဲပြားပါက ထိုပုဂ္ဂိုလ်မှာ သံဃဘေဒကကံ မထိုက်ပေ။ အဓမ္မဝါဒကို အဓမ္မဝါဒဘက်မှ ရပ်တည်၍ ဟောပြောမှုကြောင့် သံဃာ ကွဲပြားလျှင်သာ သံဃဘေဒကကံ ထိုက်လေသည်။

## ၁၉၅။ ဉာဏကထာ

### ပုထုဇဉ်မှာ ဉာဏ်မရှိသလော။

ဉာဏ်သည် လောကီဉာဏ်၊ လောကုတ္တရာဉာဏ် ဟူ၍ နှစ်မျိုးရှိ၏။ ဒါန၊ သီလ စသည့်အမှုကို ပြုသော ကမ္မဿကတာဉာဏ် ကာမာဝစရ ဉာဏ်နှင့် ရူပဈာန် အရူပဈာန်ဟုဆိုအပ်သော သမာပတ္တိဉာဏ်တို့သည် လောကီဉာဏ်မည်၏။ သစ္စာလေးပါးကို ပိုင်းခြားသိတတ်သော မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်သည် လောကုတ္တရာဉာဏ်မည်၏။ ထိုတွင် လောကီဉာဏ်တို့ သည် ပုထုဇဉ်တို့၌ ဖြစ်ခွင့်ရ၏။ ဤကား သကဝါဒတည်း။

ပရဝါဒ ဟေတုဝါဒဂိုဏ်းသားတို့က ဤသို့ လောကီဉာဏ်ရှိကြောင်း ကို လက်မခံဘဲ လောကုတ္တရာဉာဏ် တစ်မျိုးတည်းကိုသာ လက်ခံကြ၏။ ထို့ကြောင့် ပုထုဇဉ်မှာ ဉာဏ် (လောကုတ္တရာဉာဏ်) မရှိဟု ဆိုခြင်းဖြစ်၏။

## ၁၉၆။ နိရယပါလကထာ

### ငရဲပြည်၌ ငရဲထိန်းမရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ငရဲပြည်တွင် ငရဲထိန်းမရှိ၊ ထိုငရဲသားတို့ ပြုခဲ့သော အကုသိုလ်ကံပင် နှိပ်စက်၏။ အကုသိုလ်ကံသည် ငရဲထိန်းအသွင်၊ ငရဲခွေး, ငရဲကျီး, လင်းတအသွင်ဆောင်၍ သတ်ဖြတ်ညှဉ်းဆဲမှုပြုသည်ဟု ဆိုကြ၏။ အချို့က ငရဲထိန်း, ငရဲခွေး စသည်တို့သည် သတ္တဝါမဟုတ်သော သက်မဲ့ဝတ္ထုများ၊ ယန္တရားဆန်ဆန် လည်ပတ်လှုပ်ရှားနေသော အရုပ်များသာဟု ဆိုကြကုန်၏။

သကဝါဒီအလို ငရဲထိန်း, ငရဲခွေး, ငရဲကျီးတို့သည် သက်ရှိသတ္တဝါများဖြစ်ကြကုန်၏။ စတုမဟာရာဇ်နတ်မျိုးဖြစ်သော ဘီလူးများသည် အတိတ်ဘဝက ကုသိုလ်နှင့် အကုသိုလ် ရောနှောပြုခဲ့မှုကြောင့် ငရဲပြည်၌ နတ်ကြမ်း, ဘီလူးကြမ်းကြီးများဖြစ်၍ ငရဲသူ, ငရဲသားတို့ကို နှိပ်စက်ကြကုန်၏။

## ၁၉၇။ တိရစ္ဆာနကထာ

### နတ်ပြည်၌ တိရစ္ဆာန်ရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က သိကြားမင်းစီးသော ဧရာဝဏ်ဆင်ရှိခြင်းကို ထောက်ဆ၍ နတ်ပြည်၌ တိရစ္ဆာန်ရှိသည်ဟု ဆိုကြ၏။

သကဝါဒီအလို သိကြားမင်းစီးသော ဧရာဝဏ်ဆင်သည် နတ်သားတစ်ယောက်က ဆင်အသွင်ကို ဖန်ဆင်းထားခြင်း ဖြစ်လေ၏။ တကယ့်တိရစ္ဆာန်ဆင် မဟုတ်ပေ။ ထို့ကြောင့် နတ်ပြည်တွင် တိရစ္ဆာန်မရှိချေ။ အကယ်၍ နတ်ပြည်တွင် တိရစ္ဆာန်ရှိပါက ဒေဝဂတိနှင့် တိရစ္ဆာနဂတိတို့ ရောယှက် ရှုပ်ထွေးနေပေတော့မည်။

## ၁၉၈။ မဂ္ဂကထာ

### အရိယမဂ္ဂင် ငါးပါးသာ ရှိသလော။

ပရဝါဒီ မဟိသာသကဂိုဏ်းသားတို့က သမ္မာဝါစာမဂ္ဂင်၊ သမ္မာကမ္မန္တမဂ္ဂင်၊ သမ္မာအာဇီဝမဂ္ဂင်တို့သည် ဝိညတ်ရုပ်တို့ ဖြစ်ကြ၍ စိတ်နှင့်

မယှဉ်၊ စေတသိက်တရား မဟုတ်ကြချေ။ ထို့ကြောင့် လောကုတ္တရာ အရိယမဂ်ကို ရသောအခိုက်၌ ထိုမဂ္ဂင်သုံးပါး မပါဝင်ဘဲ မဂ္ဂင် ငါးပါးသာ လျှင် ဖြစ်၏ဟု ဆိုကြကုန်၏။ သမ္မာဝါစာ စသော သုံးပါးသည် မဂ္ဂင်ဖြစ် သော်လည်း မဂ်ဖြစ်ခိုက်၌ မပါဝင်ဟု ဆိုကြ၏။

သကဝါဒီအလို မဂ်ဖြစ်ခိုက်၌ မဂ္ဂင်ရှစ်ပါးလုံးပါဝင်၏။ (အဋ္ဌင်္ဂိက မဂ်) အင်္ဂါရှစ်ပါးရှိသော မဂ်သာလျှင် လောကုတ္တရာမဂ်မည်၏။ သမ္မာ ဝါစာ စသော မဂ္ဂင်သုံးပါးသည်လည်း စေတသိက်တရားတို့ဖြစ်ကြ၍ မဂ်စိတ်ဖြစ်ခိုက် ပူးတွဲပါဝင်ယှဉ်နိုင်ကြ၏။

## ၁၉၉။ ဉာဏကထာ

### မဂ်ဉာဏ်တစ်ခုစီ၌ ဉာဏ်တစ်ဆယ့်နှစ်ပါး ကွဲပြားသသော။

ပရဝါဒီ ပုဗ္ဗသေလိယဂိုဏ်းသားတို့က ဓမ္မစကြာသုတ်တော်၌ သစ္စာ တစ်ပါးစီ၌ သစ္စဉာဏ်၊ ကိစ္စဉာဏ်၊ ကတဉာဏ် ဟူ၍ သိပုံအခြင်းအရာ သုံးမျိုး ပြထားရာ သစ္စာလေးပါးနှင့် မြှောက်ပွားကာ (၃ × ၄ = ၁၂) မဂ်ဉာဏ်၏ အခြင်းအရာ (၁၂) ပါးဖြစ်၏။ ထိုမဂ်ဉာဏ်အခြင်းအရာ (၁၂) ပါးကို သီးခြားခွဲယူ၍ သောတာပတ္တိမဂ်ဉာဏ် စသည် (၁၂) ပါးစီ ရှိသည်။ စုစုပေါင်း လောကုတ္တရာမဂ်ဉာဏ် (၁၂ × ၄) = ၄၈ ပါး ရှိ သည်ဟု ဆိုကြ၏။

သကဝါဒီအလို သစ္စဉာဏ်၊ ကိစ္စဉာဏ်၊ ကတဉာဏ်တို့သည် မဂ် ဉာဏ်မဖြစ်မီ ဥပစာရဘာဝနာအခိုက်၌လည်းကောင်း၊ မဂ်ဉာဏ်ဖြစ်ပြီး နောက် ပစ္စဝေက္ခဏာ ဆင်ခြင်သောအခါ၌လည်းကောင်း ဤအခြင်း အရာသုံးပါးဖြင့် သစ္စာလေးပါးကို ဝေဖန်ပိုင်းခြားသိဟန်ကို ပြ၏။ မဂ် ဉာဏ်ဖြစ်ခိုက်၌မူ သစ္စဉာဏ်တစ်မျိုးတည်းသာ ဖြစ်၏။ ထိုသစ္စဉာဏ် သည်လည်း သစ္စာလေးပါးနှင့်ဆိုင်သော လုပ်ငန်းကိစ္စလေးရပ်ကို တစ် ပြိုင်နက်ပြုသည်။ ထို့ကြောင့် မဂ်ဉာဏ်သည် တစ်ပါးသာလျှင်ဖြစ်၍ မဂ်လေးပါး၌ မဂ်ဉာဏ်လေးပါး ပြား၏။

## ၂၀၀။ သာသနတထာ

**သင်္ဂါယနာတင်ခြင်းသည် သာသနာကို အသစ်ပြုပြင်ရာ ရောက်သလော။**

ပရဝါဒီ ဥတ္တရာပထက (မြောက်ပိုင်း) ဂိုဏ်းသားတို့သည် သင်္ဂါယနာ သုံးတန်တင်ခြင်းကို မကျေနပ်ကြချေ။ ထိုသင်္ဂါယနာတင်မှုသည် သာသနာတော်ကို အသစ်တစ်ဖန် ပြုပြင်မွမ်းမံရာ ရောက်သဖြင့် သင်္ဂါယနာ တစ်ကြိမ်တင်ပြီးတိုင်း သာသနာအသစ်တစ်ခု ဖြစ်ပေါ်လာသည်ဟု ဆိုကြ၏။ ဤနည်းအားဖြင့် ထေရဝါဒသာသနာတော်ကို နဂိုမူရင်း မဟုတ်တော့ဟု စွပ်စွဲကြခြင်း ဖြစ်၏။

သကဝါဒီအလို သင်္ဂါယနာတင်ခြင်းသည် သာသနာတော်ကို အသစ်ပြုပြင် မွမ်းမံခြင်းမဟုတ်၊ နောက်နောက်ပြုပြင်မှု အသစ်ထည့်သွင်းမှုတို့ကို စိစစ်ထုတ်ပယ်ခြင်းသာ ဖြစ်၏။ သတိပဋ္ဌာန်လေးပါး, သမ္မပ္ပဓာန်လေးပါး, ဗောဇ္ဈင်ခုနစ်ပါး, မဂ္ဂင်ရှစ်ပါးကို မြတ်စွာဘုရား ဟောတော်မူခဲ့ရာ ထိုမူရင်းအတိုင်း သင်္ဂါယနာတင်ခြင်းဖြစ်၍ သာသနာတော် အသစ်ပြုပြင်ရာ မရောက်ချေ။ သတိပဋ္ဌာန်လေးပါး စသည်တို့မှာ ဘုရားဟောပြီးဖြစ်၍ မည်သူမျှ အသစ်ထပ်မံ မဟောနိုင်ချေ။ သင်္ဂါယနာတင်ရာ၌ ကုသိုလ်ကို အကုသိုလ်ဟု ပြင်ဆင်ခြင်း၊ အကုသိုလ်ကို ကုသိုလ်ဟု ပြင်ဆင်ခြင်း၊ သတိပဋ္ဌာန်လေးပါးကို ခြောက်ပါးဖြစ်အောင် ချဲ့ထွင်ခြင်း၊ သတိပဋ္ဌာန်သုံးပါးဖြစ်အောင် တစ်ပါးကို နုတ်ပယ်ခြင်းစသည် ပြုခဲ့ပါလျှင် အသစ်ပြုပြင်ရာရောက်၏။ ယခုမူ ထိုကဲ့သို့ ပြောင်းလဲ ပြင်ဆင်ဖြည့်စွက် နုတ်ပယ်ခြင်း လုံးဝမပြုခဲ့ချေ။ ထို့ကြောင့် သင်္ဂါယနာတင်မှုသည် မူလသာသနာတော် အစစ်အမှန်အတိုင်း တည်စေရန် ဆောင်ရွက်ခြင်းဖြစ်၍ အသစ်ပြုပြင်သည်ဟု မဆိုသင့်ချေ။

## ၂၀၁။ အဝိဝိတ္တကထာ

**ပုထုဇဉ်သည် ကာမာဝစရကံ ရူပါဝစရကံ အရူပါဝစရကံ သုံးပါးနှင့် အမြဲ ပြည့်စုံနေသလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က ပုထုဇဉ်ဖုဂ္ဂိုလ်သည် ကာမာဝစရကံ ရူပါဝစရကံ အရူပါဝစရကံတို့ကို ပယ်စွန့်မှု "ကုသလ် အကုသလ်

ဖဟံ" မပြုရသေးချေ။ ထိုကံတို့သည် အကျိုးပေးခွင့်ရရန် စောင့်ဆိုင်း နေကြကုန်၏။ ထိုကံသုံးမျိုးသည် ပုထုဇဉ်ပုဂ္ဂိုလ်တိုင်း၌ အမြဲဝန်းရံတည် နေကြ၏။ ကံသည် စိတ်နှင့်မယှဉ်ဘဲ သီးသန့် အလွတ်တည်နေသော စိတ္တဝိပ္ပယုတ္တတရားမျိုး ဖြစ်သည်ဟု ယူဆကြ၏။

သကဝါဒီအလို စိတ်နှင့်မယှဉ်သော 'စိတ္တဝိပ္ပယုတ္တကံ'ဟူ၍ မရှိချေ။ စိတ်နှင့်ယှဉ်တွဲဖြစ်ပေါ်သော စေတနာကို 'ကံ'ဟု ခေါ်၏။ ထိုကံ (စေတနာ)သည် ဖြစ်ဆဲ ပစ္စုပ္ပန်အခိုက်၌သာ ထင်ရှားရှိ၏။ ထိုပစ္စုပ္ပန် ဖြစ်ဆဲခဏ၌သာလျှင် ထိုကံနှင့် ပြည့်စုံနေသည်။ ထိုကံမှ ကင်းဆိတ်ခြင်း မရှိ(အဝိဝိတ္တ)ဟု ဆိုနိုင်၏။ ထိုပစ္စုပ္ပန် (စေတနာ) ကံ ချုပ်သွားပြီးနောက် ထို(စေတနာ)ကံသည် မရှိတော့ချေ။ မရှိဘဲလျက် အကျိုးကို ဖြစ်စေ၏ (နတ္ထိပစ္စည်း)။ ထိုသို့ ထင်ရှားမရှိတော့သောကြောင့် လွန်လေပြီးသော အတိတ်ကာလ (စေတနာ)ကံတို့သည် ပုထုဇဉ်ပုဂ္ဂိုလ်ကို ဝန်းရံတည်နေ ခြင်းမရှိဟု မှတ်သင့်၏။ ထို့ကြောင့် ပုထုဇဉ်သည် ကာမာဝစရကံ ရူပါ ဝစရကံ အရူပါဝစရကံ သုံးမျိုးဖြင့် တစ်ပြိုင်နက်တည်း အမြဲပြည့်စုံနေ သည်ဟု မဆိုသင့်ချေ။

## ၂၀၂။ သံယောဇနကထာ

### ရဟန္တာသည် အဝိဇ္ဇာနှင့် ဝိစိကိစ္ဆာ သံယောဇဉ်ကို ကုန်စင်အောင် မပယ်သလော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ဝိဇ္ဇာဉာဏ်သည် အရာခပ် သိမ်းကို သိတတ်သော ဉာဏ်အလင်းဖြစ်၍ အဝိဇ္ဇာ (မောဟ) အမှောင် သည် ထိုဝိဇ္ဇာဉာဏ်ကို ဖုံးအုပ်ထား၏။ မြတ်စွာဘုရားရှင်သည် အဝိဇ္ဇာကို ကုန်စင်အောင် ပယ်သောကြောင့် အလုံးစုံကို သိတော်မူ၏။ ရဟန္တာတို့ သည်ကား အဝိဇ္ဇာကို ကုန်စင်အောင် မပယ်။ အဝိဇ္ဇာ အကြွင်းအကျန် ရှိနေသောကြောင့် အလုံးစုံကို မသိနိုင်ကြခြင်းဖြစ်၏။ ထိုနည်းအတူ ဝိစိကိစ္ဆာ သံယောဇဉ်ကိုလည်း ကုန်စင်အောင် မပယ်ဘဲ အကြွင်းအကျန်

ရှိနေသောကြောင့် ရဟန္တာသည် လူ မြို့ ရွာ နာမည်တို့၌ ယုံမှားသံသယ ဖြစ်နေသေး၏။ ထို့ကြောင့် ရဟန္တာသည် အဝိဇ္ဇာနှင့် ဝိစိကိစ္ဆာ သံယောဇဉ်ကို ကုန်စင်အောင် မပယ်ဟု ဆိုကြ၏။

ဤဝါဒ အပြည့်အစုံနှင့် ဖြေရှင်းချက်ကို ကထာ အမှတ်စဉ် (၁၁) နှင့် (၁၂) ကို ကြည့်လေ။

## ၂၀၃။ ဣဒ္ဓိကထာ

### မြတ်စွာဘုရားနှင့် သာဝကတို့သည် အလိုဆန္ဒရှိသမျှကို တန်ခိုးဖြင့် ပြုနိုင်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဘုရား, ရဟန္တာတို့သည် တန်ခိုးဖြင့် အရာရာတိုင်းကို လိုသလို ဖန်တီးနိုင်ကြသည်ဟု ဆိုကြ၏။ ဥပမာအားဖြင့် ပိလိန္ဒဝစ္ဆမထေရ်သည် ဗိမ္ဗိသာရမင်းကြီး၏ နန်းတော်ကို ရွှေဖြစ်စေဟု အဓိဋ္ဌာန်ပြုတော်မူရာ နန်းတော်သည် ရွှေဖြစ်သွားလေသည်။

သကဝါဒီအလို တန်ခိုးဣဒ္ဓိပါဒ်သည် အရာရာတိုင်းကို ဖြစ်စေနိုင်ခြင်းမရှိ၊ အနိစ္စတရားကို နိစ္စဖြစ်အောင် တန်ခိုးဖြင့် မပြုလုပ်နိုင်ချေ။ သစ်ပင်မှ သစ်ရွက်မကြွေဘဲ အမြဲ အသီးအရွက်ရှိနေအောင် တန်ခိုးဖြင့် မလုပ်နိုင်ချေ။ အမြဲတမ်း လဆန်းဖြစ်နေအောင် ကမ္ဘာ့နိယာမကို မပြောင်းလဲနိုင်ချေ။ ဖြစ်ပေါ်လာသော စိတ်စေတသိက် ရုပ်တရားတို့ကို မချုပ်ဘဲ အမြဲတည်နေအောင် မစွမ်းနိုင်ချေ။ သတ္တဝါများ မအို မနာ မသေအောင် တန်ခိုးဖြင့် မတားနိုင်ချေ။ သို့ရာတွင် တစ်ဦးတစ်ယောက်အတွက် ရည်ရွယ်၍ ဖန်ဆင်းရာ၌ ထိုရည်ရွယ်ခံရသော ပုဂ္ဂိုလ်၏ ကံအလျောက် တန်ခိုးဖန်ဆင်း၍ ရနိုင်၏။ ရွှေဖန်ဆင်းပေးမည်ဆိုပါက ထိုရွှေရထိုက်သောကံရှိသူအတွက်သာ ဖန်ဆင်း၍ဖြစ်နိုင်၏။ သစ်သီးသီးအောင် တန်ခိုးဖြင့် အဓိဋ္ဌာန်ပြုရာ၌ သစ်သီးစားထိုက်သော ကံရှိသူအတွက်သာ ဖြစ်နိုင်၏။ မြတ်စွာဘုရားရှင်၏ ဓာတ်တော်တို့ကို မြေအောက် ဓာတ်တော်တိုက်၌ မြှုပ်ထားစဉ်က ဆီမီးတိုင်တို့ကို အနှစ်

နှစ်ရာကျော် ကြာရှည်စွာ ထွန်းလင်းနေစေရန် အရှင်မဟာကဿပထေရ် အဓိဋ္ဌာန်ပြုတော်မူခဲ့၏။ သီဟိုဠ်ကျွန်း၌ ဗြာဟ္မဏတိဿ သူပုန်ထစဉ်က ရဟန်းတော်များ ငတ်မွတ်ခေါင်းပါးနေရာ စမ်းရေအိုင်တစ်ခုကို ရဟန္တာတစ်ပါးက အဓိဋ္ဌာန်ပြုတော်မူသောအခါ နံနက်ပိုင်း၌ ထောပတ် နို့ရည်ဖြစ်နေ၍ ညနေပိုင်းတွင် ရေပြန်ဖြစ်သွား၏။ ဤသို့ ရေကို နို့ရည်ဖြစ်စေခြင်း၊ နန်းတော်ကို ရွှေဖြစ်စေခြင်းတို့သည် ရုပ်သဘာဝ ဖြစ်စဉ်တစ်ခုကို မတူသော ရုပ်ဖြစ်စဉ်သို့ ပြောင်းလဲပေးခြင်းသာဖြစ်၏။ ဓာတ်တော်တိုက်ရှိ ဆီမီးတိုင်တို့ကို အနှစ်နှစ်ရာကြာအောင် ပြုခြင်းသည် တူသော ရုပ်သဘာဝဖြစ်စဉ်ကို ကြာရှည်တည်တံ့အောင် ပြုခြင်းဖြစ်၏။ ဤသို့ သတ္တဝါတို့၏ ဘုန်းကံစသော အကူအညီအကြောင်းများ ပြည့်စုံသော်လည်း သဘာဝနိယာမတရားကို ပြောင်းပြန်ဖြစ်အောင် တန်ခိုးဖြင့် ပြုနိုင်စွမ်း မရှိချေ။ ပရဝါဒီကား ဤသို့ ခွင်းချက်မထားဘဲ အရာရာတိုင်းမှာ အဓိဋ္ဌာန်တန်ခိုးဖြင့် ပြီးနိုင်သည်ဟု ဆိုမှားလေသည်။

## ၂၀၄။ ဗုဒ္ဓတထာ

### မြတ်စွာဘုရားအချင်းချင်း ဉာဏ်တော်ကွာခြားသလော။

မြတ်စွာဘုရားရှင်တို့သည် မိမိတို့ ပွင့်တော်မူလာသော ခေတ်အလျောက်, သက်တမ်းအလျောက် အရပ်တော်ကွာခြားမှု, သက်တမ်းကွာခြားမှု ရှိတော်မူကြ၏။ ဖြည့်ဆည်းပူးခဲ့သော ပါရမီအထူးအလျောက် ကိုယ်ရောင်တော် မတူ ထူးခြားမှု ရှိကြ၏။ ဉာဏ်ပညာအရာ၌ကား ထူးခြားချက် မရှိချေ။ ဘုရားရှင်အချင်းချင်း တူညီတော်မူကြလေသည်။ ဤသည်ကား သကဝါဒတည်း။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့သည် ဤသို့ ခွဲခြား နားမလည်ကြဘဲ ဘုရားရှင်အချင်းချင်း ဉာဏ်ပညာအရာ၌ မတူထူးခြားမှု၊ သာလွန်မှု၊ ယုတ်ညံ့မှု ရှိသည်ဟု ဆိုမှားလေသည်။

## ၂၀၅။ သဗ္ဗဒိသာတထာ

### အရပ်ဆယ်မျက်နှာလုံး၌ မြတ်စွာဘုရားရှင်တို့ တည်ရှိကြသလော။

ပရဝါဒီ မဟာသံဃိကဂိုဏ်းသားတို့က ပွင့်တော်မူပြီး၍ ပရိနိဗ္ဗာန် စံဝင်တော်မူပြီးသော ဂင်္ဂါဝါဠု သဲစုမကသော ဘုရားရှင်တို့သည် ချုပ်ငြိမ်း ပျောက်ကွယ်၍မသွားချေ။ ဤလောကဓာတ်အတွင်းမှာပင် နိဗ္ဗာန်ချမ်းသာ ကို ခံစားစံစားလျက် စံနေတော်မူကြကုန်၏။ ယင်းတို့၏ အယူဝါဒ၌ နိဗ္ဗာန်ကို တထတာဟု ခေါ်၏။ ထိုတထတာသည် ဤလောကဓာတ်၏ အသွင်လက္ခဏာ တစ်မျိုးသာဖြစ်၍ လောကသံသရာနှင့် နိဗ္ဗာန်သည် တူ ညီ၏။ ထို့ကြောင့် ပရိနိဗ္ဗာန်စံဝင်သော ဘုရားရှင်အပေါင်းသည် နိဗ္ဗာန ဓာတ် (ဝါ) ဤလောကဓာတ်အတွင်း၌ တည်ရှိနေကြ၏။ ထက်, အောက်, ဝဲ, ယာ အရပ်ဆယ်မျက်နှာတို့၌ ဘုရားရှင်တို့ တည်ရှိစံနေတော်မူကြသည် ဟု ဆိုကြကုန်၏။

သကဝါဒီအလို ပရိနိဗ္ဗာန်စံဝင်တော်မူပြီးသော မြတ်စွာဘုရားတို့ကို ဤလောက အရပ်ဆယ်မျက်နှာအတွင်း၌ တည်ရှိနေသည်ဟု မဆိုသင့် ချေ။ ဘုရား ရဟန္တာ ဟူသော ဝေါဟာရအသုံးအနှုန်းတို့သည် ပုဂ္ဂိုလ်ရေး ပညတ်ချက်များ (ပုဂ္ဂလပညတ်)ဖြစ်၍ နိဗ္ဗာန်နှင့် မဆက်စပ်သင့်ချေ။ ပုဂ္ဂလပညတ်နှင့်ဆိုင်သော ဒေသနာကို နိဗ္ဗာန်ဟူသော ပရမတ္ထသဘော နှင့် နှီးနှောနှိုင်းယှဉ်၍ ပြောဆိုသုံးစွဲခြင်း မပြုနိုင်ချေ။ ဘုရားရဟန္တာသည် ပရိနိဗ္ဗာန်စံဝင်ပြီးနောက် ရှိနေသည်ဟု ဆိုပါက သဿတဒိဋ္ဌိ ဖြစ်၏။ ဘာမျှမရှိတော့ဟု ဆိုပါက ဥစ္ဆေဒဒိဋ္ဌိဖြစ်၏။ ထို့ကြောင့် ပရိနိဗ္ဗာန်စံပြီး သော ဘုရားရဟန္တာတို့ ရှိသေးသည်, မရှိတော့ဟု ဆွေးနွေး ပြောဆို သုံးစွဲခြင်း မပြုအပ်။ ထိုသို့ ပရိနိဗ္ဗာန်စံပြီးသော ဘုရား, ရဟန္တာတို့ တည်ရှိနေသည်ဟု မဆိုနိုင်ပါက အရပ်ဆယ်မျက်နှာ၌ ဘုရားများစွာ တည်နေသည်ဟူသော ပရဝါဒီ၏ အယူအဆကို ပယ်အပ်၏။

## ၂၀၆။ ဓမ္မကထာ

### ရုပ်နာမ် သဘာဝဓမ္မအားလုံးသည် မြဲသလော။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသား အချို့တို့က ရုပ်နာမ် သဘာဝဓမ္မအားလုံးသည် မြဲသည် (နိယတ)ဟု ဆိုကြကုန်၏။ ရုပ်သည် ဝေဒနာ မဖြစ်နိုင်၊ ရုပ်သည် ရုပ်အဖြစ်ဖြင့် မြဲ၏။ ဝေဒနာသည် ဝေဒနာအဖြစ်ဖြင့် မြဲ၏။ သညာသည် ဝေဒနာမဖြစ်နိုင်၊ သညာအဖြစ်ဖြင့် မြဲ၏။ ဤသို့ မိမိတို့ ပင်ကိုသဘာဝမှ ဖောက်ပြန်ပြောင်းလဲခြင်း မရှိ၊ မြဲသောကြောင့် နိယတတရားများ ဖြစ်သည်ဟု ဆိုကြကုန်၏။

သကဝါဒီအလို ရုပ်နှင့်ရုပ်သဘာဝဟူသည် နှစ်မျိုးကွဲပြားခြင်းမရှိ၊ ရုပ်သဘာဝကိုပင် ရုပ်ဟု ခေါ်၏။ ရုပ်အဖြစ်နှင့် ရုပ်ဟူ၍ နှစ်မျိုး ကွဲပြားမှု မရှိ၊ စကားအရာ၌သာ နှစ်ပိုင်းခွဲခြား ပြောရခြင်းဖြစ်၏။ ထို့ကြောင့် ရုပ်သည် မမြဲသကဲ့သို့ ရုပ်အဖြစ် ရုပ်သဘာဝသည်လည်း မမြဲချေ၊ အနိစ္စသာတည်း။ ရုပ်ပျက်စီးလျှင် ရုပ်သဘာဝလည်း တစ်ပါတည်း ပျက်၏။ ဝေဒနာပျက်လျှင် ဝေဒနာအဖြစ် (ဝေဒနာသဘာဝ)လည်း တစ်ပါတည်း ပျက်၏၊ ကျန်မနေရစ်ချေ။ ထို့ကြောင့် ရုပ်ကို အနိစ္စဟုဆို၍ ရုပ်သဘာဝကို မြဲသည်ဟု နှစ်ပိုင်းခွဲ၍ မဆိုသင့်ချေ။

## ၂၀၇။ တမ္မကထာ

### ကံသည် ပြောင်းလဲခြင်းမရှိ မြဲသလော။

ကံကို သုံးမျိုး ခွဲခြား၏။ ကာမာဝစရကုသိုလ် အကုသိုလ်ဇော စော ရာ၌ ဇောခုနစ်ကြိမ် ဖြစ်၏။ ပထမဇောနှင့် ယှဉ်သော စေတနာကံကို ဒိဋ္ဌဓမ္မဝေဒနီယကံဟု ခေါ်၏။ ယခုဘဝ၌ လက်ငင်းဒိဋ္ဌဓမ္မ အကျိုးပေး၏။ ဤဘဝ၌ အကျိုးပေးခွင့် မရပါက ဤကံ၏ အစွမ်းသတ္တိသည် အချည်းနှီးဖြစ်လေ၏။ အကျိုးပေးခွင့်မရှိတော့ချေ။ သတ္တမ (ခုနစ်ခု မြောက်) ဇောနှင့်ယှဉ်သော စေတနာကံကို ဥပပဇ္ဇဝေဒနီယကံဟု ခေါ်

၏။ ဤဘဝ၏ နောက်ဘဝ (ဒုတိယဘဝ)၌ အကျိုးပေး၏။ ဒုတိယဘဝ၌ အခွင့်မရပါက ထိုကံသည် အချည်းနှီး အလဟဿ ဖြစ်လေ၏။ အလယ် ဇောငါးချက်နှင့် ယှဉ်သော စေတနာကံကို အပရာပရိယဝေဒနီယကံဟု ခေါ်၏။ တတိယဘဝမှစ၍ နိဗ္ဗာန်မရမီ တစ်သံသရာလုံး အခွင့်ရသည့် အခါ အကျိုးပေးတတ်၏။ ဤကံသုံးမျိုးသည် အချည်းနှီး အဟောသိကံ အဖြစ်သို့ ပြောင်းတတ်သောကြောင့် မြဲသည် (နိယတ)ဟု မဆိုသင့်ချေ။ ဤကား သကဝါဒတည်း။

ပရဝါဒီ အန္ဓကဂိုဏ်းနှင့် ဥတ္တရာပထကဂိုဏ်းသား အချို့တို့သည် ဒိဋ္ဌဓမ္မဝေဒနီယကံသည် ဥပပဇ္ဇဝေဒနီယကံအဖြစ်သို့ မပြောင်းနိုင်။ ဥပပဇ္ဇဝေဒနီယကံသည်လည်း ဒိဋ္ဌဓမ္မဝေဒနီယကံ, အပရာပရိယ ဝေဒနီယကံအဖြစ်သို့ မပြောင်းလဲနိုင်။ အပရာပရိယဝေဒနီယကံသည်လည်း ဒိဋ္ဌဓမ္မဝေဒနီယကံ, ဥပပဇ္ဇဝေဒနီယကံအဖြစ်သို့ မပြောင်းလဲနိုင်။ ထို့ကြောင့် ထိုကံသုံးပါးသည် မိမိသဘာဝအတိုင်း မြဲသည် (နိယတ) ဟု အယူမှားကြလေသည်။ အဟောသိကံအဖြစ်သို့ ပြောင်းလဲခြင်းကို နားမလည်၍ ဤသို့ အယူမှားခြင်းဖြစ်၏။

## ၂၀၈။ ပရိနိဗ္ဗာနကထာ

**ရဟန္တာပုဂ္ဂိုလ်တို့သည် သံယောဇဉ်ကို ကုန်စင်အောင် မပယ်ဘဲလျက် ပရိနိဗ္ဗာန်ပြုသလော။**

အန္ဓကဂိုဏ်း၏ ဝါဒဖြစ်၏။ ကထာ အမှတ်စဉ် (၂၀၂) သံယောဇနကထာနှင့်တူပြီ။

## ၂၀၉။ ကုသလစိတ္တကထာ

**ရဟန္တာသည် ကုသိုလ်စိတ်ဖြင့် ပရိနိဗ္ဗာန်စံသလော။**

သတိသမ္ပဇဉ်ဉာဏ်ပညာသည် ကုသိုလ်နှင့်ကြိယာဟူ၍ နှစ်မျိုးရှိ၏။ ရဟန္တာပုဂ္ဂိုလ်တို့၌ သတိ, ပညာသည် ကြိယာစိတ်နှင့် ယှဉ်၏။ ရဟန္တာမှ

အောက်ဖြစ်သော အနာဂါမ် စသည်တို့၌ သတိ, ပညာသည် ကုသိုလ်စိတ်နှင့် ယှဉ်တွဲ၏။ ထို့ပြင် ဘဝတစ်ခု၌ ပဋိသန္ဓေစိတ် ဘဝင်စိတ် စုတိ (သေဆုံး) စိတ်တို့သည် တစ်မျိုးတစ်စားတည်းသာလျှင် ဖြစ်ရ၏။ မဟာဝိပါက် ပထမစိတ်ဖြင့် ပဋိသန္ဓေနေခဲ့သူ၌ ဘဝင်စိတ်နှင့် စုတိစိတ်တို့လည်း ယင်းမဟာဝိပါက် ပထမစိတ်ပင်ဖြစ်၏။ ထို့ကြောင့် ရဟန္တာတို့ ပရိနိဗ္ဗာန်စံဝင်ရာ၌လည်း အများနည်းတူ စုတိစိတ်ခေါ် ဝိပါက်စိတ်တစ်ခုခုဖြင့် ဘဝအဆုံးသတ်ကြရ၏။ ကုသိုလ်, ကြိယာစသော ဇောစိတ်တို့ဖြင့် ဘဝကို အဆုံးသတ်၍မရချေ။ သို့ရာတွင် ရဟန္တာပုဂ္ဂိုလ်တို့ ပရိနိဗ္ဗာန်စံဝင်ခန်းကို ပြဆိုရာ၌ "ဉပဋ္ဌိတဿတိ သတော သမ္ပဇာနော ပရိနိဗ္ဗာယတိ = ဉပဋ္ဌိတဿတိ၊ ထင်သောသတိရှိလျက်။ သတော၊ သတိနှင့်ပြည့်စုံလျက်။ သမ္ပဇာနော၊ အဆင်ခြင်ဉာဏ်ပညာနှင့် ပြည့်စုံလျက်။ ပရိနိဗ္ဗာယတိ၊ ချုပ်ငြိမ်းလေ၏" ဟု ပြဆိုထားရာ သတိ, ပညာနှင့်ယှဉ်၍ ချုပ်ငြိမ်းပါက ကုသိုလ်စိတ်ဖြင့် ချုပ်ငြိမ်းခြင်းဖြစ်ရမည်ဟု ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဆိုကြ၏။

အမှန်စင်စစ် သတိ, ပညာဖြင့် ပြည့်စုံစွာ ချုပ်ငြိမ်းသည် ဟူသော စကားရပ်မှာ စုတိစိတ် (အဆုံးသတ်စိတ်)၏ ရှေ့နား၌ဖြစ်သော ဉာဏသမ္ပယုတ် ကြိယာဇောစိတ်များကို ရည်ရွယ်၍ ဆိုခြင်းဖြစ်လေသည်။ ထိုကြိယာဇောစိတ်တို့၌ သတိ, ပညာတို့ ပါဝင်ယှဉ်နေခြင်းကို နောက်၌ရှိသော စုတိစိတ်အပေါ် တင်စားသုံးနှုန်းခြင်းဖြစ်၏။

## ၂၁၀။ အာနေဥ္ဇကထာ

## ဘုရားရဟန္တာတို့သည် စတုတ္ထဈာန်စိတ်ဖြင့် ပရိနိဗ္ဗာန်စံသလော။

ဒီဃနိကာယ် မဟာပရိနိဗ္ဗာနသုတ်တော်၌ မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူခန်းကို ပြဆိုရာဝယ် မြတ်စွာဘုရားသည် စတုတ္ထဈာန်မှ ထတော်မူ၍ ပရိနိဗ္ဗာန်စံတော်မူ၏။ "စတုတ္ထဈာနာ ဝုဋ္ဌဟိတွာ သမနန္တရာ ဘဂဝါ ပရိနိဗ္ဗာယိ" ဟု ပြဆိုတော်မူ၏။ ထိုပါဠိတော်စကားကို

တိုက်ရိုက်အဓိပ္ပာယ် (နီတတ္ထ) ကောက်ယူ၍ ဘုရား ရဟန္တာတို့သည် စတုတ္ထဈာန်စိတ်ဖြင့် ပရိနိဗ္ဗာန်စံဝင်ကုန်၏ဟု ပရဝါဒီ ဥတ္တရာပထဂိုဏ်းသားတို့က ဆိုကြ၏။

သကဝါဒီအလို ဘုရား, ရဟန္တာတို့၏ စုတိစိတ်သည် အများနည်းတူ ကာမဘုံ၌ဖြစ်ပါက မဟာဝိပါက်စိတ်ဖြင့်သာလျှင် ပရိနိဗ္ဗာန်စံဝင်ကြရ၏။ အရူပဘုံသား ရဟန္တာများဖြစ်ကြပါမူ စတုတ္ထဈာန် (အရူပ)ဝိပါက်စိတ်ဖြင့် ပရိနိဗ္ဗာန်စံတော်မူကြ၏။ ဈာန်သမာပတ်ဝင်စားချိန်၌ ကုသိုလ်ဇောစိတ်, ကြိယာဇောစိတ်များ ဖြစ်ပေါ်နေကြ၏။ ထိုဇောစိတ်များဖြင့် စုတေသေဆုံးခြင်း မဖြစ်နိုင်ချေ။ ဝိပါက်စိတ်ဖြင့်သာ သေဆုံးမှု ဖြစ်မြဲဓမ္မတာတည်း။ ထို့ကြောင့် ဘုရားရဟန္တာတို့သည် စတုတ္ထဈာန်ဖြင့် ပရိနိဗ္ဗာန်စံခြင်းမရှိ၊ ဝိပါက်စိတ်ဖြင့်သာ ပရိနိဗ္ဗာန်စံသည်ဟု မှတ်သင့်၏။

## ၂၁၁။ မေဃာဘိသမယကထာ

### အမိဝမ်းတွင်း၌ သောတာပန်ဖြစ်နိုင်သလော။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားတို့က အတိတ်ဘဝက သောတာပန်ဖြစ်ပြီးနောက် တစ်ဖန် လူ့ဘဝ၌ ပဋိသန္ဓေနေ၍ မွေးဖွားလာသော ပုဂ္ဂိုလ်တို့ကို ကြည့်၍ ဤပုဂ္ဂိုလ်ကား အမိဝမ်းတွင်းကပင် သောတာပန်တည်ခဲ့သည်၊ အမိဝမ်းတွင်း၌ သောတာပတ္တိမဂ်ကို ရသည်၊ တရားထူးကို ထိုးထွင်းသိမြင်သည်ဟု ဆိုကြကုန်၏။

သကဝါဒီအလို အမိဝမ်းတွင်းနေသူသည် တရားသံကို ကြားနာရခြင်းမရှိ၊ သီလ, သမာဓိ ဖြည့်ကျင့်မှုမရှိ။ များသောအားဖြင့် အမိဝမ်းတွင်း၌ ကိန်းအောင်းနေသူသည် အိပ်ပျော်ခြင်း၊ မိန်းမောနေခြင်းဖြင့် ဘဝင်စိတ်သာလျှင် အဖြစ်များ၏။ အမိဝမ်းတွင်း၌ သမထဘာဝနာ, ဝိပဿနာဘာဝနာ ပွားများမှုမရှိသောကြောင့် မေ့မေ့လျော့လျော့ သတိလွတ်ကင်း ပညာဉာဏ် ကင်းမဲ့နေ၏။ ထို့ကြောင့် အမိဝမ်းတွင်း၌ သောတာပန် မဖြစ်နိုင်ဟု မှတ်အပ်၏။

## ၂၁၂။ အရဟတ္တပ္ပတ္တိကထာ

**အမိဝမ်းတွင်း၌ ရဟန္တာဖြစ်နိုင်သလော။**

ပရဝါဒ ဥတ္တရာပထကဂိုဏ်းသားတို့က "အရှင်သီဝလိထေရ် အလောင်းသည် မိခင် သုပ္ပဝါသာ၏ဝမ်းတွင်း၌ ခုနစ်နှစ်တိုင်တိုင် နေခဲ့ရပုံကို ကြည့်၍ အမိဝမ်းထဲကပင် ရဟန္တာဖြစ်ခဲ့သည်"ဟု ဆိုကြ၏။ (သကဝါဒ အထက်ကအတိုင်း သိကြပါလေ။)

## ၂၁၃။ သုပိနေ ဓမ္မာဘိသမယကထာ

**အိပ်မက်အတွင်း၌ တရားထူးရနိုင်သလော။**

'ကောင်းကင်တွင် ဈာန်ပျံကြွရသည်' စသည်ဖြင့် အိပ်မက်မက်ခြင်းသည် အိပ်မက်အတွင်း၌ တရားထူးရခြင်းဖြစ်သည်ဟု ဥတ္တရာပထကဂိုဏ်းသားတို့က ဆိုကြ၏။

## ၂၁၄။ သုပိနေ အရဟတ္တပ္ပတ္တိကထာ

**အိပ်မက်အတွင်း၌ ရဟန္တာဖြစ်နိုင်သလော။**

ယခင်နည်းအတိုင်း "ကောင်းကင်တွင် ဈာန်ပျံကြွရသည်" အိပ်မက်မက်ရာ အိပ်မက်ထဲ၌ ရဟန္တာဖြစ်၍သာ ဤသို့မြင်မက်ခြင်းဖြစ်သည်ဟု ဥတ္တရာပထကဂိုဏ်းက ဆို၏။ အိပ်မက် သောတာပန်, အိပ်မက် ရဟန္တာများကို တီထွင်ဟောပြောကြ၏။

သကဝါဒီအလို အိပ်မက်အတွင်း၌ တရားနာရခြင်း၊ သီလ, သမာဓိ ဖြည့်ကျင့်ရခြင်း၊ ဝိပဿနာရှုရခြင်းတို့ မရှိသောကြောင့် ပရဝါဒီ၏ အယူအဆကို ပယ်အပ်၏။

## ၂၁၅။ အဗျာကတကထာ

**အိပ်မက်ထဲ၌ ဖြစ်သော စိတ်ကို ကုသိုလ်, အကုသိုလ်ဟု မဆိုနိုင်သလော။**

ပရဝါဒ ဥတ္တရာပထကဂိုဏ်းသားတို့က အိပ်မက်အတွင်း၌ သတ်ဖြတ်ခိုးယူမှုကျူးလွန်သော စိတ်များသည် အကျိုးတွေ့ အကောင်အထည် မပေါ်

သောကြောင့် အကုသိုလ်ဟု မခေါ်သင့်။ အိပ်မက်အတွင်း၌ အလှူဒါန ပြုခြင်း, သီလပြုခြင်းတို့သည် တကယ်မဟုတ်သောကြောင့် ထိုစိတ်မျိုးကို ကုသိုလ်ဟု မခေါ်သင့်။ ထို့ကြောင့် အိပ်မက်အတွင်း၌ဖြစ်သော စိတ်အား လုံးကို ကုသိုလ်, အကုသိုလ်ဟု မခေါ်နိုင်၊ အဗျာကတစိတ် ဟူ၍သာ ခေါ်လိုကြ၏။

သကဝါဒီအလို အိပ်မက်အတွင်း၌ ခိုးမှု၊ တိုက်မှု၊ မယားခိုးမှုတို့သည် အကောင်အထည်မပေါ်၊ အထမမြောက်သော်လည်း အကုသိုလ်စိတ်သာ လျှင် ဖြစ်ကုန်၏။ ထိုအကုသိုလ်ကံသည် ပဋိသန္ဓေကို အကျိုးပေးနိုင် လောက်အောင် စွမ်းအားမရှိချေ။ အိပ်မက်အတွင်း အလှူဒါနပြုမှုစသော ကောင်းမှုများသည် အထမမြောက် အကောင်အထည် မပေါ်သော်လည်း ထိုစိတ်ကို ကုသိုလ်စိတ်ဟူ၍သာ ခေါ်ရမည်။ ထိုကုသိုလ်ကံသည် ပဋိ သန္ဓေအကျိုးပေးနိုင်လောက်သော အစွမ်းမရှိချေ။ ထို့ကြောင့် အိပ်မက် အတွင်း၌ဖြစ်သော ဇောစိတ်တို့ကို ကုသိုလ်, အကုသိုလ်ဟူ၍ပင် ခေါ် ရ၏။

## ၂၁၆။ အာသေဝနပစ္စယကထာ

### အရှိန်အဟုန် ဆင့်ကဲစွမ်းအားဖြင့် ထောက်ပံ့ခြင်း မရှိနိုင်သလော။

ကောင်းမှုဖြစ်စေ၊ မကောင်းမှုဖြစ်စေ ထပ်ကာထပ်ကာ ကြိမ်ဖန် များစွာ ပြုလုပ်သောအခါ နောက်နောက်အမှုတို့၌ ပိုမို ကျွမ်းကျင် လိမ္မာ လာ၏။ စိတ်စွမ်းအင် ပိုမိုထက်မြက်လာ၏။ တစ်ကြိမ်သာ လူသတ်ဖူး သူနှင့် အကြိမ်များစွာ လူသတ်ဖူးသူတို့ မတူကြချေ။ တစ်ကြိမ်သာ ကျူး လွန်သူသည် ထိတ်လန့်တုန်လှုပ်၏၊ အေးဆေးတည်ငြိမ်စွာ ထိထိမိမိ မပြုနိုင်ချေ။ အကြိမ်ကြိမ်ကျူးလွန်ဖူးသူကား လက်ယဉ်နေ၏။ ထိတ် လန့်တုန်လှုပ်မှုမရှိ၊ အေးဆေးတည်ငြိမ်စွာ ထိထိမိမိ ပြုလုပ်တတ်၏။ ဤကား ရှေးရှေးကျူးလွန်မှုက နောက်နောက်သော ကျူးလွန်မှုကို အရှိန် အဟုန်များ ဆင့်ကဲဆင့်ကဲ ထောက်ပံ့ပေးခြင်းကြောင့် ဖြစ်၏။ စာတစ်

ပုဒ်ကို ကျက်ရာ၌ တစ်ကြိမ် နှစ်ကြိမ်၌ ထစ်ထစ်ငေါ့ငေါ့ ဖြစ်နေ၏။ အကြိမ်တစ်ရာ တစ်ထောင် ရွတ်ဆိုပါက ချောချောမောမော အလွတ်ရ၏။ ဤသို့ ဖြစ်ရသည်မှာ ရှေ့ပြုခဲ့သော အမှုများက နောက်နောက် အမှုများကို အစွမ်းထက်အောင် ဆင့်ကဲဆင့်ကဲ ထောက်ပံ့ခြင်းဖြစ်၏။

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားအချို့တို့က စိတ်သည် ခဏမျှသာ သက်တမ်းရှိ၏။ အလွန်သက်တမ်းတို၏။ ထို့ကြောင့် နောက်နောက် စိတ်ကို အရှိန်အဟုန် အားပေးနိုင်စွမ်းမရှိ၊ အာသေဝနပစ္စည်း မရှိ ဟူ၍ ဟောတော်မူသော ပဋ္ဌာန်းဒေသနာကို ပယ်ဖျက်ရန် ကြိုးပမ်းကြလေသည်။

## ၂၁၇။ ခဏိကတာကထာ

### ရုပ်နာမ်ဓမ္မအားလုံးသည် စိတ္တက္ခဏ တစ်ချက်စာမျှ သက်တမ်းရှည်ကြကုန်သလော။

သကဝါဒီအလို (စိတ်, စေတသိက်) ရုပ်နာမ်တရားတို့သည်သာ စိတ္တက္ခဏ တစ်ချက်စာမျှ သက်တမ်းရှိကြကုန်၏။ ရုပ်တရားတို့ကား စိတ္တက္ခဏ (၁၇)ချက်စာမျှ သက်တမ်းရှိကြကုန်၏။ ထို့ပြင် ရုပ်တို့သည် တစ်ခုချုပ်ပျက်ပြီးမှ နောက် ရုပ်တစ်ခုဖြစ်ခြင်း မဟုတ်၊ ရှေ့ရုပ်တစ်ခု မချုပ်မီ တည်နေဆဲမှာပင် နောက် ရုပ်အသစ်ဖြစ်ပေါ်၏။ ရှေ့ရုပ်နှင့် နောက်ရုပ်တို့သည် တေ့ဆက်မဟုတ်ဘဲ ချိတ်ဆက်သဘောဖြင့် ဆက်စပ်ကုန်၏။ ထို့ကြောင့် ရုပ်တို့၏ဖြစ်စဉ်၌ တိုးပွားခြင်း၊ လျော့နည်းခြင်းရှိ၏။ နာမ်ဖြစ်စဉ်၌မူ ရှေ့နှင့်နောက် တေ့ဆက်ဖြစ်၏။ ရှေ့စိတ်ချုပ်ပြီးမှ နောက်စိတ်ချုပ်ရကား စိတ်တစ်ခုထက် ပိုမလာချေ။ ထို့နောက် စိတ်နှင့် ရုပ်သည် သက်တမ်းချင်း မတူကြချေ။ ရုပ်က သက်တမ်းပိုရှည်၏။

ပရဝါဒီ ပုဗ္ဗသေလိယနှင့် အပရသေလိယဂိုဏ်းသားတို့က ရုပ်နှင့် နာမ်သည် အနိစ္စအဖြစ် တူညီပါက သက်တမ်းတိုရှည် မခွဲသင့်။ သက်

တမ်းချင်း တူရမည်။ စိတ်ချုပ်လျှင် ရုပ်လည်း ချုပ်ရမည်။ ထို့ပြင် ဝိညာဏဝါဒီအလို ရုပ်သည် ပြင်ပဗဟိဒ္ဓ၌ မရှိ၊ စိတ်ထဲ၌သာ တည်ရှိရကား စိတ်ချုပ်လျှင် ရုပ်လည်းချုပ်၍ စိတ်နှင့်ရုပ် သက်တမ်းတူကြသည်။ (ဝါ) ရုပ်နာမ်အားလုံး စိတ္တက္ခဏ တစ်ချက်စာမျှ သက်တမ်းရှည်သည်ဟု ဆိုကြ၏။ ဤဝါဒကို တိယင်တိုင်းဂိုဏ်း (သဒ္ဓမ္မပုဏ္ဍရီကသုတ်)က အမွေဆက်ခံ၍ လောကသုံးထောင်ဖြစ်ပုံကို ခွဲပြထား၏။

## ၂၁၈။ တောမိပ္ပါယကထာ

### သနားသောကြောင့်လည်းကောင်း၊ ရည်ရွယ်ချက် ဆန္ဒတူညီသောကြောင့်လည်းကောင်း ရဟန်းသည် မေထုန်မှီဝဲခွင့်ရှိသလော။

ပရဝါဒ အန္ဓကဂိုဏ်းနှင့် ဝေတုလ္လဂိုဏ်းသားတို့က အမျိုးသမီးများမှာ မေထုနရာဂ ပြင်းပြ၍ မရလျှင် သေရတော့မည့် အခြေအနေဖြစ်နေလျှင် ဇီဝိတဒါန အသက်ကယ်သည့်အနေဖြင့် ရဟန်းသည် ထိုအမျိုးသမီးကို မေထုန်မှီဝဲခွင့်ရှိ၏။ အာပတ်သင့်ခြင်း၊ ပါရာဇိက ကျခြင်း မရှိဟု ဆိုကြ၏။ ထို့ပြင် အမျိုးသမီးနှင့်ရဟန်းသည် သားသမီးမျိုးဆက် မပြတ်စေရန် သားသမီးရလို့မှု ဆန္ဒတူညီလျှင်သော်လည်းကောင်း၊ "ဖြစ်လေရာဘဝသံသရာ၌ အတူတကွ ပေါင်းသင်းနေထိုင်ရပါလို၏" ဟု ဘုရားရှေ့၌ ဆုတောင်းဆုယူ ပြုပြီးလျှင်' (သံသာလေကမ်းတိုင် တူပြိုင်ပြိုင်ကူးမည်ဟု ဆုထူးပန်ပြီးလျှင်) ထိုသို့ တူညီသော ဆန္ဒတစ်ခုကို အကြောင်းပြု၍ ရဟန်းသည် ထိုအမျိုးသမီးကို မေထုန်မှီဝဲခွင့်ရှိသည်။ မှီဝဲခြင်းကြောင့် ထိုရဟန်းအား အပြစ်မရှိဟု ဆိုကြကုန်၏။ ဤဝါဒကို တိဗက်လားမား ဘုန်းတော်ကြီးများက အမွေဆက်ခံ၏။

သကဝါဒီအလို ရဟန်းသည် မေထုန်၌ လုံးဝမှီဝဲခွင့်မရှိချေ။ ပရဝါဒီမှာ ယုတ္တိမတန်သောကြောင့် အထူးချေပရန် မလိုချေ။ မြတ်စွာဘုရား ပညတ်တော်မူသော သိက္ခာပုဒ်တော်ကို ချိုးဖောက်ဖျက်ဆီးခြင်းသာ ဖြစ်၏။ ဤသို့ ဆန္ဒတူသောကြောင့် တစ်ခုသော ရည်ရွယ်ချက်ကြောင့်

မေထုန်အမှု ပြုသင့်သည်ဟု ဆိုပါက ခိုးယူလုယက် သတ်ဖြတ်မှုများကို လည်း ပြုသင့်သည်ဟု ဆိုရပေတော့မည်။

## ၂၁၉။ အရဟန္တဝဏ္ဏတထာ

### နတ်ဆိုးနတ်ယုတ်တို့သည် ရဟန်းအသွင်ဖြင့် မေထုန်မှီဝဲကြသလော။

ထိုခေတ်က ရဟန်းဆိုး ရဟန်းယုတ်တို့သည် ပရိသတ်ရှေ့၌ ကိုယ်အမူအရာ, နှုတ်အမူအရာ သိမ်မွေ့နူးညံ့စွာ ပြုမူပြောဆို၍ ကြည်ညိုသူများအောင် မလှုပ်တလှုပ် မခုတ်တတ်သည့်ကြောင်လို နေကြ၏။ ဒရှိ ဒလန်ထား၍ ရဟန္တာဟု သတင်းလွှင့်ကြေညာကြကုန်၏။ ထိုရဟန္တာ ဟု ကျော်ကြားနေသော ရဟန်းဆိုးများသည် ကြာရှည်ဟန်မဆောင်နိုင်ဘဲ အမျိုးသမီးများနှင့် တိတ်တိတ်ပုန်း မေထုန်မှုပြုကြကုန်၏။ လူသူလေးပါးနှင့် ပက်ပင်းပါမိသောအခါ ထိုမေထုန်မှုပြုသူသည် ရဟန်းမဟုတ်၊ နတ်ဆိုး နတ်ဘီလူးတို့က ထိုရဟန်းအသွင်ကို ဆောင်၍ (ထိုရဟန်းယောင်ဆောင်၍) မေထုန်မှီဝဲခြင်း ဖြစ်သည်ဟု ဥတ္တရာပထကဂိုဏ်းသားတို့က ဆိုကုန်၏။ ဤဝါဒမှာ ထိုဂိုဏ်းဝင်ရဟန်းတို့က မိမိတို့ယုတ်မာမှုကို ကာကွယ်ခြင်းမျှဖြစ်၏။ မှားယွင်းကြောင်း ဖြေရှင်းရန်ပင် မလိုချေ။

## ၂၂၀။ ဣဿရိယတာမတာရိတာတထာ (၁)

### ဘုရားလောင်းသည် အလိုတော်ရှိသောကြောင့် တိရစ္ဆာန်ဖြစ်ရသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က (ဗောဓိသတ္တ) ဘုရားအလောင်းတော်သည် ခွေးဘ၀ နွားဘ၀ ဆင်ဘ၀ အစရှိသော တိရစ္ဆာန်ဘ၀သို့ ရောက်ရခြင်းသည် ထိုထိုတိရစ္ဆာန်ဘ၀သို့ ရောက်လိုသော ဆန္ဒရှိခြင်းကြောင့်သာ ဖြစ်သည်ဟု ဆိုကုန်၏။ အကြောင်းမှာ (ဗောဓိသတ္တ) ဘုရားအလောင်းသည် မိမိစိတ်ကို ပိုင်စိုး၍ မိမိ ပြုလိုရာ ပြုနိုင်၏။ ဖြစ်လိုရာ

ဖြစ်စေနိုင်၏။ စိတ်ကြဲတိုင်း ပေါက်မြောက်၏။ အကယ်၍ တိရစ္ဆာန်ဘဝသို့ မရောက်လိုလျှင် မရောက်ဘဲ နေနိုင်သည်ဟု ဆိုကြကုန်၏။

သကဝါဒီအလို (ဗောဓိသတ္တ) ဘုရားအလောင်းသည် ဘဝသံသရာကျင်လည်ရာ၌ မိမိစိတ်ကြိုက်ရာ ဘုံဘဝသို့ စိတ်ထင်တိုင်း မရောက်နိုင်၊ ရောက်ကြောင်းကံကို ပြုခဲ့မှ ရောက်နိုင်၏။ တိရစ္ဆာန်ဘဝသို့ ရောက်ရခြင်းသည် ထိုဘဝသို့ ရောက်စေနိုင်သောကံကို ပြုခဲ့ခြင်းကြောင့် ထိုကံပစ်ချရာ ရောက်ရခြင်းသာ ဖြစ်လေသည်။

## ၂၂၁။ ဣဿရိယတာမတာရိကာတထာ (၂)

### ဘုရားလောင်းသည် အလိုတော်ရှိသောကြောင့် ပဋိသန္ဓေနေရခြင်း ဖြစ်သလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က (ဗောဓိသတ္တ)ဘုရားလောင်းသည် နောက်ဆုံး (ပစ္ဆိမ)ဘဝ၌ မယ်တော်မာယာ ဝမ်းဗိုက်အတွင်း သက်ဆင်း ပဋိသန္ဓေနေရခြင်းသည် တမင်တကာ ပဋိသန္ဓေနေလိုခြင်းကြောင့်သာ ဖြစ်၏။ အကယ်၍ ပဋိသန္ဓေမနေလိုပါကလည်း ပဋိသန္ဓေမနေဘဲ ဘုရားဖြစ်နိုင်သည်ဟု ဆိုကြကုန်၏။

သကဝါဒီအလို ကုသိုလ်ကံ အကုသိုလ်ကံ အရှိန်အဟုန် ရှိနေသေးသမျှ မလွဲမသွေ ပဋိသန္ဓေနေရဦးမည် ဖြစ်သည်။ သဘာဝ နိယာမတရားဖြစ်၍ ဘုရားအလောင်းသည်လည်း အများနည်းတူ ပဋိသန္ဓေနေရပေမည်။

## ၂၂၂။ ဣဿရိယတာမတာရိကာတထာ (၃)

### ဘုရားလောင်းသည် ဒုက္ကရစရိယာအကျင့်ကို အလိုရှိသောကြောင့် ကျင့်ရသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားသည် တောထွက်၍ ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာ အကျင့်ကို

ကျင့်ခြင်းသည် တမင်တကာ ကျင့်ချင်သောကြောင့်သာ ကျင့်သည်၊ ကိုယ့်စိတ်ကို ပိုင်စိုး၍ လုပ်လိုသောကြောင့်သာ လုပ်သည်ဟု ဆိုကြကုန်၏။

သကဝါဒီအလို ဒုက္ကရစရိယာ အကျင့်ကို တမင်တကာ ကျင့်ချင်၍ ကျင့်သည် မဟုတ်၊ ဘုရားအဖြစ်ကို ရရှိရန် ရည်ရွယ်၍ ထိုအကျင့်ကို ကျင့်ပါက ဘုရားဖြစ်မည်ထင်၍ ကျင့်ခြင်းဖြစ်၏။ မှားမှန်း သိလျက် တမင်တကာ ကျင့်ချင်၍ ကျင့်နေသည် မဟုတ်ချေ။ တကယ် အကျင့်မှန် ထင်၍ ကျင့်နေခြင်းသာ ဖြစ်သည်။

## ၂၂၃။ ဣဿရိယကာမကာရိကာကထာ (၄)

**ဘုရားလောင်းသည် အတ္တကိလမထအကျင့်ကို သဘောကျ နှစ်ခြိုက်၍ ကျင့်လိုသောကြောင့်သာ ကျင့်သလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဘုရားလောင်း သိဒ္ဓတ္ထမင်းသားသည် အတ္တကိလမထခေါ် ခန္ဓာကိုယ် ညှဉ်းပန်းနှိပ်စက်သော ပူပန်ဆင်းရဲသည့် အကျင့်တို့ကို တမင်တကာ ကျင့်လို၍သာ ကျင့်သည်ဟု ဆိုကြ၏။

(သကဝါဒ ရှေးနည်းအတိုင်းပင်။)

## ၂၂၄။ ဣဿရိယကာမကာရိကာကထာ (၅)

**ဘုရားလောင်းသည် အာဠာရနှင့်ဥဒကတို့ကို ဆရာတင်ခဲ့ခြင်းသည် တမင်တကာ ပြုလို၍ ပြုသလော။**

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ဘုရားလောင်း သိဒ္ဓတ္ထမင်းသားသည် အာဠာရနှင့် ဥဒကတို့ကို ဆရာတင်ခဲ့ခြင်းသည် တမင်တကာ ပြုလို၍သာ ပြုသည်။ မိမိထက်သာသည်ဟု ထင်၍ ဆရာတင်ခဲ့ခြင်း မဟုတ်ဟု ဆိုကြ၏။

ယခုပြဆိုခဲ့သော ကထာအမှတ် (၂၂၀) မှ (၂၂၄) အထိ ကထာငါးခုသည်လည်းကောင်း၊ အထက်၌ ဖော်ပြခဲ့သော ကထာအမှတ် (၁၇၇) မနုဿလောက ကထာနှင့် ကထာအမှတ် (၁၇၈) ဓမ္မဒေသနာကထာ

တို့ကို ဆက်စပ်ကြည့်လျှင် မာယာဝါဒ အတွေးအခေါ်၏ ဩဇာလွှမ်းမိုးမှုကို တွေ့ရ၏။ မာယာဝါဒအရ မြတ်စွာဘုရားအစစ်သည် လူ့ပြည်၌ ပဋိသန္ဓေမနေ၊ မွေးဖွားခြင်း၊ တောထွက်ခြင်း၊ ဒုက္ကရစရိယာကျင့်ခြင်း၊ တရားဟောခြင်းတို့သည် တကယ်အစစ်အမှန် မဟုတ်၊ မာယာဖြင့် လှည့်စားခြင်းသာ ဖြစ်၏။ လူအပေါင်းက အထင်မှားခြင်းသာဖြစ်၏။ ဘုရားအစစ်သည် အစမူလကတည်းက ဘုရားဖြစ်တော်မူပြီး ဖြစ်၏။ ပါရမီဖြည့်ရန် မလိုချေ၊ ကျင့်ရန် မလိုချေ။ ထို့ကြောင့် ဆဒ္ဒန်ဆင်မင်း စသော တိရစ္ဆာန်ဘဝများသို့ ရောက်ခြင်းသည် တကယ်မဟုတ်၊ မာယာဖြင့် ပြခြင်းသာဖြစ်၏။ မွေးဖွားခြင်း၊ တောထွက်ခြင်း၊ ဒုက္ကရစရိယာ ကျင့်ခြင်းတို့သည် တကယ်မဟုတ်ချေ၊ ဒုက္ကရစရိယာအကျင့်, အတ္တကိလမထ အကျင့်တို့ကို တမင်ဟန်လုပ်၍ ကျင့်သည်ဟု မာယာဝါဒအရ ဆိုလို၏။ မိမိတရားကို လူအများ လက်ခံနားလည်အောင် ဒုက္ကရစရိယာ အကျင့်ကို တမင်ကျင့်ပြသည်။ ဘုရားလောင်းသည် အစကတည်းက သဗ္ဗညုတဉာဏ်ကို ရပြီးသူဖြစ်၍ အာဠာရ, ဥဒက ဆရာတင်ခြင်းမှာ တမင်တကာ ပြုချင်၍ ပြုသည်ဟု ဆိုကြ၏။ ဤမာယာဝါဒသည် တတိယသင်္ဂါယနာတင်ခေတ်က ပြည့်ပြည့်စုံစုံ မဟုတ်သော်လည်း တစ်ပိုင်းတစ်စ ပေါ်ပေါက်နေကြောင်း ဤကထာများကို ကြည့်၍သိရ၏။

## ၂၂၅။ ပတိရူပကထာ

### ရာဂ ဒေါသ မောဟ ကိလေသာအတု ရှိသလော။

ပရဝါဒီ အန္ဓကဂိုဏ်းသားတို့က ရာဂအတု၊ ဒေါသအတု၊ မောဟအတု ကိလေသာအတု ရှိသည်ဟု ဆိုကြ၏။

ရာဂသည် ချစ်ခင်နှစ်သက်တတ်၏။ မေတ္တာသည် သူတစ်ပါးကို ချစ်တတ်၏။ ကရုဏာသည် ကြင်နာတတ်၏။ မုဒိတာသည် သူတစ်ပါး ချမ်းသာသည်ကို ဝမ်းမြောက်တတ်၏။ ထိုမေတ္တာ, ကရုဏာ, မုဒိတာတို့ကို ရာဂအတု၊ လောဘ အတုဟု ပရဝါဒီက ဆို၏။ မနာလိုဝန်တိုမှု (ကုက္ကုစ္စ, မစ္ဆရိယ)ကို ဒေါသအတုဟု ပရဝါဒီ,ကဆို၏။ ဘုရားရဟန္တာတို့ ရယ်ရွှင်

သောစိတ် (ဟသိတုပ္ပါဒ်စိတ်)ကို မောဟအတုဟု ဆိုကြကုန်၏။ မြတ်စွာဘုရားသည် အလင်္ဂီ, ဗုဒ္ဓသီလ ရဟန်းဆိုးများကို ရှုတ်ချကဲ့ရဲ့ပြစ်တင်ခြင်း၊ မောဃပုရိသ, တုစ္ဆ စသည်ဖြင့် ခေါ်ဝေါ်ခြင်း၊ အရှင်ပိလိန္ဒဝစ္ဆထေရ်သည် ဝါသနာမဖျောက်နိုင်၍ လူမြင်သမျှကို ဝသလ (သူယုတ်မာ)ဟု ခေါ်ခြင်းတို့သည် ဒေါသအတု, ကိလေသာအတုဟု ဆိုကြ၏။ ရဟန်းကောင်းတို့ကို မြတ်စွာဘုရား ချီးမွမ်းခြင်းသည် လောဘအတုဟု ဆိုကြကုန်၏။

သကဝါဒီအလို မေတ္တာ ကရုဏာ မုဒိတာတို့သည် ကုသိုလ်စေတသိက်များသာဖြစ်ကြ၍ လောဘအတုမဟုတ်ကုန်၊ ကုက္ကုစ္စ မစ္ဆရိယတို့သည် အကုသိုလ်စေတသိက်မျိုးဖြစ်၍ ဒေါသအတုမဟုတ်၊ ဒေါသနှင့် ယှဉ်တွဲသော သီးခြားစေတသိက်များသာ ဖြစ်ကုန်၏။ ဟသိတုပ္ပါဒ်စိတ်သည် အဟိတ်ကြိယာစိတ်ဖြစ်၍ မောဟအတု မဟုတ်ချေ။ မြတ်စွာဘုရားရှင်၏ ရှုတ်ချ ကဲ့ရဲ့ ဆုံးမစကားဆိုမှုသည် မဟာကရုဏာနှင့် ယှဉ်သော မဟာကြိယာစိတ်ဖြစ်၍ ဒေါသအတု မဟုတ်ချေ။ ပိလိန္ဒဝစ္ဆထေရ်သည် ဝသလ (သူယုတ်မာ)ဟု ခေါ်ခြင်းမှာ ဒေါသ အတုမဟုတ်၊ ဝါသနာကို မပယ်နိုင်၍ ဒေါသ စေတနာမပါဘဲ သာမန် မဟာကြိယာစိတ်ဖြင့်သာ ခေါ်ခြင်းသာ ဖြစ်၏။ ထို့ကြောင့် ဒေါသအတု မဟုတ်ချေ။

## ၂၂၆။ အပရိနိပ္ဖန္နတထာ

**ဒုက္ခသာလျှင် ဖြစ်ပျက်သဘောရှိ၍ ခန္ဓာစသည်တား ဖြစ်ခြင်း ပျက်ခြင်း မရှိသလော။**

ပရဝါဒီ ဥတ္တရာပထကဂိုဏ်းသားအချို့နှင့် ဟေတုဝါဒဂိုဏ်းသားတို့က ဒုက္ခနှင့် ခန္ဓာ, အာယတန စသည်ကို တခြားစီခွဲယူ၍ ဒုက္ခသာလျှင် ဖြစ်ပျက်သဘောရှိ၏။ အကြောင်းကြောင့်ဖြစ်သော ပရိနိပ္ဖန္နဖြစ်၏။ ရုပ် ဝေဒနာ စသော ခန္ဓာ အာယတန ဓာတ်တို့ကား ဖြစ်ခြင်း ပျက်ခြင်းမရှိ၊ အကြောင်းကြောင့် ဖြစ်ပေါ်လာသော တရားများမဟုတ် (အပရိနိပ္ဖန္န) ဟု ဆိုကြကုန်၏။

သကာဝါဒီအလို ရုပ် ဝေဒနာတို့သည် ဒုက္ခသစ္စာ၌ ပါဝင်၏။ ခန္ဓာ၊ အာယတန, ဓာတ်တို့ကိုပင် ဒုက္ခဟု ခေါ်ရ၏။ ဒုက္ခနှင့် ခန္ဓာစသည်တို့သည် တခြားစီ မဟုတ်ကြချေ၊ အတူတူပင်ဖြစ်၏။ ထို့ကြောင့် ဒုက္ခသည် ဖြစ်ပျက်သဘောရှိပါက ခန္ဓာ, အာယတန စသည်တို့သည်လည်း ဖြစ်ပျက်သဘောကို မလွန်ဆန်နိုင်ဟု မှတ်အပ်၏။

ဗုဒ္ဓ သာသနာတော် ၂၅၀၀ ခရီး
ပထမတွဲ ပြီးပြီ။



# အက္ခရာစဉ် အညွှန်း

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

(ကာ)



(ကိ - ကီ)

အက္ခရာစဉ် စာမျက်နှာ



(ဂ)



အက္ခရာစဉ် စာမျက်နှာ

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|
| ဂေါ်ဋပါဒ (ဂေါ်ဍပါဒ) | ၁၉၈ |
| ဂေါ်ဋပါဒကာရိကာ | ၁၉၈ |
| ဂေါ်ရခါးလူမျိုး | ၂၈၁၊ ၂၉၆ |
| ဂိုဘီသဲကန္တာရကြီး | ၁၇၇ |
| ဂိုဏ်းကြီး ၁၈ ဂိုဏ်း | ၅၉ |
| ဂိုဏ်းပေါင်း ၂၀ | ၆၀ |
| ဂျင်ဂစ်ခန် | ၂၉၁ |
| ဂျပန်ပြည် ဗုဒ္ဓဘာသာ ဂိုဏ်းကွဲများ | ၂၄၉ |
| ဂျပန်ပြည် ဗုဒ္ဓသာသနာ သမိုင်း | ၂၄၂ |
| ဂျပန်ဘုရင် ဟိုဂျို | ၂၇၇ |
| ဂျပန်သို့ ဗုဒ္ဓသာသနာရောက် ရှိလာပုံ | ၂၄၅ |
| ဂျာဗားကျွန်း | ၂၀၇၊ ၃၀၅ |
| ဂျိန်းအယူဝါဒ | ၉၊ ၄၅၁ |
| ဂျိန်းရဟန်းများ | ၄၇ |
| ဂျိန်းဘာသာ | ၆၈၊ ၁၉၇ |
| ဂျိန်းဘုရား | ၃၁ |
| ဂျိဂိုဏ်း | ၂၆၉ |
| ဂျိမွန်ဂိုဏ်း | ၂၅၃ |
| ဂျိလဝ်ပဂိုဏ်း | ၂၉၂ |
| ဂျူးဘာသာ | ၇၆ |
| ဂျိုဂိ | ၂၅၀၊ ၂၅၂ |
| ဂျိုဂိ ဘိုဆတ်ဆု | ၂၅၂ |
| ဂျိုဂျစ်ဆုဂိုဏ်း | ၂၄၉၊ ၂၅၀ |
| ဂျိုဂျစ်ဆုဂိုဏ်း အဘိဓမ္မာ | ၃၄၂ |
| ဂျိုဒိုဂိုဏ်း | ၂၆၇၊ ၂၇၄ |
| ဂွမ်ဂိုဂျိကျောင်းတိုက် | ၂၅၀ |

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|
| (ဃ - င) | |
| ဃာဏုပါဏိ | ၁၆၇၁ |
| ဃောသ | ၉၃ |
| ငရဲထိန်းမရှိ | ၅၈၁ |
| ငရဲသစ်ငုတ် | ၅၇၈ |
| ငရဲသို့ခြေတစ်ဖက်လှမ်း | ၂၇၈ |
| ငါရှိသောကြောင့် ငါကို သိနေခြင်း | ၄၀၈ |
| ငုပ်လျှိုးနေသော သတ္တိ | ၂၃၄ |
| ငြင်းပယ်နည်း ဖွင့်ဆိုနည်း | ၁၁၅ |
| ငြင်းပယ်မှု | ၁၁၈ |
| (စ) | |
| စံရွှန်းဂိုဏ်း | ၂၁၀ |
| စံလွှန်းဂိုဏ်း | ၁၂၇၊ ၂၀၄၊ ၂၁၀ |
| စံလွှန်း(တြိဂန္ဓ)ဂိုဏ်း | ၂၄၁ |
| စက္က | ၁၇၆ |
| စက္ကဒေသနာ | ၂၆၆ |
| စကားသည် စိတ်နှင့်မဆိုင် | ၅၀၈ |
| စက္ကူကားချပ် | ၁၂၃ |
| စက္ကူဖြူတစ်ချပ် | ၁၂၃ |
| စက္ခုပသာဒရုပ်ကမြင်ခြင်း | ၅၇၁ |
| စကြဝဠာမင်း | ၂၆၀၊ ၂၉၁ |
| စကြဝဠာ၏ဓမ္မများ | ၉၄ |
| စကြာဘီးများ | ၃၀၂ |
| စက်ဝိုင်းမဟာယာနဝါဒ | ၂၁၁ |
| စင်ပြိုင်သင်္ဂါယနာ | ၅၃ |
| စဏ္ဍီ | ၁၅၂ |
| စတုတ္ထနည်းချက် ၄ ပါး | ၅၇၀ |
| စတုဂန္ဓ | ၂၀၆ |

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|



(ဆ)



(ဇ)

အက္ခရာစဉ် စာမျက်နှာ



အက္ခရာစဉ် စာမျက်နှာ

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

(ပ)

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

အက္ခရာစဉ် — စာမျက်နှာ

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

http://www.dhammadownload.com

| အကၡရာစဉ် | စာမျက်နှာ | အကၡရာစဉ် | စာမျက်နှာ |
|---|---|---|---|

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|

အက္ခရာစဉ် — စာမျက်နှာ

| အက္ခရာစဉ် | စာမျက်နှာ |
|---|---|



ဗုဒ္ဓ သာသနာတော် ၂၅၀၀ ခရီး
မှတ်သားဖွယ် အက္ခရာစဉ် ပြီးပြီ။

## ကျမ်းကိုးစာရင်း

### (က) ပါဠိသက္ကတ ကျမ်းများ

၁။ ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများ
၂။ မဟာဝံသပါဠိ
၃။ ဒီပဝံသပါဠိ
၄။ သာသနာဝံသ ပဒီပိကာပါဠိ
၅။ ဇောဓိဝင်ဋီကာ
၆။ ဝိသုဒ္ဓိမဂ္ဂါနိဒါနကထာ
၇။ မဟာဘာရတ
၈။ အင်္ဂုတ္တိုရပူရာဏ်ကျမ်း
၉။ ဝရာဟပူရာဏ်ကျမ်း
၁၀။ သက်ရဒီသာဝိဇယကျမ်း (မာခဝ)
၁၁။ မာလတီမာဓဝပြဇာတ် (ဘဝဘူတိ)
၁၂။ သဒ္ဓမ္မပုဏ္ဍရီကသုတ်
၁၃။ ပညာပါရမီတာသုတ်
၁၄။ သုခဝတီဗျူဟာသုတ်
၁၅။ ရတနာကူဋသုတ်
၁၆။ ဂုယှသမဇ္ဇတန္တရ
၁၇။ ဝဇီရစ္ဆေဒိကာသုတ်
၁၈။ သာဓနမာလာကျမ်း

## (ခ) မြန်မာဘာသာကျမ်းများ

၁။ ဦးကုလားရာဇဝင်
၂။ မှန်နန်းရာဇဝင်တော်ကြီး
၃။ ကုန်းဘောင်ဆက် မဟာရာဇဝင်
၄။ တွင်းသင်းမဟာရာဇဝင်သစ်
၅။ အရေးတော်ပုံ ငါးစောင်တွဲ
၆။ သာသနာလင်္ကာရ စာတမ်း
၇။ ဝံသဒီပနီ
၈။ သီလဝိသောဓနီ
၉။ သာသနဗဟုသုတပကာသနီ
၁၀။ ဝိသုဒ္ဓိမဂ်မြန်မာပြန် (မဟာစည်ဆရာတော်)
၁၁။ ဒါဌာဓာတုဝင်ကျမ်း
၁၂။ ဗုဒ္ဓသမိုင်း (မေဃဝတီ ဦးနာရဒ)
၁၃။ လယ်တီဂန္ထဝင်ကျော်များသမိုင်း (ဦးလှပိုင်)
၁၄။ မြန်မာ့ရိုးရာ ပဋိမာသိပ္ပံပညာစာတမ်း (ဦးစဝ်ထွန်းမှတ်ဝင်း)
၁၅။ အပယ်ရတနာလိုဏ်ဂူဘုရား (ဦးမြ)
၁၆။ စင်ကြယ်သောဗုဒ္ဓဘာသာ (အရှင်ပညိန္ဒာဘိဝံသ)
၁၇။ မဟာယာန ဗုဒ္ဓဘာသာ (ဦးဖိုးကျား)
၁၈။ မဟာယာန ဗုဒ္ဓဝါဒ (ဦးသော်ဇင်)
၁၉။ ဈင် ဗုဒ္ဓဘာသာ (ပါရဂူ)
၂၀။ မြန်မာမင်း အုပ်ချုပ်ပုံစာတမ်း (၄ တွဲ)
၂၁။ ရွှေနန်းသုံး ဝေါဟာရ အဘိဓာန်

## (ဂ) အင်္ဂလိပ်ဘာသာကျမ်းများ


1. *So To Zen* by Chisan Ko Ho.
2. *Hsuan Tsang. The Pilgim and Scholar*, by Bhikshu Thich Minh Chau.
3. *The Dim Ond Sutra* by A. F. Price.
4. *Japan an Buddhism* by The Association of the Buddha Jayamti.
5. *The Essential of Buddhist Philosophy* by Jun Jiro Tukakusu.
6. *2500 Years of Buddhism.*
7. *Buddhism its Essence and Development* by Edward Conze.
8. *Bhagawan Buddha* by R. R. Diwarkar.
9. *Points of Controversy.*

   Translated by Aung and Mrs Rhys Davids.
10. *Sanskrit Buddhism in Burma* by Nihar Ran Jan Ray.

## ကျမ်းကိုးစာရင်း

### (က) ပါဠိသက္ကတ ကျမ်းများ

၁။ *ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာများ*
၂။ *မဟာဝံသပါဠိ*
၃။ *ဒီပဝံသပါဠိ*
၄။ *သာသနာဝံသ ပဒီပိကာပါဠိ*
၅။ *ဗောဓိဝင်ဋီကာ*
၆။ *ဝိသုဒ္ဓိမဂ္ဂါနိဒါနကထာ*
၇။ *မဟာဘာရတ*
၈။ *အဂ္ဂနိပ္ပူရာဏ်ကျမ်း*
၉။ *ဝရာဟပူရာဏ်ကျမ်း*
၁၀။ *သက်ရဒိသာဝိဇယကျမ်း (မာဓဝ)*
၁၁။ *မာလတီမာဓဝပြဇာတ် (ဘဝဘူတိ)*
၁၂။ *သဒ္ဓမ္မပုဏ္ဍရီကသုတ်*
၁၃။ *ပညာပါရမိတာသုတ်*
၁၄။ *သုခဝတီဗျူဟာသုတ်*
၁၅။ *ရတနာကူဋသုတ်*
၁၆။ *ဂုယှသမဇ္ဇတန္တရ*
၁၇။ *ဝဇီရစ္ဆေဒိကာသုတ်*
၁၈။ *သာခနေမာလာကျမ်း*

## (ခ) မြန်မာဘာသာကျမ်းများ


၁။ ဦးကုလားရာဇဝင်

၂။ မှန်နန်းရာဇဝင်တော်ကြီး

၃။ ကုန်းဘောင်ဆက် မဟာရာဇဝင်

၄။ တွင်းသင်းမဟာရာဇဝင်သစ်

၅။ အရေးတော်ပုံ ငါးစောင်တွဲ

၆။ သာသနာလင်္ကာရ စာတမ်း

၇။ ဝံသဒီပနီ

၈။ သီလဝိသောဓနီ

၉။ သာသနဗဟုသုတပကာသနီ

၁၀။ ဝိသုဒ္ဓိမဂ် မြန်မာပြန် (မဟာစည်ဆရာတော်)

၁၁။ ဒါဌာဓာတုဝင်ကျမ်း

၁၂။ ဗုဒ္ဓသမိုင်း (မေဃဝတီ ဦးနာရဒ)

၁၃။ လယ်တီဂန္ထဝင်ကျော်များသမိုင်း (ဦးလှပိုင်)

၁၄။ မြန်မာ့ရိုးရာ ပဋိမာသိပ္ပပညာစာတမ်း (ဦးစဝ်ထွန်းမှတ်ဝင်း)

၁၅။ အပယ်ရတနာလိုဏ်ဂူဘုရား (ဦးမြ)

၁၆။ စင်ကြယ်သောဗုဒ္ဓဘာသာ (အရှင်ပညိန္ဒာဘိဝံသ)

၁၇။ မဟာယာန ဗုဒ္ဓဘာသာ (ဦးဖိုးကျား)

၁၈။ မဟာယာန ဗုဒ္ဓဝါဒ (ဦးသော်ဇင်)

၁၉။ ချင် ဗုဒ္ဓဘာသာ (ပါရဂူ)

၂၀။ မြန်မာမင်း အုပ်ချုပ်ပုံစာတမ်း (၄ တွဲ)

၂၁။ ရွှေနန်းသုံး ဝေါဟာရ အဘိဓာန်

## (ဂ) အင်္ဂလိပ်ဘာသာကျမ်းများ


1. *So to Zen* by Chisan Ko Ho.
2. *Hsuan Tsang. The Pilgim and Scholar*, by Bhikhu Thich Minh Chau.
3. *The Dim On Sutra* by A. F. Price.
4. *Japan and Buddhism* by The Association of the Buddha Jayamti.
5. *The Essential of Buddhist Philosophy* by Jun Jiro Tukakusu.
6. *2500 Years of Buddhism.*
7. *Buddhism its Essence and Development* by Edward Conze.
8. *Bhagawan Buddha* by R. R. Diwarkar.
9. *Points of Controversy.*

   Translated by Aung and Mrs Rhys Davids.
10. *Sanskrit Buddhism in Burma* by Nihar Ran Jan Ray.

## စာရေးသူ ၏
## စာပေ နှင့် ဘဝဖြစ်စဉ် မှတ်တမ်း

၁၉၃၃။ စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ဘုတလင်မြို့နယ်၊ ငါးရေဝင်ရွာ လယ်သမားကြီး ဦးဖိုးဆိုင်၊ အမိ ဒေါ်ဦး တို့မှ မွေးဖွားသော အငယ်ဆုံးသား ဖြစ်သည်။ ငယ်နာမည်မှာ မောင်အုံ့။

၁၉၄၃- မိဘရိုးရာ မြေပဲ နှမ်း ပဲ ပြောင်း ဝါ စပါး စိုက်ပျိုးရေးလုပ်ငန်းများကို
၁၉၄၈။ ကျွမ်းကျင်စွာလုပ်ကိုင်။

၁၉၄၈။ ရှင်သာမဏေပြု၍ ဆက်လက် ရဟန်းပြုခဲ့သည်။

ရဟန်းဘဝ၌ရှိနေစဉ် အစိုးရဓမ္မာစရိယ၊ ပါဠိပါရဂူဘွဲ့နှင့် သကျသီဟ ဓမ္မာစရိယဘွဲ့တို့ကို ရရှိခဲ့၍ မန္တလေးမြို့တွင် ဓမ္မာစရိယစာချတန်းများ ပို့ချခဲ့သည်။ ရဟန်းပျိုအဖွဲ့တွင် ဗဟိုအမှုဆောင်အဖြစ်ဖြင့် မန္တလေးတောင်တော် ပုံနှိပ်တိုက်ကို အုပ်ချုပ်ခဲ့သည်။ ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ဝင်အဖြစ် ဆောင်ရွက်ခဲ့။

၁၉၆၅။ လူ့ဘောင်သို့ ကူးပြောင်းခဲ့။

လူ့ဘောင်သို့ရောက်ရှိပြီး ရွှေမန်း တက္ကသိုလ်ဝင်သင်တန်းကျောင်း၊ လှသိပ္ပံ တက္ကသိုလ်ဝင်သင်တန်းကျောင်းများ၌ အထက်တန်းပြ ဆရာအဖြစ် ဆောင်ရွက်ခဲ့။

ထို့နောက် သာသနာရေးဝန်ကြီးဌာန၊ သာသနာရေးဦးစီးဌာနသို့ ရောက်ရှိ၍ သာသနာ့ရောင်ခြည်စာစောင် အယ်ဒီတာအဖြစ်နှင့် ပိဋကတ်တော် မြန်မာပြန်ဌာန၊ အယ်ဒီတာချုပ်အဖြစ် ဆောင်ရွက်ခဲ့သည်။

၁၉၇၁- ၁၉၇၃ အိန္ဒိယနိုင်ငံ ဘုံဘေမြို့၊ ဘုံဘေ တက္ကသိုလ်၌ ကိုလံဘိုစီမံကိန်း ပညာသင် အထောက်အပံ့ဖြင့် သက္ကတဘာသာနှင့် ဟိန္ဒူဒဿနပညာများကို ဆည်းပူး၍ မဟာဝိဇ္ဇာဘွဲ့ ရရှိခဲ့။

သာသနာရေး ဦးစီးဌာနတွင် ညွှန်ကြားရေးမှူးချုပ် အဆင့်အထိ နှစ်ပေါင်း ၃၀ နိုင်ငံ့တာဝန်များ ထမ်းဆောင်ခဲ့။

၁၉၉၉။ ညွှန်ကြားရေးမှူးချုပ်အဖြစ်မှ အငြိမ်းစားယူခဲ့ပါသည်။

၂၀၁၀။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ အကြံပေးပုဂ္ဂိုလ် အဖြစ် ဆက်လက် တာဝန်ထမ်းဆောင်လျက်ရှိသည်။

## မောင်အံ့ (မဟာဝိဇ္ဇာ - ဘုံဘေ)
## ရေးသားပြုစုခဲ့သော ကျမ်းစာအုပ်များ

| | | | |
|---|---|---|---|
| ၁။ | ဗုဒ္ဓနှင့် ခေတ်ပြိုင်ဘုရားများ | ၁၉၇၅ | ယမုနာနှင့် နှလုံးလှ |
| ၂။ | ဗုဒ္ဓ၏ လူမှုရေးလမ်းညွှန်ချက်များ | ၁၉၇၉ | နှလုံးလှ |
| ၃။ | ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး | ၁၉၈၀ | နှလုံးလှ၊ သာသနာရေးဦးစီး |
| ၄။ | ရှေးအကျဆုံး ဥပနိသျှကျမ်းများ | ၁၉၈၉ | သာသနာရေးဦးစီး |
| ၅။ | ဗုဒ္ဓဂယာ | ၁၉၈၁ | သာသနာရေးဦးစီး |
| ၆။ | မင်္ဂလာနိဒါန်း | ၁၉၉၀ | သာသနာရေးဦးစီး |
| ၇။ | ဗုဒ္ဓဘာသာလက်စွဲကျမ်း (ပတွဲ) | ၁၉၉၁ | သာသနာရေးဦးစီး |
| ၈။ | ဗုဒ္ဓဘာသာလက်စွဲကျမ်း (ဒုတွဲ) | ၁၉၉၃ | သာသနာရေးဦးစီး |
| ၉။ | ဗုဒ္ဓဒေသနာတော်အညွှန်း | ၁၉၉၅ | သာသနာရေးဦးစီး |
| ၁၀။ | ရဟန်းကျင့်ဖွယ် ၂၂၇ သွယ် | ၁၉၉၈ | သာသနာရေးဦးစီး |
| ၁၁။ | ဒါနကထာကျမ်း | ၁၉၉၉ | သာသနာရေးဦးစီး |
| ၁၂။ | လောကနီတိအဖွင့်ကျမ်း | ၂၀၀၀ | သာသနာရေးဦးစီး |
| ၁၃။ | ဂုဏ်တော်အနန္တ မြတ်ဗုဒ္ဓ | ၂၀၀၀ | သာသနာရေးဦးစီး |
| ၁၄။ | သာမဏေဂိုဏ်းနှင့် ပြဟ္မဏဂိုဏ်း (ရဟန်း နှင့် ပုဏ္ဏား) | ၂၀၀၀ | သာသနာရေးဦးစီး |
| ၁၅။ | ဗုဒ္ဓဘာသာလက်စွဲကျမ်း (တတွဲ-ဒုတိယပိုင်း) | ၂၀၀၂ | သာသနာရေးဦးစီး |
| ၁၆။ | ဗုဒ္ဓဘာသာလက်စွဲကျမ်း (တတွဲ-ပထမပိုင်း) | ၂၀၀၃ | သာသနာရေးဦးစီး |
| ၁၇။ | မြန်မာ့ယဉ်ကျေးမှုနှင့် ကျင့်ဝတ် | ၂၀၀၃ | စာပေဗိမာန်ပုံနှိပ်တိုက် |

ယင်းကျမ်းများအနက် အချို့သော ကျမ်းများမှာ စာရေးသူက ဦးဆောင်မှု ပေး၍ အဖွဲ့အကူအညီဖြင့် ပြုစုခဲ့ရပါသည်။

ထို့ပြင် ဘာသာရေးနှင့် လူမှုရေးဆိုင်ရာ မဂ္ဂဇင်းများ၌ အထွေထွေ မှတ်သား ဖွယ်ရာ ဆောင်းပါးများလည်း ရေးသားခဲ့ပါသည်။ မိမိ ကျွမ်းကျင်သည့် ဘာသာ ရေးဆိုင်ရာ ကိုယ်ကျင့်တရားဆိုင်ရာ ရှုထောင့်မှ သင်တန်းများကိုလည်း ပို့ချ သင်ကြားပေးလျက်ရှိပါသည်။

ဤကဲ့သို့ ဘာသာ ယဉ်ကျေးမှု စာရိတ္တနှင့် ခက်ခဲနက်နဲသော သမထ ဝိပဿနာတရားများ၊ ရှာန်မဂ်ဖိုလ် တရားများ၊ ရုပ်နာမ်တရားများကို ဟောပြော ရေးသား ဖြန့်ချိနိုင်ခြင်းမှာ နိုင်ငံတော်အကြီးအကဲ၏ အရိပ်အာဝါသကို မှီခိုရ ခြင်းကြောင့် ဖြစ်ပါကြောင်း စာရေးသူ၏ နှလုံးသား၌ ခိုင်မြဲစွာ မှတ်ယူလျက် ကျေးဇူးတရားကို ဖော်ပြ မှတ်တမ်းတင်အပ်ပါသတည်း။

မောင်အံ့ (မဟာဝိဇ္ဇာ-ဘုံဘော)



မြတ်တရားကို
ရှာဖွေတွေ့ရှိသူ
ဦးနု



မြတ်တရားကို
ရှာဖွေတွေ့ရှိသူ
ဦးနု

ဗုဒ္ဓဖြစ်စဉ်ကို အလှဆုံးနှင့် အငြိမ်ဆုံး ရေးဖွဲ့ထားသည်။

စာရေးသူဦးနု အင်္ဂလိပ်ဘာသာဖြင့် မူလရေးသားခဲ့သည်ကို ဦးမြင့်ဆွေ (မဟာဝိဇ္ဇာ) လန်ဒန်က မြန်မာဘာသာသို့ ပြန်ဆိုထားခြင်းဖြစ်သည်။

[တမူခွင့်ပြုချက် အမှတ် ၁၉၇/၂၀၀၀ (၃)]




## မိတ္တဗလင်္ကာ

ဦးနု

စတင်ထုတ်ဝေစဉ်က လူပေါ်လူဇော်လုပ်နည်း အမည်ဖြင့် ထုတ်ဝေခဲ့ပြီး နောက်ပိုင်းတွင် မိတ္တဗလင်္ကာ အမည်သို့ ပြောင်းလဲခဲ့ပါသည်။ စတင် ထုတ်ဝေသည်မှ ယနေ့ထက်တိုင် လက်စွဲထား ဝယ်ယူဖတ်ရှုသူ များပြားလှသော စာအုပ်ဖြစ်နေပါသည်။

မှုရင်း ဒေးကာနက်ဂျီ၏ စာအုပ်ကလည်း သန်းချီရောင်းချရသော စာအုပ်ဖြစ်ပြီး ဘာသာပြန်ဆိုရေးသားသည့် ဦးနု၏ လက်ရာမှာလည်း စာဖတ်ပရိသတ် မိတ်ဆွေတိုးပွားရေး၊ ဘဝခရီးလမ်း အောင်မြင်မှု ရရှိစေရေး စိတ်စေတနာကြီးမားမှုကို ထင်ရှားစွာ တွေ့မြင်နေရသော ကြောင့် ဖတ်ရှုသူတို့ ကျေနပ်မှုရနေကြသည်ဟု မြင်ပါသည်။

အောင်မြင်ပျော်ရွှင်သောဘဝကို ပိုင်ဆိုင်ထူထောင်လိုသူများ အတွက် နေထိုင်ပြုမူလှုပ်ရှားပုံ၊ တွေးခေါ်ကျင့်ကြံပုံတို့ကို ကျယ်ကျယ် ပြန့်ပြန့် အကြံပြု လမ်းပြထားသောကြောင့် လက်စွဲပြုစရာ အဖော် ကောင်းနေရာ၌ ဤစာအုပ်သည် ယနေ့တိုင် နေရာယူနေဆဲဟု အသိပေးလိုပါသည်။

[စာမူခွင့်ပြုချက် အမှတ် ၁၉၇/၂၀၀၀ (၃)]



## ကာမတဏှာ

ဦးနု

ဦးနုရေးသားသော ဝတ္ထုများတွင် နာမည်အကျော်ကြားဆုံး ဝတ္ထုကြီး တစ်ပုဒ် ဖြစ်ပါသည်။ ဝတ္ထု၏ ဇာတ်အိမ်ဇာတ်လမ်းကို စိတ်ဝင်စားဖွယ် အချိုးအကွေ့များဖြင့် တည်ဆောက်ထားပြီး ဝတ္ထု၏ တရားကိုယ်မှာ ရှောင်လွှဲနိုင်ခဲသော ကာမဂုဏ်အပေါ် တရားဓမ္မအမြင်ဖြင့် ချဉ်းကပ် လွတ်လမ်းရှာခြင်း ဖြစ်ပါသည်။

ဦးနုသည် မြစ်ဝကျွန်းပေါ် လူ့မှုပတ်ဝန်းကျင်မှ အဖြစ်အပျက်တို့ကို ရင်းနှီးကျွမ်းဝင်သည့်အပြင် လူအများစု၏ စရိုက်သဘာဝကိုလည်း ဝတ္ထု၏ဘောင်ထဲ၌ ကျွမ်းကျင်စွာကိုင်တွယ်ပုံဖော်နိုင်စွမ်း ရှိနေသော ကြောင့် ဇာတ်ကောင်များသည် သက်ဝင်လှုပ်ရှားကာ စာအုပ်ထူထူကြီး တစ်အုပ်လုံးကို ဖတ်ချင်စဖွယ် ဆွဲဆောင်လျက်ရှိနေပါသည်။ ဤဝတ္ထု သည် မြန်မာ့လူမှုနယ်ပယ်တွင် စောင့်ထိန်းရမည့် ကျင့်ဝတ်များနှင့် ပူပြင်း လောင်မြိုက်သော တဏှာပေမကြောင့် ဘဝအမှောင်ခြမ်းသို့ ကျရောက် တတ်ပုံများကို အေးဆေးညင်သာသော ဇာတ်ကြောင်းပြော ပုံစံဖြင့် တင်ပြထားသည့်အတွက် တန်ဖိုးရှိသော စာပေလက်ရာကို နှစ်သက်သူများ ဖတ်ထိုက်သော စာအုပ်ဖြစ်ပါသည်။

[တာမူခွင့်ပြုချက် အမှတ် ၆၅၉/၉၀ (၁၂)]




## ငရဲဆို ချိုနဲ့လားဗျို့

ဦးနု

အကြိမ်ကြိမ် ပုံနှိပ်ခဲ့ဖူးသော *ကာမတဏှာ* ဝတ္ထုကြီး၏ ဖွဲ့စည်းတင်ပြပုံ အတိုင်း ဤဝတ္ထုကိုလည်း ဦးနုသည် စိတ်ဝင်စားဖွယ် ဇာတ်ကွက် ဇာတ်လမ်းများနှင့် တရားဓမ္မကိုပြသော ပုံဝတ္ထုကို ရက်ဖောက်ရေးဖွဲ့ ထားပါသည်။

ဦးနု၏ ဤဝတ္ထုအပေါ်ထားသော ရည်ရွယ်ချက်ကြီးနှစ်ခုမှာ 'လူဆိုး သူဆိုး ဆိုရင် နောင်တစ်နေ့မှာ ဒုက္ခတွေ့ရမည် သို့မဟုတ် လူသူ ပတ်ဝန်းကျင်က အော့နှလုံးနာရမည် သို့မဟုတ် ထောင်နန်းစံ ရမည်။ သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်နိုင်သော တရားမှာ ဝိပဿနာ တရားသာ ဖြစ်သည်။ ဤဝတ္ထုကြောင့် လူတစ်ယောက် ယောက် သာသနာ့ရိပ်သာ တစ်ခုခုတွင် မဂ်ဉာဏ် ဖိုဉာဏ်ရတဲ့အထိ ဝိပဿနာ အားထုတ်ဖြစ်ရေး'ဟု စာအုပ်အဖွင့်၌ပင် ဖော်ပြထားပါ သည်။

အတွေ့အကြုံ ဖြတ်သန်းမှုများမှ ထုတ်နုတ်ယူသော ဇာတ်ကွက် များနှင့် ငရဲဆို ချိုနဲ့လားဗျို့ ဟု ဆိုလောက်အောင် ဇာတ်သိမ်းပိုင်းအထိ ဆွဲဆောင်ခေါ်ယူသွားမှုမှာ လေးလေးနက်နက်နှင့် ဆွဲဆောင်မှုရှိကာ တကယ့်သံဝေဂယူစရာ ဝတ္ထုကြီးဟု ဆိုရပါမည်။

[တမူခွင့်ပြုချက် အမှတ် ၈၆၃/၂၀၀၃ (၁၁)]

